ပဌမနှိပ်ခြင်း (အင်္ဂလန်ပြည်)

၁၉၅၆ ခုနှစ်

အုပ်ရေ ၅၀,၀၀၀

ဒုတိယနှိပ်ခြင်း

၁၉၇၅ ခုနှစ်

အုပ်ရေ ၅,၀၀၀

စာပေဗိမာန်ပုံနှိပ်တိုက်၊ (မှတ်ပုံတင်အမှတ် - ၀၀၃၂) ၃၆၁ - ပြည်လမ်း၊ ရန်ကုန်မြို့တွင်
ဦးခင်မောင်ကြီးက ရိုက်နှိပ်၍
စာပေဗိမာန် မှုခင်းချုပ်ရေးမှူး ဦးထင်ကြီး (မှတ်ပုံတင်အမှတ် - ၀၄၇၀) က တာဝန်ခံထုတ်ဝေသည်။



‘နေမင်းနွယ်ရင်း၊ မင်းထက်မင်းလျှင်၊ သလင်းအုတဲစ်၊ နန်းမြေညီဝယ်၊ ဂူလိသဘင်၊ မြင်းနှင့်ရှင်ဘော —နတသျှင်နောင

(ဦးတက်ထွတ်၏ပုရပိုက်မှ)

၁၉၂၄၀

# မြန်မာ့စွယ်စုံကျမ်း

စာပေဗိမာန်

၏

# ရုပ်ပြဗဟုသုတဘဏ်



အတွဲ — ၃

ဂ — စင်း

ရန်ကုန်မြို့

မြန်မာနိုင်ငံဘာသာပြန်စာပေအသင်း

စာကြည့်တိုက်

ပိဋကဘာသာပြန်စာပေ

ဖြန့်ချိရေးအဖွဲ့

# ဤကျမ်းကိုမရှုစားမီ

**အောက်ပါလမ်းညွှန်ကိုလေ့လာထားပါက ဤစွယ်စုံကျမ်းစီစဉ်ပုံကို ကောင်းစွာသဘောပေါက်၍ ကိုးကားရာကျမ်းတဆူအဖြစ် လွယ်ကူစွာ အသုံးပြုတတ်ပေလိမ့်မည်။**

**အက္ခရာစဉ်ဇယား။** ။စွယ်စုံကျမ်းတွင်ပါဝင်သော အကြောင်းရပ်များကို လွယ်လင့်တကူ ရှာဖွေဖတ်ရှုနိုင်ရန် အက္ခရာစဉ်ဇယားကို အတွဲတိုင်း၌ဖော်ပြထားသည်။

**ဝေါဟာရနှင့်အမည်များ။** ။ဤကျမ်းမှာ ကမ္ဘာပေါ်ရှိ ကျယ်ဝန်းလှသောပညာရပ်အမျိုးမျိုး၊ အကြောင်းရပ်အမျိုးမျိုးတို့ပါဝင်သည့်ပြင်၊ မြန်မာနိုင်ငံတွင် ပဌမဆုံးပေါ်ထွက်လာရခြင်းဖြစ်သည့်အလျောက်၊ ဘာသာခြားမှ မြန်မာလို ပြန်ဆိုထားသော ဝေါဟာရသစ်များနှင့် အသံလှယ်ယူထားရသောအမည်များ မြောက်မြားစွာပါဝင်သည်။ ယင်းတို့ကို မူရင်းစကားနှင့်တကွ ဤကျမ်း၏နောက်ပိုင်းတွင် ကဏ္ဍသီးခြား၍ အက္ခရာစဉ်အတိုင်းဖော်ပြထားသည်။

**မြန်မာအမည်များ။** ။ရဟန်းရှင်လူဆိုင်ရာ အကြောင်းရပ်များကို ခေါင်းစည်းပေးရာ၌၊ အမည်ရှေ့ရှိ သျှင်၊ ဦး၊ ဒေါ်၊ ကို၊ မောင်၊ မ စသည်တို့နှင့်တကွ အခြားဂုဏ်ပုဒ်များကို အမည်ရင်းနောက်တွင်ထား၍၊ အမည်ရင်းကိုသာ အက္ခရာစဉ်အလိုက် စီစဉ်ဖော်ပြထားသည်။ ပုံစံအားဖြင့် သျှင်ကရဝိက၊ ခံတော်မောင်ကျာဘမ်း၊ ဦးချိန်၊ မြဝတီဝန်ကြီးဦးစ တို့ကို ကရဝိက၊ သျှင်။ ကျာဘမ်း၊ မောင်၊ ခံတော်။ ချိန်၊ ဦး။ စ၊ ဦး၊ မြဝတီဝန်ကြီး ဟူ၍ အသီးအသီးဖော်ပြထားသည်။ ဤသို့ပြုလုပ်ခြင်းမှာ ပုဂ္ဂိုလ်ကို မလေးစား၍ မဟုတ်၊ စွယ်စုံကျမ်းများထုံးတမ်းစဉ်လာအရ အကြောင်းရပ်ရှာဖွေရ လွယ်ကူစေရန်သာဖြစ်ရာ၊ လူမျိုးခြားအမည်များကိုလည်း အလားတူပင်စီစဉ်ဖော်ပြထားသည်။

**ဖတ်ချင်ဖွယ်ရာအဖြာဖြာ။** ။တခါတရံ ပျင်းပျင်းရှိ၍ စာအုပ်လှန်လိုသောအခါ၊ သို့မဟုတ် ဝါသနာအလျောက် သမိုင်းဖြစ်စဉ်များ၊ တိုင်းနိုင်ငံများ၊ ပုဂ္ဂိုလ်ကျော်များ၊ စာပေဝတ္ထုများ၊ အနုပညာရပ်များ၊ သိပ္ပံပညာရပ်များ၊ လုပ်ငန်းကြီးများ၊ သစ်ပင်များ၊ တိရစ္ဆာန်များ၊ ကစားခုန်စားများအကြောင်းကို သိလိုသောအခါ အကူအညီရစေရန် ဖတ်ချင်ဖွယ်ရာအဖြာဖြာကို အတွဲတိုင်း၌ထည့်သွင်းထားသည်။

**ဗဟုသုတစစ်တမ်း။** ။စွယ်စုံကျမ်းအတွဲတိုင်းတွင် ဗဟုသုတစစ်တမ်းကိုထည့်သွင်းထားသည်မှာ၊ စာရှုသူသည် ဤစစ်တမ်းဖြင့် မိမိကိုယ်ကိုမိမိ ပြန်လည်မေးခွန်းထုတ်၍ မသိသေးသောအကြောင်းအရာကို သိလိုပါက၊ ညွှန်းထားသောနေရာတွင် ပြန်လည်ဖတ်ရှုလေ့လာနိုင်စေခြင်းငှာ ရည်ရွယ်သည်။ ထိုစစ်တမ်းတွင် အတွဲတွင်းပါ အကြောင်းရပ်အားလုံးငုံမိအောင် မေးခွန်းထုတ်ထားခြင်း မဟုတ်ချေ။ စိတ်ဝင်စားဖွယ်အချက်အလက်များ အတွက်သာလျှင် မေးခွန်းများကို ရွေးချယ်စီစဉ်ထားခြင်းဖြစ်သည်။

**အပြန်အလှန်အညွှန်း။** ။စွယ်စုံကျမ်းအကြောင်းရပ်တို့မှာ အက္ခရာအလိုက်စီစဉ်ထားသည့်အလျောက်၊ ဘာသာရပ်အလိုက် တစုတဝေးတည်းမရှိဘဲ နေရာအနှံ့အပြား ကွဲပြားလျက်ရှိကြသည်။ သို့ဖြစ်၍ အကြောင်းရပ်ချင်းဆက်စပ်နေသည့်အချက်အလက်တို့ကို အပြန်အလှန်ညွှန်းပြရသည်။ စာကိုယ်မဲ့အကြောင်းရပ်ခေါင်းစည်းမှ စာကိုယ်ရှိအကြောင်းရပ်ခေါင်းစည်းသို့ရင်း၊ အကြောင်းရပ်တခုနှင့်တခု ပညာသဘောအားဖြင့် ဆက်သွယ်နေသော်လည်း တသီးတခြားစီရှိသဖြင့် ပိုမိုပြည့်စုံစွာ လေ့လာစေလိုသောအခါတွင်ရင်း၊ (........................ — ရှု။) ဟုညွှန်းသည်။ ပညာသဘောအားဖြင့် ဆက်သွယ်ခြင်း မရှိစေကာမူ၊ တနည်းတလမ်းအားဖြင့်နီးစပ်သည့် အကြောင်းရပ်တခုကို စိတ်ဝင်စားဖွယ်ဖြစ်၍ လေ့လာစေလိုသောအခါတွင် (........................ — လည်းရှု။) ဟုညွှန်းသည်။

**ကြောင်းခြင်းရာအညွှန်းအတွဲ။** ။နောက်ဆုံးအတွဲသည် စာရှုသူအဖို့ အခါမရွေး ကိုးကားရန်လမ်းညွှန်ပင်ဖြစ်သည်။ ထိုအတွဲသည် အသီးသီးသောအတွဲများအတွက် အက္ခရာစဉ်အညွှန်းဖြစ်ရုံမျှမက၊ လုံးချင်းစွယ်စုံခေါ်လောက်ပေသည်။ ထိုအတွဲတွင် ကမ္ဘာ့သမိုင်းမှတ်တမ်းတင်သည်မှ မျက်မှောက်ခေတ်အထိ ပေါ်ပေါက်ဖြစ်ပျက်ခဲ့သော မှတ်သားဖွယ်ရာအကြောင်းအရာများကို နှစ်၊ လ၊ ရက် အပိုင်းအခြားနှင့်သိနိုင်စေရန် နှစ်လုံးပတ်လည်ဖော်ပြထားသော ကမ္ဘာ့ပြက္ခဒိန်ကိုရင်း၊ ပညာရပ်များကို စနစ်တကျ တဆင့်ပြီးတဆင့် ပြည့်စုံစွာလိုက်စားနိုင်ရန် ပညာရပ်မာတိကာကိုရင်း၊ ထည့်သွင်းထားသည်။ ထိုနောက် အသီးသီးသောအတွဲများတွင်ပါဝင်သည့် အကြောင်းရပ်များကို လွယ်ကူစွာလှန်လှောရှာဖွေနိုင်ရန် ညွှန်ပြသော ကြောင်းခြင်းရာအညွှန်းကိုလည်း စီစဉ်ဖော်ပြထားသည်။ ထိုအညွှန်းတွင် စွယ်စုံကျမ်းပါအကြောင်းရပ်များကိုသာမက၊ စွယ်စုံကျမ်းစာကိုယ်တွင် မပါဝင်လင့်ကစား သိသင့်သိထိုက်သောအကြောင်းရပ်မြောက်မြားစွာကိုလည်း မှတ်သားဖွယ် အချက်အလက်များနှင့်တကွ ဖြည့်စွက်ဖော်ပြထားသည်။

# အက္ခရာစဉ်ဇယား

ဤကျမ်းပါအကြောင်းရပ်များကို အောက်ပါအက္ခရာစဉ်အတိုင်း စီစဉ်ထားသည်

| | | |
|---|---|---|
| ၁။ | အ | |
| ၂။ | အာ | |
| ၃။ | အား | |
| ၄။ | အိ | |
| ၅။ | အီ | |
| ၆။ | အီး | |
| ၇။ | အု | |
| ၈။ | အူ | |
| ၉။ | အူး | |
| ၁၀။ | အေ့ | |
| ၁၁။ | အေ | |
| ၁၂။ | အေး | |
| ၁၃။ | အဲ့ | နောက်ပစ် နှင့် ယသတ် |
| ၁၄။ | အယ် | |
| ၁၅။ | အဲ | |
| ၁၆။ | အော့ | |
| ၁၇။ | အော် | |
| ၁၈။ | အော | |
| ၁၉။ | အို့ | |
| ၂၀။ | အို | |
| ၂၁။ | အိုး | |
| ၂၂။ | အက် | ကသတ် |
| ၂၃။ | အောက် | |
| ၂၄။ | အိုက် | |
| ၂၅။ | အင့် | ငသတ် |
| ၂၆။ | အင် | |
| ၂၇။ | အင်း | |

| | | |
|---|---|---|
| ၂၈။ | အောင့် | ငသတ် |
| ၂၉။ | အောင် | |
| ၃၀။ | အောင်း | |
| ၃၁။ | အိုင့် | |
| ၃၂။ | အိုင် | |
| ၃၃။ | အိုင်း | |
| ၃၄။ | အစ် | စသတ် |
| ၃၅။ | အည့် | ညကြီးသတ် |
| ၃၆။ | အည် | |
| ၃၇။ | အည်း | |
| ၃၈။ | အဉ့် | ဉကလေးသတ် |
| ၃၉။ | အဉ် | |
| ၄၀။ | အဉ်း | |
| ၄၁။ | အတ် | တသတ် |
| ၄၂။ | အိတ် | |
| ၄၃။ | အုတ် | |
| ၄၄။ | အန့် | နသတ် |
| ၄၅။ | အန် | |
| ၄၆။ | အန်း | |
| ၄၇။ | အိန့် | |
| ၄၈။ | အိန် | |
| ၄၉။ | အိန်း | |
| ၅၀။ | အုန့် | |
| ၅၁။ | အုန် | |
| ၅၂။ | အုန်း | |
| ၅၃။ | အပ် | ပသတ် |
| ၅၄။ | အိပ် | |
| ၅၅။ | အုပ် | |

| | | |
|---|---|---|
| ၅၆။ | အမ့် | သေးသေးတင် နှင့် မသတ် |
| ၅၇။ | အမ် | |
| ၅၈။ | အမ်း | |
| ၅၉။ | အိမ့် | |
| ၆၀။ | အိမ် | |
| ၆၁။ | အိမ်း | |
| ၆၂။ | အုမ့် | |
| ၆၃။ | အုမ် | |
| ၆၄။ | အုမ်း | |
| ၆၅။ | ျ | ယပင့် |
| ၆၆။ | ြ | ရရစ် |
| ၆၇။ | | ဝဆွဲ |
| ၆၈။ | ှ | ဟထိုး |
| ၆၉။ | ျွ | ယပင့် ဝဆွဲ |
| ၇၀။ | ြွ | ရရစ် ဝဆွဲ |
| ၇၁။ | ျှ | ယပင့် ဟထိုး |
| ၇၂။ | ြှ | ရရစ် ဟထိုး |
| ၇၃။ | ွှ | ဝဆွဲ ဟထိုး |
| ၇၄။ | ျွှ | ယပင့်ဝဆွဲဟထိုး |
| ၇၅။ | ြွှ | ရရစ်ဝဆွဲဟထိုး |

# ဖတ်ချင်ဖွယ်ရာအဖြာဖြာ

တခါတရံ ပျင်းပျင်းရှိ၍ စာအုပ်လှန်လိုသောအခါ အောက်ပါ လိုရာအကြောင်းရပ်တို့မှ ဆုရာရွေးနှုတ်၍ လေ့လာပါက စာရှုသူသည် အပျင်းလည်းပြေ ဗဟုသုတလည်းပွားပေလိမ့်မည်။ ထိုင်ရာမထဘဲ ကမ္ဘာ့မြို့ကြီး၊ နယ်ကြီး၊ နိုင်ငံကြီးများသို့ရောက်၍ ပုဂ္ဂိုလ်ကျော်များနှင့် ရင်းနှီးကာ ကမ္ဘာ့သမိုင်းကိုလည်း သုံးသပ်ခွင့် ရနိုင်မည့်ပြင် သိပ္ပံပညာ၏ အံ့ဖွယ်ရာအကြောင်းများကိုလည်း သိနားလည်လာပေလိမ့်မည်။ ထို့မျှမက အနုစာပေဂန္ထဝင်များ၏အရသာကိုပါ ထင်ရှားစွာခံစားရမည့်ပြင် အားလပ်ခိုက် အပျင်းပြေရန်နည်းများလည်း ရရှိပေအံ့။

### ထင်ပေါ်ကျော်ကြား ပုဂ္ဂိုလ်များ



### လောကီထူးပွတ် လူတို့ဇာတ်



### သစ်ပင်ပန်းမာလ် တိရစ္ဆာန်



### တမြေရပ်ခြား ဒေသများ



### တိကျသိအပ် အရပ်ရပ်





### သုခုမဝင် ကြောင်းစုံလင်



### လုပ်ငန်းဆောင်တာ အဖြာဖြာ



### သိပ္ပံအံ့ဖွယ် အသွယ်သွယ်



### အားလပ်ချိန်ဝယ် ပျော်ရွှင်ဖွယ်

# ဗဟုသုတစစ်တမ်း

ဤကျမ်းတွင် များစွာသောပြဿနာတို့ကို ဖြေရှင်းထားပေသည်။ စာရှုသူသည် မိမိမည်မျှမှတ်မိ၍ အသိဥာဏ်အခြေ၊ ဗဟုသုတအခြေ မည်မျှကြွယ်ဝနေပြီကို မှတ်ကျောက်တင်ကြည့်ရန် အောက်ပါမေးခွန်းများဖြင့် စစ်တမ်းထုတ်သင့်ပေသည်။ အကယ်၍ အဖြေမပေးနိုင်ရှိအံ့၊ ညွှန်းထားရာစာမျက်နှာတွင် ပြန်လည်ဖတ်ရှုလေလာရန် တိုက်တွန်းရပေသည်။

# ကျေးဇူးပြုသူများ

မြန်မာ့စွယ်စုံကျမ်းတွင် စာမျက်နှာတိုင်း၌ ရုပ်ပုံဓာတ်ပုံစသည်ဖြင့် ဝေဆာစွာမွမ်းမံရန် ကြိုးပမ်းခဲ့ရာ၌ နိုင်ငံတွင်းနိုင်ငံပမှ အကူအညီများရခဲ့သည်။ နိုင်ငံပမှဆိုလျှင် လန်ဒန်မြို့ ပစ်ချာပို့လိုက်ဗရေရီနှင့် ပေါပေါ့ပါးမှရင်း၊ နယူးယော့မြို့ အီစင်•ဂယ်လိုဝေမှရင်း ဓာတ်ပုံများ ဝယ်ယူပုံနှိပ်ခွင့်ရခဲ့သည်။ နိုင်ငံတွင်းမှ ကူညီသူ ရာပေါင်းများစွာရှိသည့်အနက် စွယ်စုံကျမ်းနှင့်ထိုက်တန်သည့် ရုပ်ပုံ၊ ဓာတ်ပုံ၊ မြေပုံ စသည်တို့ကို အောက်ပါဌာနကြီးများနှင့် ပညာရှင်များထံမှ ရရှိပါ၍ ကျေးဇူးအထူးတင်ပါကြောင်း။

| အမည် | နေရပ် | ဓာတ်ပုံပါစာမျက်နှာ |
|---|---|---|
| ငါးစုပေါင်းရောင်းဝယ်ရေးသမဝါယမအသင်း လီမိတက် | ရန်ကုန်မြို့ | ၂၁၂ |
| ဆိုဗီယက်ဆိုရှယ်လစ်သမတနိုင်ငံတော်သံရုံး | ရန်ကုန်မြို့ | ၇၆။ ၇၉။ ၃၀၄။ ၃၁၃။ ၃၂၂။ ၃၂၄။ ၄၄၂။ ၄၆၂ |
| တရုပ်ပြည်သူ့သမတနိုင်ငံတော်သံရုံး | ရန်ကုန်မြို့ | ၁၇၈။ ၁၇၉။ ၂၇၁ |
| တိရစ္ဆာန်ရုံ | ရန်ကုန်မြို့ | ၂၆၇။ ၂၆၈။ ၄၄၃ |
| ဗမာ့ခေတ်သတင်းစာတိုက် | ရန်ကုန်မြို့ | ၂၀၇ |
| ဗဟိုငှက်ဖျားရောဂါတိုက်ဖျက်ရေးဌာန | ရန်ကုန်မြို့ | ၂၇၃ |
| မိုးလေဝသဌာန | ရန်ကုန်မြို့ | ၂၁၉။ ၂၂၀ |
| ရှေးဟောင်းသုတေသနဌာန | မန္တလေးမြို့ | ၂၅၁။ ၃၀၂၊ ၄၂၇။ ၄၂၉–၄၃၃။ ၄၄၉ |
| လူထုပညာရေးကောင်စီ | ရန်ကုန်မြို့ | ၁၀၁ |
| ဦးကျော်ခိုင် | ရန်ကုန်မြို့ | ၁၀၀။ ၁၈၀။ ၁၉၄။ ၁၉၆။ ၁၉၉။ ၂၀၂။ ၂၁၂။ ၂၂၂။ ၃၉၃။ ၄၁၆။ ၄၅၃ |
| ဦးကျော်မင်း | ထားဝယ်မြို့ | ၂၀၂။ ၂၀၉။ ၂၂၉။ ၂၇၈ |
| ဦးခင်မောင် | စကုမြို့ | ၃၀၄ |
| ခင်လေးမောင် | မြန်မာပြည်ဓာတ်ပုံအသင်း၊ ရန်ကုန်မြို့ | ၁၀။ ၇၅။ ၁၉၈။ ၂၃၈။ ၃၄၅။ ၃၈၆။ ၃၈၉။ ၃၉၁။ ၄၅၀။ ၄၆၁။ ဂဠုန်၊ သိဒ္ဓတ္ထမင်းသား တောထွက်ခန်း။ ဂုတ်ထိပ်တန်တား၊ ငုပန်း၊ မြဝတီဝန်ကြီးဦးဝ နှင့် လယ်သမားရောင်စုံပုံများ |
| ဦးချစ်တင် | ရန်ကုန်မြို့ | ၃၈၄ |
| ဂေါ်ချိန်ကီး | မော်လမြိုင်မြို့ | ၂၄၅ |

| အမည် | နေရပ် | ဓာတ်ပုံပါ စာမျက်နှာ |
|---|---|---|
| ဦးဝိ | ရန်ကုန်မြို့ | ၅၉။ ၁၉၆။ ၁၉၉။ ၂၀၂။ ၂၀၆။ ၂၀၇။ ၂၀၉။ ၂၁၇။ ၂၁၈။ ၂၂၂။ ၂၄၆။ ၂၆၆။ ၁၁၆။ ၃၄၆။ ၃၄၉။ ၃၇၄။ ၃၉၂။ ၄၁၉–၄၂၁ |
| ဦးစိုးလွင် | တောင်တွင်းကြီးမြို့ | ၂၁၇။ ၄၂၂ |
| ဦးစိုးအောင်(ရာမ) | မြန်မာပြည်ဓာတ်ပုံအသင်း၊ ရန်ကုန်မြို့ | ၂၃၂ |
| ဦးစံသင် | မြောင်းမြမြို့ | ၉။ ၁၁။ ၁၉၆။ ၂၀၆။ ၂၀၇။ ၂၀၉။ ၂၁၇။ ၂၁၈။ ၃၄၃ |
| ဦးတက်ထွတ် | ဘီ၊ ဘီ၊ စီ၊ လန်ဒန်မြို့ | ဂူလီသဘင်ရောင်စုံပုံ |
| ဦးထင်ပတ် | ရန်ကုန်မြို့ | ၉၀။ ၂၈၂။ ၂၈၄။ ၂၈၇။ ၂၈၈ |
| ဦးထွန်းကြိုင် | မြိတ်မြို့ | ၁၉၆။ ၂၀၂။ ၂၀၄။ ၂၀၅။ ၂၀၉။ ၂၁၁။ ၂၁၂။ ၂၁၉။– ၂၄၄။ ၂၇၇။ ၃၃၇ |
| ဦးထွန်းဝ | ရန်ကုန်မြို့ | ၄၅၀။ ၄၅၁ |
| ဦးပညာဝံသ | ရေနံချောင်းမြို့ | ၄၄၀ |
| ဦးဖေခင် | မြန်မာပြည်ဓာတ်ပုံအသင်း၊ ရန်ကုန်မြို့ | ၂၃၁ |
| ဦးဘဘေ(ဘကြီးဘဘ) | ရန်ကုန်မြို့ | ၁၂၆–၁၂၇။ ၁၂၉ |
| ဦးဘသာ | ရန်ကုန်မြို့ | ၃၀၀။ ၃၀၂ |
| ဦးဘသောင် | စစ်ကိုင်းမြို့ | ၃၇၇။ ၃၇၈။ ၄၀၆ |
| ဦးမောင်ကလေး | ရွှေကျင်မြို့ | ၂၂၂။ ၃၄၇ |
| သခင်ခင်မောင်ဦး | တောင်တွင်းကြီးမြို့ | ၃၄၄။ ၄၆၁ |
| ဦးသာဒွေး | ထားဝယ်မြို့ | ၄၅၉ |
| ဦးသောဘိတ | စစ်ကိုင်းမြို့ | ၄၅၉ |
| ဦးသန်းထွန်း | စလင်းမြို့ | ၃၇၆ |
| ဒေါ်သိန်းချစ် | ရန်ကုန်မြို့ | ၄၃၈ |
| ဦးသိန်းလှိုင် | သိုင်းချောင်းမြို့ | ၂၂၃ |
| ဦးအုန်းမြင့် | မန္တလေးမြို့ | ၄၅၉ |
| ထွန်းဘရားသားဓာတ်ပုံတိုက် | ညောင်ဦးမြို့ | ၄၂၄ |
| နယူးပစ်ဓာတ်ပုံတိုက် | ရန်ကုန်မြို့ | ၁၉၆။ ၂၁၆။ ၂၄၉။ ၃၃၀။ ၃၇၉။ ၃၈၁။ ၃၈၇။ ၃၉၁ |
| မိုးကုတ်ဓာတ်ပုံတိုက် | မိုးကုတ်မြို့ | ၁၀။ ၄၂၃ |
| မြင့်ဂုဏ်ရည်ဓာတ်ပုံတိုက် | ဂန့်ဂေါမြို့ | ၈၈ |

| အမည် | နေရပ် | ဓာတ်ပုံပါ စာမျက်နှာ |
|---|---|---|
| ဦးအောင်မြင် (မြို့မမောင်) | ရန်ကုန်မြို့ | မြဝတီဝန်ကြီး ပန်းချီကား |
| ပြည်ထောင်စု ဆိုရှယ်လစ်သမ္မတမြန်မာနိုင်ငံတော်၊ | | |
| မြန်ကြားရေးနှင့် အသံလွှင့်ဦးစီးဌာန | ရန်ကုန်မြို့ | ၃၈၄ |

## အတွဲ ၂ ကျေးဇူးပြုသူများစာရင်းမှအဆက်

| အမည် | နေရပ် | အတွဲ ၂ ဓာတ်ပုံပါစာမျက်နှာ |
|---|---|---|
| ကယားပြည်နယ်ဝန်ကြီးဌာန | ရန်ကုန်မြို့ | ၁၇၁ |
| ကရင်ပြည်နယ်ဝန်ကြီးဌာန | ရန်ကုန်မြို့ | ၁၁၅ |
| ချင်းရေးရာဝန်ကြီးဌာန | ရန်ကုန်မြို့ | ၃၁၂။ ချင်းလူမျိုးရောင်စုံပုံ |
| ဦးကြည် | ရန်ကုန်မြို့ | ၁၈၁ (၂ ပုံ) |
| ဦးတိတ်ရီ | ကွမ်းခြံကုန်းမြို့ | ၂၂၆ |
| ဦးထွန်းအောင် | မန္တလေးမြို့ | ၃၂၀ |
| ဦးဘအောင် | မော်လမြိုင်မြို့ | ၂၂၄။ ၂၂၅ |
| ဦးမောင်ကလေး | ရွှေကျင်မြို့ | ၁၄၄။ ၁၉၄။ ၂၉၆ |
| ဦးသန့် | မန္တလေးမြို့ | ကျူးရောင်စုံပုံ |
| ဦးအေးမောင် | မိုးကုတ်မြို့ | ၂၄၅။ ၂၄၆ |
| နယူးပစ်ဓာတ်ပုံတိုက် | ရန်ကုန်မြို့ | ၂၇၉။ ၃၁၆။ ၄၅၄ |



။မြန်မာဗျည်း ၃၃ လုံးတွင် ဂ သည် ၃ ခုမြောက်အက္ခရာဖြစ်သည်။ က၊ ခ၊ ဂ၊ ဃ၊ င၊ဟူသော က ဝဂ်တွင်ပါဝင်၍ ဂ အသံဖြစ်ရာဌာနမှာ ကဏ္ဍဌာန် လည်ချောင်းအရပ်ဖြစ်သည်။ အက္ခရာ၏အရွယ်ကိုလိုက်၍ ဂ ငယ်ဟုအမည်တွင်သည်။ ကဝဂ်အတွင်း ဂ၊ ဃ ဟူသောဗျည်းနှစ်လုံးပါဝင်ရာ အကြီးအငယ်ခွဲခြားသောအားဖြင့် ဂ ငယ်ဟုခေါ်ခြင်းဖြစ်၏။ ဂ ၏အရေးအသားမူလမှာ ဗြာဟ္မီအက္ခရာ ဖြစ်သည်။ ဗြာဟ္မီ မှ ဂုတ္တ ကဒံဗ ခင်ဗပျူ သို့အဆင့်ဆင့်ပြောင်းလဲလာပြီးနောက် ကျောက်စာများတွင် နှင့် ပေစာများတွင် ဟုရေးသားသည်ကိုတွေ့ရသည်။

ဗြာဟ္မီအက္ခရာ ကို အတွင်းဖက်သို့တဖက်တချက် ညီညွတ်စွာကွေး၍ ရေးဖန်များသောအခါ မြန်မာ ဂ အက္ခရာဖြစ်ပေါ်လာသည်။ ဂ အက္ခရာအရေးအသားပြောင်းလဲပုံကိုအောက်တွင် အစဉ်အတိုင်းယှဉ်တွဲ၍ဖေါ်ပြထားသည်။



ဂဏန်းခြေ။ ။အရေအတွက်တခုကို အချင်းချင်းသိနားလည်အောင် အမှတ်အသားတခုဖြင့် ရေးပြရာ၌ ၁ မှ ၉ အထိနှင့် ၀ အမှတ်အသားတို့ကို နေရာအလိုက် တန်ဖိုးထားပေးသောစံနစ်အရ ကမ္ဘာအနှံ့အပြား၌ ယခုရေးပြနေကြသည်။ သုံးဆယ်ခြောက်အုပ်ရှိသော စာအုပ်ပုံတပုံမှ စာအုပ်အရေအတွက်ကို ၃ နှင့် ၆ အမှတ်အသားနှစ်ခုတည်းဖြင့် ၃၆ ဟုရေးပြကြသည်။ အထက်ပါအမှတ်အသား ဆယ်ခုတို့အနက် သက်ဆိုင်ရာတို့ကို ၄၅၁ ကဲ့သို့ တတန်းတည်း၌ စဉ်၍ ရေးထားခြင်းကို အရေအတွက် ပြကိန်းတခုဟုခေါ်သည်။ ထိုကိန်းတွင်ပါရှိသည့် ၄၊ ၅၊ ၁ အမှတ်အသားများကို ကိန်း၏ဂဏန်းခြေများဟု ခေါ်သည်။ • တိုတိုဖြင့်လည်း ၄ ဂဏန်း။ ၅ ဂဏန်း၊ ၁ ဂဏန်း၊ ဆယ် ဂဏန်းဟူ၍ ဂဏန်းခြေအစား ဂဏန်းဆိုသော ဝေါဟာရကို သုံးနေကြသည်။ အထက်ပါဂဏန်းဆယ်လုံးနှင့် ယင်းတို့အတွက် ဝေါဟာရများနှင့်တကွ ခု၊ ဆယ်၊ ရာ အစရှိသော နောက်ထပ်ဝေါဟာရအနည်းငယ်မျှဖြင့် မည်မျှပင်များပြားသော အရေအတွက်တခုကိုမဆို ဖေါ်ပြနိုင်၍ မည်မျှပင်ကြီးသော ကိန်းတခုကိုမဆို ရေးပြနိုင်အောင် တီထွင်ထားသည့် ဤကိန်းရေးကိန်းဖတ်နည်းသည် တဆယ်စီရေတွက်သောစံနစ်ကိုမှီးလျက် ဟိန္ဒူသင်္ချာပညာရှင်များက တီထွင်ထားခဲ့သည့် အလွန်ရှေးကျသော နည်းဖြစ်သည်။ သို့သော် အနောက်နိုင်ငံများသို့ အာရပ်လူမျိုးများမှ တဆင့် ရောက်ရှိသွားသည် ဖြစ်သောကြောင့် အသုံးပြုသော ဂဏန်းခြေများကို အာရေဗျဂဏန်းခြေများဟု ခေါ်နေကြသည်။ ဤကိန်းရေးနည်းစံနစ်ကို ကမ္ဘာအနှံ့အပြား၌ မလိုက်နာမီက အချို့လူမျိုးများ၏ရေတွက်ပုံ ရေတွက်နည်းနှင့်တကွ အရေအတွက်ပြကိန်းရေးနည်းများသည် စိတ်ဝင်စားဖွယ်ရာ ဖြစ်သဖြင့် ယင်းတို့ကို အောက်၌ အကျဉ်းမျှဖေါ်ပြထားသည်။

ဝတ္ထုပစ္စည်းတမျိုးကိုမည်မျှနည်းသည်များသည်ဟု တိတိကျကျ ပြောနိုင်ရန် အရေအတွက်ဝေါဟာရများကိုတီထွင်ခဲ့ကြသည်မှာ နှစ်ပေါင်းများစွာ ကြာရှိလေပြီ။ စကားကောင်းစွာမတတ်သေးသော ကလေးသူငယ် တယောက်သည် မိမိမှာ ကစားစရာအရုပ်မည်မျှရှိသည်ကို လက်ချောင်းကလေးများဖြင့် မှန်ကန်စွာထောင်ပြနိုင်သော်လည်း သုံးခု၊ လေးခု၊ စသော အခေါ်အဝေါ်များကို မတတ်သေးသဖြင့် ပြောမပြနိုင်သေးချေ။ ယင်းအခြေအနေကဲ့သို့ပင် ရှေးနှစ်ပေါင်းများစွာက လူများသည် ဝတ္ထုပစ္စည်းအရေအတွက်ကို သိရှိရန် လက်ချိုး၍ ရေတွက်ခြင်း၊ မည်ရွေ့မည်မျှရှိသည်ဟု လက်ချောင်းကိုထောင်ပြခြင်းဖြင့်သာ မိမိတို့၏ကိစ္စပြီးစီးအောင် ဆောင်ရွက်နိုင်ခဲ့ကြပုံရသည်ဟု သင်္ချာသမိုင်းပညာရှင်များက ယူဆကြသည်။ အာဖရိကတိုက်ရှိ တိုင်းရင်းသားလူမျိုးအနည်းငယ်တို့သည် ယနေ့တိုင် ဤကဲ့သို့ရေတွက်နေကြဆဲပင် ဖြစ်သည်။ ဝတ္ထုပစ္စည်း အရေအတွက်များကို ရေတွက်ဖေါ်ပြရန် လိုအပ်လာသောကာလသို့ ရောက်ရှိလာသည့်အခါ ရေတွက်နည်းနှင့်တကွ အရေအတွက်အခေါ်အဝေါ်ဖြစ်သောဝေါဟာရများကို အကြောင်းအားလျော်စွာ တီထွင်လာကြသည်။ လူတို့၏ ခန္ဓာကိုယ်တွင် လက်နှစ်ဖက်၊ ခြေနှစ်ချောင်း စသည်ဖြင့် အစုံအစုံရှိသည်ကို အမှတ်ပြုလျက် နှစ်ခုပြူးစီ ရေတွက်ခဲ့ကြသူများရှိသည်။ သြစတြေးလီးယားတိုက်၊ တောင်အမေရိကတိုက်နှင့် အာဖရိကတိုက်များရှိ တိုင်းရင်းသား လူမျိုးအချို့တို့သည် နှစ်ခုကိုမူတည်ပြီးလျှင် ရေ တွက် နေ ကြ ဆဲ ဖြစ် သည်။ စုံမဝှက်၊

ဇယ်ခုတ်၊ ဇယ်ထောက်တမ်းကစားကြသော မြန်မာကလေးသူငယ်များသည်လည်း အလျော်အစားပြုလုပ်ရာ၌ ဇယ်ကိုနှစ်ခုပြူးစီရေတွက်၍ တပြူး၊ တလံစသည်ဖြင့် ခေါ်လျက်ငါးပြူးပြည့်သည်အထိ ရေတွက်ကြသည်။ လက်တဖက်၌ လက်ငါးချောင်း ရှိသည်ကို အမှတ်ပြု၍ ငါးခုစီရေတွက်ကြသည်လည်း ရှိသည်။ လက်နှစ်ဖက်၌ လက်ဆယ်ချောင်းရှိသည်ကို အမှတ်ပြု၍ ဆယ်ခုစီ ရေတွက်ကြသည်လည်းရှိသည်။ မြန်မာတို့၌ တကျိပ်ဟူသော ဝေါဟာရရှိသည်မှာ ဆယ်ခုစီရေတွက်သည့် သဘောအတိုင်းပင်ဖြစ်၏။ လက်ခြေအချောင်းနှစ်ဆယ်ရှိသဖြင့် စကိုးခေါ် နှစ်ဆယ်စီရေတွက်ကြသည်ကိုလည်း အင်္ဂလိပ်ဝေါဟာရ၌ တွေ့နိုင်သည်။ နှစ်ပိုင်း၊ သုံးပိုင်း၊ လေးပိုင်း၊ ခြောက်ပိုင်း စသောအပိုင်းညီများနှင့် အရေအတွက်တူပုံများ ပြုလုပ်ရန် လွယ်ကူသည်ဖြစ်သောကြောင့် ဒါဇင်လိုက် ဆယ့်နှစ်ခုစီ ရေတွက်ကြသည်လည်း ရှိလေသည်။

ဆယ်ခုစီရေတွက်ခြင်းသည် ယခုကမ္ဘာ့အရပ်ရပ်၌အသုံးပြုနေသည့် ဆယ်လီစံနစ်ရေတွက်နည်းဖြစ်သည်။ လက်ဆယ်ချောင်းချိုးကာ ရေတွက်မကုန်နိုင်သေး၍ ဆက်လက်ရေတွက်ရန်လည်း လက်မအားဖြစ်နေသောအခါ ဆယ်ချောင်းအားလုံးကုန်အောင် တခါချိုးရပြီးကြောင်းကို ပြသည့်အနေဖြင့် အနီးရှိသူတဦးက လက်တချောင်းချိုးကာ မှတ်ထားရသည်။ ဤကဲ့သို့ မှတ်ထားပေးရန် ဒုတိယလူတယောက်ကိုမရနိုင်ပြန်သောအခါ ဆယ်ပြည့်အရေအတွက်များကို ခဲလုံးကလေးများချ၍ရင်း၊ နီးရာဝတ္ထုတခုပေါ်မှာ အခြစ်အမှတ်ငယ်များပြု၍ရင်း တမျိုးမျိုးဖြင့်မှတ်သားကြသည်။ ဆယ်ပြည့်အမှတ်ကလေးများကို ရေတွက်သည့်အခါ၌လည်း ဤစံနစ်အတိုင်းလိုက်သွားပြီးလျှင် ဆယ်ဆယ်လီအတွက် အမှတ်အသားတမျိုး ထွင်ရပြန်သည်။

ထို့နောက် ဆယ်ခုပြည့်သော အမှတ်အသားမျိုးနှင့် ဆယ်ဆယ်လီပြည့်သော အမှတ်အသားမျိုးများကို တခုနှင့်တခု မရောစေဘဲ တသန့်စီရှိစေရန် အစုလိုက်နေရာနှင့် နေရာထားပေးရသည်။ ထိုသည်မှအစပြု၍ ပေသီးကဲ့သို့သော အလုံးကလေးများကိုထွင်းဖောက်ကာ စီ၍ထောင်ထားသော တုတ်ချောင်း၊ သံချောင်းသေးသေးများတွင် စွပ်ပေးရသည့် ပေသီးခုံဖြင့် ရေတွက်သည့် ဆယ်အလိုက် ရေတွက်သွားသော ယခုစံနစ်ကို လိုက်နာခဲ့ကြခြင်း ဖြစ်သည်။

တမျိုးမျိုးဖြင့် ရေတွက်၍ရရှိသော အရေအတွက်တခုကို အခြားအရေအတွက်တခုမှ ခွဲခြားသိရှိရအောင် အမည်မှည့်ရန် လိုအပ်လာသောအခါ မိမိတို့၏ ဘာသာစကားအလိုက် တခုမှဆယ်ခုအထိ ဝေါဟာရများကို သုံးလာကြသည်။ ဆယ်ခုပြည့်တိုင်း ပြည့်တိုင်းလည်း ဆယ်ခုတွဲတတွဲလုပ်ထားသည်ဟုအမှတ်ပြုလျက် တဆယ်၊ နှစ်ဆယ်စသည်ဖြင့် ဆယ်လိုက်ခေါ်သွားကြသည်။ ဆယ်ခုပုံနှစ်ပုံနှင့် ဆယ်ခုမပြည့်သဖြင့် ဆယ်ခုပုံမလုပ်နိုင်၍ ပိုနေသောဝတ္ထုအလွတ် သုံးခုကို နှစ်ဆယ်သုံးခုဟု ရှိရင်းဝေါဟာရဆယ်လုံးကိုပင် သင့်လျော်အောင်တွဲလျက် သုံးသွားသဖြင့် အရေအတွက် တခုလျှင် ဝေါဟာရသစ်တလုံးစီ တီထွင်ထားရန် မလိုအောင် စီမံနိုင်ခဲ့သည်မှာ ကျေးဇူးများပါပေသည်။ အရေအတွက်တခုကို ဝေါဟာရသစ်တလုံးစီဖြင့်သာ မှတ်သားနေရပါလျှင် တရာအထိရှိသော အရေအတွက်များကို မှတ်သားရန်ပင် အခက်အခဲများစွာရှိချေမည်။ ဤရေတွက်နည်းစံနစ်တွင် ဆယ်ခုတဆယ်၊ ဆယ်ဆယ် တရာ၊ ဆယ်ရာ 'တထောင်'စသည်ဖြင့် ဆယ်လိုက်တိုးလျက် အဆင့်ဆင့်တက်သွားရာ ထောင်ပြီးသည်နောက် သောင်း၊ သိန်း၊ သန်း၊ ကုဋေတို့ဖြစ်လာကြသည်။ အချို့နိုင်ငံများ၌ သန်းကျော်ခဲ့လျှင် သန်းပေါင်းမည်မျှရှိသည်ဟူ၍ သန်းဖြင့်ဖော်ပြကြသည်။ ကျွန်ုပ်တို့နိုင်ငံတွင် ကုဋေအရောက် ရေတွက်ကြသည့်ပြင် ကုဋေကျော်ခဲ့လျှင် ကုဋေလေးဆယ်၊ ကုဋေတရာဟု ကုဋေဖြင့်ဖော်ပြကြသည်။ များသောအားဖြင့် သိန်းဖြင့်လည်း သိန်းလေးဆယ်ဟု ဖော်ပြကြသေးသည်။ ရှေးကျမ်းများအရ ကုဋေတကုဋေသည် ပကောဋိ၊ ပကောဋိ တကုဋေသည် ကောဋိပကောဋိဟု အဆင့်ဆင့်တက်သွားသည့် အရေအတွက်များရှိသေးကြောင်းသိရသည်။ ထိုအဆင့်များအနက် အက္ခောဘိဏီနှင့် အသင်္ချေတို့သည် ကျမ်းများ၌ အတွေ့ရများသော အရေအတွက်နှစ်ခုဖြစ်သည်။

အရေအတွက်တခုကို မေ့ပျောက်မသွားစေရန် မှတ်သားထားလိုသည့်အခါ အနောက်နိုင်ငံသချာသမိုင်းများက အစအဦး၌ တုတ်ချောင်းတချောင်းပေါ်တွင် အရေအတွက်ရှိသလောက် အထစ်ကလေးများလုပ်၍သော်၎င်း၊ ကျောက်တုံးတခုပေါ်တွင် အလားတူအမှတ်အသားကလေးများလုပ်၍ သော်၎င်း မှတ်သားခဲ့သည်ဟုဆိုသည်။ ထို့နောက်စာရေးစာဖတ်တတ်လာကြ၍ အရေအတွက်တခုကို စာ၌ထည့်သွင်းဖော်ပြ လိုသောအခါ တခုကို | နှစ်ခုကို || စသည်ဖြင့် လက်ချောင်းကလေးများသဖွယ် မျဉ်းကြောင်းများဆွဲ၍ ဖော်ပြခဲ့ကြသည်။ သို့သော် ဤစံနစ်ဖြင့် အရေအတွက်များများကိုဖော်ပြရန် အခက်အခဲတွေ့လာကြသည့်အခါ ဆယ်လိုက်ရေတွက်သောစံနစ်ကို လိုက်နာလျက်ရှိကြသည့် အီဂျစ်လူမျိုးများက တဆယ်အတွက် ကျွန်ုပ်တို့၏ ဂ အက္ခရာကို မောက်မောက်ရေးထားသည်နှင့်တူသော ∩ အမှတ်အသားတခုကို တီထွင်လျက် အသုံးပြုလာကြသည်။ ယင်းတို့၏ ရေးသားနည်းအတိုင်း ||| ∩ ∩ သည် ယခု ၂၃ ဟုရေးသော အရေအတွက်ဖြစ်သည်။ ဤကဲ့သို့ ရေးထားသော အရေအတွက်တခုကို၊ စာပင်မဖတ်တတ်သော်လည်း မည်မျှဖြစ်သည်ဟု လွယ်လွယ်နှင့်ပြောနိုင်သည်။ ဆယ်လိုက်

ရေတွက်သော်လည်း များလာသောအခါ ခြောက်ဆယ်စီဖြင့် ဆက်၍ရေတွက်သွားသော ဗက်ဗီလုံးလူမျိုးများ ထိုစဉ်က အသုံးပြုခဲ့သည့် ရေးနည်းစံနစ်မှာ ဖတ်သူများအဖို့ ဤမျှလောက်မလွယ်ကူလှပေ။ ထိုသူတို့ ရွှံ့စေးပြားဟချပ်ပေါ်၌ ရေးမှတ်ခဲ့သော ဂဏန်းခြေများမှာ သုံးထောင့် ပုံသပ်ငယ်ကလေးများဖြစ်သည်။ အောက်ပါ ရေးသား ဖော်ပြထားသော အရေအတွက် အမှတ်အသားတွင်



ဝဲဖက်မှ ထောင် လိုက် နေကြသော သပ် ငယ် သုံး ခု သည် ခြောက်ဆယ်ပုံသုံးပုံကိုရင်း၊ အလယ်မှ အလျားလိုက် လဲနေကြသော သပ်ငယ်နှစ်ခုသည် ခြောက်ဆယ်ပုံ မပြည့်သဖြင့် ဆယ်ပုံအတိုင်းထားရသေးသည့် အပုံနှစ်ပုံကိုရင်း၊ ယာဖက်မှ ထောင်လိုက်နေကြသည့် သပ်ငယ်သုံးခုတို့သည် ဆယ်ပုံမပြည့်သည့် အလွတ်သုံးခုကိုရင်း ပြကြသည်ဖြစ်ရာ ယင်းတို့သည် (၆၀ × ၃) + ၂၀ +၃ တနည်းအားဖြင့် ၂၀၃ ခုရှိသောအရေအတွက်တခုကိုပြသည်။ အသုံးပြုနေကြသည့် စက်နာရီဖြင့် အချိန်ကိုတိုင်းသောဇယားတွင် စက္ကန့် ၆၀ တမိနစ်၊ မိနစ် ၆၀ တနာရီဟူ၍ နာရီကို စိတ်ပိုင်းထားခြင်းသည် ဗက်ဗီလုံး လူမျိုးများ၏ ခြောက်ဆယ်စံနစ်ဖြင့် ရေတွက်သော အမွေအနှစ်ဖြစ်သည်ဟု အဆိုရှိသည်။

အီဂျစ်နှင့် ဖိနီရှန်လူမျိုးများ၏ ဆယ်ဖြင့်ရေတွက်နည်းစံနစ်ကိုပင် လိုက်နာကြသော ဂရိ၊ ဟီဗြူနှင့် ရောမလူမျိုးများကမူ မိမိတို့၏အက္ခရာစာလုံးများကို ဂဏန်းခြေအမှတ်အသားများအဖြစ် အသုံးပြုလျက် ကိန်းများကို ရေးပြကြသည်။ ဂရိလူမျိုးတို့၏ အယ်လက်ဇန္ဒြီယန် ရေးနည်းအရ ဆိုလျှင် တခုမှကိုးခုအထိရှိသော အရေအတွက်များကို မိမိတို့၏ ပဌမအက္ခရာကိုးလုံးဖြင့်ရင်း၊ တဆယ်မှကိုးဆယ်အထိရှိသော အရေအတွက်များကို နောက်အက္ခရာကိုးလုံးဖြင့်ရင်း၊ တရာမှကိုးရာကို နောက်အက္ခရာများဖြင့်ရင်း၊ ကြား အရေအတွက်များကို ဆိုင်ရာအက္ခရာချင်း တွဲလျက်ရင်း ပေါင်းစပ်ကာ ရေးပြကြရာ ဤနည်းအရ ရေးထားသော ကိန်းများဖြင့် အပေါင်းအနုတ် တွက်ချက်ရန်မှာ များစွာပင် မလွယ်ကူလှပေ။

သို့သော် ရောမလူမျိုးတို့သည် အက္ခရာစာလုံးအနည်းငယ်မျှဖြင့် ဖြစ်နိုင်သော ရေးနည်းစံနစ်ကို တီထွင်ထားကြရာ ယင်းတို့၏ရွေးနည်းသည် ဂရိရေးနည်းထက် လွယ်ကူသည်ဟုဆိုရမည်။ တိုင်ကပ်နာရီကြီးအချို့၏မျက်နှာပေါ်၌ ရောမဂဏန်းများဖြင့် ရေးထားသော နာရီပြဂဏန်းများကိုကြည့်လျှင် တစ်မှလေးအထိကို ထောင်လိုက်ဆွဲသောမျဉ်းများဖြင့်ပြသည်။ လက်ဝါးတဖက်ကိုထောင်ပြသောအခါ လက်မနှင့်ကျန်လက်ချောင်းကလေးများကို သစ်ပင်ခွသဏ္ဌာန်မြင်ရသည်ကို အမှတ်ပြု၍ ငါးခုကို ✓ ပုံအမှတ်အသားဖြင့် ပြသည်။ တဆယ်ကို ငါးနှစ်လုံးဆင့်လျက် X ဟုပြရာ နောက်ကာလကြာမြင့်လာသောအခါ X ပုံဖြစ်လာသည်။ ငါးဆယ်ကို L၊ တရာကို C၊ ငါးရာကို D၊ တထောင်ကို M တို့ဖြင့်ပြသည်။ ခြောက်ခုကို VI၊ ရှစ်ဆယ်ကို LXXX စသည်ဖြင့် လိုအပ်သလို တွဲ၍ ရေးကြသည်။ ကိုးခုကို မျဉ်းကြောင်းကိုးကြောင်းဖြင့်ရင်း၊ ရှစ်ဆယ်ကို X ရှစ်ခုဖြင့်ရင်း ရေးပြရန် ရှည်လွန်းနေသဖြင့် ငါးခု၊ ငါးဆယ်၊ ငါးရာတို့အတွက် သီးခြားအမှတ်အသားများ ထည့်ပေးကြဟန် တူသည်။ ကိုးခုကိုပင် VIIII ဟုရေးသည်က ရှည်နေသေးသဖြင့် တဆယ်တခုယုတ်အနေဖြင့် X ၏ရှေ့မှ I ကိုခံ၍ IX ဟုရေးပြသည်။ ထို့အတူ လေးခုကိုလည်း ငါးတခုယုတ် IV ဟုရေးသေးသည်။ အရေ




တွက်ချက်မှတ်သားရာ၌ ဂဏန်းခြေတို့သည် အဓိကဖြစ်၏။

အတွက် ကိန်းရေးနည်းပင်မဟုတ်သော်လည်း ကျွန်ုပ်တို့မြန်မာလူမျိုးများသည် ဒါရေးကြီးသောအရေအတွက်တခုခုကို နံသင့်အက္ခရာများဖြင့် ဖွဲ့ထားအပ်သည့် စာပိုဒ်ကလေးများနှင့် မှတ်သားခြင်း အလေ့အထရှိသည်။ ပုံ စံ အားဖြင့် ဥသြအော်မြည်၊ ကုန်းဘောင်တည်' ဟူသော စာပိုဒ်ဖြင့် ကုန်းဘောင်မြို့ကိုတည်ထောင်သောခုနှစ် သက္ကရာဇ်ဖြစ်သည့် ၁၁၁၅ ခုနှစ်ကို မှတ်သားကြသည်။ 'လှည်းဝင်ရိုးသံတည်း၊ ပုဂံဘုရားပေါင်း' ဟူသော စာပိုဒ်ဖြင့် ပုဂံမြို့ရှိ စေတီပုထိုးတော်များ၏ အရေအတွက်ကို မှတ်သားကြသည်။

ရောမရေးနည်းစံနစ်ကို ဥရောပဘခွင်၌ အလယ်ခေတ် (ခရစ် ၅၀၀–၁၄၀၀ ခုနှစ်ခန့်) အပါအဝင် နှစ်ပေါင်း ၂၀၀၀ ခန့် အသုံးပြုခဲ့သည်။ ဟိန္ဒူပညာရှင်များ တီထွင်ထားခဲ့သည့် ယခုခေတ်ရေးနည်းကို ထိုကာလတိုင်မီ ခရစ် ၉၇၆ ခုနှစ်လောက်ကပင် အာရပ်လူမျိုးများက ဥရောပတိုက်သို့ ယူဆောင်၍ အသုံးပြုခဲ့ကြသော်လည်း ထိုနည်းကို ပိုမိုလွယ်ကူကြောင်းသိလျက်နှင့် ရောမရေးနည်းစံနစ်အစား အများက လက်မခံခဲ့ကြသေးပေ။ ရေးနည်းနှစ်မျိုးသည် ဥရောပတိုက်တွင် စင်ပြိုင်ခေါ်နေခဲ့ရာ ရောမစံနစ်သည် တစတစနှင့်ခေတ်မှိန်လိုက်လာ၍ ခရစ် ၁၅၀၀ ပြည့်နှစ်လောက်အရောက်၌ အာရေဗျဂဏန်းခြေများကို လုံးလုံးလျားလျား အသုံးပြုလာကြသည်။ ယခုအခါ ရောမဂဏန်းများကို အချို့သောနာရီ မျက်နှာများပေါ်ရှိ နာရီပြဂဏန်းများ၊ အချို့သောကျမ်းများ၌ အခန်းစဉ်အမှတ်ဂဏန်းများ၊ ခရစ်ယန်ဘုရားရှိခိုးကျောင်းများရှိ ကမ္ပည်းကျောက်စာများ၌ လောက်သာ တွေ့ကြရတော့သည်။ ယခု အနောက်နိုင်ငံများတွင် အသုံးပြုနေသော အာရေဗျဂဏန်းခြေများသည် ဟိန္ဒူပညာရှင်တို့ တီထွင်ထားခဲ့ခြင်းဖြစ်ကြောင်း ထင်ရှားသည့်သာဓကတရပ်မှာ ကျွန်ုပ်တို့မြန်မာဂဏန်းခြေများနှင့် အလွန်ပင်ဆင်တူယိုးမှား ပုံသဏ္ဌာန်ရှိခြင်းဖြစ်သည်။ မြန်မာစာအက္ခရာများနှင့် ဂဏန်းခြေရေးနည်းများမှာ အိန္ဒိယဖက်မှ ရောက်ရှိလာခဲ့သည်။

သုညအတွက် အမှတ်အသား ၀ ကို လွယ်လွယ်နှင့်တီထွင်ဖြစ်ခဲ့သည်မဟုတ်။ ဝတ္ထုပစ္စည်းတပုံကို တဆယ်စီထား၍ ပေသီးခုံဖြင့် ရေတွက်သွားရာ၌ ရာနေရာတွင် ပေသီး ၇ လုံး၊ ဆယ်နေရာတွင် ၅ လုံးနှင့် ခုနေရာတွင် ၃ လုံးရှိသည်ကို ၇၅၃ ဟု ရေးပြသဖြင့် သိနားလည်နေကြသော်လည်း ရာနေရာတွင် ၄ လုံးနှင့် ဆယ်နေရာတွင် ဗလာ၊ ခုနေရာတွင် ၇ လုံးကို ၄ ၇ ဟုရာပြဂဏန်း ၄ နှင့် ခုပြဂဏန်း ၇ တို့ကိုခပ်ခွာခွာထားရေးပြီးလျှင် ဆယ်မပါသည်အတွက် ဆယ်ပြဂဏန်းနေရာကို အလယ်ထားလျက် ရေးပြသောအခါ၌လေးဆယ့်ရှစ်ခုရှိသော အရေအတွက်နှင့် မခြားဘိသကဲ့သို့ရှိနေသောကြောင့် မည်ကဲ့သို့ရေးပြလျှင်ကောင်းမည်ကို နှစ်ရှည်လများ အမျိုးမျိုး



နှစ်ပေါင်း ၅၀၀၀ ခန့်ကစ၍ အသုံးပြုခဲ့သည့် ပေသီးတွက်ခုံ

ကြံဆရေးသားကြပြီးမှ ယခု အသုံးပြုနေကြသော သုညအတွက် 'အမှတ်အသား '၀' ကို အသုံးပြုလာခြင်းဖြစ်သည်။

အရေအတွက်ပြကိန်းများကို ဤကဲ့သို့စံနစ်တကျတီထွင်ထားအပ်သည့် အမှတ်အသား အနည်းငယ်မျှဖြင့် ၅ ဂဏန်းတလုံးတည်းကိုပင် ခုနေရာ၌ ရေးခဲ့လျှင် ငါးခု၊ ဆယ်နေရာ၌ ရေးခဲ့လျှင် ငါးဆယ်အစရှိသည်ဖြင့် တန်ဖိုးအဆင့်အတန်းထား၍ရေးနိုင်ခဲ့ခြင်းကြောင့် တွက်ချက်ရာ၌ လွယ်ကူ၍ အမျိုးမျိုးသောသင်္ချာပညာရပ်များကို တိုးချဲ့လာနိုင်ခဲ့သည်မှာ များစွာကျေးဇူးကြီးပါပေသည်။

ဤဂဏန်းခြေများနှင့်ပင် ဆယ်လီစိတ်ဒသမဂဏန်းများပါအောင် တိုးချဲ့နိုင်ခဲ့၍ ရိုးရိုးအပိုင်းဂဏန်းများနှင့်တကွ ၄–၆ ကဲ့သို့ အဓိပ္ပါယ်မရှိသေးသော ဖေါ်ပြချက်များကို ဆီလျော်စွာ အဓိပ္ပါယ်ပေးနိုင်အောင်လည်း အပေါင်းအနုတ်လက္ခဏာများကို အဓိပ္ပါယ်တိုးချဲ့နိုင်ခဲ့ပေသည်။

ဂဏန်းတွက်စက်။ ။ကုန်သည်ရောင်းဝယ်ရေး၌ ဖြစ်စေ၊ စာရင်းအင်းကိုများစွာအားထား၍ အလုပ်လုပ်ရသောဌာနများ၌ဖြစ်စေ စာရင်းများတိကျမှန်ကန်ဖို့မှာ အလွန်အရေးကြီးသည်။ စာရင်းအင်းများလုပ်ရာ၌ လူများသည် အပေါင်း အနုတ် အမြှောက် အစားတွက်များကို စိတ်ဖြင့်၎င်း၊ ရေးချ၍၎င်း တွက်ကြရသော်ကြောင့် မိမိတို့၏ ဦးနှောက်ကို

များစွာအလုပ်ပေးသည့်ပြင် အချိန်လည်းများစွာကုန်သဖြင့် လူမပင်ပန်းဘဲ အချိန်ကုန်သက်သာမည့်နည်းလမ်းကို ကြံစည်ခဲ့ကြသည်။

ပဌမဆုံးကြံစည်သည့်နည်းမှာ အက်ဗကပ်ခေါ် ပေသီးတွက်ခုံဖြင့် ဂဏန်းတွက်ယူသောနည်းဖြစ်၏။ အက်ဗကပ်ကို နှစ်ပေါင်း ၅,၀၀၀ လောက်က ယူဖရေးတီးနှင့်တိုင်းဂရစ်မြစ်ဝှမ်း၌ စတင်အသုံးပြုခဲ့သည်။ ပေသီးတွက်ခုံတွင် ပေသီးဟုခေါ်သော အလုံးကလေးများကို အပေါက်ဖေါက်၍ တုတ်တံဖြင့် သီထားသည်။ ထိုတွက်ခုံမျိုးကို ယနေ့ထက်တိုင် တရုပ်၊ ဂျပန်၊ ရုရှနှင့်အိန္ဒိယနိုင်ငံများ၌ အသုံးပြုလျက်ရှိကြသေးသည်။ ပေသီးတွက်ခုံကို ဆယ်လီစံနစ်အရစီစဉ်ထားသည်ဖြစ်၍ ကုန်ပစ္စည်းများ၏တန်ဖိုးကို တွက်ရန်ရှိသောအခါ ဆယ်လီစံနစ်ကိုမလိုက်သော ကျပ်၊ ပဲ၊ ပိုင်ကဲ့သို့သောငွေကြေးမျိုးဖြင့်တွက်ရလျှင် ယင်းကိုတကျပ်လျှင်ဆယ်မူး၊ တမူးလျှင် ဆယ်ပြားစံနစ်မျိုးသို့ ပြောင်းပြီမှတွက်နိုင်သည်။ ထိုကဲ့သို့ ကျပ်၊ ပဲ၊ ပိုင်မှ ကျပ်၊ မူး၊ ပြားသို့ပြောင်းသောပုံသေအပြောင်းလက်ာကလေးများကို စာရင်းတွက်သူက ကောင်းစွာ ကျက်မှတ်ထား၍ ကျင်လျင်စွာအသုံးပြုနိုင်မှ ပေသီးခုံကိုသုံးရကျိုးနပ်သည်။

သို့သော် စက်ကရိယာဖြင့်ပြုလုပ်ထားသည့် ဂဏန်းတွက်စက်မျိုးကို ခရစ် ၁၆၄၂ ခုနှစ်တွင်၊ ဗလဲပါစကယ်ဆိုသူ ပြင်သစ်လူမျိုးတဦးက တီထွင်ခဲ့သည်။ အင်္ဂလိပ်လူမျိုး စီ၊ အိပ်၊ တောမတ်နှင့် ချား ဗက်ဗစ်ဆိုသူတို့က ထိုဂဏန်းတွက်စက်ကို ပြုပြင်ပြီးလျှင် တိုးချဲ့လုပ်ကိုင်ခဲ့ကြပြန်သည်။ ဂဏန်းတွက်စက်ကို ကူးသန်း ရောင်းဝယ်ရေး ဆိုင်ရာ အတွက်အချက်များ၌ အကျိုးရှိ၍ တွင်ကျယ်အောင် အသုံးချနိုင်စေရန် ပြုပြင်ပေးခဲ့သူမှာကား အမေရိကန်လူမျိုး ဝီလျံ ဆီဝပ် ဗာရိုဆိုသူဖြစ်သည်။ ယခုအခါ အသုံးပြုလျက်ရှိကြသောဂဏန်းတွက်စက်များသည် ဗာရို၏မူကိုအခြေတည်၍ လုပ်ကိုင်ထားသော စက်များဖြစ်သည်။

ဂဏန်းသင်္ချာတွင် အမြှောက်နှင့်အစားမှာ ထပ်ကာ ထပ်ကာပေါင်းခြင်း၊ နုတ်ခြင်းများပင်ဖြစ်ရာ ဂဏန်းတွက်စက်ကိုလည်း အပေါင်းအနုတ်သဘောကို အခြေခံလျက်စီမံထားသည်ဖြစ်၍ မော်တော်ကားများ၌ပါလာသော စပီဒိုမီတာခေါ် အမြန် တိုင်းကရိယာနှင့် တသဘောတည်း ဖြစ်သည်။ စပီဒိုမီတာတွင် ချပ်ပြားဝိုင်းကလေးများကို စီစဉ်ထားရာ ချပ်ပြားဝိုင်းများ၏အနားစွန်း၌ ၀ မှ ၉ အထိ ဂဏန်းများကို အစဉ်အလိုက် ရေးမှတ်ထားသည်။ မော်တော်ကားသည်



အသီးသီးသောငွေစာရင်းများကို တွက်ချက်ပေးနိုင်သော ဂဏန်းတွက်စက်ကြီး

ခရီးတမိုင်ရောက်တိုင်း ဂပီဒိုမီတာပေါ်တွင် ခုဂဏန်းနေရာ၌ ဂဏန်းသစ်တခုလည်၍ပေါ်လာသည်။ ယင်းကဲ့သို့ ခုဂဏန်းနေရာ၌ ဂဏန်းဆယ်လုံးသည် တလုံးပြီးတလုံးလည်၍ ပေါ်လာပြီးသောအခါ ဆယ်ဂဏန်းနေရာ၌ဂဏန်းသစ်တခုလည်း ပေါ်လာသည်။ ဤနည်းဖြင့် စပီဒိုမီတာသည် မော်တော်ကားသွားခဲ့သောခရီးကို မိုင်ပေါင်း ရာထောင်သောင်းအထိ မှတ်သားဖော်ပြသည်။ (စပီဒိုမီတာ — ရှု။)

ဂဏန်းတွက်စက်များ၏သဘောမှာလည်း ဤအတိုင်းပင်ဖြစ်သည်။ သို့သော် ထိုစက်ကြီးမျိုး၌ တကြိမ်လျှင် ခုကိန်းတခုတည်းကိုသာမဟုတ်ဘဲ ဆယ်ကိန်း၊ ရာကိန်း၊ ထောင်ကိန်းမျိုးများကိုပါ တပါတည်းပေါင်းနုတ်နိုင်အောင် ရှုပ်ထွေးလှသော ဘီးအစီအစဉ်နှင့် မောင်းအစီအစဉ်များဖြင့် တပ်ဆင်ပြုလုပ်ထားလေသည်။

အချို့ဂဏန်းတွက်စက်မျိုးတွင် ချပ်ပြားဝိုင်းများကိုသုံးကြ၍ အချို့တွင် ဒလိမ့်ဘုံးများကိုသုံးကြသော်လည်း မူရင်းသဘောမှာကား အတူတူပင်ဖြစ်သည်။ လက်နှိပ်စက်ဖြင့် စာမူတခုကိုကူးရိုက်ဘိသကဲ့သို့ ဆိုင်ရာဂဏန်းများကိုလက်ဖြင့် မှန်ကန်စွာရိုက်နှိပ်သွား၍ မောင်းကိုနှိပ်လိုက်လျှင် အလိုရှိသောအဖြေသည်စာရွက်ပေါ်၌ ရိုက်နှိပ်ပြီးသားထွက်လာသည်။ ယခုခေတ် လျှပ်စစ်ဓာတ်သုံးဂဏန်းတွက်စက်များသည် စာရင်းကိုင် ပညာဆိုင်ရာအတွက်အချက်မျိုးများကို တွက်ပေးနိုင်သည်။ ပုံသေတွက်ကိန်းတခုကို ဂဏန်းတန်ဖိုးအမျိုးမျိုးနှင့်ရေလဲဖြင့်သုံး၍ တွက်ပေးနိုင်သောဂဏန်းတွက်စက်များကိုလည်း တီထွင်ကြပြီးဖြစ်သည်။ ဆလိုက်ရူးခေါ် သင်္ချာလျှောတံသည်လည်း ဂဏန်းတွက်စက် တမျိုးပင် ဖြစ်သည်။ (သင်္ချာလျှောတံ — ရှု။) ထိုကရိယာတွင် စကေးအမှတ် အသားများ ပါရှိသော မျဉ်းတံနှစ်ချောင်းပါ၍ တချောင်းက အခြားတချောင်းနှင့်ဘေးချင်းကပ်လျက် ရွေ့ရှားနေနိုင်သည်။ စကေးအမှတ်အသားများမှာ ၁၊ ၂၊ ၃၊ တို့ကဲ့သို့ရိုးရိုးစဉ်တိုက်ကိန်းများနှင့် အချိုးကျကျပြုလုပ်ထားခြင်းမဟုတ်ဘဲ ယင်းတို့၏ လောဂရစ်သမ် များနှင့်အချိုးကျကျပြုလုပ်ထားသဖြင့် ဆလိုက်ရူးဖြင့် အမြှောက် အစားများကိုလွယ်ကူစွာ တွက်ပေးနိုင်သည်။ ယခုခေတ် ဆလိုက်ရူးများပေါ်၌ နှစ်ထပ်ကိန်း၊ နှစ်ထပ်ကိန်းရင်းများနှင့် တြီဂိုနိုမေတြီအချိုးများကိုပါ အသင့်ဖတ်ယူရရှိနိုင်အောင် ပြည့်စုံစွာ စီမံထားရာ ဂဏန်းတွက်ချက်မှု၌ များစွာအရာရောက်လှပေသည်။ (ထပ်ကိန်းနှင့် ကိန်းရင်းများ။ တြီဂိုနိုမေတြီ — ရှု။)



အပေါင်းအနုတ်ကိုလက်ဖြင့် ရိုက်နှိပ်တွက်ချက်ရသော ဂဏန်းတွက်စက်

# ဂဏန်းမသင် လဒ်မမြင်

ကျောင်းသူကျောင်းသား၊ အိမ်ရှင်မများ၊ ကုန်သည်ပွဲစား၊ အလုပ်သမား လယ်သမားများနှင့် သိပ္ပံပညာရှင်များပါမကျန် ကြီးငယ်မဟူ လူတိုင်းတတ်အပ်သည့်ပညာတရပ်မှာ ဂဏန်းသင်္ချာဖြစ်၏။ လူတို့၏လုပ်ငန်းဆောင်တာအဝဝတွင်၊ ဂဏန်းသင်္ချာသည်အခြေခံဖြစ်ရကား၊ လူတိုင်းလူတိုင်းဂဏန်းသင်္ချာဗဟုသုတနှင့် ပြည့်ဝရန်လိုအပ်လေသည်။ မည်သည့်နိုင်ငံမဆို စာရေးစာဖတ်အပြင် အတွက်ဟူသောဂဏန်းသင်္ချာအတတ်ကိုပါ မူလအခြေခံဟုသတ်မှတ်သည်။

**ဂဏန်းသင်္ချာ။** ။သင်္ချာသည် ရေတွက်ခြင်းကိုပြသည်။ ဂဏန်းသင်္ချာသည် ဂဏန်းဖြင့် ရေတွက်ခြင်း ပညာဟု အဓိပ္ပါယ်ရသည်။ သို့သော်လည်း ဂဏန်းဖြင့် ရေတွက်သည်ထက် များစွာကျယ်ဝန်းလာသော ပညာဖြစ်သည်။ အရေအတွက်တခုခုကို ကိန်းတခုအနေ ဂဏန်းခြေဖြင့် ရေးပြပြီးသည်နောက် ကိန်းချင်းပေါင်းချင်း၊ နုတ်ခြင်း စသောအမှုကိစ္စများကိုဆောင်ရွက်ရာ၌ ကိန်းပြဂဏန်းချင်းပေါင်းခြင်း၊ နုတ်ခြင်းများကိုလုပ်ဆောင် ရရာ မှင်းကိုပင် ဂဏန်းတွက်ခြင်းဟုဆိုကြသည်။ တခါတရံ အတွက်တွက်သည်ဟုဆိုကြသည်။ (အပေါင်း အနုတ်။ အမြှောက် အစား — ရှု။)

ဂဏန်းခြေခေါင်းစဉ်အောက်တွင် ရောမလူမျိုးတို့၏ကိန်းရေး ကိန်းဖတ်စံနစ်ကိုဖော်ပြခဲ့ရာ ယင်းတို့၌အပေါင်းအနုတ်သဘောများ သက်ရောက်နေပြီးဖြစ်သည်ကို ကြည့်ရခြင်းအားဖြင့် လူများသည်ကိန်းများကို မရေးတတ်မီကပင် ပေါင်းတတ်နုတ်တတ်နေသည်ဟုယူဆရန်ရှိသည်။ (ဂဏန်းခြေ — ရှု။) ရောမလူမျိုးတို့၏ သင်္ချာပညာရပ်၌ တစ်ကို I ၊ ငါးကို V ၊ တဆယ်ကို X ၊ ငါးဆယ်ကို L ၊ တရာကို C ၊ တထောင်ကို M ဟု အမှတ်သညာပြုကြသည်။ ရှစ်ဆယ်ကို တိုတိုဖြင့် ငါးဆယ်နှင့် သုံးဆယ် နှစ်ခုပေါင်းအနေဖြင့် LXXXဟု ၎င်း၊ ကိုးရာကို၊တထောင်တရာ လျော့အနေဖြင့် CM ဟု၎င်း ရေးပြခဲ့ကြသည်မှာ အထက်ကဆိုခဲ့သည့်ကိန်းကိုမရေးတတ်မီ ပေါင်းတတ် နုတ်တတ်သည်ဟူသောအဆိုကို ထောက်ခံလျက်ရှိနေသည်။ အပေါင်း အနုတ်သင်စ ကလေးသူငယ်များသည် လက်ချိုးရေတွက်၍ ပေါင်းခြင်း၊ နုတ်ခြင်းပြုလုပ်သကဲ့သို့ပင် ရှေးအခါကလူများသည်လည်း ထိုကဲ့သို့လုပ်ခဲ့ကြသည်ဟု အနောက်နိုင်ငံသင်္ချာသမိုင်းများကဆို၏။ ပေါင်းနုတ်ရန် အကြောင်းပေါ်လာလျှင် လက်တွေ့နည်းဖြင့် လက်ကိုချိုး၍ဖြစ်စေ၊ ရေတွက်ရာ၌ အကူအညီယူခဲ့သည့် ပေသီးခုံကို အသုံးချ၍ဖြစ်စေ၊ အလားတူအကူအညီတမျိုးမျိုးဖြင့်ဖြစ်စေ တွက်ချက်၍အဖြေမျှလောက်ကိုသာ ရေးမှတ်ကြသည်။ နှစ်ပေါင်းများစွာကြာရှိမှ ယခုပေါင်းနုတ်နည်းမျိုးကို ရရှိအသုံးပြုခဲ့ကြခြင်းဖြစ်သည်။ အမြှောက်အစားတွက်များကို ထိုထက်များစွာနောက်ကျ၍ ခရစ် ၁၂၀၀ ပြည့်နှစ်လောက်ကျမှ ယခုတွက်နည်းမျိုးဖြင့်တွက်နိုင်ခဲ့ကြသည်။ ထိုခေတ်မတိုင်မီက အမြှောက်အစားကိုတွက်ရန်ရှိလျှင် အဖြေကိုတွေ့သည် တိုင်အောင် ပင်ပန်းကြီးစွာဖြင့် အကြိမ်ကြိမ်ပေါင်းနုတ်၍တွက်ခဲ့ကြသည်ကို ကြည့်ရသော် လူများသည် အမြှောက်အလီဇယားများကို ကောင်းစွာ မတတ်ကြသေးဟူ၍သော်၎င်း၊ ကောင်းစွာအသုံးမပြုတတ်ကြသေးဟူ၍သော်၎င်း ယူဆရသည်။ ရရှိသောအဖြေကို ကိုးဖြင့်ချေ၍ ချိန်ထိုးနည်းဖြင့် မှန်သည် မမှန်သည်ကို စစ်ဆေးကြည့်ရှုလေ့ရှိကြသည်။ မြန်မာတို့၏ ကိုးကြောင်းတွက်နည်းသည်လည်း ရှေးကျသောနည်း တနည်းဖြစ်သည်။ ၅ × ၅ အထိ အလီဇယားကို ကျက်မှတ်ထားပြီးသည်နောက် ၅ × ၅ ဆထက် ၁၀×၁၀ အထိ အမြှောက်များကိုတွက်ရာ၌ လက်ချောင်းကလေးများဖြင့် တွက်သောနည်းမှာ ရှေးက ဗြာတလီပြည်တွင် ပေါ်ပေါက်ဘူး၍ မှတ်သားဖွယ်ကောင်းသည်။ အမြှောက်ခံရသည့် ကိန်းကို ၅ ဖြစ်ခဲ့လျှင် လက်ငါးချောင်းထောင်၍၎င်း၊ ၆ ဖြစ်ခဲ့လျှင် လက်တချောင်း ချိုးထား၍၎င်း၊ ၇ ဖြစ်ခဲ့လျှင် လက်နှစ်ချောင်း၊ ၈ ဖြစ်ခဲ့လျှင် သုံးချောင်း၊ ၉ ဖြစ်ခဲ့လျှင် လေးချောင်း ချိုးထား၍၎င်း၊ လက်တဖက်၌ ပြထားသည်။ မြှောက်မည့်ကိန်းကိုမူ အခြားလက်တဖက်၌ ဤစံနစ်အတိုင်းပြထားပြီးလျှင် ထောင်လျက်နေသောလက်တဖက်မှ လက်ချောင်းအရေအတွက်နှင့် အခြားတဖက်မှ အရေအတွက်တို့ကို မြှောက်လျက် လက်နှစ်ဖက်ချိုးထားသော လက်ချောင်းအရေအတွက်၏ ဆယ်ဆနှင့် ပေါင်းလိုက်သောအခါ မြှောက်လဒ်ဖြစ်သော အဖြေကိုရရှိသည်။ ပုံစံအားဖြင့် ၇ × ၈ ကို တွက်လိုသောအခါ လက်တဖက်၌ လက် ၂ ချောင်း၊ အခြားတဖက်၌ လက် ၃ ချောင်းကို ချိုးထားခြင်းဖြင့် ၇ နှင့် ၈ တို့ကို ပြလိုက်သည်။ ထိုအခါ တဖက်၌ ၃ ချောင်းထောင်လျက်ရှိ၍ အခြားတဖက်၌ ၂ ချောင်းထောင်လျက်ရှိသဖြင့် ၃ × ၂ မှ ၆ ကိုရသည်။ တဖက်၌ချိုးထားသော လက် ၂ ချောင်းနှင့် အခြားတဖက်၌ ချိုးထားသော ၃ ချောင်း၊ ပေါင်းလက် ၅ ချောင်းတို့၏ ဆယ်ဆဖြစ်သည့် ၅၀ ကို ၆ နှင့်ပေါင်း၍အဖြေကို ၅၆ ဟုရပေရသည်။ ဤမြှောက်နည်းသည် (၅+က) (၅+ခ)= (၅ − က) (၅ − ခ) +၁၀ (က + ခ) ဟူသော ထပ်ဘူညီချက်အရဖြစ်သည်မှာ ထင်ရှားသည်။

ရာပုံ၊ ဆယ်ပုံ၊ ခုပုံများခွဲ၍ရေတွက်ထားသော အရေအတွက်နှစ်ခုတို့ကို ပေါင်း၍ရေတွက်ရာ၌ ရာပုံချင်းပေါင်းလျက် သီးခြားရေတွက်ခြင်း၊ ဆယ်ပုံချင်းပေါင်းလျက် သီး

ခြားရေတွက်ခြင်းများ ပြုလုပ်သည့်နည်းတူ ယခုခေတ်အရေအတွက်ပြကိန်းများကိုပေါင်းရာ၌ တန်ဖိုးတူများကို တသန့်စီပေါင်းနိုင်စေခြင်းငှာ ခုဂဏန်းများကို တခုအောက်တခုကျနေစေ၍ ဆယ်ဂဏန်းများ၊ ရာဂဏန်းများကလည်း ထိုကဲ့သို့ကျနေစေရန် ကိန်းများကို တခုအောက်တခုစီလျက် ရေးပြီးမှ ပေါင်းကြသည်။ ငွေကြေးမှုမတူနှင့် အခြားမှုမတူကိန်းများကိုလည်း ဤနည်းအတိုင်းပင် ပေါင်းကြသည်။ နုတ်ရာ၌ ချေး၍နုတ်သောတွက်နည်း၊ ကိန်းတူချင်းရော၍နုတ်သောနည်း၊ လိုသောကိန်းဖြင့် ဖြည့်စွက်ပေါင်းထည့်ပေးသောနည်း စသည်တို့မှ သင့်လျော်ရာနည်းတနည်းဖြင့် တွက်ကြသည်။ အပေါင်း အနုတ်ကို လျင်မြန်စွာတွက်နိုင်ရန် အပေါင်း အနုတ် ဇယားများကို ကျက်မှတ်ထားရသည်။ အမြှောက်အစားများကို ကောင်းစွာတွက်ချက်နိုင်ရန်လည်း အလီဇယားများကို ၁၀×၁၀ အထိ ကျေကျေ ကျက်မှတ်ထားရန် လိုအပ်ပေသည်။ ဂဏန်းသင်္ချာတွင် အပိုင်းဂဏန်း၊ ဒသမဂဏန်း၊ မှုမတူတွက်၊ ဈေးတွက်မှစ၍ အတိုးတွက်၊ ရာခိုင်နှုန်းတွက်၊ ရောင်းရေးဝယ်ရေးဆိုင်ရာအတွက် စသည်ဖြင့် အတွက်မျိုးမြောက်မြားစွာပါရှိသည်။ (အပိုင်း ဂဏန်း — ရှု။)

လူမှုကိစ္စ ကျယ်ဝန်းလာသည်အမျှ တစတစနှင့် နယ်



သက်ကြီးသင်တန်း တတန်းတွင် အဘွက်သင်နေပုံ

ကျယ်လာခဲ့သော ဂဏန်းသင်္ချာပညာသည် အလွန်ရှေးကျသောပညာတရပ်ဖြစ်သည်။ ရှေးအခါက အချို့သင်္ချာပညာရှင်များသည် ရောင်းရေး ဝယ်ရေးဆိုင်ရာ ပုစ္ဆာများထက် ဉာဏ်စွမ်း ဉာဏ်စကိုစမ်းသောပုစ္ဆာမျိုးများကို ပိုမိုစိတ်ဝင်စားကြသဖြင့် ထိုပညာကိုသင်ကြားကြသူတပည့်များစွာတို့အဖို့ ပျင်းရိငြီးငွေ့ဖွယ်ကောင်းခဲ့ပေမည်။ တွက်နည်းများသည် ရှည်လျား၍ နားလည်ရန် ခဲယဉ်းလှသည်။ ထိုခေတ်က ဂဏန်းသင်္ချာတတ်မြောက်လိုသူများသည် တွက်နည်းများနှင့် သင်္ချာဥပဒေများကို အလွတ်ကျက်မှတ်ထားရသဖြင့် အတွက် တွက်တတ်ရန်မှာ မလွယ်ကူလှပေ။ ယခုခေတ်တွင် ကျောင်းသားသူငယ်၊ ဈေးသည်၊ အလုပ်သမား၊ အလုပ်ရှင်၊ လက်မှုပညာသည်များမကျန် အတွက်အချက်နှင့်မကင်းနိုင်ကြပေ။ သို့သော် သင်ကြားနည်းများကို လွယ်သည်ထက် လွယ်အောင် တစတစ ပြုပြင်လာခဲ့ကြသည့်ပြင် တွက်ရသောအတွက်များမှာလည်း လူများနေ့စဉ်ကြုံတွေ့နေကြရသော ပြဿနာများနှင့်ဟပ်မိလာ၍ စိတ်ဝင်စားဖွယ်ရာဖြစ်လာသဖြင့် ယခုခေတ်တွင် ဂဏန်းသင်္ချာသည် ရှေးကကဲ့သို့ သင်ကြားရန် ပျင်းရိငြီးငွေ့ဖွယ် ကောင်းလှသည့်ပညာမျိုး မဟုတ်တော့ချေ။ ဂဏန်းသင်္ချာသည် အသုံးများ၍ လူထုအား အကူအညီ အများဆုံးပေးသည့် သင်္ချာပညာ၏အပိုင်းကဏ္ဍတခုဖြစ်သည့်ပြင် လူတို့အားပြဿနာကိုရှင်းရှင်း မြင်စွမ်းနိုင်စေသည့် သတ္တိမျိုးကို ဖွံ့ဖြိုးလာစေရန်၄င်း၊ တိကျမှန်ကန်စွာ ဆောင်ရွက်တတ်သော အလေ့အကျင့်ကို ရရှိစေရန်၄င်း၊ ဇွဲနှင့် တည်ကြည်မှုအားများကောင်းလာစေရန်၄င်း အဖိုးတန်သော လေ့ကျင့်ဖော်တခုအနေဖြင့် အသုံးပြုရန်ကောင်းသောကြောင့် လူတိုင်းတတ်သိအပ်သော အ သုံးလုံး ပညာတရပ်ဖြစ်သည်။

**ဂမုန်း။** ။ဂမုန်းဟူသောအမည်မှာဥရှိသောအပင်ငယ်များစွာတို့ကို ခြုံ၍ခေါ်သောအမည်ဖြစ်သည်။ အချို့မှာ မြေ၌ပေါက်သည်။ အချို့မှာ အပင်ကြီးတွင် တွယ်ကပ်ပေါက်သော ပင်ဆင့်မျိုးဖြစ်သည်။ ပင်ဆင့်မျိုးမှာ ရုက္ခဗေဒအလိုအားဖြင့် ပါရာဆိုက်များဖြစ်သည်။ သာမန်အားဖြင့်ဂမုန်းသည် ပုတတ်စာ၊ နနွင်း၊ တောက်တာ စသည်တို့နှင့်အတူ 'ကင်းဖီရီးယား' မျိုးစုတွင်ပါဝင်သည်ဟု ဆိုနိုင်သည်။ သို့သော် မြန်မာအခေါ်ဂမုန်းမှာ အလွန်များပြားလှ၍ ရုက္ခဗေဒ အမည်တခုတည်းကိုငဲ့၍ မယူအပ်ချေ။ ကျောက်ကျမ်း၊ ဂမုန်းကျမ်းနှင့် ကဝေသာရ ကျမ်းတို့တွင် ဂမုန်းမျိုးပေါင်း ၁၀၉ မျိုး ပြထားပေသည်။

**ဂမုန်းဖြူ။** ။အမြစ်အဥ ဖြူသည်။ နနွင်းရွက်ကဲ့သို့ အရွက်ရှိသည်။ တနှစ်တခါ ရေရာရွှေပြောင်း၍ ပေါက်တတ်သည်။ ဂမုန်းလည် ဟူ၍လည်းခေါ်သေးသည်။



လိပ်ပြာနှင့်တူသော အပွင့်များပွင့်သည့်ဂမုန်း

ဂမုန်းဖြူကျော်။ ။ထိုဂမုန်းကား ခတ္တာပင် ဖြစ်၏။ ဂမုန်းခတ္တာဖြူ ဟုလည်းခေါ်သေးသည်။

ဂမုန်းနီ။ ။အပင်ရင်းမှာ နနွင်းကဲ့သို့ နီသည်။ အရွက်မှာ ဆိတ်ဖူးရွက်ကဲ့သို့ ပြာလဲ့လဲ့ ရှိသည်။ ဂမုန်းဥကို ထုံးမှာပေ သော် ထုံးနီသည်။ ဟင်းသပြဒါးကဲ့သို့နီမှ စစ်သည်။ ဥသည် နနွင်းဥ နနွင်းတက်ကဲ့သို့ ရှိသည်။

ဂမုန်းနက်။ ။အရွက်သည် နနွင်းရွက်ကဲ့သို့ သဏ္ဍာန်မှာ နက်သည်။ ခေါင်းကားမီးသွေးကဲ့သို့ မည်းသည်။

ဂမုန်းကတိုး။ ။အရွက်မှာ လက်ဝါးခန့်ရှိ၍ ရှည်ဝန်းသည်။ မြေနှင့် တထွာတမိုက်ခန့် ကပ်၍ပေါက်တတ်သည်။

ဂမုန်း ခတ္တာ။ ။ဂမုန်း ကတိုးအရွက်ကဲ့သို့သော အရွက်ရှိသည်။ သို့ရာတွင် အရွက်အနား လက်တလုံးခန့် နီသည်။ မြေပေါ်၌ ဖြစ်စေ၊ အဆောက်အအုံအထက်များ ဆွေးမြေ့သောနေရာ၌ဖြစ်စေ၊ ကျောက်မြေပေါ်၌ဖြစ်စေ ပေါက်တတ်သည်။ ဥမှာ ကြက်ဥအရွယ်ခန့် ရှိသည်။ အကြော၊ အနီ၊ အနက်၊ အဖြူ၊ အရွှေဟူ၍ အရောင်ကိုလိုက်၍ အမည်အမျိုးမျိုး ရှိသည်။

ဂမုန်းခွေးလာ။ ။အရွက်မှာလက်မခန့်ရှိ၍ ဆိတ်ဖူး ရွက်ကဲ့သို့ ပြာပြာစိမ်းညိုညို ရှိသည်။ ယင်းကို ဆောင်လျှင် ခွေး ချစ်တတ်သည်ဟု ဆိုသည်။

ဂမုန်းကြက်လာ။ ။ဆိတ်ဖူးရွက်ကဲ့သို့ ရှိသည်။ စိမ်းချည် ပြာချည် အရောင်ပြေးသည်။

ဂမုန်းဝက်လာ။ ။အရွက်ဝမ်းဖက်နီ၍ကျောဖက်မည်းသည်။

ဂမုန်းနွားလာ။ ။အရွက် ဝမ်း ဖက် နီ၍ ကျော ဖက် ညိုသည်။ အဖြူပြောက်များ ပါတတ်သည်။

ဂမုန်းပြောက်ကြီး။ ။နနွင်းပင်နှင့် တူ၏။ အရွက်ညိုရောင် ရှိ၍ အဖြူညှင်းပြောက်ပါသည်။

ဂမုန်းပြောက်ငယ်။ ။ဆိတ် ဖူး ရွက် သဏ္ဍာန် အ ရွက် ရှိ ၍ ညှင်းပြောက်ကဲ့သို့ ရှိ၏။

ဂမုန်းရစ်။ ။နနွင်းပင်ကဲ့သို့ ရှိ၍ အရွက် နီသည်။ အပြာ အစိမ်းအပြောက်များ ပါရှိသည်။ အရွက်မှာထူ၍ အဖျားခွဲ စိမ်းသည်။

ဂမုန်းလိပ်မထွား။ ။အရွက်မှာ ဆိတ်ဖူးရွက်နှင့် တူသည်။ အရွက် ကျုရာ၌ အပင်ပေါက်နိုင်သည်။ အပင် ပုသည်။ အမြစ်ဖျား မြေပေါ်၌ ပေါ်သည်။

ဂမုန်းလိပ်မေ့။ ။အရွက်မှာ မဟော်ရာ ပိန်းရွက်နှင့် တူသည်။ အပင်သေး၍ အရွက် တချပ်တည်းရှိသည်။ အမြစ် တလုံးတည်းရှိ၍ အရိုးကိုဆိတ်သော် နို့စေးယိုထွက်သည်။

ဂမုန်း ဆိတ် နား။ ။အရွက်မှာ ခတ္တာရွက်နှင့် တူသည်။ အမြစ်မှာ တမာရွက်နှင့်တူသည်။

ဂမုန်းလိပ်လာ။ ။အရွက်မှာ ဆိတ်ဖူးရွက်နှင့်တူ၍ အတွင်း ဝမ်းဖက်က အပြောက်ရှိသည်။ အမြစ်တွင် အပေါက်ရှိသည်။

ဂမုန်း သဃ်ာစင်။ ။ဇလတ္တာရွက် ကဲ့သို့သော အရွက်ရှိ၍ အမြစ်လုံးသည်။

ဂမုန်းဂေါ် သဇင်။ ။အပွင့်ဖြူဖြူအခိုင် ပွင့်သည်။ အနွယ် မျိုး ဖြစ်၍ ရနံ့လည်း မွှေးသည်။

ဂမုန်းကာလကဏ္ဍီ။ ။အရိုးအရွက်နီ၍ ဥတွင် သရက်ကင်း ထွက်သည်။

ဂမုန်းဆင် ကာလကဏ္ဍီ။ ။ဆေး တ လုံး ပင် ကဲ့ သို့ နီ ၏။ အကြောစိမ်းသည်။ ဥမှာ သရက်ကင်းဥကဲ့သို့ အတက်များ ပါရှိသည်။

ဂမုန်း မြင်း ကာလကဏ္ဍီ။ ။အရိုး၊ အရွက်နှင့် အကြောနီသည်။အရွက်တဖက်စိမ်းသည်။ဥမှာသရက်ကင်းဥနှင့်တူ၏။

ဂမုန်းလူ ကာလကဏ္ဍီ။ ။အရွက်မှာ ကြက်သွန်ဖြူရွက်နှင့် တူသည်။ ဥတွင် ကြက်ခြေကဲ့သို့ အရာထင်သည်။

ဂမုန်းမ။ ။ရွှေရောင် ရှိ၏။ ကြောင်ပန်းပင်၊ ရှားစောင်း ပင်တို့တွင် တွယ်ကပ်ပေါက်တတ်သည်။

ဂမုန်းကြက်တောင်စည်း။ ။အပင်မှာ အရင်းစု၍ အဖျား ဖွာသည်။ ကြက် တောင် စည်း ကဲ့ သို့ ရှိ သည်။ အ ရွက် ၏ အရောင်အဆင်းမှာ စိမ်းပြာပြာ ရှိသည်။ ချွန်သည်။ အမြစ်မှာ ခြခေါင်းကဲ့သို့ ရှိသည်။

ဂမုန်းကြက်တောင်။ ။အရွက်မှာ ချွန်း၍ ကြက်တောင်နှင့် တူသည်။ ဝေ့သီးကဲ့သို့ ဥတလုံးတည်း ရှိသည်။

ဂမုန်းကြက်ညှတ်ငယ်။ ။အညွန့် အနွယ် ဝက်ကျွတ်ရွက် ကဲ့သို့ရှိ၍ အရွက်ကား သစ်လက်ရွှေရွက်ကဲ့သို့ ရှိသည်။



အချို့အိမ်များတွင် အလှစိုက်ပျိုးလေ့ရှိကြသော ဒေါင်းဂမုန်းအဖို



လှပသောအပွင့်များဖြင့်ဝေဆာလျက်ရှိသောဂမုန်းခတ္တာ



ညှော်သည်လာဝေတတ်သည်ဆိုသောဂမုန်းညှော်လာ



ဆေးဖက်ဝင်သည် ဟုဆိုသောဂမုန်းကွင်းထိုး

ဂမုန်းစမ္ပာ။ ။နွားမြက်ရင်းရွက်နှင့်တူသောအရွက်ရှိသည်။ အရွက်ထူ၍အရိုးစိမ်းသည်။ အမြစ်စုစုလုံးလုံးရှိသည်။ အစေးထွက်သည်။ ဂမုန်းစပါးလည်းဟူ၏။

ဂမုန်းကြက်ခေါင်း။ ။အရွက်မှာကြက်တောင်နှင့်တူ၍သွယ်လျှားသည်။ အရောင်နီကြန့်ကြန့်ရှိသည်။

ဂမုန်းလက်ညှိုး။ ။အရွက်မှာလက်ညှိုးသဏ္ဌာန်ရှိသည်။ သစ်ပင်ထက်၌ရင်း၊ ကျောက်မြေပေါ်၌ရင်း ပေါက်လေ့ရှိသည်။

ဂမုန်းကြက်မြီး။ ။အရိုးမှာကြက်မြီးသဏ္ဌာန်သွယ်သည်။ အရွက်မရှိ။ သစ်ပင်ထက်၌ရင်း၊ ကျောက်မြေပေါ်၌ရင်း ပေါက်လေ့ရှိသည်။

ဂမုန်းသဘောကာလကဏ္ဍီ။ ။အပင်မှာ ဆေးတလုံး ပင်နှင့်တူသည်။ အဖူးအနီ ၂ မျိုးရှိသည်။ အရိုးကိုဆိတ်သော်နို့စေးယိုထွက်သည်။

ဂမုန်းကျီးခြေကြီး။ ။အရွက်မှာ ကျီးခြေသဏ္ဌာန်ရှိသည်။ ကျောက်ပေါ်တွင်ပေါက်တတ်သည်။

ဂမုန်းကျီးခြေငယ်။ ။အရွက်မှာကျီးခြေသဏ္ဌာန် အခက် ၂ ခွရှိသည်။ အပင်တထွာခန့်မြင့်သည်။ အင်တိုင်းများတွင်ပေါက်တတ်သည်။

ဂမုန်းသံဆက်။ ။အရွက်မရှိ။ အမြစ်ထွေးလိမ်နေတတ်သည်။ အဖူးအနီ ၂ မျိုးရှိသည်။ ဂမုန်းလက်ဆောင်လည်းခေါ်သည်။

ဂမုန်းကျောက်ငို။ ။ဂမုန်းကျောက်သို ဟုလည်းခေါ်သည်။ တွေ့ရခဲသည်။

ဂမုန်းကိုယ်ရံကြီး။ ။ခတ္တာပင်နှင့်တူသည်။ အရွက်မှာဆပ်သွားရွက်ခန့်ကြီးသည်။ ဥမှာကြက်သွန်ဖြူခန့်ရှိသည်။

ဂမုန်းရန်မီး။ ။အရွက်မှာခတ္တာရွက်နှင့်တူသည်။ အပင်မကြီးတွင် အပင်ငယ်များရံ၍ ပေါက်တတ်သည်။ တခါတရံ တဝက်သာရံသည်။

ဂမုန်းရန်လွတ်။ ။ဂမုန်းရန်မီးကဲ့သို့ အပင်ငယ်များရံ၍ပေါက်တတ်သည်။ ယင်းဂမုန်းပင်ပတ်လည်၌ သစ်သားခြံစိုက်၍ထားပါက တနှစ်လည်သော်ခြံပြင်ဖက်၌ ပင်ပွားပေါက်သည်။

ဂမုန်းခတ္တာဖြူ။ ။အထက်ကပြခဲ့သောဂမုန်း ခတ္တာကိုကြည့်ပါ။

ဂမုန်းခတ္တာရွှေ။ ။အထက်ပါအတိုင်းကြည့်။

ဂမုန်းလဝန်း။ ။အရွက်မှာကံ့ကော်ရွက်သဏ္ဌာန်ရှိ၍ တညိုခန့်ရှည်သည်။ အမြစ်စုသည်။ ဥမှာကြက်သွန်ဖြူခန့်ရှိသည်။ အဆစ်တိုင်း အညွန့်ထွက်၍ အမြစ်ဖွားလည်းထွက်သည်။

ဂမုန်းလဝန်းကြီး။ ။ကြက်သွန်ဖြူခေါင်းကဲ့သို့၊ ကတောက်ရွက်ကဲ့သို့ရှိသည်။

ဂမုန်းကြက်တူရွေး။ ။သစ်ပင်များတွင်ကပ်၍ ပေါက်သည်။ မရန်းရောင်အပွင့်ခိုင်များပွင့်သည်။ အရွက်ရှည်လျှားသည်။

ဂမုန်းနှင်းပန်း။ ။အရွက်သွယ်သည်။ ကြက်သွန်ပွင့်ကဲ့သို့အဖြူပွင့်ပွင့်သည်။ အပွင့်ရိုးတံရှည်သည်။

မီးကွင်းဂမုန်း။ ။အုံ့လိုက် ရှုံလိုက်ရှိသည်။ အရွက်ရှည်သည်။ ယင်းကိုစိုက်ပျိုးထားလျှင် မီးကွင်းသည်ဟုဆိုသည်။

ဂမုန်းညှော်လာ။ ။အရွက်ရှည်လျှား၍ အဖျားတွင်ချွန်သည်။ ပင်ခြေစု၍ ပင်ဖျားကားသည်။ ယင်းကိုစိုက်ပျိုးထားလျှင် ညှော်သည်များတတ်သည်ဆိုသည်။

ဂမုန်းညှော်လန်။ ။အပင်သဏ္ဌာန်မထင်ရှား။ ယင်းကိုစိုက်ပျိုးထားလျှင် ညှော်သည်ပါးသည်ဟုဆိုသည်။

ဂမုန်းကွင်းထိုး။ ။အရွက်များမှာ အလိပ်လိုက်ထွက်လာ၍ တရွက်နှင့်တရွက်ငုံကာ အငုံမပြန့်မီ အတွင်း နောက်တရွက်ထွက်သည်။ ယင်းဂမုန်းမှာအပင်အနည်းငယ်ကြီးမှ ဤသို့အရွက်ကွင်းထိုးသည်။ အပင်ပေါက်စတွင် အရွက်သီးခြားထွက်သည်။

ဂမုန်းဖား။ ။ဖားပြုပ်သဏ္ဌာန်ဥရှိသည်။

ဂမုန်းဘီလူး။ ။အပင်သဏ္ဌာန်မထင်ရှား။ ယင်းအပင်မှာဘီလူးစောင့်သည်ဟုဆိုသည်။ အပင်စိုက်လျှင် နှစ်စဉ်အသားနှင့်မြေကိုရော၍ မြေစာကျွေးရသည်။ အိမ်ကိုစောင့်ရှောက်သည်ဟုဆိုသည်။



နွားဂမုန်းခေါ် နေမင်းဂမုန်း။

ဂမုန်းပင့်ကူ။ ။အပင်သဏ္ဌာန်မထင်ရှား။ ဥမှာပင့်ကူသဏ္ဌာန် အမြစ်တက်များဖြာထွက်သည်။ အဆိပ်ပြေစေတတ်သည်ဟုဆိုသည်။
ဒေါင်းဂမုန်း။ ။ယင်းမှာ အဖိုအမ ၂ မျိုးကွဲပြားသည်။ အရွက်မှာ လက်ဝါးခန့်ဝန်းသည်။ အရွက်တွင် ဒေါင်းမြီးသဏ္ဌာန် အနီညိုနှင့်အဖြူကွက်များရစ်၍ပါရှိသည်။ အရွက်တွင် အလယ်ရစ်နှင့် အနားရစ်ကို ခွဲခြား၍ အဖိုအမဟု သိရသည်။ ညဥ့်အချိန်တွင် အရွက်များယှက်၍ ဘုရားရှိခိုးဟန်ပိတ်၍အိပ်သည်။
ကွမ်းစားဂမုန်း။ ။အပင်သဏ္ဌာန် မထင်ရှား။ ဥမှာ အတောင့်သဏ္ဌာန်ရှိသည်။ မွှေးကြိုင်၍ ကွမ်းစားရာတွင်ထည့်၍ စားလေ့ရှိသည်။
နဂါးဂမုန်း။ ။နဂါးစက်ပင်ဟုလည်း ခေါ်သည်။ အရွက်တတောင်ကျော်ခန့်ရှည်၍ အဝါရစ်အနားရှိသည်။ အရွက်တွင် အပြာပြောက်၊ အဖြူပြောက်များလည်း ရှိသည်။
ဂမုန်းကိန္နရာ။ ။အပင်သဏ္ဌာန် မထင်ရှား။ ယင်းအပင်မှာ ညအခါလေမလာဘဲ အလိုအလျောက်ယိမ်းယိုင်ကာနေတတ်သည်ဟု ဆိုသည်။ လူသံကြားလျှင် အကရပ်သည်။
ဂမုန်းကျေးမြီး။ ။အရွက်သည် ကျေးတို့၏ သဏ္ဌာန်နှင့်တူ၏။ ကြက်သွန်ဖြူကဲ့သို့လည်း ရှိ၏။
ဂမုန်းကြက်မြီး။ ။အရွက် ကြက်မြီးသဏ္ဌာန် ရှိသည်။ ကျောက်တွင် သစ်တွင် သင်တွင် ပေါက်တတ်၏။
ဂမုန်းကြွက်လျှာ။ ။ဆိပ်ဖူးရွက်သဏ္ဌာန် ပြာပြာစိမ်းစိမ်းရှိသည်။
ဂမုန်းခတက်။ ။ဂမုန်းကတိုး ရွက်ကဲ့သို့ အတွင်းအနားလက်မ တလုံးခန့် ရေးရေးနီသည်။ မြေတွင် ခပ်ပြားပြားပေါက်သည်။ ကျောက်တွင်လည်း ပေါက်သည်။
ဂမုန်းခြကောင်။ ။အရွက် ကြက်တောင်ကဲ့သို့ သွယ်၏။ နီ၏။ အမြစ်အဖု ခြကောင်ကဲ့သို့ ဖွေးဖွေးဝါဝါရှိ၏။
ဂမုန်းခြံလွတ်။ ။သဿဝစင် ခေါင်းကဲ့သို့ ပေါက်သည်တွင် တဝက်သာ အပင်ယယ်ရမိသည်။ တံခါးလည်းရှိသည်။ စစ်မစစ်ကိုသိလိုသော် သစ်ချွန်လည်၍စိုက်။ တနှစ်လည်လျှင် ၈ ပြင်သို့ထွက်၍ ပေါက်၏။
ဂမုန်းဆိတ်နား။ ။ခတ္တာရွက်ကဲ့သို့ရှိသည်။
ဂမုန်းဆိတ်ဖြူ။ ။ဝက်ကျွတ်ရွက်ကဲ့သို့ အရွက်အညွန့်တိုင်းဆူးရှိ၏။ ဆိတ်သော် နို့ရည်ကဲ့သို့ အစေးထွက်၏။
ဂမုန်းညှင်းပြောက်ယယ်။ ။ဆိတ်ဖူးရွက်ကဲ့သို့ မြေတွင်ပျပ်ပျပ်ပ်၍ အရွက်၌ ညှင်းပြောက်ရှိသည်။
ဂမုန်းတိမ်ပြာ။ ။ဥကိုခွဲကြည့်လျှင် ပြာသောအရောင်ရှိ၏။
ဂမုန်းစကား။ ။ဆိဘ်ဖူးရွက်ကဲ့သို့ အတွင်းပြောက်သည်။ လက်ယယ်သကဲ့သို့ ဝိုလှုပ်လှုပ်ရှိသည်။
ဂမုန်းနနွင်း။ ။အလုံးအဖုအမြစ်ရှိသည်။ အပင်အရွက်တနှစ်တခါလဲသည်။
ဂမုန်းပြသာဒ်။ ။အကြောညိုရာတွင် အဖြူရောင်ပျော့ပျော့ရှိ၏။
ဂမုန်းရှင်သူယယ်။ ။ဆေးတလုံးပင်ကဲ့သို့ရှိ၏။ ငှက်ပျောရွက်ကဲ့သို့ အဖျားက တိတိဝန်းဝန်းရှိ၏။ အရွက်နီ၏။ ခေါင်းမှာငှက်ပျောခေါင်း၊ ပိန်းခေါင်းကဲ့သို့ ရှိ၏။
ဂမုန်းရွှေသွယ်။ ။အပ်လုံးခန့်၊ ဝင်ရိုးလုံးခန့် သဏ္ဌာန်ရှိ၏။ အရွက်မရှိ။ ထွေးထွေးနေသည်။
ဂမုန်းလက်ဆက်။ ။ဂမုန်းလက်ယှက်လည်းခေါ်၏။ ဝက်ကျွတ်ရွက်ကဲ့သို့ သဏ္ဌာန်တူ၏။ အမြစ်အစု စုရရုံရှိတတ်၏။
ဂမုန်းအင်း။ ။နတ္တော်လတွင် သစ်ပင်ကြီးများပေါ်၌ ပွင့်တတ်သော ဂမုန်းဖြစ်သည်။

# ဥရောပတိုက်၌ ယဉ်ကျေးမှု ပေါ်ထွန်းရာ ဇာစ်မြစ်ဒေသ

**ဂရိနိုင်ငံသည် ရှေးခေတ်အခါက ယဉ်ကျေးမှုအရာတွင် ထိပ်တန်းသို့ရောက်ခဲ့သည်။ ကမ္ဘာ့ အနောက်ပိုင်းဒေသ ယဉ်ကျေးမှု၏ အရင်းခံမှာ ဂရိယဉ်ကျေးမှုဖြစ်၏။ ဒီမိုကရေစီဝါဒသည် ဂရိတို့ထံမှ ဆင်းသက်သောဝါဒဖြစ်သည်။ ခေတ်သစ် သိပ္ပံပညာအဝဝမှာလည်း အတွေးအခေါ် အမြော်အမြင်ရင့်သန်သော ဂရိပညာရှင်တို့၏ကျေးဇူးကြောင့် ထွန်းကားလာခြင်းဖြစ်၏။**

ဂရိနိုင်ငံ။ ။ဂရိနိုင်ငံသည် ဥရောပတိုက်တောင်ပိုင်း ဗော်လကန်ကျွန်းဆွယ်ပေါ်၌တည်ရှိ၍ လွတ်လပ်သောနိုင်ငံ ဖြစ်သည်။ ၅၁,၂၄၆ စတုရန်းမိုင်ကျယ်ဝန်း၍ လူဦးရေမှာ ၁၉၅၁ ခုနှစ် သန်ကောင်စာရင်းအရ ၇,၆၀၃,၅၉၉ ယောက်ခန့် ရှိသည်။

ဂရိကျွန်းဆွယ်သည် လူတို့ယဉ်ကျေးမှုစတင်ပေါက်ပွားရာဒေသဖြစ်သော အာရှမိုင်းနား ကုန်းဖက်သို့ ရှေးရှုကာ မြေထဲပင်လယ်ထဲသို့ ထိုးဆင်းလျက်ရှိသည်။ ဥရောပတိုက်၏ ကျွန်းဆွယ်မကြီး ၃ ခုအနက် အရှေ့ဖက်ဆုံး ကျွန်းဆွယ်တခုဖြစ်သည်။ ဂရိကျွန်းဆွယ်နှင့် အာရှမိုင်းနားကုန်းမကြီးအကြားရှိ ပင်လယ်သည် ရာပေါင်းများစွာသော ကျွန်းငယ်များဖြင့် ပြည့်နှက်လျက်ရှိသည်။ ထိုကျွန်းငယ်များသည် ဂရိကျွန်းဆွယ်မှယဉ်ကျေးမှုထွန်းကားသော အာရှတိုင်းပြည်များသို့ သွားရောက်ရာ လှေကူးထစ်များသဖွယ် တည်ရှိခဲ့သည်။ (ကရိကျွန်း — လည်းရှု။) ထိုကြောင့် ရှေးအခါက အာရှတိုက်၏ယဉ်ကျေးမှုတို့သည် ထိုကျွန်းငယ်ကလေးများမှတဆင့် တဆင့်ကူး၍ ကူး၍ ဂရိတိုင်းပြည်ဖက်သို့ ရောက်ရှိလာခဲ့ရပေသည်။



ဂရိလူမျိုးတို့၏ အက်သင်းမြို့ တော် ဟောင်းတည်နေဟန်ကို ပန်းချီဆရာကစိတ် မှန်းဖြင့်ဆွဲထားသည်။

ဂရိ ကျွန်း ဆွယ်၏ ကမ်း ခြေ သည် အ ကွေ့အ ကောက် အပြတ်အတောက်ပေါ်များလှသဖြင့် ဂရိနိုင်ငံ၏မည်သည့် အပိုင်း မဆို ပင်လယ်နှင့်နီး ကပ်စွာရှိသည်။ ဂရိလူမျိုး တို့ သည်ပင်လယ်ထဲ၌ စွန့်စားသွားလာတတ်သဖြင့် အခြား တိုင်းပြည်များသို့ သွားရောက်နိုင်ကြသည်။ တိုင်းတပါး သားများနှင့် အဆက်အသွယ်ရှိလာ၍ နိုးကြားထကြွသော လူမျိုးဖြစ်လာကြသည်။ သူတို့တိုင်းပြည်သည် အာရှနှင့် အီဂျစ်ယဉ်ကျေးမှုမျိုးစေ့များ ဝေဆာပေါက်ရောက် ပွင့်ဖူး နိုင်သော လယ်ယာမြေကောင်းသဖွယ်ဖြစ်လာသည်။

တောင်ထူထပ်သော တိုင်းပြည်ဖြစ်သဖြင့် ထွန်ယက်စိုက် ပျိုး လုပ်ကိုင်နိုင်သော မြေများ ကိုတောင်ကြားများ၌သာ အနည်းငယ် ကွက်တိကွက်ကျား တွေ့ရသည်။ မြေပြန့်အရပ် များ၌ သစ်တောများနှင့် မြက်ခင်းပြင်များရှိသည်။ သစ် တောများမှ ထင်းအတွက်မီးသွေးရ၍ မြက်ခင်းပြင်များ ပေါ်၌ အသက်ဆက်နိုင်သော သိုးနှင့်ဆိတ်များကို မွေးမြူ ကြသည်။ ဂရိလူမျိုးတို့ အစာအာဟာရမှာ အများအား ဖြင့် ငါးဖြစ်သည်။ စိုက်ပျိုးနိုင်သမျှသော မြေကွက်များ၌ ဂျုံ၊ စပျစ်ပင်နှင့်သံလွင်ပင်များစိုက်ပျိုးကြသည်။

## ဂရိလူမျိုးတို့ရောက်လာပုံ

ဂရိတို့ကား ရှေးပဝေဏီက • ဥရောပတိုက်အလယ်ပိုင်း ကက်စပျန်ပင်လယ်အနီးမှ အရှေ့ဖက်နှင့်အနောက်ဖက်သို့ ပြောင်းရွှေ့သွားကြသော အာရိယန်လူမျိုးဟူ၍လည်းခေါ် သည့်အင်ဒိုယူရိုပီယန်လူမျိုးတို့၏အဆက်အနွယ်များဖြစ်ကြ ၏။သူတို့သည် ဘီစီ ၁၅၀၀ ပြည့်နှစ်ကျော်လောက်မှစတင် ၍တောင်ဖက်သို့ အစုလိုက်အအုပ်လိုက် ပြုံ၍ဆင်းလာကြ ၏။ ထိုအချိန်က အီးဂျီးယန်း ပင်လယ်ထဲရှိ ကျွန်းစုများ (အထူးသဖြင့်ဂရိကျွန်းဆွယ်) ၌ နေထိုင်ကြသော လူမျိုးတို့ မှာအတော်အတန် ယဉ်ကျေးနေကြပြီဖြစ်သည်။ (အီးဂျီး ယန်းယဉ်ကျေးမှု — ရှု။) ပင်လယ်ထဲ၌ ဖိနီရှန်လူမျိုးတို့ သည် ရွက်သင်္ဘောများလွှင့်ကာ သွားလာရောင်းဝယ်နေ ကြ၏။ ဂရိတို့သည် ဥရောပတောင်ပိုင်းသို့ ရောက်လာစက သိုးဆိတ်များကို ထိန်းကျောင်းရန်သာ ကျွမ်းကျင်သော လူရိုင်းများဖြစ်ကြ၏။ နောက်မှ ဖိနီရှန်စသော လူမျိုးများ နှင့်တွေ့ကြုံရောနှော ဆက်ဆံရသဖြင့် ယဉ်ကျေးလာကြ၏။ အိုးအိမ်အတည်တကျနှင့် နေထိုင်တတ်၍ လယ်ယာစိုက်ပျိုး လုပ်ကိုင်လာကြ၏။ အုပ်စုများဖွဲ့၍ ရှင်ဘုရင်များ၊ ရပ်ရွာ အကြီးအကဲများ၏ အမိန့်ကိုနာခံလာကြ၏။ ဖိနီရှန်တို့ ထံမှ စာရေးစာဖတ်အတတ်ကို သင်ကြားကြ၏။ (ဖိနီရှန် လူမျိုး — လည်းရှု။)

ဟိုးမား အမည်ရှိ နာမည်ထင်ရှားသော ဂရိစာဆိုကြီး သည် 'အစ်လယက်' နှင့် 'အောဒိဆီ' အမည်ရှိသောစွန့်စား ခန်းကဗျာကြီးများကို အလွန်စိတ်အားတက်ကြွဖွယ်ရာ စကားလုံးများဖြင့် စပ်ဆိုခဲ့ပေသည်။ ဟိုးမား၏ကဗျာထဲ



ဂရိနိုင်ငံ ကူးသန်းရောင်းဝယ်ရေးတွင် အရာရောက်လှသော ကောရင့်တူးမြောင်း

တွင် ဂရိတို့စစ်တိုက်ဝါသနာပါပုံ၊ ဖိနီရှန်လူမျိုးတို့ကို အတုယူ၍တောက်ပြောင်သော အဝတ်အထည်၊ လက်ဝတ်လက်စားများ ဝတ်ဆင်ထားလေ့ရှိပုံများကို စပ်ဆိုထား၏။ 'အစ်လယက်' ကဗျာထဲ၌ ဂရိတို့သည် စည်းလုံးညီညွတ်၍ အာရှမိုင်းနား ပြည်မပေါ်ရှိ ထရွိုင်မြို့သို့ သွားရောက်တိုက်ခိုက်ကြပုံကို ပေါ်ပြထား၏။ (ထရွိုင်မြို့ပုံပြင် — ရှု။) သို့ရာတွင် ဂရိတို့သည် ဇာတိအားဖြင့် စည်းလုံးညီညွတ်သောလူမျိုးမဟုတ်ကြချေ။ တောင်တန်းများက လူတစုနှင့်တစုကို ခွဲခြားထားသဖြင့် ဂရိနိုင်ငံမှာ နိုင်ငံငယ်များဖြင့် အစိပ်စိပ်အမြွာမြွာကွဲလျက်ရှိ၏။

ထိုနိုင်ငံငယ်များသည် မြို့သာသာမျှ ကျယ်ဝန်း၏။ အက်သင်းမှတပါး အခြားဂရိနိုင်ငံငယ်များမှာ လူဦးရေ ၂၀,၀၀၀ ထက်မပိုချေ။ ထိုနိုင်ငံငယ်ကလေးများအနက် အနည်းငယ်သောနိုင်ငံများက နယ်ချဲ့ထွင်ခဲ့ကြသည်။ အက်သင်းနိုင်ငံငယ်သည် အက်တစ်ကာလွင်ပြင်တခုလုံးကို စိုးပိုင်ခဲ့၏။ စပါးတားနိုင်ငံကလည်း လာကိုးနီးယားနှင့် မဆီးနီးယားနယ်များကို သိမ်းယူခဲ့၏။

အာရှမိုင်းနားပြည်၏အနောက်ဖက်ကမ်းခြေတလျှောက်၌ ဂရိမြို့ပြ ပြည်ရွာများကို တွေ့ရသည်။ အာဖရိကဘိုက် အီဂျစ်ပြည်၊ စစ္စလီကျွန်းနှင့် ဣတလီပြည်တောင်ဖိုင်းသို့လည်း ဂရိလူမျိုးတို့ သွားရောက်နေထိုင်ကြ၏။

အက်သင်းကဲ့သို့သော ဂရိနိုင်ငံငယ်ကလေးများကို ပဌမတွင် ရှင်ဘုရင်များကအုပ်ချုပ်၏။ ဘီစီ ၈၀၀–၇၀၀ ခုနှစ်၌ ဘုရင်များ ပျောက်ကွယ်သွား၍ လူနည်းစု အုပ်ချုပ်သော 'အော်လီဂါးကီး' အစိုးရစံနစ် ပေါ်လာ၏။ ထိုအခါ၌ ကဒ်း မြေပိုင်ရှင် သဌေး သူကြွယ်များ လက်ထဲသို့ နိုင်ငံရေးအာဏာ ရောက်သွား၏။ ထိုနောက် မြေပိုင်ရှင်များသည် အချင်းချင်း အာဏာလုကြ၏။ ဆင်းရဲသားများကလည်း ဖိနှိပ်မှုကိုမခံမရပ်နိုင်ဖြစ်လာကြ၍ မကြာမီလူတဦးတည်းက အာဏာဖြင့် အုပ်စိုးသည့် 'တစ်ရင်နီ' အစိုးရစံနစ် ဖြစ်ပေါ်လာလေသည်။ ထိုစံနစ်အရ အုပ်စိုးသော ဘုရင်တို့သည် မင်းဆွေမင်းမျိုးထဲမှမဟုတ်စေကာမူ တိုင်းသူပြည်သားတို့အား မိမိတို့၏ အခွင့်အရေးအတွက် မျက်စိဖွင့်ပေးသူများဖြစ်၍ဒီမိုကရေစီဝါဒကို လမ်းခင်းရာရောက်ပေသည်။ (ဒီမိုကရေစီ — ရှု။)

ဘီစီ ၅၀၀ ပြည့်နှစ်အစလောက်တွင် အက်သင်းမှာ ဒီမိုကရေစီနိုင်ငံဖြစ်လာလေသည်။ ဘီစီ ၆၂၁ ခုနှစ်၌ ဒရေးကိုးဆိုသူသည် အစဉ်အလာ တရားဥပဒေများကို စုဆောင်း၍ ဂရိတရားဥပဒေများကို အဦးဆုံး ရေးသားခဲ့လေသည်။ ထိုတရားဥပဒေများမှာ ပြင်းထန်လွန်းသဖြင့် ဆင်းရဲသားများမှာ ဒရေးကိုး၏ တရားဥပဒေများကြောင့် မကျေမနပ်ဖြစ်လာကြ၏။ ထိုနောက် ဆိုလွန်အမည်ရှိသော ပညာရှိ

တဦးက ဆင်းရဲသားများအား သက်သာစေမည့် ဥပဒေများရေးဆွဲခဲ့၏။ (ဆိုလွန် — ရှု။) သို့ရာတွင် ဘီစီ ၅၆၁ ခုနှစ်၌ ပိုင်ဆစ်ထရက်တပ် ဆိုသူသည် အုပ်ချုပ်ရေးအာဏာကို ရရှိသွား၍ နှစ်ပေါင်း ၃၀ တိုင်တိုင် အက်သင်းနိုင်ငံကို အုပ်ချုပ်လေသည်။ သူ၏လက်ထက်၌ တိုင်းပြည်စည်ပင်ပပြောသည်။ သူကွယ်လွန်သောအခါ သား ၂ ယောက်က တိုင်းပြည်ကို ဆက်လက်အုပ်ချုပ်ရန်ကြံစည်ကြ၏။ သို့ရာတွင်တယောက်မှာအသတ်ခံရ၍ တယောက်မှာတိုင်းပြည်မှ နှင်ထုတ်ခြင်းခံရလေသည်။ ဘီစီ ၅၀၉ ခုနှစ်လောက်၌ကား ကလိုက်သီးနီး ဆိုသူရေးဆွဲသော ဥပဒေသစ်များကြောင့် မြေပိုင်ရှင်ကြီးများ တန်ခိုးမှေးမှိန်ရပြီးလျှင် လူထုဆန္ဒအရ အုပ်ချုပ်ရေးစံနစ် တည်မြဲလေတော့သည်။

စပါးတားနိုင်ငံငယ်၏ အုပ်ချုပ်ပုံစံနစ်ကား အက်သင်းနှင့်လုံးဝမတူချေ။ စပါးတား၌ ခေါင်းဆောင် ၂ ယောက် တပြိုင်တည်းအုပ်ချုပ်၏။ စပါးတားနိုင်ငံသည် စစ်တပ်သဖွယ်ဖွဲ့စည်းထားသော နိုင်ငံဖြစ်၏။ ပယ်လိုပွန်နီးဆပ်ကျွန်းဆွယ်တခုလုံးကို စပါးတားတို့က သိမ်းပိုက်ထား၏။ စပါးတားနိုင်ငံနှင့်အက်သင်းနိုင်ငံတို့မှာ ဂရိကျွန်းဆွယ်ပေါ်၌ ဗိုလ်လုရန် အချင်းချင်းစောင်နေသော နိုင်ငံများဖြစ်လေသည်။ သို့ရာတွင် သူတို့အချင်းချင်း ပဋိပက္ခမဖြစ်မီ ပင်လယ်ရပ်ခြား တိုင်းတပါးမှ ပါးရှင်းလူမျိုးတို့နှင့် စစ်ဖြစ်ကြရ၏။ ပါးရှင်းစစ်ပွဲများ ပြီးစီးသောအခါ အက်သင်းနိုင်ငံမှာ တဖြည်းဖြည်း တန်ခိုးကြီးလာလေသည်။ ပါးရှင်းရန်ကို စုပေါင်းတွန်းလှန်ရန် အာရှမိုင်းနားနှင့်အီးဂျီးယန်ကျွန်းများပေါ်ရှိ ဂရိလူမျိုးအားလုံးပါဝင်သော ဒီးလီယန်အဖွဲ့ကို ဖွဲ့စည်းရာ ထိုအဖွဲ့ကိုခေါင်းဆောင်သည့်နိုင်ငံမှာ အက်သင်းနိုင်ငံဖြစ်သည်။ နောက်မကြာမီ ဒီးလီယန်အဖွဲ့သည် အက်သင်းအင်ပိုင်ယာကြီးဖြစ်လာသည်။

အက်သင်းမြို့တော်ကြီးမှာလည်း များစွာကြွယ်ဝချမ်းသာလာသည်။ လူဦးရေတိုးလာ၍ အတတ်ပညာများလည်း ထွန်းကားလာသည်။ ပဲရီးကလီး (ဘီစီ ၄၆၀–၄၃၀) လက်ထက်၌ အက်သင်းမှာ အထွတ်အထိပ်သို့ရောက်ခဲ့ရာ အက်သင်းမြို့သူမြို့သားများမှာ ယဉ်ကျေးမှုတွင် အလွန်အဆင့်အတန်းမြင့်လာကြသည်။ (ပဲရီးကလီး — လည်းရှု။)

သို့ရာတွင် အက်သင်းနိုင်ငံ၏သမိုင်းကို အစွန်းထင်းစေသောအချက်တရပ်မှာ နိုင်ငံလူဦးရေ၏ ၅ ပုံ ၂ ပုံ လောက်က ငွေဝယ်ကျွန်ဖြစ်နေခြင်းပင်ဖြစ်သည်။ အက်သင်းနိုင်ငံသားများမှာ ကျေးကျွန်များကို မှီခိုအားထားနေရသည်။ ကျွန်များကို အလုပ်လုပ်ခိုင်းသဖြင့် ကြွယ်ဝချမ်းသာလာပြီးလျှင် အေးအေးသက်သာနေနိုင်ကြသည်။ သူတို့သည်စစ်ပွဲများ၌



ဘီစီ ၅၀၀ ခန့်ကကျင်းပခဲ့သော အက်သင်းမြို့ဈေးကောက်ပွဲတွင်မြို့သားများမဲဆန္ဒပေးနေပုံ

ရှေးဂရိနိုင်ငံမြေပုံ

ရှေးခေတ်ဂရိနိုင်ငံတွင်အီးဂျီးယန်းပင်လယ်ရှိကျွန်းစုများ၊ အာရှမိုင်းနားအနောက်ဖက်ကမ်းရိုးတန်းဒေသများ၊ ကရိကျွန်း၊ စစ္စလီကျွန်း၊ ဣတလီတောင်ပိုင်းတို့ပါဝင်ကြသည်။

ဖမ်းဆီးရမိသော ရန်သူများကို ကျွန်အဖြစ်ရောင်းချကြသည်။ အခြားတိုင်းပြည်မှလူငယ်များကို တိတ်တိတ်ခိုးယူ၍လည်း ကျွန်ကုန်ကူးကြသည်။

အက်သင်းနိုင်ငံသားများသည် ကျွန်များကို ခိုင်းစေနိုင်၍ သက်သက်သာသာ ရှိကြသော်လည်း သူတို့၏နေထိုင်စားသောက်မှုမှာ များစွာအဆင့်အတန်းမြင့်သည်ဟု မဆိုနိုင်ချေ။ အိမ်များမှာပြတင်းပေါက်မရှိ။ လမ်းများလည်း ကျဉ်းမြောင်းကွေ့ကောက်၏။ မိုးတွင်း၌ လမ်းသွားမရနိုင်အောင် ရွှံ့ပွက်များဖြင့် ပြည့်နှက်နေ၏။ အမှိုက်သရိုက်များကို အိမ်ရှေ့လမ်းပေါ်၌သာ ပစ်ထားကြ၏။

ဂရိတို့သည် ထိုသို့ အနေအထိုင်မသန့်ရှင်းသော်လည်း ကျန်းမာရေးကို အလွန်လိုက်စားကြ၏။ အိုလင်းပပ်တောင်ခြေ၌ ၄ နှစ်တကြိမ်ကျ ကစားခုန်စားပွဲကြီးတခု ကျင်းပလေ့ရှိကြ၏။ ထိုကျန်းမာရေးကစားပွဲကို အိုလင်းပစ်ပွဲတော်ဟုခေါ်၏။ (အိုလင်းပစ်ကစားပွဲများ — ရှု။) ထိုပွဲသို့ ဂရိကျွန်းဆွယ်အရပ်ရပ်မှ လူများလာရောက်၍ ပါဝင်ဆင်နွှဲကြ၏။ သူတို့သည် ကျန်းမာရေး၌သာ စိတ်ပါဝင်စားကြသည်မဟုတ်။ ပညာရေးကိုလည်း အထူးဂရုစိုက်ကြ၏။ မြို့ထဲ၌ နိုင်ငံရေးပညာနှင့် ယထာဘူတပညာရပ်များကို ဝိုင်းဖွဲ့၍ ဆွေးနွေးလေ့ရှိကြ၏။ အချို့ကလည်း မြို့ရွာကောင်စီ၌၎င်း၊ တရားရုံးတော်များ၌၎င်း လူကြီးအဖြစ်ဖြင့်ပါဝင်ဆောင်ရွက်ကြ၏။ ထိုဂျူရီလူကြီးနှင့် ကောင်စီလူကြီးတို့ကို ဆင်းရဲသားများထမ်းဆောင်သော အခွန်ငွေဖြင့် နေ့စဉ်အခကြေးငွေပေးကြရ၏။

အက်သင်းနိုင်ငံမှာ အင်ပိုင်ယာကြီးဖြစ်သွားသော်လည်း စပါးတားနိုင်ငံသားတို့က အက်သင်းနိုင်ငံသားတို့ကို မကျေနပ်ကြချေ။ ယင်းတို့မှာ ယခင်ကကဲ့သို့ အချင်းချင်း စောင်နေကြရာမှ ကြာသော်ထ၍တိုက်ကြလေသည်။ ထိုအက်သင်းနှင့်စပါးတားတို့တိုက်ကြသော စစ်ပွဲများကို 'ပယ်လိုပွန်နီရှင်းစစ်ပွဲ' ဟုခေါ်၏။ ပါရီးကလီးသည် သူ့လူများအား အက်သင်းမြို့ထဲ၌ နေထိုင်စေ၍ ခံစစ်ကိုသာဆင်၏။ စပါးတားတို့သည်လည်း မြို့ကိုဝန်းရံထားလေသည်။ မြို့ထဲ၌ လူများပြွတ်သိပ်နေထိုင်ကြသဖြင့် မကြာမီပလိပ်ရောဂါဖြစ်ပွားပြီးလျှင် လူအမြောက်အမြားသေဆုံးကြ၏။ ပါရီးကလီးလည်း ပလိပ်ရောဂါနှင့်သေဆုံးလေသည်။ သို့ရာတွင် ကြွင်းကျန်သောလူများသည် ဆက်လက်၍ ဇွဲနှင့်ကြံ့ကြံ့ခံနေကြ၏။ သို့နှင့် ၁၀ နှစ်ကြာသောအခါ မည်သူမျှမနိုင်ဘဲစစ်ပွဲပြီးဆုံးသွားတော့၏။

သို့သော် ပါရီးကလီးခေါင်းဆောင်မှုဖြင့် တည်မြဲခဲ့သော အက်သင်းတို့၏လွတ်လပ်ရေးမှာ သူ၏တူ အယ်လစီဗိုင်းအားဒီး၏မိုက်မဲမှုကြောင့် ဆုံးရှုံးရလေသည်။ အယ်လစီဗိုင်းအားဒီးက တိုက်တွန်းသဖြင့် အက်သီးနီးယန်းတို့သည်စစ္စလီကျွန်းကို တိုက်ခိုက်ရန် သူတို့ရေတပ်ကိုစေလွှတ်လိုက်ရာ ရေတပ်မှာ မရှုမလှချေမှုန်းခြင်းခံရ၍ အက်သင်းစစ်သုံ့ပန်းအမြောက်အမြား ကျွန်အဖြစ်ဖြင့် ရောင်းချခြင်းခံကြရ၏။ သို့နှင့်အက်သင်း၏ ဩဇာခံ ဂရိနိုင်ငံငယ်များသည် အက်သင်းကိုတော်လှန်၍ စပါးတားနှင့်ပူးပေါင်းကြလေသည်။ စပါးတန်းတို့လည်း ဘီစီ ၄၀၅ ခုနှစ်၌ ကြွင်းကျန်သော အက်သင်းသင်္ဘောများကို တိုက်ခိုက်သိမ်းယူ၍ အက်သင်းမြို့ကို ဝန်းရံထားကြ၏။ အက်သင်းတို့ အစာငတ်မခံနိုင်

သဖြင့်ဘီစီ ၄၀၄ နှစ်တွင် အညံ့ခံ၍ အက်သင်းအင်ပိုင်ယာကြီးပျက်စီးသွားရလေသည်။

စပါးတန်းတို့လည်း ယင်းတို့၏စစ်တပ်များကို ဂရိမြို့များ၌ အနှံ့အပြား ချထား၍ အာဏာရှင်စံနစ်ဖြင့် အုပ်ချုပ်၏။ သို့ဖြစ်၍ လက်အောက်ခံမြို့ရွာများမှာ အမြဲမကျေမနပ်ဖြစ်လျက်ရှိရာ ဘီစီ ၃၇၁ ခုနှစ်တွင် အီပါမိနွန်းဒတ် ဆိုသူကြီးမှူးသော သီးဗန်း (သီးဗနိုင်ငံသား) တို့က စပါးတားကိုတိုက်ခိုက်အောင်မြင်လေသည်။ သို့ရာတွင် သီးဗနိုင်ငံသားတို့သည် ဘီစီ ၃၆၂ ခုနှစ်တွင် ခေါင်းဆောင်ဖြစ်သူ အီပါမိနွန်းဒတ် သေဆုံးသွားသဖြင့် စစ်ရေးနိမ့်လေသည်။ ထိုအချိန်မှစ၍ ဂရိနိုင်ငံငယ်ကလေးများ၏ခေတ်လည်း ကုန်ဆုံးလေတော့သည်။

ဂရိနိုင်ငံငယ်ကလေးအားလုံးကို ပဌမအကြိမ်တိုက်ခိုက်အောင်မြင်၍ ဂရိတပြည်လုံးကို သိမ်းကျုံးအုပ်စိုးသူများမှာ ဂရိမြောက်ဖက်ရှိ မက်ဆီဒိုးနီးယားပြည့်ရှင် ဖိလစ်ဘုရင်နှင့်သူ၏သားတော် အယ်လက်ဇန္ဒာ–သ–ဂရိတ်တို့ဖြစ်ကြသည်။ အယ်လက်ဇန္ဒာဘုရင်သည် တိုက်ခိုက်အောင်မြင်သောတိုင်းပြည်များ၌ ဂရိယဉ်ကျေးမှုများကို ပြန့်ပွားစေခဲ့သည်။ (အယ်လက်ဇန္ဒာ–သ–ဂရိတ် — ရှု။)

အယ်လက်ဇန္ဒာ–သ–ဂရိတ် ကွယ်လွန်ပြီးနောက် သူတည်ထောင်ခဲ့သော နိုင်ငံကြီးသည် အစိပ်စိပ်အမြွာမြွာကွဲသွားလေသည်။ အီဂျစ်ပြည်၊ မက်ဆီဒိုးနီးယားပြည်နှင့်အီဂျစ်ပြည်များကို အယ်လက်ဇန္ဒာ–သ–ဂရိတ်၏ စစ်သူကြီးများက တသီးတခြားအုပ်စိုးကြ၏။ ထိုခေတ်ကို 'ဟယ်လင်နစ်ခေတ်' ဟုခေါ်၏။ 'ဟယ်လင်နစ်' မှာ ရှေးကဂရိတို့ကိုခေါ်သောအမည်ဖြစ်၏။ ထိုခေတ်၌ သိပ္ပံပညာနှင့်သုခုမပညာရပ်များ အတော်ပင်ထွန်းကားခဲ့၏။ (အယ်လက်ဇန္ဒြီးယားမြို့ — ရှု။)

သို့ရာတွင် ဂရိတို့ကား ကမ္ဘာ့အလယ်၌ ရှေးအခါကကဲ့သို့ ထယ်ဝါခန့်ညားစွာမနေနိုင်ကြတော့ချေ။ ဘီစီ ၁၉၇ ခုနှစ်၌ ရောမလူမျိုးတို့က မက်ဆီဒိုးနီးယားနိုင်ငံကို တိုက်ခိုက်သောအခါ ဂရိတို့ကဝင်ရောက်ကူညီခဲ့ကြသည်။ ရောမတို့အောင်ပွဲရသောအခါ ဂရိမြို့များသည် လွတ်လပ်ရေးရကြကုန်၏။ ထိုသို့လွတ်လပ်ရေးရကြသော်လည်း ဂရိတို့သည် ရောမလူမျိုးတို့ကို များစွာဒုက္ခပေးသောကြောင့် ဘီစီ ၁၄၆ ခုနှစ်၌ရောမလူမျိုးတို့က ဂရိမြို့ရွာများကို မီးရှို့ဖျက်ဆီးပစ်လိုက်လေသည်။ အက်သင်းမြို့မှတပါး အခြားမြို့အားလုံးကိုလည်းသိမ်းယူလေသည်။ အက်သင်းမြို့သည်ကားအနည်းငယ်လွတ်လပ်ခွင့်ရ၏။ ထိုမြို့ရှိကျောင်းများသို့ ရောမလူမျိုးအများပင်သွားရောက်၍ ပညာဆည်းပူးကြသည်။ ထိုရောမပညာသင်များတွင် ဆီဆရိုလည်းပါဝင်လေသည်။ (ဆီဆရို — လည်းရှု။)

ဂရိနိုင်ငံ၊ အက်သင်းမြို့တော်မှစည်ကားသိုက်မြိုက်လှသောလမ်းတလမ်း



ဤသို့လျှင် ဂရိတို့သည် အယ်လက်ဇန္ဒာ–သ–ဂရိတ်လက်ထက်မှစ၍ အေဒီ ၁၉ ရာစုအစလောက်အထိ နှစ်ပေါင်း ၂,၀၀၀ ကျော်ကျော်မျှ သူတပါးလက်အောက်ခံလူမျိုးများဖြစ်ခဲ့ကြ၏။ သူတို့၏နောက်ဆုံးအရှင်သခင်ကား ၁၅ ရာစုလောက်ကစတင်၍ အုပ်စိုးကြသောတူရကီတို့ဖြစ်ကြ၏။ ၁၉ ရာစုအစလောက်၌ တူရကီနိုင်ငံမှာ တန်ခိုးမှေးမှိန်၍ လက်အောက်လူမျိုးများက မကြာခဏပုန်ကန်ထကြွလျက်ရှိ၏။ ၁၈၂၁ ခုနှစ်တွင် ဂရိလူမျိုးများသည် အမျိုးသားလွတ်လပ်ရေးအတွက် တူရကီတို့ကိုလက်နက် စွဲကိုင်ကာတော်လှန်ကြလေ၏။ (တူရကီနိုင်ငံ — ရှု။)

ဂရိတို့ကို ဗြိတိသျှ၊ ပြင်သစ်နှင့်ရုရှတို့ကကူညီသည်။ ၂ဖက်စလုံးပင် တဖက်နှင့်တဖက် အပြစ်ကင်းမဲ့သော အရပ်သူအရပ်သားတို့ကိုရက်စက်ကြမ်းကြုတ်စွာ သတ်ဖြတ်ကြသည်။ ဂရိရေတပ်တို့က ဝိုင်းညှပ်တိုက်ခိုက်သဖြင့် တူရကီရေတပ်မှာပျက်စီးသွားသည်။ သို့နှင့် ၁၈၂၉ ခုနှစ်၌ စစ်ပြေငြိမ်း၍ဂရိတို့ကို လွတ်လပ်ရေးပေးလိုက်ရလေသည်။

၁၈၃၂ ခုနှစ်တွင် ဂရိပြည်၌အကြီးအကျယ်ဆူပူမှုများဖြစ်ပွားပြီးနောက် အင်္ဂလိပ် ပြင်သစ် ရုရှတို့က ဗာဗေးရီးယားမင်းသား အော့တိုးကို ဂရိဘုရင်အဖြစ်တင်မြှောက်ကြသည်။ အော့တိုးသည် ဂျာမန်တို့အကြံပေးချက်အရဂျာမန်စံနစ်အတိုင်းအုပ်စိုးသဖြင့် ၁၈၆၂ ခုနှစ်တွင် ဂရိတို့ပုန်ကန်ထကြွပြီးလျှင် သူ့ကိုနန်းမှချကြသည်။ နောက်တနှစ်၌ဒိန်းမတ်နိုင်ငံမှ ဂျော့မင်းသားနန်းတက်၍ ၁၉၁၃ ခုနှစ်တွင် အသတ်ခံရသည်။ ၁၈၆၄ ခုနှစ်၌ ဗြိတိန်က ဂရိနိုင်ငံအားအိုင်အိုးနီးယန်းကျွန်းများကိုပေးသည်။ ၁၉၁၆ ခုနှစ်၌ဂရိနိုင်ငံရှိမီးရထားလမ်းများကို အခြားဥရောပမီးရထားလမ်းများနှင့် ဆက်သွယ်ခြင်းပြီးစီးသွားသည်။

၁၉၁၂–၁၃ ခုနှစ်များ၌ဖြစ်ပွားသော ဗေါ်လကန်စစ်ပွဲတွင် ဂရိနိုင်ငံအပါအဝင် ဗေါ်လကန်ပြည်များသည် တူရကီနိုင်ငံကိုတိုက်ခိုက်အောင်မြင်ခဲ့သည်။ ယင်းတွင် ဂရိနိုင်ငံသည် စတုရန်းမိုင် ၁၇,၀၀၀ မျှကျယ်ဝန်းသော နယ်မြေများကို ရလိုက်သည်။ ပဌမကမ္ဘာစစ်ကြီးအတွင်းက ဂရိနိုင်ငံသည်ကြားနေခဲ့သည်။ သို့ရာတွင် ဂရိဘုရင်မှာ ဂျာမန်ဘုရင်၏ယောက်ဖတော်ဖြစ်၍ ဂျာမန်တို့ကို တိတ်တိတ်ပုန်းအားပေးသည်ဟုစွပ်စွဲခြင်းခံရသည်။ ၁၉၁၇ ခုနှစ်၌ မဟာမိတ်အစိုးရတို့၏ပယောဂကြောင့် ဂရိဘုရင်သည်ထီးနန်းကို စွန့်လွှတ်၍ တိုင်းပြည်မှထွက်ခွာသွားရသည်။ ထိုနောက် သူ၏ဒုတိယသားတော် အယ်လက်ဇန္ဒာနန်းတက်သည်။ ၁၉၂၀ ခုနှစ်၌ အယ်လက်ဇန္ဒာကွယ်လွန်ခါမှနန်းစွန့်ဘုရင်သည် တိုင်းပြည်လူထုဆန္ဒဖြင့်ထီးနန်းပြန်ရသည်။ စစ်ကြီးအပြီးတွင် ဂရိနိုင်ငံသည် အာရှမိုင်းနားနှင့်အခြားအရပ်ရှိနယ်ပယ်များကိုရလိုက်သည်။ (ကမ္ဘာစစ်၊ ပဌမ — ရှု။)

သို့ရာတွင် ၁၉၂၁ ခုနှစ်၌ အာရှမိုင်းနားတွင်ဂရိနှင့်တူရကီတို့တိုက်ခိုက်ကြရာ ဂရိတို့အရေးရှုံးနိမ့်၍ စစ်ကြီးအပြီး၌ရရှိထားသော နယ်ပယ်များဆုံးရှုံးသွားသည်။ ဂရိနိုင်ငံ ထဲ၌ မငြိမ်မသက်ဖြစ်နေသဖြင့် ဂရိဘုရင်သည်ထီးနန်းကို တဖန်စွန့်လွှတ်ရပြန်သည်။ ထိုနောက် သားတော် ဒုတိယဂျော့ဘုရင်နန်းတက်သည်။ ဤဘုရင်လည်း ၁၉၂၃ ခုနှစ်တွင် နန်းမှဆင်းရပြန်သည်။ ၁၉၂၄ ခုနှစ်တွင်ဂရိသမ္မတနိုင်ငံဟူ၍ဖြစ်လာသည်။

ဒုတိယကမ္ဘာစစ်ကြီး ဖြစ်စတွင် ဂရိနိုင်ငံသည် ကြားနေခဲ့၏။ ဂရိတို့သည် ဣတလီစစ်တပ်များကို အောင်မြင်စွာတွန်းလှန်နိုင်သော်လည်း ဂျာမန်တို့က ဒလကြမ်းတိုက်ခိုက်သောအခါ အရေးရှုံးနိမ့်သွားသည်။ သို့သော်ဂျာမန်တို့ကို ပြောက်ကျားစံနစ်ဖြင့် ဆက်လက်တိုက်ခိုက်သည်။ ၁၉၄၄ ခုနှစ်၌ ဂျာမန်တို့ဆုတ်ခွာသွား၍ ဗြိတိသျှစစ်တပ်များရောက်



ချပ်ဝတ်တန်ဆာ ဆင်ယင်ထားသော ရှေးဂရိစစ်သည်တော်

လာပြီးနောက် မကြာမီ ဘုရင်ဂိုဏ်းသားများနှင့် လက်ဝဲဂိုဏ်းသားများ တိုက်ခိုက်ကြသည်။ ဗြိတိသျှတို့၏အကူအညီဖြင့် ဘုရင်ဂိုဏ်းသားများက အနိုင်ရ၍ ၁၉၄၆ ခုနှစ်တွင် ဒုတိယဂျော့ဘုရင်သည် ထီးနန်းကိုပြန်လည်စိုးစံခဲ့ပြန်သည်။ ၁၉၄၇ ခုနှစ်တွင် ဂျော့ဘုရင်ကွယ်လွန်၍ ညီတော်ပေါလ်ဘုရင်နန်းတက်၏။ သမတဂိုဏ်းသားများကားအရှုံးမပေးဘဲဆက်လက်ထကြွသေး၏။ သို့သော်ယခုအခါ၌ သူပုန်တို့အရေးနိမ့်၍ တိုင်းပြည်ငြိမ်းချမ်းလျက်ရှိပြီးဖြစ်၏။

ဂရိနိုင်ငံသည် စတုရန်းမိုင် ၅၁,၂၄၆ မိုင်မျှသာကျယ်ဝန်း၍ မြန်မာနိုင်ငံထက် များစွာငယ်သည်။ တိုင်းပြည်၏အဓိကလုပ်ငန်းမှာ မြန်မာနိုင်ငံကဲ့သို့ လယ်ယာစိုက်ပျိုးရေးလုပ်ငန်းဖြစ်သည်။ သို့သော်လည်း အများအားဖြင့်ရှေးရိုးစံနစ်အတိုင်းလုပ်ကိုင်ကြသဖြင့် အသီးအနှံကောင်းစွာမဖြစ်ထွန်းဘဲ နိုင်ငံခြားမှစားကုန်များကိုမှာယူရသည်။ ဂရိနိုင်ငံမှ စပျစ်ခြောက်၊ သံလွင်ဆီ၊ ဝိုင်အရက်၊ အထည်အလိပ်၊ သားရေပစ္စည်း၊ စက္ကူ နှင့်မင်ထွက်သည်။ ဆိပ်ကမ်းကြီးများ၌သင်္ဘောများ ဆောက်လုပ်၏။ ဂရိတို့သည်အရောင်းအဝယ်ဖက်၌ ကျွမ်းကျင်သူများဖြစ်၍ မြေထဲပင်လယ်တဝိုက်၌ ကုန်သင်္ဘောများဖြင့် ဥဒါဟိုသွားလာကူးသန်းကြသည်။ ဂရိနိုင်ငံ၏မြို့တော်မှာ အက်သင်းမြို့ဖြစ်၏။ ဂရိနိုင်ငံ၌ဂရိတို့အပြင် အယ်လဗေးနီးယန်းနှင့် ဆလဗလူမျိုးများလည်း နေထိုင်ကြ၏။ ဂရိတို့မှာအယူမှန်ခရစ်ယန်ဂိုဏ်းဝင်များဖြစ်ကြသည်။

ဂရိနိုင်ငံသည် ရှေးပဝေဏီကထင်ရှားခဲ့သော တိုင်းပြည်တပြည်ဖြစ်သော်လည်း ရှေးဟောင်းအဆောက်အအုံအားလုံးကို ယခုမတွေ့နိုင်တော့ချေ။ သီးဗ၊ ကော့ရင်နှင့်စပါးတားမြို့များမှာ လွန်ခဲ့သောနှစ်ပေါင်း ၂၀၀၀ အတွင်းကငလျင်ဒဏ်နှင့် အခြားဒဏ်ကြောင့် အတော်အတန်ပျက်စီးယိုယွင်းနေပြီဖြစ်၏။ တူးဖေါ်ထားသော ရှေးဟောင်းအဆောက်အအုံများကို အိုလင်းပီးယာမြို့၌တွေ့မြင်နိုင်၏။ ဒီးလော့ကျွန်းပေါ်၌လည်း ဂရိနတ်အပေါ်လိုကျောက်ရုပ်၊ ဘုရားကျောင်းများနှင့်ဇာတ်ရုံတရုံတို့ကို တူးဖေါ်ထား၏။ ဂရိနိုင်ငံတွင် ရှေးဟောင်း အဆောက်အအုံများအပြင် ဥရောပအလယ်ခေတ်ကတည်ထားခဲ့သောဗိုင်ဇင်းတိုင်ဘုရားရှိခိုးကျောင်းနှင့်ကရူးဆိတ်အယူဝါဒစစ်ပွဲအတွင်းကဆောက်လုပ်ထားသော ရဲတိုက်ပျက်ကြီးများကိုလည်း တွေ့ရသည်။

# ဂရိလူမျိုးတို့ကိုးကွယ်သည့်နတ်များ

**နတ်ကိုးကွယ်မှုသည် သိပ္ပံပညာမထွန်းကားမီ ကမ္ဘာဦးခေတ်မှစ၍ ဖြစ်ပေါ်လာသည်။ ကျူးပစ်၊ မီးနပ်စသည်တို့မှာ ကမ္ဘာနှင့်အဝှန်း လူသိများသည်။ ရောမအမည်မှည့်ထားလင့်ကစား၊ စင်စစ်မှာမူ ဂရိနတ်များဖြစ်သည်။ ထိုဂရိနတ်များကို ရောမတို့လက်ခံကိုးကွယ်သည့်အကြောင်းကို သမိုင်းပုံပြင်တို့ဖြင့် စိတ်ဝင်စားဖွယ် ဖေါ်ပြထားသည်။**

**ဂရိနတ်များ။** ။လောကဓာတ်ပညာမထွန်းကားသေးသော ရှေးခေတ်တွင် ဂရိသူဟောင်းများသည် •အဘယ်ကြောင့်မိုးရွာသည်၊ အဘယ်ကြောင့်နေပူသည်စသည်တို့ကိုအကြောင်းမပြနိုင်ခဲ့ကြပေ။ ထို့ကြောင့် နေပူခြင်း၊ မိုးရွာခြင်းစသည့် ကမ္ဘာ့နိယာမ တရားတို့သည် လူသားတို့ထက်တန်ခိုးကြီးလှသော နတ်မင်းများ၏ ဖန်တီးမှုကြောင့်သာဖြစ်ပေါ်ရသည်ဟု ယူဆခဲ့ကြသည်။ ထို့ကြောင့်လည်း မိမိတို့က ထိုရေ၊ မြေ၊ လေစသည်တို့ကိုအစိုးရသော နတ်မင်းများအား ပူဇော်ပသကြလျှင် မိမိတို့အား ကူညီစောင့်ရှောက်လိမ့်မည်ဟု ယုံကြည်၍ နတ်တို့ကို ပူဇော်ပသကြလေသည်။

ရှေးဂရိသူဟောင်းတို့သည် စိတ်ကူးဉာဏ်အလွန်ကွန့်မြူးတတ်ကြ၏။ ထို့ကြောင့် တန်ခိုးရှင်နတ်များရှိသည်ဟူသောအယူအဆအတိုင်း ထိုနတ်များ၏သဘာဝတို့ကို စိတ်ကူးဖြင့်မှန်းဆကာ ပုံပြင်များပြု၍သားစဉ်မြေးဆက် ပြောပြခဲ့ကြလေသည်။ နှစ်ပရိစ္ဆေဒရှည်လျားလတ်သော် ထိုပုံပြင်များမှာ စိတ်ကူးဉာဏ်ကွန့်မြူးချက်များသာဖြစ်သည်ဟု မည်သူကမျှ သတိမရကြတော့ချေ။ တန်ခိုးရှင်နတ်များ အကယ်ပင်ရှိခဲ့သည်ဟု ထင်မြင်ယုံကြည်လာကြသည်။ နှစ်ပရိစ္ဆေဒကြာမြင့်လာခဲ့သော်ငြားလည်း ထိုပုံပြင်များမှာ တိမ်ကော၍မသွားသည့်အပြင် ထိုးဟောင်းပုံပြင်များကိုအခြေခံသော ဂရိစာပေထွန်းကားမှုကို အထောက်အပံ့ပြုခဲ့လေသည်။ (ဂရိဘာသာနှင့်စာပေ — ရှု။)

ရောမလူမျိုးတို့ထွန်းကားလာသောအခါ တန်ခိုးရှင်နတ်များရှိသည်ဟု ဆက်လက်ယုံကြည်ခဲ့ကြပြန်၍ ဂရိနတ်များကိုပင် ရောမအမည်များတပ်ကာ ကိုးကွယ်ပူဇော်သမှု ပြုခဲ့ကြပြန်လေသည်။ ဂရိထုံးဟောင်းပုံပြင်လာ တန်ခိုးကြီးနတ်များ၏အကြောင်းကို ရောမအမည်နှင့်ယှဉ်၍ အကျဉ်းမျှ ဖေါ်ပြသွားပါအံ့။ ကွင်းပိတ်အတွင်းမှအမည်သည် ရောမအမည်ဖြစ်၏။

**ဇုနတ်မင်းကြီး (ဂျူပီတာ)။** ။ဂရိနိုင်ငံ၏ မြောက်ဖက်နယ်ခြားတွင် အလွန်မြင့်မား၍ ဆီးနှင်းမပြတ်ဖုံးလွှမ်းကာလူသူနှင့် ကင်းဝေးလှသော အိုလင်းပပ် တောင်ကြီးရှိလေသည်။ ထိုတောင်ကြီး၏တောင်ထွတ်တွင် နတ်တကာတို့၏ဘုရင် ဇုနတ်မင်းကြီး စံပျော်တော်မူ၏။ ထိုနတ်မင်းကြီးကား စကြာဝဠာတခုလုံးကိုအစိုးရ၍ ဝရဇိန်မိုးကြိုးလက်

နက်ရှင် ဖြစ်ပေသည်။ ခမည်းတော်ကရိုးနပ် (ဆက်တန်) နတ်မင်းကြီးမှာ သားတော်တပါးပါးက မိမိ၏စည်းစိမ်ကို လုမည်ဟူ၍ အဟောတွက်ချက်ရှိခဲ့သဖြင့်၊ သားတော်ဖွားတိုင်း အကောင်လိုက် ဝါးမျိုပစ်လေ့ရှိရာ၊ ဇုမှာ မယ်တော်ရီအာ နတ်သမီး၏ပရိယာယ်ကြောင့် သာ ခမည်းတော်၏ ဘေးရန်မှ လွတ်ကင်းခဲ့ရ၏။ ဇုသည် အရွယ်ရောက်လာလျှင် ခမည်းတော်အား သူဝါးမျိုထားသောနောင်တော်များကို အန်ထုတ်စေပြီးနောက် ဇုကခေါင်းဆောင်၍ခမည်းတော်အားနန်းချကာ ရိုက်ရာကိုဆက်ခံလေသည်။ ထိုနောက်တွင် သူ့အားကူညီခဲ့သော နောင်တော်များအားလည်း နယ်ပယ်များ ခွဲဝေပေး၏။ ဤသို့ဖြင့် ရန်အပေါင်းကို အောင်မြင်ပြီးသော် လောကတခုလုံးကိုစိုးမိုးနိုင်ခဲ့၍၊ နတ်တကာ့ဘုရင်ဇုနတ်ရှင် ဖြစ်လေသည်။ ဇုခေါ် ဂျူပီတာတွင် နတ်မိဖုရား၊ လူသားမိဖုရားများစွာရှိသဖြင့် သားသမီးလည်း များပြားလှသည်။ သူ၏များစွာသောသားသမီးတို့တွင် ဒဏ္ဍာရီများ၌ထင်ရှားသောနေနတ်သား အပေါ်လို၊ လနတ်သမီး အားတိမစ် (ဒိုင်ယာနာ)၊ ဟားမီး (မာကျူရီ) အေးရီး (မား)၊ ဟီးဗီးစသည်တို့အပြင် အတတ်ပညာအမျိုးမျိုးကိုစောင့်သော နတ်သမီးများလည်း ပါဝင်ပေသည်။ ဇုကိုအမည်အမျိုးမျိုးဖြင့်ခေါ်ဝေါ်ကြရုံမက တန်ခိုးအမျိုးမျိုးရှိသည်ဟု ယုံကြည်ကြသည်။ လျှပ်စစ်မိုးကြိုးကို၎င်း၊ ရာသီဥတုတို့ကို၎င်း ဇုကပြုပြင်ဖန်တီးနိုင်၍၊ တိုင်းပြည်နိုင်ငံတို့၏ကောင်းကျိုးများကိုလည်း စောင့်ရှောက်၍ ပေးတတ်သည်ဟု အယူရှိကြသည်။ ထိုကြောင့်ဇုကို အမြင့်ဆုံးတောင်ထိပ်များ၌ တည်ဆောက်အပ်သောဗိမာန်ကြီးများ၌ ပူဇော်ပသခြင်းအမှုကို ပြုခဲ့ကြ၏။ တရားသူကြီးများ၊ အုပ်ချုပ်သူများနှင့်စစ်ဘုရင်ကြီးများသည် တာဝန်ကိုဆောင်ရွက်ရာတွင် ဇုကိုတိုင်တည်၍ သစ္စာဆိုလေ့ရှိကြသည်။

ဟီးရ (ဂျူနို)။ ။ကရိုးနပ်နှင့်ရီအာတို့၏သမီးဖြစ်၍ ဇုနတ်မင်းကြီး၏မိဖုရားတပါးဖြစ်၏။ အဆင်းသဏ္ဍာန်လှပတင့်တယ်၍ မာန်မာနထောင်လွှားသောနတ်သမီးဖြစ်၏။ နတ်မင်းကြီး၏မိဖုရားကြီးဖြစ်သည့်အတိုင်းလည်း တန်ခိုးအာဏာကြီးမား၏။ စိတ်မာန်အလွန်ခက်ထန်သဖြင့် ဇုနတ်မင်းကြီးနှင့် မကြာခဏ မသင့်မတင့်ဖြစ်ကြရသည်။ မြေငလျင်လှုပ်ခြင်း၊ တော်လဲခြင်း၊ ကြယ်တံခွန်လွှတ်ခြင်းစသည့်အခြင်းအရာများကို ဟီးရနတ်သမီးက ဖန်တီးသည်ဟု



ဇုခေါ် ဂျူပီတာနတ်မင်းကြီးနှင့်နတ်သမီးနှစ်ပါး

ဆိုကြ၏။ ဇုနတ်မင်းကြီးနှင့်ဟီးရတို့၏ သားတော်များအနက် တပါးမှာ စစ်ကိုအစိုးရသောအေးရီး (မား) ဖြစ်၍ ကျန်တပါးမှာ မီးကိုအစိုးရသောဟီဖက်စတပ် (ဗာလကန်) ဖြစ်၏။ ဟီဖက်စတပ်ကို ပန်းဘဲဆရာတို့ ကိုးကွယ်ဆည်းကပ်ကြ၏။

ဟီးရနတ်သမီးသည် မိန်းမများအား အထူးကူညီစောင့်မကြည့်ရှုသည်ဟု ယုံကြည်ကြသည်။ မိန်းမများ သားသမီးရလိုလျှင် ဟီးရအား ပူဇော်ပသကြသည်။ ထိုပြင်လက်ထပ်ပွဲကိုစောင့်ရှောက်သောနတ်သမီးဖြစ်သည်ဟုလည်း အသိအမှတ်ပြုကာ နှစ်စဉ်မတ်လ ၁ ရက်နေ့တိုင်း ထိုနတ်သမီးကို ပူဇော်ပသသောပွဲများ ကျင်းပလေ့ရှိသည်။ လဆန်းစတွင် ဟီးရနတ်သမီးကိုရည်စူး၍ ပူဇော်ပသလေ့ရှိ၏။

ဂရိနှင့်ရောမနိုင်ငံများတွင် ဟီးရ (ဂျူနို) နတ်ကွန်းများ အများအပြားရှိသည်။ ကျွန်ုပ်တို့နေ့စဉ်ခေါ်ဝေါ်သုံးစွဲနေသော အင်္ဂလိပ်လအမည်များအနက် ဇွန်လမှာ ဂျူနိုနတ်သမီးကိုစွဲ၍ သမုတ်ထားသောအမည်ဖြစ်သည်။

**အသိနား (မိနားဗား)**။ ။ဇုနတ်မင်းကြီး၏ ဦးနှောက်တွင်းမှ ချပ်ဝတ်တန်ဆာအစုံအလင်ဝတ်ဆင်ကာ လက်နက်စွဲကိုင်လျက် စစ်သံကြွေး၍ မွေးဖွားခဲ့သော သမီးတော်တပါးဖြစ်၏။ စစ်ပွဲများတွင် ပါဝင်စောင့်ရှောက်ပေး၏။ သို့သော် လူ့ပြည်မှ မြို့တော်ကြီးများကို ချစ်မြတ်နိုးသူဖြစ်ပြီးလျှင် ထိုမြို့တော်ကြီးများကို ကာကွယ်ရန်သာ စစ်ပွဲများတွင် ပါဝင်စောင့်ရှောက်တတ်သည်။ ထိုနတ်သမီးကို ဂုဏ်ပြုမှည့်ခေါ်ထားသောအက်သင်းမြို့တော်ကိုကား အထူးကာကွယ်စောင့်ရှောက်ပေးလေသည်။ စစ်မက်လိုလားသလောက် ဉာဏ်ပညာထက်မြက်လှသော ပညာရှိနတ်သမီးလည်းဖြစ်သည်။ မိန်းကလေးများအား ဗိုင်းငင် ရက်ကန်းစသည့်လက်မှုပညာများကို တတ်မြောက်စေရန်၎င်း၊ ယောကျ်ားများအား စာပေပညာဆည်းပူးကြစေရန်၎င်း အားပေးစောင့်ရှောက်သည်။ ဇုနတ်မင်းကြီး၏ အမြတ်နိုးဆုံးသမီးတော်ဖြစ်၍ အပျိုစင်နတ်သမီးလည်းဖြစ်ပေသည်။

**အပေါ်လို (ဝါ) ဖီးဗပ် (ဝါ) ဟီလီအော့**။ ။ရှေးဂရိတို့၏ တန်ခိုးကြီးနတ် ၁၂ ပါးအနက် လူအများဆုံး၏ ကိုးကွယ်ခြင်းခံရသော နတ်မင်းတပါးပေတည်း။ ဇုနတ်မင်းကြီး၏ နတ်မိဖုရားတပါးဖြစ်သော လီတို၏သားတော်ဖြစ်၍ အားတိမစ်နတ်သမီးနှင့်အမြွှာမွေးဖက်ဖြစ်၏။ အပေါ်လိုသည် လူသတ္တဝါတို့အပေါ် အကြင်နာတရားကြီးမားလှ၍ နေ့စဉ်နေ့တိုင်း ကောင်းကင်ဝယ် နေစကြာယာဉ်ရထားကို စီးနင်းမောင်းနှင်ကာ လူအပေါင်းအား အလင်းရောင်နှင့်အပူမာတ်ကိုပေးလေသည်။ သူ့ကိုအလင်းရောင်နတ်မင်းဟု ကိုးကွယ်ကြသည်။

ဂရိလူမျိုးတို့ အဖို့ အပေါ်လိုမှာ လှပချောမွေ့ခြင်း၊ သစ္စာရှိခြင်း၊ စိတ်သဘောဖြူစင်ခြင်း၊ ဉာဏ်ထက်မြက်ခြင်းစသည့် အရည်အခြင်းများစုဝေးရာဖြစ်သည်။ သို့ဖြစ်၍ သူ့အား ဂီတနှင့်ကဗျာ၊ ကျန်းမာမှု၊ အနာဂတ်ကိုတင်ဟောပြောနိုင်မှုနှင့် လေးမြားအတတ်ဆိုင်ရာ နတ်မင်းဟုခေါ်ဝေါ်ကြ၏။ ထိုပြင် လယ်ယာစိုက်ပျိုးမှုနှင့်ဆက်သွယ်နေသောနတ်မင်းဟုလည်း ယုံကြည်ကြလေသည်။ အပေါ်လိုမှာ အလှတွင်စံပြဖြစ်သည်။



စစ်ကိုအစိုးရသောအေးရီး (မား) နတ်မင်း၏ရုပ်တု

**အားတိမစ် (ဒိုင်ယာနာ)**။ ။လနတ်သမီးဖြစ်၍ အပေါ်လိုနှင့်အမြွှာမွေးဖက် နှမတော်ဖြစ်သည်။ နောင်တော်ကဲ့သို့ကား မထင်ရှားလှပေ။ အမဲလိုက်မှုကိုနှစ်ခြိုက်သော်လည်း တောတိရစ္ဆာန်များကို ချစ်ခင်စောင့်ရှောက်တတ်သည်။ အနာရောဂါတို့ကို ပျောက်ကင်းအောင်စွမ်းဆောင်နိုင်သူဖြစ်၍ အထူးသဖြင့် မီးဖွားနေသောမိန်းမသားတို့အား စောင့်ရှောက်တတ်၏။ ယင်း အားတိမစ်နတ်သမီးသည် အပျိုစင်နတ်သမီးဖြစ်၏။ နောင်တော်အပေါ်လိုနတ်မင်းကဲ့သို့ပင် ကမ္ဘာသူ ကမ္ဘာသားတို့အား သနားကရုဏာကြီးမားသူဖြစ်သည်။

**အေးရီး (မား)**။ ။စစ်မက်နှင့်ဆိုင်သောနတ်ဖြစ်၍သွေးထွက်သံယိုမှုကို လိုလားကာ ကြမ်းကြုတ်ရက်စက်သည့်



အိုလင်းပပ်တောင်၊ ဇုနတ်မင်းကြီးနှင့် ဟီးရနတ်မိဖုရားတို့ကြီးမှူးသောနတ်သဘင်အစည်းအဝေး

စိတ်ဓာတ်ရှိသည်။ ထိုနတ်မင်းကား ဇုနတ်မင်းကြီးနှင့်ဟီးရမိဖုရားကြီးတို့၏ သားတော်ဖြစ်၏။ ရောမလူမျိုးတို့က မားနတ် တနည်း၊ အေးရီးနတ်အား ရောမမြို့တော်ကိုတည်ထောင်သူ ရိုမျုလပ်၏ခမည်းတော်ဖြစ်သည်ဟု ယူဆသဖြင့် ဇုနတ်မင်းကြီး (ဂျူပီတာ) မှလွဲလျှင် ဒုတိယနေရာထား၍ ကား ကိုးကွယ်ကြလေသည်။

**အက်ဖရိုဒိုက်တိ (ဗီးနပ်)။** ။ဤနတ်သမီးမှာ ပင်လယ်လှိုင်းတံပိုး၏ရေမြှုပ်မှဖွား၍ ရေနန်းသူဇာအဓိပ္ပါယ်ရှိသည့် အက်ဖရိုဒိုက်တိဟူသောအမည်ကိုရသည်။ ဇုနတ်မင်းကြီး၏ အမြတ်နိုးဆုံးသမီးတပါးဖြစ်သည်။ ချစ်မေတ္တာနှင့် အလှအပဆိုင်ရာနတ်သမီးတည်း။ ကြော့ရှင်းလှပသော ရုပ်ဆင်းရူပကာကြောင့် လူနှင့်နတ်တို့ ယောကျ်ားသားမှန်သမျှမှာ ထိုနတ်သမီးအား အလွန်စွဲလန်းကြသည်။ ပင်လယ်ထဲမှပေါက်ဖွားလာသူဖြစ်၍ ပင်လယ်သမုဒ္ဒရာနှင့်ဆိုင်ရာ ရေသတ္တဝါအပေါင်းကို စောင့်ရှောက်သည်။ အဆင်းမာန်တက်ကာ မာနထောင်လွှားသဖြင့် ဇုနတ်မင်းကြီးက မိဖုရားကြီး ဟီးရမှမွေးဖွားသောခြေမသန်သည့် သားတော် ဟီဖက်စတပ်နှင့် သူ့အား လက်ဆက်ပေးခဲ့၏။

ထိုနတ်သမီးသည် လက်ထပ်ထိမ်းမြားရေး၌ အကူအညီပေး၍ သားဖွားကိစ္စ၊ အိမ်ထောင်ရေးကိစ္စတို့၌ စောင့်မကြည့်ရှုသူဟု အယူရှိကြ၏။ အချစ်နတ်သမီးဖြစ်သည့် အလျှောက်ယောကျ်ားတို့၏စိတ်ကို စိုးပိုင်နိုင်သည်ဟုလည်း ဂရိလူမျိုးတို့ယုံကြည်ကြလေသည်။

**ဟီဖက်စတပ် (ဗာလကန်)။** ။မီးနတ်ဖြစ်သည့်ပြင် အိုလင်းပပ်နတ်ဘုံမှ ပန်းဘဲနတ်လည်းဖြစ်သည်၊ ဇုနတ်မင်းကြီးနှင့်မိဖုရားကြီး ဟီးရတို့၏ရင်သွေးတော်ဖြစ်၍ ခြေမသန်ရှာပေ။ နတ်အပေါင်းတို့ စွဲကိုင်သည့်လက်နက်များ၊ လှပဆန်းကြယ်သည့် နတ်ဘုံနတ်နန်းများမှာ ထိုနတ်မင်း၏ ဖန်တီးလုပ်ကိုင်ပေးမှုများဖြစ်၏။ အက်ဖရိုဒိုက်တိနတ်သမီး၏ ကြင်ယာတော်ဖြစ်၏။ ပန်းဘဲသမားများကို စောင့်ရှောက်သောနတ်လည်းဖြစ်၏။

အသီးနားနတ်သမီးမှာ ဇုနတ်မင်းကြီး၏ဦးနှောက်တွင်းမှ ဟီဖက်စတပ်နတ်မင်း၏ကျေးဇူးကြောင့် သာလျှင်ဖွားနိုင်ခဲ့၏။ တခါသော် နတ်မင်းကြီးမှာ ခေါင်းခဲဝေဒနာစွဲကပ်ခဲ့လေရာ မခံမရပ်နိုင်အောင်ဖြစ်လာသဖြင့်၊ သားတော် ဟီဖက်စတပ်နတ်အား မိမိ၏ဦးခေါင်းကိုတူနှင့်ရိုက်ခွဲစေရန် အမိန့်ပေး၏။ ဟီဖက်စတပ်မှာ ခမည်းတော်၏အမိန့်ကို မလွန်ဆန်ဝံ့သဖြင့် ခေါင်းကို ရိုက်ခွဲရပေသည်။ ခမည်း

တော်၏ဦးနှောက်အတွင်းမှ အသီးနားနတ်သမီးသည် ချပ်ဝတ်တန်ဆာဆင်၍ လက်နက်စုံစွဲကိုင်ကာ တခဲနက်သော အသံကိုမြည်ဟီးစေလျက် ပေါ်ထွက်လာခဲ့၏။

**ပိုဆိုင်ဒွန် (နက်ပကျွန်း)**။ ။ဇုနတ်မင်းကြီးသည် ခမည်းတော် ကရိုးနပ်မင်းကြီး၏ရိုက်ရာကို သိမ်းပိုက်လိုက်ပြီးနောက်တွင် မိမိအားကူညီခဲ့သူ နောင်တော်တို့အား နယ်ပယ်များကို ခွဲဝေပေးသည်။ ဤသို့ပေးရာ၌ နောင်တော်တပါးဖြစ်သူ ပိုဆိုင်ဒွန်နတ်မင်းအား ပင်လယ်သမုဒ္ဒရာဟူသမျှကို စိုးပိုင်ခွင့်ပေး၍ ရေပြင်အောက်တွင်စံမြန်းရန် ခမ်းနားကြီးကျယ် တင့်တယ်လှပသော နတ်နန်း ဗိမာန်ကြီးတဆောင်ကိုလည်း ပေးအပ်၏။ ယင်းသို့ဖြင့် ပိုဆိုင်ဒွန်မှာ ရေပြင်အပေါင်းကို စိုးမိုးစောင့်ရှောက်ရသောနတ်မင်းဖြစ်လာ၍ ရေကြောင်းခရီးသွားများသည် သူ့အား ကိုးကွယ်ပသလေ့ရှိ၏။ ထိုနတ်မင်းသည် အသွား ၃ ခွရှိ လက်သုံးတော် ခက်ရင်းလှံတံကိုဝင့်လိုက်လျှင် ကျောက်ဆောင်များကိုပြိုကွဲစေနိုင်၏။ လှိုင်းတံပိုး ထစေနိုင်၏။ မြေငလျင် တုန်လှုပ်စေနိုင်၏။ မုန်တိုင်းကျစေနိုင်၏။ ထိုမျှတန်ခိုးရှိသော နတ်မင်းပေတည်း။ မြင်းဟူသည့် သတ္တဝါကို ထိုနတ်မင်းက ပဌမဆုံးဖန်ဆင်းခဲ့၍ မြင်းများကို လည်းစောင့်ရှောက်သည့်နတ်ဖြစ်၏။

**ဟားမိး (မာကျူရီ)**။ ဇုနတ်မင်းကြီးနှင့် တောင်စောင့်နတ်သမီး မေယာတို့မှ ဖွားမြင်သည်။ ထိုနတ်ကား စေတမန်နတ်သား ဖြစ်သည်။ ထို့ကြောင့် ဟားမိးနတ်၏ ရုပ်တုများတွင် ခေါင်း၊ ခြေထောက်တို့ကို အတောင်များ တပ်ကာ ထုလုပ်လေသည်။ ထိုနတ်သားသည် သေသူများ၏ ဝိညာဉ်များကိုလည်း ငရဲနှင့်တန်သူကို ငရဲသို့ရင်း၊ နတ်ပြည်နှင့် တန်သူကို နတ်ပြည်သို့ရင်းပို့ဆောင်ပေးတတ်သည်။

ထိုနတ်မင်းသည် ခရီးလမ်းပန်းများနှင့် ခရီးသည်များကိုစောင့်ရှောက်တတ်သည်။ စကားအရာ၌လည်း ကျွမ်းကျင်လိမ္မာ၍၊ စကားပြောမှုနှင့်အသက်မွေးသူတို့၏ ကိုးကွယ်ပသခြင်းခံရသောနတ်လည်းဖြစ်သည်။ ကျန်းမာရေးကစားခုန်စားပွဲများကိုနှစ်သက်၍ အားပေးကူညီတတ်၏။ စည်းစိမ်ဥစ္စာတို့ကို ပေးစွမ်းနိုင်သည့်နတ်ဟူ၍လည်း ယုံကြည်ကြသည်။ အချို့ပုံပြင်များတွင် ဟားမိးနတ်သည် သူခိုးဓားပြတို့ကို ကာကွယ်စောင့်ရှောက်ပေးသူဟူ၍ ဆိုလေသည်။

**ပလူတို (ဒစ်)**။ ။ဇုနတ်မင်းကြီး၏နောင်တော်တပါးဖြစ်၍ သုန်မှုန်သောမျက်နှာထား အမူအရာရှိ၏။ ခမည်းတော်အား နန်းချပြီးသည့်နောက်တွင် ဇုနတ်မင်းက ပလူတိုအား မြေအောက်ကမ္ဘာတခွင်ကို စိုးမိုးအုပ်ချုပ်သောငရဲမင်းအဖြစ် ခံယူစေသည်။ ထိုပလူတိုနတ်မင်းကြီး၏ရုပ်သွင်သည် ဇုနတ်မင်းကြီးနှင့်တူသော်လည်း ပို၍အိုမြေ့ကြီးပြီးလျှင် ခက်ထန်သည်။ ပလူတိုနတ်မင်းသည် မြေသြဇာကောင်းအောင် ကူညီမှုမပေးနိုင်သဖြင့် လယ်သမားတို့က ကိုးကွယ်ပသကြသည်။ တခါတပါး၌ ရုံရှေတော်ပေါ် တသင်းနှင့်ပန်းခူးထွက်ခဲ့သော ပါဆက်ဖိုနီ နတ်သမီးကိုပလူတိုသည် မြင်း ၄ ကောင်က သောရထားထက်သို့ ရုတ်တရက် အတင်းပွေ့တင်ကာ မိမိစံရာငရဲပြည်သို့ ခေါ်ဆောင်ခဲ့ပြီးသော် မိဖုရားမြှောက်လေသည်။ ပါဆက်ဖိုနီနတ်သမီးကား ဒိမိတာနတ်သမီး၏ သမီးတည်း။

**ဒိုင်အိုနိုင်းဆပ် (ဗက်ကပ်)**။ ။ဇုနတ်မင်းကြီးနှင့် လူသားမင်းသမီးတပါးတို့မှမြင်သော သားတော်ဖြစ်၍ ဝိုင်အရက်ချိုနှင့် အသီးအနှံပင်ကလေးများကို စောင့်သောနတ်ဖြစ်သည်။ အစဉ်အမြဲစိတ်လက်ကြည်သာရွှင်လန်းစွာနေတတ်၍၊ ငြိမ်းချမ်းသာယာမှုကို လိုလားသောနတ်သားဖြစ်၏။ ထိုနတ်သား ငယ်



သားဆုပေးနိုင်သောဟီးရ (ဂျူနို) နတ်သမီး

ရှယ်စဉ်က မယ်တော်မင်းသမီးမှာ ဇုနတ်မင်းကြီး၏မိဖုရား ဟီးရ၏ပရိယာယ်ကြောင့် မိုးကြိုးချ၍ကွယ်လွန်ခဲ့ရာ၊ ထို သားတော်ကလေးကိုသာ ခမည်းတော်ကသူ၏တန်ခိုးဖြင့် ကာကွယ်လိုက်သဖြင့် ချမ်းသာရာ ရခဲ့လေသည်။

**ဒီမီတာ (ဆီးရိး)**။ ။ဇုနတ်မင်းကြီး၏နှမတော်ဖြစ်၍ ဂရိနတ်တို့တွင် တန်ခိုးအကြီးဆုံး နတ်သမီးတပါးဖြစ်၏။ ထိုနတ်သမီးကြီးသည် ကမ္ဘာလောကဓာတ်ကြီး သာယာဝပြောစေရန် ကောက်ပဲသီးနှံနှင့် သစ်ပင်ပန်းပင်တို့ကို ဖန်တီးစောင့်ရှောက်ပေး၏။ ထို့ကြောင့်ထိုနတ်သမီးအား လယ်တော်နတ်သမီးဟူ၍ရှင်း၊ မြေဆီသြဇာနတ်သမီးဟူ၍ရှင်း ခေါ်ဝေါ်ကြ၏။ ငြိမ်းချမ်းရေးမှာ စည်ပင်သာယာဝပြောရေးအပေါ်၌တည်ပေရာ ဒီမီတာနတ်သမီးအား ဥစ္စာစီးပွားနှင့်ငြိမ်းချမ်းရေးကိုပေးသူဟူ၍ ယူဆကြ၏။

ဒီမီတာတွင် ပါဆက်ဖိုနီ အမည်ရှိ သမီးတော်ကလေး တပါးရှိ၏။ လောကဓာတ်တခွင်လုံး စည်ပင်သာယာရေးကို ဆောင်ရွက်ရသဖြင့် ဒီမီတာမှာ အလွန်အလုပ်များလှပေရာ သမီးတော်ကလေးအား ကိုယ်တိုင်ကိုယ်ကျ စောင့်ရှောက်ထိန်းသိမ်းခြင်းမပြုနိုင်ရှာဘဲ အပျိုပေါ်တသင်းနှင့်သမီးတော်အားနေစေ၏။ တနေ့သော် ပန်းခူးထွက်ခဲ့သည့် ပါဆက်ဖိုနီအား အပျိုပေါ်များအလစ်တွင် ယမမင်း ပလူတိုက ရထားနှင့်တင်၍ ငရဲပြည်သို့ ခိုးပြေးလေရာ ဒီမီတာလည်း သမီးတော်အတွက် ရတက်ကြွယ်ကာ လောကဓာတ်ကြီးကို သာယာအောင် မပြုစုနိုင်တော့ချေ။ ထို့ကြောင့်လောကအလုံးမှာ အဖူးအပွင့်အသီးတို့ကင်းကာ ဆိတ်သုန်းခြောက်သွေ့နေခဲ့၏။ ထို့နောက်သမီးတော်ကလေးအား စကြာဝဠာတခုလုံး အထပ်ထပ်လိုက်ရှာသော် ငရဲပြည်ယမမင်းကြီး၏မိဖုရားဖြစ်နေကြောင်းကို တွေ့ရသည်။ ဤတွင် သမီးတော်အား နတ်ပြည်သို့ ပြန်ခေါ်နိုင်ရန် ကြိုးစားရှာ၏။ သို့သော်တနှစ်လျှင် ၆ လမျှသာနတ်ပြည်သို့ပြန်ရန် ယမမင်းက ခွင့်ပြုလေသည်။ ထို့ကြောင့်ဒီမီတာသည် သမီးတော်ကလေး နတ်ပြည်သို့ပြန်လာသည့် ၆ လတွင်သာ လောကကြီးကို စိမ်းလန်းသာယာအောင်ပြု၍ သမီးတော်နှင့်ကင်းကွာနေရသည့် ၆ လတွင် သာယာစည်ပင်မှုကို မပြုစုနိုင်သဖြင့် တနှစ်ရာသီတွင် ၆ လမှာ ထိုင်းမှိုင်းမှုန်ပြာဝေနေခြင်းဖြစ်သည်ဟု ဂရိတို့အယူရှိကြ၏။

**ပါဆက်ဖိုနီ (ပရိုဆာပီးနား)**။ ။ဒီမီတာနတ်သမီး၏ သမီးတော်ဖြစ်၍ ယမမင်း ပလူတို၏မိဖုရားဖြစ်သည်။ မယ်တော်အလုပ်များနေခိုက် ရံရွေတော်အပျိုပေါ်တသင်းနှင့် ပန်းခူးထွက်ရာမှ တဦးတည်း အပေါ်ကွဲနေခဲ့စဉ် ပလူတိုပေါ်ပေါက်လာပြီးလျှင် ငရဲပြည်သို့ ရထားနှင့်တင်ဆောင်သွားကာ မိဖုရားမြှောက်ထား၏။ မယ်တော်မှာ သမီးတော်အတွက် ပရိဒေဝမီးတောက်လောင်ကာ လောကကြီးကိုသာယာတင့်တယ်အောင် မပြုနိုင်တော့ချေ။ ထို့ကြောင့်ဇုနတ်မင်းကြီးက ပလူတိုအား ပါဆက်ဖိုနီကိုသူ့မယ်တော်ထံသို့ တနှစ်တွင် ၆ လမျှ ပြန်စေခွင့်ပြုရန် အမိန့်ပေးသည်။ မယ်တော်သည် သမီးတော်ပြန်လာချိန်တွင် လောကအလုံးကိုသာယာစိုပြည်အောင်ပြုတတ်သည်။ ပါဆက်ဖိုနီမယ်တော်ထံပြန်နေချိန်ဖြစ်သည့် နွေဦးရာသီမှာ စိမ်းလမ်းစိုပြည်၍အလွန်သာယာသည်။

**ဟက်စရှာ (ဗက်စတာ)**။ ။ဇုနတ်မင်းကြီး၏နှမတော်တပါးဖြစ်သည်။ အပျိုစင်နတ်သမီးဖြစ်၍၊ ဇုနတ်မင်းကြီး၏နတ်နန်းတွင် အတူစံရ၏။ ထိုနတ်သမီးကို အိုးအိမ်စောင့်သူနတ်သမီးဟု ခေါ်ဝေါ်ကြသည်။ ဟက်စရှာ၏တာဝန်ဝတ်တရားမှာ အချမ်းပြေမီးလှုံသည့်မီးဖိုများ မည်သည့်အခါမျှ မီးမငြိမ်းစေရန် စောင့်ရှောက်ပေးရခြင်းဖြစ်၏။ ထိုမီးဖိုမီးငြိမ်းပါက အိုးအိမ်နှင့်မတူ၊ အိုးအိမ်မပြီမသဖြစ်ရ၏။ ထိုနတ်သမီး၏နတ်ကွန်းများတွင် သူ့အားပူဇော်သည့် ဆီမီးသည် မည်သည့်အခါမျှ ငြိမ်းမသွားစေရချေ။ ဆီမီးမပြတ် ပူဇော်ပေးရသူများမှာ အပျိုစင်များသာ ဖြစ်ရသည်။

**အီးရော့ (ကျူးပစ်)**။ ။သတ္တဘာဂ ဖူးစာနတ်ဟုခေါ်ကြသော ထိုနတ်ကလေးမှာ အချစ်နတ်သမီး ဗီးနပ်၏ သားတော်ဖြစ်၍ လေးနှင့်မြားကိုစွဲကိုင်ကာ မယ်တော်၏



ခြေနင်းကြောရသော ဟားမီး (မာကျူရီ) စေတမန်နတ်သား

နောက်တော်ပါးမှ ဖဝါးထက်ကြပ် လိုက်ပါနေတတ်သည်။ အီးရော့သည် သူ၏မြားကို စိတ်ကူးတည့်ရာသို့ လွှတ်တတ်သည်။ သူ့မြားချက်ထိသူမှာ သေလောက်သောဝေဒနာကို မခံစားရစေကာမူ ထိုမြားချက်ဒဏ်ရာမှာ ကုသ၍ပျောက်ခဲလှသည်။ လူနတ်မဟူ မြားချက်ထိသူတို့တွင် ချစ်မေတ္တာစိတ်များ ဝင်စားလာတတ်သည်။ မြားနတ်မောင် အီးရော့သည် သူ့မြားကိုစူးစူးစမ်းစမ်းပြုပြီးမှ ပစ်ခတ်ခြင်းမဟုတ်ဘဲ သူပစ်ချင်သလိုပစ်တတ်သဖြင့် အဆင်မပြေသောအချစ်ကိစ္စများ ပေါ်ပေါက်ရသည်ဟု ဆိုကြ၏။ ထိုကြောင့်မြားနတ်မောင်၌မျက်စိမရှိသဖြင့် အချစ်၌လည်းမျက်စိမရှိဟု အချို့ကဆိုစမှတ်ပြုကြ၏။

သူတပါးတို့အား ချစ်ဒုက္ခ အနည်းနှင့်အများပေးတတ်သူ အီးရော့မှာ သူကိုယ်တိုင်အချစ်ဒုက္ခကို ခံစားခဲ့ရ၏။ တခါသော် မယ်တော်အချစ်နတ်သမီးက ဘုရင်တပါး၏ သမီးတော် ဆိုက်ကီးမင်းသမီးကလေးမှာ ချောမွေ့လှပသဖြင့် မနာလိုဖြစ်ကာ ထိုမင်းသမီး၏အချစ်ကိစ္စတွင် မဖွယ်မရာဖြစ်အောင်ပြုချေဟု သူ့အားစေခိုင်းလိုက်၏။ သို့သော်သူ့ကိုယ်တိုင် မင်းသမီးကလေးအား မေတ္တာသက်ဝင်ခဲ့၍ သူသည် မည်သူမည်ဝါဖြစ်သည်ကို သိအောင်မပြုရဟုပြောကာ ဇာနီးပြုခဲ့၏။ ဆိုက်ကီးမင်းသမီးကလေးမှာ သူ့အားမနာလိုနေသောအစ်မတော်များ၏စကားကိုနားယောင်ကာ ညအချိန် အီးရော့အိပ်နေခိုက်တွင် သူမည်သူဖြစ်သည်ဟု စူးစမ်းလေသည်။ ထိုအခါအီးရော့က မျက်မာန်တော်ရှကာ သူ့အားစွန့်ခွာထွက်သွားလေသည်။ ဆိုက်ကီးမင်းသမီးကလေးမှာ ကြင်ယာတော်၏အထင်မှားချက်ပြေပျောက်ပါရန် သာမန်လူသားတို့စွမ်းဆောင်နိုင်ခဲသောအလုပ်များကို ဆောင်ရွက်ခဲ့ရှာ၏။ နောက်ဆုံးတွင်မှ အီးရော့မှာ ကြင်ယာတော်ကလေး၏ဖြစ်ပုံကို သနားကရုဏာစိတ်ဝင်လာသောကြောင့် ချစ်သူနှစ်ဦးမှာ ပြန်လည်ပေါင်းဖက်မိကြ၏။ (ကျူးပစ်နှင့်ဆိုက်ကီး — ရှု။)

**အီးအော့** (ဩရိုရာ)။ ။အရုဏ်နတ်သမီးဖြစ်၏။ နံနက်အရုဏ်ကျင်း၍ လင်းလုနီးသည့်အချိန်တွင် တောက်ပသောနနွင်းရောင်ဝတ်စားတန်ဆာတို့ကို ဆင်ယင်ကာ နှင်းဆီသွေးရှိသောလက်များကိုဆန့်တန်းလျက် ညဥ့်လွှာရုံကိုပင့်တင်လေ့ရှိသည်ဟု ဆိုလေသည်။ သူ့၌ အလွန်နူးညံ့သိမ်မွေ့သောစိတ်နေသဘောထားရှိသော်လည်း သူ၏သားတော်များမှာ အလွန်ထိန်းသိမ်းရခက်သည်။ သားတော်များကား ဇက်ဖါခေါ် အနောက်လေနတ်သား၊ ဗိုရီယတ်ခေါ် မြောက်လေနတ်သား၊ ဩစတာခေါ် တောင်လေနတ်သားနှင့်ယူးရပ်ခေါ် အရှေ့လေနတ်သားတို့ဖြစ်ကြသည်။



ရေနန်းသူဗောအလှနတ်သမီးအက်ဖရိုဒိုက်တီခေါ် ဗီးနပ်၏ရုပ်တု

အီးအော့သည်လည်း အဆင်မပြေသောချစ်ကိစ္စနှင့်ကြုံခဲ့ရ၏။ အရုဏ်နတ်သမီးသည် တောစောင့်နတ်သမီးပရော့ကရစ်၏ကြင်ယာ၊ ဆက်ဖလပ်အမည်ရှိမုဆိုးကို ချစ်ခင်စွဲလမ်းမိ၍ ထိုမုဆိုးကလည်း အမူအရာနူးညံ့သိမ်မွေ့သူ အီးအော့အား ခင်မင်နှစ်သက်မိ၏။ မုဆိုးတောလိုက်ပြီး၍ အပန်းဖြေသည့်အခါ အီးအော့သည်မုဆိုးအား ချစ်ခင်ယုယစွာပြုစုပြီး ချစ်တင်းဆိုလေ့ရှိသည်။ ပရော့ကရစ်သည် မိမိ၏ကြင်ယာ၏အပြုအမူကို သင်္ကာမကင်းရှိ၍၊ တနေ့တွင်လိုက်၍ချောင်းသော် မုဆိုးနှင့်အရုဏ်နတ်သမီးတို့၏အဖြစ်ကို မြင်တွေ့ရလေ၏။ ထိုအခါစိတ်မချုပ်တည်းနိုင်၍ ပုန်းကွယ်နေရာမှ ထွက်ခွာခဲ့သည်။ ပရော့ကရစ် ချုံဖုတ်ထဲမှပြေးထွက်သံကို သမင်ထင်သောမုဆိုးသည် အမှတ်မဲ့သူ၏ လှံတံနှင့်ပစ်လိုက်လေရာ၊ ပရော့ကရစ်အားထိမှန်သဖြင့် အသက်ကုန်လေသည်။



ပလူတိုနတ်မင်းက ပါဆက်ဖိုနီနတ်သမီးကိုရေပြည်သို့ဆောင်ကြဉ်းနေပုံ

ထိုအခါမှမှဆိုးသည် မိမိသတ်မိသည်ကိုနောင်တရကာ နောက်နောင်အသက်ရှည် သမျှကာလပတ်လုံးမည် သူတဦး တယောက်အားမျှ ချစ်ခြင်းမေတ္တာပေးအပ်တော့မည် မဟုတ်ဘဲ မိမိကြင်ယာအပေါ် ထားရှိသောသစ္စာကို စောင့်စည်းပါတော့မည်ဟု သန္နိဋ္ဌာန်ချလိုက်၏။ ထိုကြောင့် အရုဏ်နတ်သမီးမှာ မိမိချစ်သူဆက်ဖလပ်၏မေတ္တာကို နောက်ထပ်မခံယူရရှာတော့ဘဲ အသဲကွဲမတတ်ချစ်ဒုက္ခခံစားရရှာသည်။

အရုဏ်နတ်သမီးသည် အပေါ်လိုနတ်မင်း၏အစေအပါးတဦးလည်းဖြစ်၏။ ကမ္ဘာသူကမ္ဘာသားတို့အား အလင်းခတ်ပေးရန် အပေါ်လိုနတ်မင်းက နေစကြာရထားဖြင့် အသင့်ရှိသောအခါ အရုဏ်နတ်သမီးက ညဥ့်လွှာရုံတည်းဟူသောကန့်လန့်ကာကို မ တင်ကာ နေစကြာရထားကို လွှတ်သူဖြစ်သည်။

ပန် (ဖေါနပ်)။ ။သိုးကျောင်းသူ၊ ဆိတ်ကျောင်းသူများကို စောင့်ရှောက်သောနတ်ဖြစ်သည်။ ဟားမီး (မာကျူရီ) နတ်မင်းနှင့်သစ်ပင်စောင့်နတ်သမီးတပါးတို့၏ သားတော်ဖြစ်၏။ သို့သော်ရုပ်ရည်ရူပကာမလှရှာချေ။ ထိုပြင် ပြေမှုတ်အလွန်တော်သော်လည်း မည်သည့်တောစောင့်နတ်သား နတ်သမီးကမှ သူ့ပြွေသံကို နားမဆင်လိုကြချေ။ သို့သော်သိုးကျောင်းသား၊ ဆိတ်ကျောင်းသားကလေးများကမူ သူ့ပြွေသံကို နှစ်ခြိုက်မြတ်နိုးကြ၍၊ သူတို့၏ ဆိတ်ကလေး၊ သိုးကလေးများ ပျောက်ဆုံးသည့်အခါ ပန်နတ်ကိုသာ ကူညီမှိုင်းမရန်တိုင်တည်ပသကြ၏။

ကရိုးနပ် (ဆက်တန်)။ ။ဇုနတ်မင်းကြီး၏ခမည်းတော်ဖြစ်၍ တိုင်တန်နတ်မျိုးနွယ်ဖြစ်သည်။

# ဂုဏ်မြောက်လှသောရှေးဂရိတို့၏ဘာသာစာပေ

**ရှေးဂရိဘာသာစကားသည်၊ ကမ္ဘာ့ဘာသာစကားများတွင်၊ စကားလုံးလှပယဉ်ကျေးဆုံး၊ အပြစ်ကင်းဆုံးဖြစ်သည်ဟုယူဆရသည်။ အသံနေ အသံထား လေယူလေသိမ်းတို့မှာ သာယာနာပျော်ဖွယ်ရှိသည်။ ဝေါဟာရကြွယ်ဝသဖြင့် စိတ်တွင်ပေါ်ပေါက်လာသမျှကို တိကျစွာပေါ်ပြနိုင်သည်။ ဤစာမူတွင် ဂရိစာပေသမိုင်းကို ဟိုမား၊ ပလေးတိုး၊ လူရှန်မှစ၍၊ ကော့စထီပလာမတ်အထိပြည့်စုံစွာတင်ပြထားသည်။**

**ဂရိဘာသာနှင့်စာပေ။** ။ဂရိလူမျိုးတို့ပြောဆိုသည့် ဂရိဘာသာစကားစတင်ပေါ်ထွန်းရာဒေသမှာ ဒန်ညူမြစ်ဝှမ်း၏မြေပြန့်ဒေသများနှင့်ပေါ်လကန် တောင်ကြားဒေသများတို့ဖြစ်သည်။ ယင်းဘာသာစကားသည် အင်ဒိုယူရိုပီယန်ဘာသာစကားပင်မကြီး၏ အခက်အလက်တခုဖြစ်၏။ လက်တင်၊ သက္ကတနှင့် တျူတန်ဘာသာစကား တို့နှင့်နွယ်သည်။ (ဘာသာစကားပညာရပ် — လည်းရှု။)

ရှေးဂရိဘာသာစကား၏ အသံနေအသံထား လေယူလေသိမ်းတို့မှာ သာယာနာပျော်ဖွယ်ရှိ၍၊ ကမ္ဘာ့ဘာသာစကားများထဲတွင် စကားလုံးလှပယဉ်ကျေးဆုံး၊ အပြစ်ကင်းဆုံးဖြစ်သည်ဟုယူဆကြ၏။ ဝေါဟာရစကားလုံး ပေါများကြွယ်ဝသဖြင့် လူတဦးတယောက်၏စိတ်ထဲပေါ်ပေါက်လာသမျှတို့ကို တိကျသေချာစွာပေါ်ပြနိုင်သော ဘာသာစကားလည်းဖြစ်သည်။

ပထဝီဝင်အနေအထားအရ ရှေးဂရိပြည်နယ်များမှာ တဒေသနှင့် တဒေသတောင်တန်းကြီးများကာဆီးနေသဖြင့် တနယ်နှင့်တနယ် ကူးလူးဆက်ဆံမှုနည်းပါးခဲ့ကြ၏။ ထိုကြောင့်ဘာသာစကားမှာလည်း ဒေသလိုက်၍ ကွဲပြားခြားနားသည်။ သို့သော် တဒေသမှစကားကို အခြားဒေသတခုတွင်နားမလည်နိုင်လောက်အောင်မကွဲပြားချေ။

ရှေးဂရိဘာသာမှာ အသံကွဲ စကားများကို ဒေါရစ်၊ အီးဩလစ်နှင့်အိုင်အွန်းနစ်ဟူ၍ ၃ ပိုင်း၊ ၃ စုပိုင်းခြားထား

နိုင်သည်။ ဘီစီ ၄၀၀ ပြည့်နှစ်လောက်တွင် အိုင်အွန်းနစ်ဘာသာစကားအုပ်စုထဲမှဖြစ်သော အက်တစ် ဘာသာစကားသည် အခြားဘာသာစကားများအပေါ် လွှမ်းမိုးလာ၍ ထိုအက်တစ်ဘာသာစကားပေါ် အခြေခံထားသော အများသုံးဂရိဘာသာစကားတမျိုးသည် ဂရိပိုင် ကိုလိုနီနယ်များနှင့်မက်ဆိုပိုတေးမီးယား၊ ဆီးရီးယား၊ အီဂျစ်စသည်တို့သို့တိုင်အောင်ပျံ့နှံ့ခဲ့၏။ ဂရိစာဆိုပညာရှိကြီး ဟိုးမား ရေးသားခဲ့သော ကဗျာလင်္ကာတို့မှာ အိုင်အွန်းနစ်ဘာသာစကားဖြင့်သာရေးသားခဲ့သည်။ ဟိုးမားသည် ဒေသအလိုက်သုံးသော ဓီည်သည့်ဘာသာစကားကိုမျှ အသုံးမပြုခဲ့ပေ။ (ဟိုးမား — ရှု။) နောင်အခါ ဂရိစာပေပညာရှိကြီးများသည်လည်း အက်တစ်ဘာသာစကားကိုသာ ရေးသားအသုံးပြုကြရာ၊ ယင်းဘာသာစကားသည် စံထားရသော ရှေးဂရိဘာသာစကားဖြစ်လာခဲ့လေသည်။

ဘာသာစကားဆိုင်ရာ ပညာရပ်ကို လေ့လာလိုက်စားသူတို့အတွက် ဂရိဘာသာစကားသည် အလွန်စိတ်ပါဝင်စားဖွယ်ကောင်း၏။ အဘယ်ကြောင့်ဆိုသော် အချို့သောဘာသာစကားများမှ စကားလုံးများမှာ ဂရိစကားလုံးများကို ယူသုံးထားသည်ကို တွေ့ရသောကြောင့် ဖြစ်ပေသည်။ အင်္ဂလိပ်ဘာသာတွင် ဗိုင်ဩလိုဂျီ၊ အီလက်ထရစ်စီတီ၊ ဖစ်ဆစ်စသည့်စကားလုံးများမှာ ဂရိစကားလုံးများဖြစ်ကြ၏။

ယခုခေတ်ဂရိတို့သည် အက္ခရာတို့ကို ရှေးမူအတိုင်း လက်ခံသုံးစွဲကြသော်လည်း ပြောဆိုသည့်ဘာသာစကားတွင်မူ သဒ္ဒါဥ္ဒရင်း၊ အသံနေ အသံထွက်တို့ဥ္ဒရင်း အပြောင်းအလဲများရှိခဲ့ကြသည်။ ယခုခေတ် ဂရိဘာသာစကားမှာ အေဒီ ၈၀၀ ပြည့်နှစ်လောက်ကမှ စတင်သုံးစွဲခဲ့ကြ၏။ ယခုခေတ် ဂရိဘာသာစကားတွင် အခြားဘာသာစကားများမှ စကားလုံးအတော်များများပါဝင်နေသည့်အပြင်၊ အသံများလည်းများစွာပြောင်းလဲခဲ့ပေသည်။ သို့ရာတွင် ကြား၌ အနှစ် ၁၀၀၀ ခန့်ကွာခဲ့သည်ကို ထောက်ရှုသော် အလွန်အမင်းပြောင်းလဲသွားသည်ဟု မဆိုသာချေ။

၁၄၅၃ ခုနှစ်တွင် ကွန်စတန်တီနိုပယ်မြို့တော်ကြီး ကျဆုံးသောအခါ ဂရိစာပေပညာရှင်တို့သည် ဣတလီပြည်သို့ထွက်ပြေးကြရ၏။ သူတို့၏ကျေးဇူးကြောင့် ဣတာလျံစာပေပညာရှင်များသည် ဂရိဘာသာကိုပြန်လည်လေ့လာလိုက်စားခဲ့ကြသဖြင့် ဂရိဘာသာ၏အရသာကိုသိလာကြ၏။ ထိုကြောင့်လည်း ဉာဏ်သစ်အရေးပုံပေါ် ပေါက်ခဲ့ခြင်းပင်ဖြစ်၏။ (ဉာဏ်သစ်အရေးပုံ — ရှု။)

ဂရိစာပေ။ ။ဥရောပတိုက်တွင် ဂရိယဉ်ကျေးမှုမပေါ်ပေါက်မီက ကျကျနနရေးသားထားသည့်စာပေဟူ၍ မရှိခဲ့သေးချေ။ ဂရိလူမျိုးတို့သည် လွတ်လပ်သောလူမျိုးအဖြစ်ဖြင့် အေးချမ်းသာယာသောဒေသတွင်နေထိုင်ခဲ့ကြ၍ ထက်



ဂရိအလွမ်း ပြဇာတ် တခုမှ အခန်းတခန်းကိုဇာတ်ခုံပေါ်၌ တွေ့မြင်ရပုံ



ဂရိစစ်သည်တော်များကို မော်ကွန်းတင်သောကဗျာရှင် ပင်းဒါး

မြက်သောဉာဏ်ပညာနှင့်ပြည့်စုံကြသူများဖြစ်သည်။ စိတ်ကူးကောင်းမွန်ကြသည်။ ထို့ကြောင့် သူတို့၏စိတ်အာရုံထဲတွင်ပေါ်ပေါက်ခဲ့သမျှကို ကဗျာလင်္ကာအဖြစ် နှုတ်တိုက်ဖွဲ့နွဲ့သီကုံးနိုင်ကြသည်။ ထိုသည်မှတဆင့် တဖြည်းဖြည်း ကဗျာကို စာပေအနေနှင့် ရေးသားစီကုံးသည့် အခြေအနေသို့ရောက်ခဲ့ကြသည်။ ဂရိတို့ရေးသားပြုစုခဲ့သည့်ပုံပြင်များ၊ ကဗျာလင်္ကာများ၊ ပြဇာတ်များနှင့်အခြားစာပေများထက် အဆင့်အတန်း သာလွန်သော စာပေမျိုးကမ္ဘာတွင် ရှာမှရှားလှ၏။ စာပေအမျိုးအစားမှာလည်း အမျိုးစုံဖြစ်၏။ ဖွဲ့နွဲ့သီကုံး ပုံမှာလည်း လှပယဉ်ကျေးလှ၏။ သူတို့၏အရေးအသား ဟန်နေဟန်ထားတို့ကို နှောင်းလူများကပင်စံထားနည်းယူကြရပေသည်။ ထို့ပြင် ရှေးဂရိစာပေများ၏နှစ်လိုဖွယ်အချက်မှာ အကြောင်းအရာဖွဲ့နွဲ့ပုံကောင်းခြင်း၊ ရိုးရိုး ရှင်းရှင်းရေးသားထားခြင်းနှင့် ဆန်းသစ်ခြင်းတို့ဖြစ်ပေသည်။

ရှေးဂရိစာပေကို ခေတ် ၅ ခေတ်ပိုင်းခြားထားသည်။ ထိုခေတ်များမှာ အက်ပစ် ကဗျာခေတ်၊ လစ်ရစ် ကဗျာခေတ်၊ အက်တစ် ခေတ်၊ အယ်လက်ဇန္ဒြီးယန်းခေတ်နှင့် ဂရိကိုရိုမန်ခေတ်တို့ဖြစ်ကြ၏။ အက်ပစ် ကဗျာခေတ်မှာ ဘီစီ ၇ ရာစုနှစ်မှ ၆ ရာစုနှစ်အထိထွန်းကားခဲ့သည်။ ထိုခေတ်တွင် ထင်ရှားခဲ့သောကဗျာစာဆိုရှင်ကြီး ၂ ဦးမှာ ဟိုးမားနှင့်ဟီးဆီယော့တို့ဖြစ်ကြ၏။ ဂရိစာပေသည် နှုတ်ဖြင့်သီဆိုရသောလင်္ကာများမှစတင်ခဲ့၏။ ထိုလင်္ကာများမှာ အာဇာနည်သူရဲကောင်းများနှင့် စွန့်စားသူတို့၏အကြောင်းကိုစပ်ဆိုထားသော လင်္ကာများဖြစ်၍၊ စားပွဲသောက်ပွဲ၊ ပျော်ရွှင်ပွဲကြီးများတွင် ရွတ်ဆိုကြရ၏။ ယင်းကဗျာလင်္ကာကြီးများစွာမှာ ပျောက်ဆုံးသွားခဲ့ရာ 'အော့ဒီဆီ' နှင့် 'အစ်လယက်' အမည်ရှိလင်္ကာကြီးနှစ်ပုဒ်သာကျန်ရှိခဲ့သည်။ ထိုလင်္ကာကြီးနှစ်ပုဒ်ကိုဖွဲ့ဆိုသူမှာ ဂရိစာဆိုကျော်ကြီး ဟိုးမားဖြစ်၏။

'အစ်လယက်' ကဗျာကြီးမှာ ထရွိုင်းမြို့တော်ကြီးကိုဝန်းရံတိုက်ခဲ့စဉ်က ပါဝင်ခဲ့သော ဂရိအာဇာနည်သူရဲကောင်းအကီးလီး၏အကြောင်းနှင့်ဂရိနှင့်ထရိုဂျန်လူမျိုးများ တိုက်ခိုက်ကြပုံကိုဖွဲ့ဆိုသီကုံးထားခြင်းဖြစ်၏။ 'အော့ဒီဆီ' ကဗျာကြီးမှာမူ ထရွိုင်းမြို့တော်ကြီးမှ အက်တစ်ကာမြို့တော်ကြီးသို့သွားရောက်ရာ ခရီးလမ်းတလျှောက်တွင် ယူလီဆီခေါ် အိုဒီဆယု စွန့်စားတိုက်ခိုက်ခဲ့ရပုံများကို သီကုံးဖွဲ့နွဲ့ထားခြင်းဖြစ်လေသည်။

ဟီးဆီယော့စာဆိုပညာရှိမှာ ဘီစီ ၇ ရာစု သို့မဟုတ် ၈ ရာစုနှစ်လောက်တွင် ပေါ်ထွန်းခဲ့၏။ ထိုပုဂ္ဂိုလ်ကြီး၏ထင်ရှားသောကဗျာတို့မှာ လယ်ယာထွန်ယက်စိုက်ပျိုးခြင်းနှင့်သက်ဆိုင်သော 'အလုပ်နှင့်နေ့ရက်များ' ကဗျာနှင့် ကမ္ဘာကြီးစတင်ဖြစ်ပေါ်လာသည့်ပုံကို မှန်းဆဖွဲ့ဆိုထားသော 'သီယိုဂိုနီ' ခေါ် ကဗျာတို့ဖြစ်ကြ၏။

•ထိုခေတ်၏နောက်တွင် လစ်ရစ်ကဗျာခေတ်ပေါ်ပေါက်လာ၍၊ ဘီစီ ၇ ရာစုနှစ်၊ ၆ ရာစုနှစ်နှင့် ၅ ရာစုနှစ်တပိုင်းမှာ ထိုခေတ်တွင်အကျုံးဝင်ခဲ့သည်။ ထိုခေတ်တွင် စောင်းတူရိယာတမျိုးပေါ်ပေါက်လာခဲ့ရာ ထိုတူရိယာနှင့်တီးမှုတ်သီဆိုရန် တေးကဗျာများကိုစပ်ဆိုလာကြ၏။ ယင်းတေးကဗျာများစပ်ဆိုရာ၌ ထင်ရှားသောစာဆိုပညာရှင်များမှာ အဲဆီးယပ်၊ အဲ့ကမန်၊ အစ်ဗီကပ်၊ ဆက်ဖိုစသည့် ပညာရှင်တို့ဖြစ်ကြ၏။ ထိုအထဲတွင် ဆက်ဖိုမှာ ဂရိအမျိုးသမီးများထဲမှ ပဌမဆုံး ထင်ရှားသော ကဗျာစာဆိုရှင်ဖြစ်ပေသည်။ ဂရိတို့သည် တေးကဗျာများကို စကားလုံးရိုးရိုး ရှင်းရှင်းနှင့် သဘာဝကျကျ ရေးစပ်ထားသည်။ အကြောင်းဆိုသော် ထိုတေးကဗျာမျိုးမှာ သီဆိုသွားသည့်အခါ နားဆင်ရသူ၌ အဓိပ္ပါယ်လွယ်လွယ်ရှင်းရှင်းနှင့် နားအရသာခံနိုင်မှသာလျှင် တေးကဗျာကောင်းပီသသောကြောင့်ဖြစ်သည်။

ထိုခေတ်၏နောက်ပိုင်းတွင် ပေါ်ပေါက်သော ပင်းဒါးအမည်ရှိ ကဗျာစဆိုအကျော်အမော်ကြီးကား ဂရိပျော်ပွဲရွှင်ပွဲကြီးများတွင် အောင်ပွဲရသူများကိုခြီးပင့်သီဆိုရန်

လေးနက်ခန့်ညားလှသောမော်ကွန်းကဗျာကြီးများကို ရေးစပ်သီကုံးခဲ့သဖြင့်ထင်ရှားခဲ့ပေသည်။ ပင်းဒါး၏ကဗျာကြီးများကိုရေးသားပုံမှာ ပဌမတွင် မြို့တော်ကြီးနှင့်အောင်ပွဲရသူတို့ကိုခြီးပင့်ဖွဲ့နွဲ့ သီကုံးပြီးနောက် မြို့တော် သို့မဟုတ်နိုင်ငံတော်သားတို့နှင့် စပ်ဆိုင်သောဂရိထုံးဟောင်းပုံပြင်တခုခုကို ထည့်သွင်းစပ်ဆိုခြင်းပင်ဖြစ်၏။

ဂရိနိုင်ငံတော်၏ယဉ်ကျေးမှုသမိုင်းတွင် အထွန်းပြောင်ဆုံးခေတ်သည်ကား အက်တစ်ခေတ်ဖြစ်၍ ဘီစီ ၅ ရာစုနှစ်နှင့် ၄ ရာစုနှစ်လောက်တွင် ထွန်းကားခဲ့သည်။ ထိုခေတ်တွင် ပြဇာတ်များခေတ်စားခဲ့သည်။ ပြဇာတ်တို့ကို ကဗျာဖြင့်စီကုံးဖွဲ့နွဲ့ခြင်းကြောင့် ကဗျာ၏အဆင့်အတန်းသည် တိုးတက်လာခဲ့သည်။

ပြဇာတ်များမှာ အက်သင်းမြို့တော်တွင် နွေဦးရာသီ၌ ဒိုင်အိုနိုင်းဆပ်နတ်မင်းအား ပူဇော်ပသပွဲများကျင်းပခဲ့ရာမှ စတင်ခဲ့ခြင်းဖြစ်၏။ ထိုပွဲတော်တွင် ဆိတ်ရေများဝတ်ဆင်ထားသူတစုသည် ယိမ်းသားများပမာ သီချင်းတပုဒ်ကို သံပြိုင်သီဆိုပြီးနောက် နတ်မင်း၏နတ်စင်ကို ပတ်လည်ဝိုင်း၍ကကြရ၏။ ထိုနောက်မှ ယိမ်းခေါင်းဆောင်က နတ်မင်း၏အကြောင်းလင်္ကာတပုဒ်ကိုရွတ်ဆိုပြရသည်။ (ဂရိနတ်များ — ရှု။) ထိုနောက်တွင်မူ ဂရိတို့၏ဉာဏ်စွမ်းရည်ဖြင့် လင်္ကာရွတ်သည့်နေရာတွင် လင်္ကာမရွတ်စေဘဲ စကားပြောစေခြင်းဖြင့်ပုံပြင်ပေးကာ ဂရိအလွမ်းပြဇာတ်ကိုစတင်ဖန်တီးခဲ့လေသည်။

ဂရိအလွမ်းပြဇာတ်ကို ပဌမဆုံးစတင်ခဲ့သူမှာ အက်စကိလပ်ဖြစ်သည်။ ထိုပုဂ္ဂိုလ်ကြီးသည် ယိမ်းခေါင်းဆောင်တဦးတည်း လင်္ကာရွတ်ရသည့်နေရာတွင် ဇာတ်ကောင် ၂ ဦးအပြန်အလှန်စကားပြောခန်းကို ဖန်တီးထည့်သွင်းပေးခဲ့၏။ ထိုပြင် ပြကွက်တခန်းထဲမဟုတ်တော့ဘဲ အခန်းခွဲပြစေ၏။ ယင်းသို့ဖြင့် နောင်အခါတွင် စာဆိုရှင်များက ပွဲတော်ကပွဲများကို ပြဇာတ်သဘောအတိုင်းရေးသားလာကြတော့သည်။ အက်စကိလပ်၏ ဇာတ်ကောင်များမှာ ဟန်အမူအရာ သရုပ်မပါလှချေ။ သို့သော်နောင်အခါတွင် ဇာတ်ကောင်များ၏ ဟန်အမူအရာကို အသားပေး၍ ရေးသားဖွဲ့နွဲ့လာကြ၏။ ဆောဖကလီ၏ပြဇာတ်များတွင် ဇာတ်ကောင်များမှာ ဟန်အမူအရာ ပါလာသော်လည်း သဘာဝကျရမည်ထက်ပိုလွန်နေ၏။ အခြားစာဆိုရှင်တဦးဖြစ်သူ ယူရစ်ပီးဒီး၏ပြဇာတ်များတွင်ကား ပြဇာတ်အဆင့်အတန်းမှာ တလှမ်းတိုးလာခဲ့သည်။ ယူရစ်ပီးဒီး၏ပြဇာတ်များမှာ ပွဲရှုသူပရိတ်သတ်အား အလွမ်းချည်းကြည့်ကာ ငြီးငွေ့ခြင်းမဖြစ် ရလေအောင် လွမ်းခန်းပေါ်၍ အတော်အသင့်လွမ်းစေပြီး လျှင်စိတ်လက် ပေါ့ပါးသက် သာရာရစေသော တေးကဗျာသီဆိုသည့်အခန်းမျိုးကို ရှိတ်စပီးယား၏ပြဇာတ်များကဲ့သို့ ကြားချပ်ထည့်ပေးလေသည်။ (အက်စကိလပ်၊ ဆောဖကလီ၊ ယူရစ်ပီးဒီး — ရှု။)

ပြဇာတ်များ၏ဇာတ်သွားမှာ ချမ်းသာခြင်းတွေ့ရပြီးလျှင် မာနတက်ခြင်းကြောင့် ဆင်းရဲခြင်းနှင့်ကြုံကြိုက်ကြရကာ နောက်ဆုံးတွင်ပျက်စီးခြင်းသို့ ရောက်ကြရသည်ဟူသောမှုကို လက်ကိုင်ထားကြသည်။ ယခုခေတ်ပြဇာတ်နှင့်ဂရိပြဇာတ်များကွာခြားချက်မှာ ဂရိပြဇာတ်များ၏ဇာတ်လမ်းသည် လူအများသိပြီးသော ဂရိထုံးဟောင်းပုံပြင်မှဝတ္ထုသွားကိုဇာတ်အိမ်ဖွဲ့ကာ ကပြကြခြင်းဖြစ်သည်။ ဂရိတို့သည် အကြမ်းအတမ်းပြုရသည့်အခန်း၊ သေကြေပျက်စီးသည့်

ဟိုးမား၏လင်္ကာများရွတ်ဖတ်သည်ကိုနားသောတဆင်နေကြသူများ



အခန်းမျိုးကိုပြသခြင်းမပြုဘဲ ယင်းသည့်အခန်းမျိုးကိုကျေညာခြင်းဖြင့်သာ ပရိသတ်အားသိရှိစေသည်။

အသောပြဇာတ်များမှာ အလွမ်းပြဇာတ်များနောက်မှ ပေါ်ပေါက်ခဲ့၍ ယင်းတို့သည်လည်း စက်တင်ဘာလ ကောက်သိမ်းပွဲတွင် ဆိုင်ရာနတ်မင်းအား ပူဇော်ပွဲမှ စတင်ခဲ့ခြင်းဖြစ်၏။ ယင်းသည့်ပြဇာတ်များတွင်ကား သီချင်းများသည်၎င်း၊ ပြောဆိုကြသည့်စကားများသည်၎င်း၊ စိတ်လက်ပေါ့ပါးပျော်ရွှင်ဖွယ်ရာများသာဖြစ်၏။ ထင်ရှားသောအသောပြဇာတ်ရေးပုဂ္ဂိုလ်ကြီးမှာ အယ်ရစ္စတောဖနီးဖြစ်သည်။ ထိုပုဂ္ဂိုလ်ကြီး၏ပြဇာတ်များမှာ ထိုခေတ်ကပေါင်းသင်းဆက်ဆံရေးနှင့် နိုင်ငံရေးတို့ကို သရော်လှောင်ပြောင်ထားသော ပြဇာတ်များဖြစ်ကြ၏။ ယင်းသည်ပင် ထိုခေတ်အသောပြဇာတ်များ၏ရည်ရွယ်ချက်ဖြစ်လေတော့သည်။ (အယ်ရစ္စတောဖနီး — ရှု။)

ထိုခေတ်တွင် စကားပြေစာပေများလည်း ပေါ်ပေါက်ခဲ့၏။ စကားပြေသည်လည်း ကဗျာလင်္ကာပြဇာတ်များနှင့်တပြေးတည်းလိုက်နိုင်အောင် အဆင့်အတန်းမြင့်သောစာပေများဖြစ်ကြသည်။ စကားပြေနှင့်ရေးသားထားသောစာပေများမှာ နိုင်ငံသမိုင်း၊ ယထာဘူတပညာ၊ စကားပြောကောင်းအတတ်ဆိုင်ရာစာပေများဖြစ်ကြ၏။ ထိုခေတ်တွင် ထင်ရှားသောကျမ်းပြုပုဂ္ဂိုလ်တဦးမှာ ဟီရော့ဒိုးတပ်ဖြစ်၍၊ တခါတရံ ထိုပုဂ္ဂိုလ်ကြီးအား နိုင်ငံသမိုင်း၏ဖခင်ကြီးဟုခေါ်ဆိုကြသည်။ အကြောင်းမူကား နိုင်ငံသမိုင်းဟူသောအမည်တပ်ကာ စာပေတမျိုးကိုပဌမဆုံးရေးသားပြုစုခဲ့သူဖြစ်သောကြောင့်ပေတည်း။ ထိုပုဂ္ဂိုလ်ကြီးသည် ဂရိနှင့်ပါးရှင်းတို့ဖြစ်ပွားခဲ့သောစစ်ပွဲများ၏အကြောင်းကို မှတ်တမ်းတင်ခဲ့သူလည်းဖြစ်၏။

နိုင်ငံသမိုင်းကို တိကျမှန်ကန်သောစူးစမ်းနည်း၊ ချင့်ချိန်ဝေဖန်နည်းတို့ဖြင့် ပြုစုရေးသားခဲ့သူမှာ သူဆစ်ဒီးဒီးအမည်ရှိ ကဝိကြီးတဆူဖြစ်ပေသည်။ ထိုပုဂ္ဂိုလ်ကြီးသည် ပယ်လိုပွန်နီးရှန်းစစ်ပွဲများ၌ စစ်ဗိုလ်ချုပ်ကြီးတဦးအဖြစ်နှင့် ကိုယ်တိုင်ပါဝင်တိုက်ခိုက်ခဲ့ရလင့်ကစား၊ ထိုစစ်ပွဲကြီးများအကြောင်းမှတ်တမ်းတင်ရာ၌ သူ့ဖက်ကိုယ့်ဖက်မလိုက်ဘဲ၊ အမှန်အတိုင်းတိကျစွာ ဖြစ်နိုင်သမျှဖြစ်အောင် ရေးသားခဲ့ပေ၏။ (သူဆစ်ဒီးဒီး — ရှု။)

ဇင်းနဖန် အမည်ရှိ အက်သင်းစစ်ဗိုလ်ချုပ်ကြီးတဦးကလည်း သူဆစ်ဒီးဒီး၏ပယ်လိုပွန်နီးရှန်းစစ်ပွဲသမိုင်းကြီးကို နောက်ဆက်တွဲရေးသားပြုစုခဲ့သေးသည်။ ထိုသမိုင်းကြီးမှာလည်း ထင်ရှားကျော်ကြား၍ မှိုင်းမြိုင်းပြုလောက်သောစာပေတရပ်ဖြစ်ပေသည်။ (ဇင်းနဖန် — ရှု။)

ထိုခေတ်တွင် စကားပြောကောင်းသူများလည်းထွန်းကားခဲ့၏။ယင်းတို့မှာ အိုင်ဆော့ကရတီး၊ လစ်ဆယတ်နှင့် ဒီမော့စသီးနီးတို့ဖြစ်ကြရာ ဒီမော့စသီးနီးမှာ အထင်ရှားအကျော်ကြားဆုံးဖြစ်၍၊ ဂရိဘာသာစကားပြေအရေးအသားတွင်လည်း အကျော်အမော်တဦးဖြစ်လေသည်။ (ဒီမော့စသီးနီး — ရှု။)

ပလေးတိုးသည် စကားပြေအရေးအသားတွင် အကျော်အမော်ဖြစ်သော ယထာဘူတ ကဝိကြီးတဆူဖြစ်၏။

စောင်းကိုအာရုံစိုက်နေသောဂရိအမျိုးသမီးစာဆိုဆက်ဖို





အက်ပစ်ကဗျာခေတ်တွင်ထင်ရှားခဲ့သော ဂရိစာဆိုကျော်ဟိုးမား

ထိုပုဂ္ဂိုလ်ကြီးသည် စုံတွဲအပြန်အလှန်စကားပြောဆိုပုံမျိုးကိုရေးသားလေ့ရှိသည်။ သူ့ဆရာ ယထာဘူတကဝိကြီးတဆူဖြစ်သော ဆိုကရေတီးနှင့် ယထာဘူတဆိုင်ရာ အယူအဆအတွေးအခေါ်တို့ကို ဆွေးနွေးနေဟန်နေ့စဉ်သုံးစကားလုံးရိုးရိုးများကိုသုံးကာ အဓိပ္ပါယ်ရှင်းရှင်းရေးသားထားခဲ့၏။ (ပလေးတိုး၊ ဆိုကရေတီး — ရှု။)

ပလေးတိုး၏တပည့်တဦးဖြစ်သော အယ်ရစ္စတိုတယ်ကမူ ယထာဘူတပညာကို တိကျမှန်ကန်သော စူးစမ်းနည်း၊ ချင့်ချိန်ဝေဖန်နည်းတို့ဖြင့် ညီညွတ်အောင်ဆောင်ရွက်ခဲ့သည်။ သူ၏သဘောတရားများကို တက္ကဗေဒနည်းအရနှင့် စံနစ်တကျ ထုတ်ဖေါ်ခဲ့လေသည်။ သူ၏စာပေများထဲတွင် ဂရိယဉ်ကျေးမှုပညာ၊ ယထာဘူတပညာ၊ ရူပဗေဒ၊ ဗိုင်ဩလိုဂျီ၊ နိုင်ငံရေး၊ စိတ္တဗေဒစသည်တို့သည် အကျုံးဝင်လျက်ရှိ၏။ အယ်ရစ္စတိုတယ်သည်ပညာရပ်တိုင်းမှအမှန်သဘောတရားကိုရရှိအောင် စူးစမ်းရှာဖွေခဲ့လေသည်။ (အယ်ရစ္စတိုတယ် — ရှု။)

ဘီစီ ၃ ရာစုမှ ၁၄၆ ခုနှစ်အထိဖြစ်သော အယ်လက်ဇန္ဒြီးယန်းခေတ်တွင် စာပေပညာရှင်များနှင့်စာပေအကဲဖြတ်သမားတို့ပေါ်ထွန်းခဲ့၏။ သို့သော် ဂရိမြို့တော် အက်သင်းမှာ စာပေနှင့်သုခုမပညာရပ်များဖက်တွင် ဦးဆောင်နိုင်သောဒေသမဟုတ်တော့ချေ။ အယ်လက်ဇန္ဒာ–သ–ဂရိတ်ဘုရင်မင်းမြတ်၏စွမ်းရည်ကြောင့် ဂရိလက်နက်နိုင်ငံတော်ကြီးမှာကျယ်ပြန့်ခဲ့လေရာ၊ ဂရိယဉ်ကျေးမှုမှာ မြေထဲပင်လယ်ဒေသတဝိုက်တိုင်အောင် ပျံ့နှံ့ခဲ့လေ၏။ ထိုခေတ်၌ ခေတ်တခေတ်ဟုတွင်လောက်အောင် လျှမ်းလျှမ်းတောက်ကောင်းမွန်လှသောစာပေမျိုး ကားမပေါ် ပေါက်ခဲ့ပေ။ သို့သော် ကဗျာစာဆိုများ၊ နိုင်ငံသမိုင်းပြုပုဂ္ဂိုလ်များနှင့် ယထာဘူတပညာရှင်များကား စာပေများပြုစုရေးသားလျက်ပင်ရှိခဲ့ကြ၍၊ သူတို့၏စာပေအဆင့်အတန်းမှာ အတော်အသင့်ကောင်းမွန်ခဲ့သည်။ သီအောကရစ်တပ်အမည်ရှိကဗျာရှင်တဦးသည် တောဘွဲ့ကဗျာတမျိုးကို တီထွင်ခဲ့၏။ ထိုကဗျာမှာ အမေးအဖြေပြုလုပ်ဟန်ဖြင့်ရေးသားထားပြီး၊ အပျင်းပြေဖြေဖျော်ရန်အတွက်သာ ရေးစပ်ထားခြင်းဖြစ်၍ နက်နဲသောစာပေမျိုးမဟုတ်ချေ။ မိနန်ဒါအမည်ရှိပြဇာတ်ရေးဆရာတဦးကမူ၊ လူတို့၏မိုက်မဲတွေဝေမှုကိုသရုပ်ဖေါ်ပြသော အသောပြဇာတ်များကိုရေးသားပြုစုခဲ့လေသည်။ ဂရိနိုင်ငံကို ရောမလူမျိုးတို့သိမ်းပိုက်ပြီးသည်မှ အေဒီ ၅၂၆ ခုနှစ်အထိဖြစ်သော ဂရိကိုရိုမန်ခေတ်တွင် နိုင်ငံရေး၌ရောမတို့ကစိုးမိုးနေသည်မှန်သော်လည်း ယဉ်ကျေးမှုကို ဂရိတို့ကသာခေါင်းဆောင်ခြယ်လှယ်ခဲ့ကြ၏။ အယ်လက်ဇန္ဒြီးယားမြို့တော်မှာ ဂရိယဉ်ကျေးမှု၏ဗဟိုဌာနဖြစ်ခဲ့လေသည်။ ဘီစီ ၂ ရာစုနှစ်လောက်တွင် ရောမမြို့တော်မှာ ဂရိယဉ်ကျေးမှုဗဟိုဌာနဖြစ်လာပြန်သည်။ အကောင်းဆုံးသောနိုင်ငံသမိုင်းတစောင်ဖြစ်သည့်ကားသေ့စ်ပွဲများအကြောင်းပြုစုရေးသားခဲ့သူ ပေါ်လစ်ဗိုင်းယပ်မှာ ရောမမြို့တော်၌သာအနေများခဲ့သောဂရိပညာရှင်တဦးဖြစ်ခဲ့၏။ ထင်ရှားသောနိုင်ငံသမိုင်းပြုပုဂ္ဂိုလ်ကြီးများထဲတွင် နောက်ဆုံးပေါ်ထွန်းခဲ့သူမှာ ပလူးတပ်ဖြစ်၍၊ အေဒီ ၁ ရာစုနှင့် ၂ ရာစုအတွင်း၌ပေါ် ပေါက်ခဲ့သည်။ ထိုပုဂ္ဂိုလ်ကြီးကား ထင်ရှားသောဂရိနှင့်ရောမပုဂ္ဂိုလ်ကျော်များ၏ အတ္ထုပ္ပတ္တိများကို မှတ်တမ်းတင်ခဲ့သူဖြစ်သည်။ ပလူးတပ်သည် အတ္ထုပ္ပတ္တိရှင်ပုဂ္ဂိုလ်ကြီးများကို ကွက်ကွက်ကွင်းကွင်းထင်မြင်လာအောင် စာပန်းချီခြယ်နိုင်စွမ်းရှိခဲ့၏။ (ပလူးတပ် — ရှု။) ၁ ရာစုအတွင်း၌ပေါ်ထွန်းခဲ့သော

လူရွှန်အမည်ရှိပညာရှိကြီးတဦးကမူ၊ စာပြောင်စာ ရွှဲနှင့်စိတ်ကူးယဉ်စာပေများကို ပြုစုရေးသားခဲ့သည်။

ထိုခေတ်အတွင်းပေါ်ပေါက်ခဲ့သည့် အခြားစာပေတမျိုးမှာ နှစ်လိုဖွယ်ကောင်းသောကဗျာတိုကလေးများဖြစ်ပေသည်။ ဂရိကိုရိုမန်ခေတ်ကုန်ဆုံးချိန်တွင် ဗိုင်ဇင်းရှမ် (ကွန်ဿတန်တီနိုပယ်) မြို့တော်ကြီးမှာ အရှေ့ဖက်တွင်ဂရိယဉ်ကျေးမှုထွန်းကားရာမြို့တော်ကြီးဖြစ်ခဲ့သည်။ ထိုခေတ်က စာပေဖက်တွင် ကျမ်းပေါင်းမြောက်မြားစွာ ထွက်ခဲ့သော်လည်း ဘာသာရေး၊ နိုင်ငံသမိုင်းဆိုင်ရာစာပေများသာဖြစ်၍၊ ပင်ကိုယ်ဉာဏ်ဖြင့် ပြုစုသည့် စာပေမျိုးမပေါ်ထွက်ခဲ့ပေ။

ကွန်စတန်တီနိုပယ်မြို့တော်ကြီးကျဆုံးသည့် ၁၄၅၃ ခုနှစ်နှင့်ဂရိလူမျိုးတို့ပြန်လည်ခေါင်းထောင်နိုင်ခဲ့သော ၁၈၂၁ ခုနှစ်အကြားတွင် ဂရိစာပေ ၂ မျိုး ၂ စားပေါ်ပေါက်ခဲ့၏။ ပဌမအမျိုးမှာ ရေးမူဟောင်းအတိုင်းလိုက်ကာ ယဉ်ခန့်သန့်သောစာပေမျိုးဖြစ်၏။ ဒုတိယအမျိုးမှာ တိုးတက်လာသည့် ခေတ်နှင့်လိုက်လျောညီစွာ သုံးနှုန်းနိုင်စေရန် ပြုပြင်ထားသော အများသုံး ရှိမေအစ်ခေါ် ဒီမိုတစ်စာပေမျိုးဖြစ်လေသည်။

ခေတ်သစ်ဂရိနိုင်ငံတွင် ထိုစာပေ ၂ မျိုး ၂ စားအနက် တမျိုးမျိုးကိုနိုင်ငံသုံးဘာသာဖြစ်အောင် အကျိတ်အနယ်ကြိုးစားခဲ့ကြရာ၊ ရှုန်းရင်းဆန်ခတ် မှုများပင်ဖြစ်ပွားခဲ့ရ၏။ ထိုခေတ်ဟောင်းနှင့် ခေတ်သစ်စာပေအုံကြွလှုပ်ရှားမှုများအနက် ဆိချာရီလှုပ်ရှားမှုမှာ ထင်ရှားခဲ့သည်။ ဂျအင်းဆိချာရီ (ခရစ် ၁၇၅၄–၁၈၂၈) သည် စာပေတော်လှန်ရေးသမားတဦးဖြစ်ခဲ့သည်။ ၁၈၈၈ ခုနှစ်တွင် 'ကျွန်ုပ်၏ခရီးစဉ်' ဟူသော ဝတ္ထုတပုဒ်ကို ဒီမိုတစ်စာဇေဖြင့် ရေးသားကာ ဂရိစာပေသမိုင်းတွင် တလှမ်းတိုးစေခဲ့သည်။ သူနှင့်ရှေးဟောင်းစာပေအရေးအသားတော်လှန်ဖက်များမှာ ဓမ္မသစ်ကျမ်းနှင့်အီလယက်တို့ကို ဒီမိုတစ်ဂရိဘာသာသို့ပြန်ဆိုခဲ့သူ အယ်လက်ဇန္ဒာပါလီ၊ ကဗျာဆရာ ဗလက်စတော့၊ ဖေါ်တီးယေးဒီးနှင့်ဝတ္ထုရေးဆရာ အက်ဖတာလီယိုးတစ်တို့ဖြစ်၏။ သူတို့၏တော်လှန်မှုကို အတိုက်အခံပြုကြသည့်အင်အားမှာလည်း မသေးလှချေ။ သို့သော် စာပေသစ်မှာ တဖြည်းဖြည်းတွင်ကျယ်လာ၍ လက်ခံသူများပြားလာ၏။ ၁၉ ရာစုနောက်ပိုင်းတွင် စာပေသစ်ကိုကဗျာများ၌သာတွေ့ကြရသော်လည်း နောင်အနှစ် ၅၀ ခန့်ကြာလာသောအခါ၊ ဝတ္ထု၊ ခရီးသွားမှတ်တမ်း၊ အတ္ထုပ္ပတ္တိစာပေတို့တွင်လည်း တွေ့ရသည်။ သို့သော် အချို့စာပေမြောက်မြားစွာတို့ကို ခေတ်ဟောင်းစာပေလည်းမကျ ခေတ်သစ်စာပေလည်းမကျ စေဘဲကြားစာပေမျိုးဖြင့်ရေးသားခဲ့ကြလေသည်။

ခေတ်သစ်တွင်အထင်ရှားဆုံးသောကဗျာစာဆိုတော်ကြီးမှာ ကော့စတီပလာမတ် (ခရစ် ၁၈၅၉–၁၉၄၃) ဖြစ်၏။ ထိုပုဂ္ဂိုလ်ကြီး၏လက်ရာ ကဗျာစာပေများမှာ ဂရိနိုင်ငံသမိုင်း၊ ဂရိနိုင်ငံတော်ကြီးတန်ခိုးထွန်းပြောင်ခဲ့ပုံ၊ ပျက်သုန်းရပုံနှင့် ပြန်လည်းခေါင်းထောင်နိုင်အောင်ကြိုးပမ်းခဲ့ရပုံများကိုထည့်သွင်းဖွဲ့နွဲ့သီကုံးထားခြင်းများဖြစ်သည်။ ထိုပုဂ္ဂိုလ်ကြီးအား သူ့ခေတ်တွင် ဥရောပတိုက်၏အကြီးမြင့်ဆုံးသောကဗျာစာဆိုကြီးအဖြစ် အသိအမှတ်ပြုကြလေသည်။



ဂရိပြဇာတ်ဆရာကြီး အရစ္စတော့ဖနီး၏ အသောပြဇာတ်မှ အခန်းတခန်း

ပဌမကမ္ဘာစစ်ကြီးအပြီးတွင် ဂရိနိုင်ငံ၌ဝတ္ထုရှည်နှင့်ဝတ္ထုတိုများ အလွန် ခေတ် စား လာခဲ့၏။ ယခင် ခေတ် များက တခါဘူးမျှ ဤမျှလောက်ဝတ္ထုများ ခေတ်စား ခြင်းမရှိခဲ့ပေ။ မီတက်ဆက်အာဏာရှင်ခေတ်ဖြစ်သော (၁၉၃၆–၁၉၄၀) ခုနှစ်များအတွင်း၌မူ ဂရိစာပေ အရေး အသားကို ချုပ်ချယ်ထားသဖြင့် စာပေသက်သက်စာအုပ်စာတမ်းများနှင့်နိုင်ငံသမိုင်းဆိုင်ရာစာအုပ်စာတမ်းများလောက်ကိုသာ ရေးသား ထုတ် ဝေခွင့် ပြု၏။ ဒီမိုတစ် စာ ပေမျိုးကို အား ပေး သော် လည်း ပဲရီကလီး၊ သူဆစ်ဒီးဒီး၊ ဆောဖကလီစသည့် ကဝိကြီးများ၏ စာ ပေ အချို့ကို ဒီမိုကရေစီ စိတ် ဓာတ်များ နိုးကြားလာမည်စိုး၍သင်ကြားခွင့်မပြုခဲ့ချေ။

၁၉၄၄ ခုနှစ်တွင် လွတ်မြောက်သောနိုင်ငံဖြစ်လာသည့် ဂရိနိုင်ငံ၏ ပါပန် ဒြီယို အစိုးရက ဒီမိုထုစ် ဘာသာစာ ပေကို နိုင်ငံ တော်သုံး ဘာသာ အဖြစ် အသုံး ပြု ရန် အမိန့် ထုတ် ခဲ့ သည်။ သို့သော် ၁၉၄၅ ခုနှစ်တွင် တက်လာသော ဗောင်ဂါရစ်အစိုးရက ထိုအမိန့်ကိုပယ်ဖျက်၍ ခေတ်ဟောင်းဘာသာစာပေကိုသာ နိုင်ငံတော်သုံးပြုခဲ့သည်။ အကြောင်းမူ ဘုရင့် ဝါဒရှိသူ ပုံနှိပ် တိုက် ရှင်များနှင့် အက်သင်း တက္ကသိုလ်ပညာရေးဌာနမှပြောင်းလဲမှုကိုလက်မခံလိုသူတစုက အများနား လည် သော ဘာသာ စာ ပေကို နိုင်ငံ တော် သုံး အဖြစ်ပြုလုပ်ထားလျှင် သူတို့၏ အခြေ အနေကို ထိခိုက် လာ မည် စိုးသောကြောင့်ဖြစ်သည်။ သို့သော် ဂရိအမျိုးသားကယ်တင်ရေးတပ်ဦးမှထုတ်ဝေသောစာချွက်စာတမ်းများမှာမူ အားလုံးပင် ဒီမိုတစ်စာပေနှင့်ရေးသားထုတ်ဝေမှုလေသည်။

# လက်မြောက်သည့် ရှေးဟောင်းဂရိအနုပညာ

**ခေတ်အမျိုးမျိုးကုန်လွန်ကြစေကာမူ၊ ပြောင်မြောက်လှသည့် ရှေးဟောင်းဂရိတို့၏အနုပညာကား မေးမှိန်တိမ်ကောလိမ့်မည် မဟုတ်ပေ။ ဂရိအနုပညာ၏မဏ္ဍိုင်ဖြစ်သော၊ အဆင့်အတန်းမြင့်လှသည့် ရုပ်လုံးထုနှင့်ပန်းချီဆေးရေးအတတ်များကို နောင်းလူတို့သည်အမြဲလိုပင်နည်းနိသျှခံယူကြရသည်။**

**ဂရိအနုပညာ။** ။ဂရိလူမျိုး တို့၏အနုပညာရပ်များ ဖြစ်သော ပိသုကာ၊ ရုပ်လုံးထုနှင့်ပန်းချီဆေးရေးအတတ်များသည် အခြားနိုင်ငံများ၏အနုပညာရပ်များထက် စံနစ်တကျရှိ၍ဂရိတို့၏ရုပ်တု၊ ရုပ်လုံး၊ အဆောက်အအုံများမှာ အချိုးအစားကျနလှပသည်ဟုထင်ရှားသည်။ ထိုကဲ့သို့ထင်ရှားခဲ့သော အနုပညာရပ်များသည် ဘီစီ ၇၀၀ မှ ဘီစီ ၅၀ ခုနှစ် အတွင်း၌ဖွံ့ဖြိုးခဲ့သည်။ ပဌမတွင် ဂရိတို့မှာ သိုးထိန်း ဆိတ်ထိန်းများသာဖြစ်ချေသည်။ ထိုနောက် နယ်လှည့်ကုန်သည် များ ဖြစ် ကြ သော ဖီနီရှန် လူမျိုး များ ထံမှ သင်္ချာ အတတ်နှင့်အက္ခရာစာလုံးတို့ကိုရရှိကြ၏။ ဂရိတို့မှာဉာဏ်ထက်မြက်သူများဖြစ်ကြသဖြင့်ဖီနီရှန်တို့ထံမှရသော သင်္ချာနှင့် အက္ခရာရေးနည်း အတတ် များကို ဖွံ့ဖြိုးအောင် ပြုစုနိုင်ခဲ့ကြပေသည်။ ဘီစီ ၉၀၀ မှ ဘီစီ ၇၀၀ ခုနှစ်ခန့်အထိ ကာလအပိုင်းအခြားကို ဂျီသြမေတြီထွန်းကားသောခေတ်ဟုအသိအမှတ်ပြုခဲ့ကြ၏။ (ဂျီသြမေတြီ — ရှု။)

ဂရိတို့သည် နတ်ကိုးကွယ်ကြသည်။ သူတို့ကိုးကွယ်ကြသည့်နတ်များမှာ သာမန်လူတို့ထက်တန်ခိုးဣဒ္ဓိပါဒ်ကြီးမားသည်ဟုယုံကြည်ရသော မိုး၊ ရေ၊ နေ၊ လေစသည်တို့တည်း။ ထို့အပြင်လည်း လူတို့၏ကျန်းမာရေး၊ ပညာရေး၊ စီးပွားရေးစသည် တို့ကို စိုးပိုင် သော နတ် အသီးသီး ရှိသည် ဟုယုံကြည် ကြ၏။ ထိုသို့ယုံကြည် သည့် အတိုင်း လည်း သူတို့၏ စိတ်ကူး၌ထင်မြင်လာသော နတ်ရုပ်များ၏ပုံများကိုထုလုပ်ကိုးကွယ်ကြသည်။ (ဂရိနတ်များ — လည်းရှု။)

ပဌမတွင် ဂရိတို့သည် ပုံကြမ်းပုံရိုင်းများကိုသာတွင်းထုရေးဆွဲနိုင်ခဲ့ကြ၏။ သူတို့သည်ကျန်းမာရေးကိုအလေးဂရုပြုသောလူမျိုးများဖြစ်သည့်အတိုင်း ကိုယ်လက်အင်္ဂါအချိုး



ပန်းအိုးကိုဆေးခြယ်နေသည့်ဂရိအနုပညာသည်



အယ်လက်ဇန္ဒာ—သ—ဂရိတ်၏ ရုပ်ကလပ်ကိုထည့်ရာဖြစ် သော ဂရိကျောက်ဆစ်တလား

အစားကျနမှုကိုအထူးလိုလားကြသည်။ ဤသို့ကိုယ်လက်အင်္ဂါတောင့်တင်းလှပခြင်းကိုသူတို့၏နတ်များက နှစ်သက်သည်ဟုယုံကြည်ကြ၏။ ဉာဏ်ကောင်းသောဂရိတို့သည် ရုပ်တုရုပ်လုံးများကိုသာမက အဆောက်အအုံများကိုလည်း အချိုးအစားကျန လှပစေရန် တစတစ ဂရုစိုက်၍လာခဲ့ကြသည်။ အထက်၌ဖော်ပြခဲ့သော ဂျီဩမေတြီခေတ်ပိုင်းတွင် ဂရိတို့သည် အဆောက်အအုံများကို ဂျီဩမေတြီစံနစ်အရ တိုင်းထွာဆောက်လုပ်ခဲ့ကြ၏။ သို့ရာတွင် ဂရိအနုပညာရပ်များသည် တိုးတက်မှုများစွာမရရှိခဲ့သေးချေ။ ဘီစီ ၄၇၀ ခန့်အထိ ဂရိလက်ရာများမှာရှေးရိုးကျ၍ ပြောပလောက်အောင်လှပတင့်တယ်ခြင်းမရှိသေးချေ။ ဂရိနိုင်ငံသို့ထိပါးစော်ကားလာသော အာရှတိုက်မှ ပါးရှင်းလူမျိုးများကိုဘီစီ ၄၇၉ ခုနှစ်၌တွန်းလှန်နိုင်ကြသည်တွင် ဂရိတို့၏စိတ်ဓာတ်များတက်ကြွလာခဲ့သည်။ ထိုအခါတွင် ရုပ်တု ရုပ်လုံးများပြုလုပ်၍၎င်း၊တေးချင်းကဗျာများစပ်ဆို၍၎င်း သူရဲကောင်းအာဇာနည်များကိုချီးကျူးဂုဏ်ပြုကြသည်။ ယင်းအချိန်မှစ၍ ဂရိတို့၏အနုပညာ လက်ရာများသည်လည်း သိသိသာသာတိုးတက်ကြီးပွားလာလေသည်။

ဂရိအနုပညာသမိုင်းကို ခေတ်ကြီး ၄ ခေတ် ပိုင်းခြား၍ လေ့လာနိုင်ပေသည်။

ပဌမခေတ်ဟုခေါ်တွင်ရမည်ဖြစ်သော ဘီစီ ၇၀၀ ခုနှစ်ခန့်မှ ပါးရှင်းတို့ဝင်ရောက်တိုက်ခိုက်သည့် ဘီစီ ၄၇၀ ခုနှစ်ခန့်အတောအတွင်း၌ ဂရိတို့၏ရှေးရိုးလက်ရာကြမ်းများကို တွေ့မြင်နိုင်သည်။ အဆောက်အအုံများ၊ ရုပ်လုံးများ၊ ပန်းချီကားများသည်စံနစ်တကျရှိလာပြီဖြစ်သော်လည်း နှောင်းခေတ်လက်ရာများကိုမမှီသေးချေ။

ဒုတိယခေတ်ဖြစ်သော ဘီစီ ၄၇၀ မှ ဘီစီ ၄၀၀ ခုနှစ်အထိတွင် ဂရိတို့၏စိတ်ဓာတ်ရင့်သန်မှုကိုအမှီပြုကာ အနုပညာရပ် သည် လည်း တဟုန်တည်း တိုးတက် လာခဲ့သည်။ ထိုခေတ်လက်ရာများမှာ အဆစ်အချိုးကျနလှပလာလေပြီ။ ပါးရှင်းလူမျိုးတို့ဝင်ရောက်တိုက်ခိုက်မှုကြောင့် ပျက်စီးပြိုကွဲသော်အဆောက်အအုံများ၊ အထိမ်းအမှတ်ရုပ်လုံးများနှင့် ပန်းချီကားများကို အားတိုက်အင်တိုက် မွမ်းမံပြင်ဆင်ကြသည်။ ကဗျာစာဆိုနှင့်ဂီတစာဆိုတို့ကလည်း ဂရိလူစွမ်းကောင်းများ၏အကြောင်းကို စိတ်ဓာတ်တက်ကြွဖွယ်တေးသီချင်းများဖွဲ့ဆိုသီကုံးကြသည်။

အနုပညာရပ်များ အနက် ပန်းချီဆေးရေး အတတ်သည် ရှေးဦးစွာဖွံ့ ဖြိုးလာခဲ့ဟန်တူသည်။ အက်သင်းမြို့နှင့် ဒဲလဖိုင်မြို့ရှိ အဆောက် အအုံ မျက်နှာ စာ အဆောင် ကြီး များ မှ နံရံ များ တွင် တန် ဆာဆင် ခဲ့ ကြသော ပန်း ချီ ဆရာ ကြီး ပေါ် လစ်ဂနိုးတပ်၊ မိုက်ကွန်နှင့် ပါနီနပ်တို့၏ လက်ရာများမှာ များစွာချီး မွမ်းဖွယ် ကောင်းသည်။ အချို့ပန်းချီကားများတွင် မှုရင်းဆေးရောင်များမရှိတော့သော်လည်း ရေးဆွဲပုံ အချိုးအစား အထားအသိုတို့မှာနည်းစံနစ်ကျနမှန်ကန်လှသဖြင့်၊ ယခုခေတ် အနုပညာရှင် များ၏ ချီးကျူးအံ့ဩမှုကို ပင်ခံရလေသည်။

ထိုခေတ်အတွင်းမှာဝိင်္ , အက်သင်းမြို့၊ အကရော့ပလစ်တောင်ကုန်းပေါ် ရှိ ပါးသီနွန်အဆောက်အအုံကြီး၊ အိုလင်း

ပီးယားမြို့ရှိ ဇုနတ်မင်း၏နန်းတော်ကြီးအပြင် အခြားမြို့ရွာများရှိ အဆောက်အအုံအများကို လှပဆန်းကြယ်စွာပြန်လည်တည်ဆောက်ကြပြီးလျှင် ထိုအဆောက်အအုံများကို ကျောက်ရုပ်တုများ၊ ကြေးရုပ်တုများ၊ ပန်းချီကားများ အစရှိသည် တို့ဖြင့် အလှအပတန်ဆာဆင်ကြလေသည်။

ဂရိရုပ်လုံးထုဆရာတို့သည် ကိုယ်လက်အင်္ဂါအချိုးအစား လှပပြေပြစ်မှုကို အဓိကထားကာ ထုလုပ်လေ့ရှိကြရာ၊ ကျန်းမာသန်စွမ်းသော အားကစားသမားများ၏ ရုပ်လုံးများကို ထုလုပ်ကြသည်။ ထိုခေတ်က ထင်ရှားကျော်စောခဲ့သော ရုပ်လုံးထုဆရာကြီးများမှာ မိုင်ရွန်၊ ပေါလီကလိုင်တပ်နှင့် ဖီးဒီးယက် တို့ပင်ဖြစ်သည်။ (ဖီးဒီးယက်— လည်းရှု။) လေးပစ်သမား၊ လုံ့ကိုင်သမား၊ သံဝိုင်းပစ်သမားနှင့် အခြားအားကစားသမားရုပ်လုံးများမှာ အလွန်အချိုးအစားကျနရှ်လှပသောဟန်အမူအရာရှိသည်။ မိန်းမရုပ်များကို ထုလျှင်လည်း မိန်းမတို့၌ ပြည့်စုံရမည့် စံပြကိုယ်အင်္ဂါအဆစ်အချိုးများကိုယူ၍ ထွင်းထုကြပေသည်။ ဗီးနပ်အမည်ရှိအချစ်နတ်သမီး၏ ရုပ်တုကိုကြည့်လျှင် ဂရိတို့၏ အမြင်၌ လှပခြင်းသည် မည်ကဲ့သို့ရှိလေသည်ကို မှန်းဆသိရှိနိုင်ကြပေလိမ့်မည်။



သံပြားဝိုင်းပစ်နေသောဂရိအားကစားသမားရုပ်တု

ဘီစီ ၄၀၀ မှ ၃၀၀ ခုနှစ်အထိ ကာလအပိုင်းအခြားကို တတိယခေတ်ဟု မှတ်သားခေါ် ဆိုရပေမည်။ အဘယ်ကြောင့်ဆိုသော် ထိုခေတ်တွင် ဂရိတို့၏လက်ရာများသည် အပြောင်းအလဲရှိလာသောကြောင့်ပင်ဖြစ်သည်။ အထူးသဖြင့် ရုပ်တုရုပ်လုံးပေါ် နည်းတွင်ပြုပြင်ပြောင်းလဲမှုများရှိလာသည်ကိုတွေ့ရသည်။ ဒုတိယခေတ်က ရုပ်လုံးများမှာအချိုးအစားကျနလှပသော်လည်းစံပြရုပ်လုံးများသာ လျှင်ဖြစ်သည်။ တတိယခတ်တွင် ရုပ်တုရုပ်လုံးများသည်လည်းဒုတိယခေတ်ကကဲ့သို့ပင် အချိုးအစားကျနလှပ၍ လက်ရာပြောင်မြောက်ကြပေသည်။ တတိယခေတ်၏ထူးခြားချက်မှာကား စံပြရုပ်လုံးများဖြစ်သော အားကစားသမားများနှင့် အချစ်နတ်သမီး၏ ပုံများသာမက လူသာမန်တို့၏လှုပ်ရှားမှုများကိုပါ ပုံတူယူ၍ ဖန်တီးနိုင်ခြင်းပင်ဖြစ်၏။ လူလောကသဘာဝနှင့် ပိုမိုနီးစပ်လာပြီဟုဆိုနိုင်သည်။ လူတို့၏ သဏ္ဌာန်၌ဖြစ်ပေါ် တတ်သော အမူအရာ အသွင်အပြင်များကို သရုပ်ဖေါ်နိုင်ကြလေပြီ။ ထိုကြောင့်လက်ရှိလူတို့တွေ့ထိခံစားရသည့် စိတ်စေတနာတို့မှဖြစ်ပေါ်လာသော အမူအရာတို့သည် ရုပ်တုရုပ်လုံးများပေါ်တွင် ကွက်ကွက်ကွင်းကွင်းပေါ်နေပေတော့သည်။ ထိုခေတ်အတွင်းက ပရက်ဇစ်တလီ၊ စကိုးပတ်၊ တင်းမသီးယပ် အစရှိသောအနုပညာသည်ကြီးများသည် အံ့ဩဖွယ်ရာစွမ်းရှိသောအမြင်နှင့် ကျွမ်းကျင်မှုရှိလှသောကြောင့် ထင်ရှားကျော်စောခဲ့သည်။

ထိုခေတ်အတွင်းမှာပင် ရောမလူမျိုးတို့သည်ဂရိနိုင်ငံသို့ဝင်ရောက်လာကာ ဂရိလက်ရာအများအပြားကို ရောမနိုင်ငံသို့ယူဆောင်သွားကြ၏။ ထိုကြောင့် ဂရိဟန်ရှိသောအနုပညာလက်ရာများကို ဂရိနိုင်ငံ၌ရှင်း၊ ရောမနိုင်ငံ၌ရှင်း တွေ့မြင်ရပေသည်။ (ရောမပန်းချီနှင့် ရုပ်လုံးထုအတတ် — ရှု။)

ဘီစီ ၃၇၀ ပြည့်နှစ်အလွန်တွင် ဂရိအနုပညာသည် အသွင်တမျိုးပြောင်းခဲ့ပြန်သည်။ ဤအကြိမ်တွင်မူကား တိုးတက်မှုမရှိဘဲ တဖြည်းဖြည်း သာဆုတ်ယုတ်မှေးမှိန်ခဲ့လေသည်။



အက်သင်းမြို့၊ အသီးနားနတ်သမီး၏ ဗိမာန်နံရံတွင် ထုထားသောဂရိလူမျိုးတို့၏ကျောက်ဆစ်လက်ရာ

ထုံခေတ်ကို စတုတ္ထခေတ်ဟုခေါ်ရပေမည်။ ထိုခေတ်သို့ ရောက်သောအခါ ပန်းချီဆေးရေးအတတ်သည် သာသနာရေးဆိုင်ရာ အဆောက်အအုံများနှင့်သာ သက်ဆိုင်သော အတတ်ပညာ မဟုတ်တော့ဘဲ လူနေအဆောက်အအုံ နှင့်လည်းသက်ဆိုင်သော အနုပညာဖြစ်လာသည်။ သို့ရာတွင် ထိုခေတ်အခါကထွန်းကားခဲ့သော ဂရိပန်းချီ၊ ရုပ်ထု၊ ပိသုကာဆရာတို့၏အမည်များသည် အနုပညာသမိုင်းတွင်များစွာမထင်ရှားခဲ့ဘဲ လက်ရာကောင်းများလည်း မှတ်သားလောက်ဖွယ်မကျန်ရစ်ခဲ့ချေ။

ဂရိနိုင်ငံ၌ အနုပညာတဖြည်းဖြည်းဆုတ်ယုတ်မှေးမှိန်လာခိုက်တွင် နိုင်ငံငယ်ကလေးများအစိတ်စိတ်ကွဲ၍ပြည်ထဲရေးမသာမယာဖြစ်ခဲ့သောကြောင့် အနုပညာရပ်သည်ပြန်လည်ဖွံ့ဖြိုးလာရန်မဖြစ်နိုင်ခဲ့တော့ချေ။ စတုတ္ထခေတ်သည် ဂရိအနုပညာမှေးမှိန်ကွယ်ပျောက်သောခေတ်ဖြစ်သော်လည်း ဂရိပန်းချီဆေးရေးအတတ်သည် ရောမခေတ်တွင်ဆက်လက်ဖွံ့ဖြိုးခဲ့ဟန်တူပေသည်။ သို့ရာတွင် ထိုလက်ရာများကား ရောမ လက်ရာ များသာဖြစ်၍၊ ဂရိနိုင်ငံ အနုပညာအဖြစ်စဉ်းစားရန်မသင့်ချေ။

**ဂရုဘာဏ်**။ ။ဂရုဘာဏ်ဆိုသည်မှာ ရဟန်းတို့၌ ဝိနည်းတော်အရ ခွဲဝေမပေးကောင်းသော သံဃိကပစ္စည်း ဖြစ်သည်။ ရဟန်းတို့၌ ဂရုဘာဏ်ပရိက္ခရာ၊ လဟုဘာဏ်ပရိက္ခရာ ဟူ၍ ၂ မျိုးရှိရာ၊ ဂရုဘာဏ်ပရိက္ခရာကို သံဃာအားဖြစ်စေ၊ ပုဂ္ဂိုလ်အားဖြစ်စေ စွန့်လည်းမစွန့်အပ်၊ ဝေဖန်လည်းမဝေဖန်အပ်ချေ။ စွန့်လျှင်၊ ဝေဖန်လျှင် ထုလ္လစ္စဥ်းအာပတ်သင့်သည်ဟူ၍ မြတ်စွာဘုရားဝိနည်းတော်၌ပညတ်တော်မူသည်။ ထုလ္လစ္စဥ်းအာပတ်ဆိုသည်ကား ဒေသနာကြား၍ ဖြေရသည့်အာပတ် ၅ ပါးတွင် အကြီးလေးဆုံးသော အာပတ်ဖြစ်သည်။

ဂရုဘာဏ်ပရိက္ခရာကား ၂၅ ပါးရှိသည်။ ယင်း ၂၅ ပါးကား အာရာမ၊ အာရာမဝတ္ထု၊ ဝိဟာရ၊ ဝိဟာရဝတ္ထု၊ ညောင်စောင်း၊ အင်းပျဉ်၊ ဘုံလျှိုအုံး၊ ကြေးအိုး၊ ကြေးအိုးစရည်း၊ ကြေးအင်တွဲ၊ ကြေးဖျဉ်း၊ ပဲခွပ်၊ ပုဆိန်၊ ပေါက်တူး၊ ဓား၊ ဆောက်၊ နွယ်၊ ဝါး၊ ဖွူဆံမြက်၊ ပိတ်မြက်၊ သက်ကယ်၊ မြေစိုင်၊ သစ်ဘဏ္ဍာ၊ မြေဘဏ္ဍာတို့ ဖြစ်သည်။ ဤဂရုဘာဏ်ပရိက္ခရာ ၂၅ ပါးမှတပါး အခြားသော ရဟန်းပရိက္ခရာဟူသမျှမှာ လဟုဘာဏ်ပရိက္ခရာများဖြစ်၏။ (လဟုဘာဏ် — ရှု။)

**ဂရေး, တီ** (ခရစ် ၁၇၁၆–၁၇၇၁)။ ။အင်္ဂလိပ်စာဆိုတဦးဖြစ်သော တောမတ် ဂရေးကို ၁၇၁၆ ခုနှစ်၌ လန်ဒန်မြို့တွင် ဖွားမြင်၏။ ငယ်ရွယ်စဉ်ကပင် ဖခင်သေဆုံးသွားရာ မိခင်ကြီးသည် ဂရေးကိုပညာသင်ပေးနိုင်ရန် ပင်ပန်းကြီးစွာငွေကြေးရှာကြံ၍၊ အီတန်ကျောင်း၌ပညာသင်ကြား



အမိုးကိုမိန်းမရုပ်များဖြင့်ပင့်ထားသောဂရိအဆောက်အဦ

စေခဲ့သည်။ ထိုနောက် ဂရေးသည် နန်းရင်းဝန် ရောဗတ် ဝါလပိုး၏ သား ဟော ရေ့ ဝါလပိုး၏ ဆရာ ကလေး အဖြစ် နှင့် ဥရောပတိုက် တခွင်သို့ ခရီးလှည့် လည် ခဲ့၏။ ၁၇၄၂ ခုနှစ် တွင် အင်္ဂလန်ပြည်သို့ပြန်လာပြီးလျှင် ကိမ်းဗရစ်တက္ကသိုလ်၌ သူအလွန်နှစ်သက်သော ဂရိစာပေကိုလေ့လာသည်။ ၁၇၆၈ ခုနှစ်မှစ၍ ကိမ်းဗရစ်တက္ကသိုလ်၌ ရာဇဝင်ပါမောက္ခ အဖြစ် ပညာပို့ချသင်ကြားယင်း ၁၇၇၁ ခုနှစ် တွင် ကိမ်းဗရစ်၌ ပင် ကွယ်လွန်ခဲ့လေသည်။

ဂရေးသည် ကိမ်းဗရစ်၌အနေများ၏။ တခါတရံ သူ့မိခင် ကြီးရှိရာ စတုတ်ပိုဂျက်သို့ပြန်၍ ၁ လ ၂ လနေလေ့ရှိ၏။ တခါတရံ လန်ဒန်သို့သွားရောက်နေတတ်၏။ သူ့ရပ်ရွာ သို့ပြန်လာ သော အခါ ဘုရားရှိခိုးကျောင်းပျက် နှင့် အိမ်အို ကျောင်းအိုများအကြားတွင် လည်ပတ်နေတတ်၏။ တနေ့ သော် ဤသို့လျှောက်လည်ယင်း စတုတ်ပိုဂျက်ရှိ ဘုရား ရှိခိုး ကျောင်း မြေသို့ ရောက် သွား သော အခါ စိတ်ထဲတွင် ကဗျာတပုဒ်စပ်ဆိုချင်စိတ်ပေါက်လာသဖြင့် အယ်လဂျီခေါ် လွမ်းချင်း ကဗျာကို ရေးသားလိုက် လေသည်။ ထိုကဗျာ သည် ဂရေး၏ရင်တွင်း၌ ခံစား ရသောစိတ်မှ ယိုဖိတ်လာ သည့် စကား လုံး တို့ဖြင့် တန် ဆာဆင် ထား ရာသူရေးသမျှ ကဗျာများအနက် အထင်ရှားဆုံးဖြစ်လေသည်။ ထိုကဗျာ ကို ၁၇၅၁ ခုနှစ်တွင် စာအုပ်တအုပ်လျှင် ၆ ပဲနီနှုန်းဖြင့်



လွမ်းချင်းကဗျာဖြင့် ထင်ရှား သောတောမတ်ဂရေး

ရောင်း၍ ထိုနောက်၌ကား ပထမရိုက်နှိပ်သောစာမူကို ပေါင် ၉၀၀ ပင်ပေး၍ဝယ်ကြသည်။

သူပဌမရေးသားသော ကဗျာမှာ 'နွေဦးရာသီသို့' ဟူသောကဗျာဖြစ်သည်။ ထိုနောက် 'အီတန်ကောလိပ်ကျောင်း၏နောင်ရေး'၊ 'ဆင်းရဲခြင်း၊'၊ 'သေဆုံးသွားသောအိမ်ချစ်ဆုံးကြောင်ကလေးသို့' ဟူသောလွမ်းချင်းဆန်သည့်ကဗျာများကိုရေးသည်။

**ဂရေး, ဆာ အက်ဒွပ်** (ခရစ် ၁၈၆၂-၁၉၃၃)။ ပဌမကမ္ဘာစစ်ကြီးမဖြစ်မီ ဂရိတ်ဗြိတိန်နိုင်ငံတွင် နိုင်ငံခြားရေးဝန်ကြီးအဖြစ်ဖြင့် ကျော်ကြားခဲ့သူ ဆာ အက်ဒွပ် ဂရေးသည် လစ်ဗရယ်ပါတီဝင်ဖြစ်၍၊ ခရစ် ၁၈၈၅ ခုနှစ်တွင်ပါလီမန်အမတ်အဖြစ် ပဌမအရွေးခံရသည်။ ဂရေးသည်သူ၏အဖိုးဆာ ဂျော့ ဂရေးကွယ်လွန်သောအခါတွင်၊ ဗဲရွန်နက်အရိုက်အရာကိုမျိုးရိုးအရ ဆက်ခံရရှိခဲ့လေသည်။

လစ်ဗရယ်ပါတီခေါင်းဆောင် နန်းရင်းဝန် ဂလက်စတုန်းသည် ၁၈၉၂ ခုနှစ်တွင် ဂရေးအားနိုင်ငံခြားရေးဝန်ကလေးအဖြစ်ဖြင့် ခန့်ထားခဲ့သည်။ နိုင်ငံခြားရေးဝန်ကြီးဖြစ်သူလော့ ရိုစဗရီ၏လက်ထောက်အဖြစ်ဖြင့် ပါလီမန်တွင်ဆောင်ရွက်ရသည်။ ၁၈၉၅ ခုနှစ်အထိ ဂရေးသည်နိုင်ငံခြားရေးဝန်ကလေးဖြစ်ခဲ့သည်။ ၁၈၉၅ ခုမှ ၁၉၀၅ ခုနှစ်အထိလစ်ဗရယ်ပါတီသည် အာဏာလက်လွတ်ဖြစ်၍ ကွန်ဆားဗတစ်ပါတီကသာ အစိုးရဖွဲ့ခဲ့သည်။ ၁၉၀၅ ခုနှစ်တွင် လစ်ဗရယ်ပါတီက တဖန်ရွေးကောက်ပွဲတွင်မဲသာပြန်သဖြင့် ကင်းဗဲဗင်းနားမန်းက နန်းရင်းဝန်အဖြစ်ခေါင်းဆောင်၍လစ်ဗရယ်အစိုးရဖွဲ့နိုင်ပြန်လေသည်။ ထိုအခါ ဂရေးကိုနိုင်ငံခြားရေးဝန်ကြီးခန့်လိုက်သည်။

ဂရေးသည် ဗြိတိသျှနိုင်ငံခြားရေးဝန်ကြီးအဖြစ်ဖြင့် မိမိတာဝန်ကိုနိုင်နင်းကျွမ်းကျင်စွာထမ်းရွက်ခဲ့သည်။ ပြင်သစ်နိုင်ငံနှင့်ရင်း၊ ဗဲလဂျီယမ်နိုင်ငံနှင့်ရင်း၊ ရုရှအင်ပိုင်ယာကြီးနှင့်ရင်း၊ ဂျပန်နိုင်ငံနှင့်ရင်း၊ မဟာမိတ်စာချုပ်များချုပ်ဆိုကာ ဗြိတိန်၏အင်အားကိုကမ္ဘာတွင် တောင့်တင်းစေခဲ့သည်။ ဂရေးသည် ဂျာမန်ကေရာင်၏စစ်ဖြစ်ရေးခြေလှမ်းကို အကဲခတ်မိသည့်အတိုင်း ဗြိတိန်ကကြံ့ကြံ့ခံနိုင်စေရန် လိမ်မာပါးနပ်စွာ မဟာမိတ်များကိုရှာကြံဖွဲ့ခဲ့သည်။ ပဌမကမ္ဘာစစ်ကြီးမဖြစ်မီအချိန်ကာလတွင် စစ်မက်မဖြစ်ပွားရအောင် ဂရေးသည် စေ့စပ်ကမ်းလှမ်းနည်းအမျိုးမျိုးဖြင့်အစွမ်းကုန်ကြိုးပမ်းခဲ့သည်။ ကြိုးပမ်းချက်မအောင်မြင်ဘဲဂျာမန်တို့က စစ် စတင်တိုက်ခိုက်သောအခါ ဗြိတိသျှတမျိုးသားလုံးက စစ်ကျေညာရေးကို ထောက်ခံအားပေးလာအောင် ဂရေးသည်ထိရောက်စွာဟောပြော၍ အစွမ်းကုန်ဆောင်ရွက်ခဲ့လေသည်။



နိုင်ငံခြားရေးဝန်ကြီးဖိုင်းကောင့်ဂရေး

၁၉၁၆ ခုနှစ်တွင် ညွန့်ပေါင်းအစိုးရခေါင်းဆောင် အက်စကွစ်နန်းရင်းဝန်ရာထူးမှနုတ်ထွက်သောအချိန်၌ ဂရေးသည်မျက်စိရောဂါစွဲကပ်လာသဖြင့် နိုင်ငံခြားရေးဝန်ကြီး အဖြစ်မှနုတ်ထွက်လိုက်လေသည်။ သူ၏တိုင်းပြည်အတွက်အမှုထမ်းခဲ့သည့်ကျေးဇူးကို အသိအမှတ်ပြုသောအားဖြင့် အင်္ဂလိပ်ဘုရင်မင်းမြတ်က လော့အဆင့်အတန်းတွင် အပါအဝင်ဖြစ်သော ဖိုင်းကောင့်ဘွဲ့ဖြင့်ချီးမြှင့်ခြင်းပြုသည်။ ထို့အတွက်ဂရေးအား ပဌမဖိုင်းကောင့်ဂရေး အော့ ဖယ်လိုဒွန်ဟူ၍လည်းစာအုပ်စာတမ်းများတွင်ရေးသားခေါ်ဝေါ်ကြသည်။ တခါတရံလည်း 'ဂရေး အော့ ဖယ်လိုဒွန်' သို့မဟုတ် 'လော့ ဖယ်လိုဒွန်' ဟုခေါ်ဝေါ်ရေးသားကြသည်။ ဂရေး ရေးသားခဲ့သောစာအုပ်များအနက် '၁၈၉၂ ခုမှ ၁၉၁၆ ခုနှစ်အထိ ၂၅ နှစ် ကာလ' ဟူသောစာအုပ်နှင့် 'ဖယ်လိုဒွန်စာတမ်းများ' (၁၉၂၆) ဟူသောစာအုပ်မှာ သမိုင်းမှတ်တမ်းတင်စာအုပ်များဖြစ်သည်။

ဂရယ်ဗိတီဆွဲအား။ ။အာကဓနသတ္တိ — ရှု။

**ဂရက်ဖိုက်။** ။စိန်နှင့်ဂရက်ဖိုက် (ခဲနက်) တို့သည် ကာဗွန်စစ်စစ် ဖြစ်၏။ အခြားဓာတ်ပစ္စည်းများနှင့် ရောနှောပေါင်းစပ်ခြင်းမရှိသော ဒြပ်စင်သက်သက်ဖြစ်၏။ (စိန်ရတနာ၊

ကာဗွန် — ရှု။) စိန်နှင့်ဂရက်ဖိုက်တို့သည် ကာဗွန်အခဲများဖြစ်ကြသော်လည်း၊ စိန်သည် သိရှိရသရွေ့ပစ္စည်းအားလုံးအနက် အမာဆုံးဖြစ်ရုံသာမက ကြည်လင်တောက်ပသည့်အတွက် လူအများက တန်ဖိုးထားကြသည်။ ဂရက်ဖိုက်မှာမူ ပျော့၍နက်သောအရောင်သာရှိသည်။ ဂရက်ဖိုက်ကိုစစ်ဆေးကြည့်သောအခါ ပါးလွှာသောအချပ်ကလေးများဖြင့် ဖွဲ့စည်းထားကြောင်းကို တွေ့ရသည်။ ဂရက်ဖိုက်ကိုကမ္ဘာအနှံ့ အပြား၌ တွေ့ရသော်လည်း သီဟိုဠ်ကျွန်းတွင်အများဆုံး တူးဖော် ရရှိသည်။ အမေရိကန်ပြည်ထောင်စု၊ ဣတလီ၊ ဆိုက်ဗီးရီးယား၊ မက္ကဆီကိုနှင့်အိန္ဒိယနိုင်ငံရှိအချို့သောနယ်များမှလည်း အထိုက်အလျောက် တူးဖော်ရရှိသည်။ ဂရက်ဖိုက်ကို ဤကဲ့သို့သဘာဝအလျောက် တူးဖော်ရရှိသည့်အပြင်၊ ဓာတုဗေဒနည်းအားဖြင့်လည်း ဖော်စပ်ယူနိုင်ပေသည်။

ဂရက်ဖိုက် သည် စိန်လောက် အဖိုးမထိုက် တန် လှ သော်လည်း၊ စိန်ထက်များစွာအသုံးဝင်သည်။ ဂရက်ဖိုက်တတုံးကိုယူ၍ စက္ကူပေါ် တွင်ခြစ်ကြည့်လျှင် အမဲကြောင်းများထင်ကျန်ရစ်သည်ကို တွေ့ရပေမည်။ ထိုကြောင့် ဂရက်ဖိုက်ကို အလွန်မှုန့်သောမြေစေးမှုန့်များနှင့် ရောပြီးလျှင် ခဲတံပြုလုပ်ရာ၌ ခဲဆန်အဖြစ်ဖြင့် အသုံးပြုကြသည်။ (ခဲတံ — ရှု။)

အမှန်စင်စစ် ဂရက် ဖိုက်ဟူသောစကားသည် ရေးရန်ဟု အဓိပ္ပါယ်ရသော ဂရိဘာသာစကားမှ ဆင်းသက်လာသည်။ အချို့သောခဲတမျိုးတွင် ဂရက်ဖိုက်ပိုမိုပါဝင်သောကြောင့် ရေးရာတွင်ပျော့၍ အရောင်မှာလည်း ပို၍ မဲသည်။ ဈေးပေါသောခဲတံများတွင်မူ၊ ဂရက်ဖိုက်နည်း၍ မြေစေးအပါများသောကြောင့် ရေးရာတွင်မချောမွတ်ဘဲ ခြစ်ကြောင်းလည်းထင်တတ်သည်။ ဂရက်ဖိုက်ကို ကိုင်တွယ်ကြည့်လျှင် စေး ကပ် ကပ် ဖြင့် ချောနေသည် ကို တွေ့ရမည်။ ထိုသတ္တိကြောင့် ဂရက်ဖိုက်ကို ချောဆီအဖြစ်ဖြင့်လည်း အသုံးများကြသည်။ ပုံစံအားဖြင့် မော်တော်ကားဗောဇယ်ရင်များနှင့် အခြားအပူအားကြီးသော စက်၏အစိတ်အပိုင်းများအတွက် ဂရက်ဖိုက်မှာ အလွန်ကောင်းသော ချောဆီတမျိုးဖြစ်၏။ ဂရက်ဖိုက်သည် လျှပ်စစ်ဓာတ်ကို ကောင်းစွာလိုက်စေနိုင်သောကြောင့် လျှပ်စစ်ဓာတ် ဖက် ဆိုင်ရာပစ္စည်း ကရိယာများ ပြုလုပ်ရာတွင်လည်း အများအပြား အသုံးပြုကြသည်။ အပူကောင်းစွာခံနိုင်သောလုံနှင့် ရိတော့ပေါင်အိုးများပြုလုပ်ရာတွင် ဂရက်ဖိုက်ကို သဲမြေစေးတို့နှင့် ရော၍လုပ်ယူကြသည်။ ထို့ပြင် ခြယ်ဆေးများ၊ အရောင်တင်ဆေးများ ပြုလုပ်ရာတွင်လည်း ဂရက်ဖိုက်ကို များစွာပင်အသုံးပြုကြသည်။



ဂရက်ဖိုက်ခဲများကိုထုခွဲ နေကြ သောသီဟိုဠ်အမျိုးသမီးများအား ကိုလံဗိုမြို့တွင်ဤသို့တွေ့မြင်ရသည်။



ဒဏ္ဍာရီပုံပြင်များကိုရေးသားခဲ့သည့် ဂရင်းညီနောင်

**ဂရင်းညီနောင်** (ခရစ် ၁၇၈၅–၁၈၆၃)။ သိုးဆောင်းစာပေလောကတွင် ဂရင်းဒဏ္ဍာရီပုံပြင်များမှာ ကလေးများအဖို့ လွန်စွာထင်ရှားသော စာပေဖြစ်သည်။ အရွယ်မရွေး ကလေးတိုင်းလိုပင် ဂရင်းဒဏ္ဍာရီပုံပြင်များ တွင်ပါဝင်သည့်တံငါသည်လင်မယား၊ လေက်မ၊ နှင်းပေါက်စသောပုံကလေးများကိုများစွာနှစ်သက်ကြ၏။ သို့သော် ထိုသို့ကလေးများဖတ်ချင်၊ နားထောင်ချင်အောင် ဒဏ္ဍာရီများကိုရေးသားခဲ့သူများကား မည်သူတို့ဖြစ်ကြောင်းသိရှိသူနည်း၏။ စင်စစ်အားဖြင့် ကလေးစာပေဟုဆိုထိုက်သော ဂရင်းဒဏ္ဍာရီပုံပြင်များကို စုဆောင်းပြုစုခဲ့သူများမှာ ဂျေးကော့ ဂရင်းနှင့်ဝီလင် ဂရင်းခေါ် ဂျာမန်အမျိုးသားညီနောင် ၂ ယောက်ဖြစ်ပေသည်။

၁၇၈၅ ခုနှစ်၌ ဂျာမနီနိုင်ငံ ဟာနော်ရွာကလေးတွင် ဂျေးကော့ ဂရင်းအား မွေးဖွားခဲ့၏။ ညီဖြစ်သူ ဝီလင် ဂရင်းကိုကား နောက်တနှစ်တွင်မွေးဖွား၏။ သူတို့၏ဖခင်မှာ ရှေ့နေတဦးဖြစ်၏။ သူတို့တွင် မွေးချင်းပေါက်ပေါ် ၆ ယောက်မျှရှိသော်လည်း၊ သူတို့ ၂ ယောက်သာလျှင် တယောက်နှင့်တယောက် အလွန်ချစ်ခင်ရင်းနှီးစွာနေခဲ့ကြပေသည်။ သူတို့ ၂ ယောက်သည် ငယ်စဉ်ကတည်းက အတူနေ၊ အတူသွား၊ အတူလာ၊ အမြဲမကွာ၊ အတူတူသာလျှင် ပူးတွဲလုပ်ဆောင်တတ်ကြလေသည်။

ဂျမန်စာပေသမိုင်းတွင် ဂရင်းညီအစ်ကို ၂ ယောက်၏ အမည်များမှာ အလွန်ထင်ရှားလေသည်။ အစ်ကိုကြီးဖြစ်သူ ဂျေးကော့သည် ဂျာမန် အဘိဓာန်ကျမ်းကြီးတစောင်ကိုစတင်ပြုစုသူဖြစ်၏။ ထိုသို့ပြုစုနေစဉ် ဂရင်းသည် စကားလုံးတို့၏အသံပြောင်းအသံလွဲနှင့်စပ်လျဉ်းသည့် စည်းတခုကိုရှာဖွေတွေ့ရှိလေသည်။ ထိုစည်းမှာ 'ဂရင်းစည်း' ဟု ယနေ့ထက်တိုင်ထင်ရှားလျက်ရှိသည်။ ထိုစည်းမှာ သက္ကဋ္ဌ၊ ဂရိ၊ လက်တင်စသောဘာသာစကားလုံးတို့သည် အင်္ဂလိပ်၊ ဂျာမန်စကားလုံးများအဖြစ်မည်သို့ ပြောင်းလဲလာပုံကိုဖေါ်ပြရှင်းလင်းထားသောစည်းဖြစ်၏။ ထိုပြင် ဂျာမန်အဘိဓာန်နှင့်ထုံးဟောင်းပုံပြင်ကျမ်းကိုလည်းပြုစုခဲ့ပေသေးသည်။

ဂျေးကော့ပြုစုသည့် အထင်ရှားဆုံးသော ကျမ်းများမှာ ဂျာမန်သဒ္ဒါကျမ်းနှင့်ဂျာမန်ဘာသာစကားသမိုင်းတို့ဖြစ်၏။ ညီဖြစ်သူ ဝီလင်၏အကောင်းဆုံးသောကျမ်းမှာ ဂျာမန်သူရဲကောင်းတို့၏ ရာဇဝင်ပုံပြင်ဖြစ်လေသည်။ ဂရင်းညီနောင်တို့ပူးပေါင်း၍ ရေးသားပြုစုခဲ့ကြသော စာပေများအနက်



ဂရင်းညီ နောင်၏ 'အိပ်မပျော်နေသောအလှမယ်' ဒဏ္ဍာရီမှ



ဂရင်းလန်းကျွန်းတောင်ပိုင်း၏မြို့တော်ဖြစ်သောဂေါ်သော့မြို့

ဂရင်းဒကွာရီပုံပြင်များသည် စာပေလောကတွင် အထင်ရှားဆုံးဖြစ်သည်။ ဂရင်းညီနောင်တို့သည် ငယ်စဉ်ကလေးဘဝတွင် တွေ့သမျှ၊ မြင်သမျှ၊ ကြားသမျှတို့ကိုအမြဲတစေဆင်ခြင်တွေးတောနေလေ့ရှိကြသည်။ ထိုသို့ငယ်စဉ်ကကြားခဲ့ဘူးသော ရှေးဟောင်းပုံပြင်များကိုစုဆောင်း၍စာတစောင်တဖွဲ့ဖြစ်လာအောင်ညီအစ်ကို ၂ ယောက်ရေးသားထားခဲ့သဖြင့်၊ ဂရင်းဒကွာရီပုံပြင်များဟူ၍ ကလေးတို့အတွက်စာတစောင်တဖွဲ့ ပေါ်ထွက်လာလေသည်။

**ဂရင်းလန်းကျွန်း**။ ။ဂရင်းလန်းကျွန်းသည် ကမ္ဘာပေါ်၌ ဒုတိယအကြီးဆုံးကျွန်းဖြစ်၏။ ကမ္ဘာ့မြောက်ဖျား အာတိတ်စက်ဝိုင်းအတွင်းသို့ တကျွန်းလုံး လိုလိုကျရောက်နေသည်။ ဒေဗစ်ရေလက်ကြားနှင့်ဗက်ဖင်ပင်လယ်အော်တို့သည် ဂရင်းလန်းကျွန်းအား မြောက်အမေရိကတိုက်နှင့် ပိုင်းခြား၍ထားလေသည်။

ဂရင်းလန်းကျွန်း၏ ဧရိယာမှာ စတုရန်းမိုင် ၈၄၀,၀၀၀ မျှဖြစ်သည်။ အလျားမှာ မိုင် ၁,၆၀၀ ခန့်၊ အနံမှာ မိုင် ၇၀၀ ကျော်ခန့်ဖြစ်သည်။ တဝက်ကျော်မျှသောမြေမျက်နှာပြင်ကို ထုထယ်ကြီးမားသောရေခဲပြင်ဖုံးလွှမ်းနေသောကြောင့်၊ တောင်ထိပ်များသာလျှင် ကွက်ကြား၊ ကွက်ကြားအားဖြင့်ရေခဲပြင်ပေါ်မှထိုး၍ထွက်နေသည်။ ထိုရေခဲပြင်သည် နှစ်စဉ်တန်ချိန် ကုဋေ ၁၀၀ ကျော်မျှလေးသောရေခဲများကို ပင်လယ်ထဲသို့ယူဆောင်ခဲ့သဖြင့် ပင်လယ်၌မျောနေသောရေခဲတောင်ကြီးများသည် ခရီးသွားသင်္ဘောများကိုအန္တရာယ်ပြုနိုင်သည်။ (ရေခဲတောင်၊ ရေခဲမြစ် — လည်းရှု။) ဂရင်းလန်း၏ကမ်းရိုးတန်းမှာ ကျောက်ထူထပ်၍၊ ကုန်းမြေတွင်းသို့ရှည်လျားစွာဝင်နေသော ဖီအော့ခေါ် ရေမြောင်ကြီးများဖြင့်ပြည့်နှက်လျက်ရှိသည်။

ဂရင်းလန်း၏အရှေ့ဖက်ကမ်းခြေ၌ ရေအေးစီးကြောင်းတခုဖြတ်၍စီးနေသည်။ ထို့ကြောင့် လူမနေနိုင်လောက်အောင် အအေးလွန်ကဲသည်။ အနောက်ဖက်ကမ်းခြေမှာ အနည်းငယ်နွေးသဖြင့်၊ သစ်ပင်ပန်း မာလ်များစိုစိုပြည်ပြည်ရှိ၏။ ၁၉၅၁ ခုနှစ် သန်ကောင်စာရင်းအရ ဂရင်းလန်းတွင် လူပေါင်း ၂၂,၅၈၁ ခန့်နေထိုင်သည်။ ထိုလူဦးရေထဲတွင် ဂရင်းလန်းကျွန်းသား အမြောက်အမြားပါဝင်၍ ဒိန်းလူမျိုး အနည်းငယ်သာရှိသည်။ ကျွန်းသားများမှာ အအေးဒဏ်ခံနိုင်သော အက်စကီးမိုးများဖြစ်ကြ၍၊ ကမ်းရိုးတန်းတလျှောက်ဆီးနှင်းထဲတွင်နေထိုင်ကြသည်။ (အက်စကီးမိုး — ရှု။) ထိုကျွန်းသားတို့သည် ကူးသန်းသွားလာရေးအတွက်ခွေးဆွဲစွပ်ဖားနှင့်ဖျံရေဖြင့်ချုပ်လုပ်သော ကယက်ခေါ် လောင်းလှေများကို အသုံးပြုကြသည်။ အလုပ်အကိုင်မှာ တံငါအလုပ်ပင်ဖြစ်၏။ သို့သော် မြေခွေး၊ ဝက်ဝံအစရှိသောသားကောင်များကိုဖမ်းဆီးခြင်းဖြင့်လည်းအသက်မွေးမှုကြသည်။

ဂရင်းလန်းသည် ဒိန်းမတ်နိုင်ငံနှင့်ကူးသန်းရောင်းဝယ်သည်။ ကရိုင်အိုလိုက်ခေါ် သတ္တုတမျိုးကိုတင်ပို့ရောင်းချသည်။ ကျောက်မီးသွေး၊ ကြေးဝါ၊ ရွှေနှင့်သံတို့ကိုကျွန်းပေါ်တွင်တွေ့ရှိရသည်ဟုဆိုသည်။ အခြားထွက်ကုန်တို့မှာ



ရေခဲပြင်အရည်ပျော်စအချိန် ဂရင်းလန်းကျွန်း၏ ရှုမျှော်ခင်း

ဝေလငါး၊ အစိုနှင့်အခြောက်ကုန်၊ ငါးကြီးဆီ၊ ငှက်သိုက်၊ သားမွေးနှင့်တိရစ္ဆာန်တို့၏အရေများဖြစ်သည်။

ထိုကျွန်းကိုရှေးအခါကပင်လျှင် စကန်ဒီနေးဗီးယန်းလူမျိုးတို့ကသိရှိခဲ့သည်။ ခရစ် ၁၅၈၅ ခုနှစ်တွင် အင်္ဂလိပ်လူမျိုးတို့ကထပ်မံတွေ့ရှိသည်။

ရှေးအခါက ဂရင်းလန်းကျွန်းကို ဒိန်းမတ်နိုင်ငံအစိုးရက ကိုလိုနီစနစ်ဖြင့်အုပ်ချုပ်သည်။ ၁၉၅၃ ခုနှစ်ဇွန်လ ၅ ရက်နေ့တွင် ယင်းကိုလိုနီစနစ်ကို ဖျက်သိမ်း၍၊ ဂရင်းလန်းကျွန်းကိုဒိန်းမတ်နိုင်ငံထဲသို့သွတ်သွင်းခဲ့လေသည်။ ဂရင်းလန်းကျွန်း၌ မဲဆန္ဒနယ် ၂ နယ်ရှိရာ၊ တနယ်မှကိုယ်စားလှယ်တဦးကျကို ဒိန်းမတ်လွှတ်တော်သို့စေလွှတ်နိုင်ခွင့်ရှိသည်။

**ဂရစ်လျှပ်စစ်စံနစ်။** ။ဂရစ်လျှပ်စစ်စံနစ်ဟုတွင်သောလျှပ်စစ်ဓာတ်ဖြန့်ချီရေးစံနစ်မှာ လျှပ်စစ်ဓာတ်ကို လျှပ်စစ်ဓာတ်အားပေးစက်ရုံတခုတခုစီမှ မဖြန့်ချီဘဲ၊ ဓာတ်အားပေးစက်ရုံအများ စုပေါင်း၍ လက်ကားသဘော ဖြန့်ချီပေးသောစံနစ် ဖြစ်သည်။ ဤစံနစ်ကို အင်္ဂလန်ပြည်၌ ၁၉၂၆ ခုတွင် 'ဗဟိုလျှပ်စစ်ဓာတ်ဘုတ်အဖွဲ့' က စတင်အသုံးပြုခဲ့သည်။ မူလက ဒေသ ၇ ခုတွင်သာ ဤစံနစ်ဖြင့် လျှပ်စစ်ဓာတ်ဖြန့်ချီရန် ကြံစည်ခဲ့သော်လည်း ၁၉၃၉ ခုမှစ၍ အင်္ဂလန်တပြည်လုံးသို့ တိုးချဲ့၍ ဖြန့်ချီနိုင်ခဲ့လေသည်။

ဂရစ်လျှပ်စစ်စံနစ်တွင် အင်္ဂလန်ပြည်အနှံ့အပြားရှိ တခုချင်းလျှပ်စစ်ဓာတ်အားပေးစက်ရုံများကို ဓာတ်တိုင်ဓာတ်ကြိုးများဖြင့် ရှုပ်ရှက်ခတ်မျှ ဆက်သွယ်စုပေါင်းထားသည်။ ဗဟိုအုပ်ချုပ်ရေးဌာနသည် ထိုဓာတ်အားပေးစက်ရုံအားလုံးကို တခုတည်းသောအဖွဲ့အစည်းအနေဖြင့် စီမံခန့်ခွဲသည်။ ယင်းဌာနအောက်၌ ဒေသအလိုက် အုပ်ချုပ်ရေးဌာနခွဲများရှိပြန်သည်။ ထိုဌာနခွဲများသည် မိမိတို့လက်အောက်ရှိဓာတ်အားပေးစက်ရုံများအနက်မှ ခုတ်မောင်းလိုသည့်အားပေးရုံကို ခုတ်မောင်းစေ၍၊ ရပ်ထားလိုသည့်အားပေးရုံကိုရပ်နားစေခြင်းဖြင့်၊ သင့်လျော်သလိုစီမံဆောင်ရွက်ပေးရသည်။ ဤစံနစ်ဖြင့် တပြည်လုံးသို့ဖြန့်၍ ဆက်သွယ်ထားသောဓာတ်ကြိုးများသည် ဂရစ်အိုင်ရွန်ခေါ် မုံ့ကင်သံဆန်ခါနှင့် တူသည်။ ထို့ကြောင့် ဤစံနစ်ကို ဂရစ်လျှပ်စစ်စံနစ်ဟု ခေါ်တွင်ခြင်း ဖြစ်သည်။

ဂရစ်ဓာတ်ကြိုးအားလုံးသည် မိုင် ၅၀၀၀ ကျော်ရှည်၍၊ ဝေလနယ်နှင့် စကော့တလန်ပြည်မြောက်ပိုင်းရှိ နေရာတစိတ်တဒေသမှအပ၊ ဗြိတိန်တနိုင်ငံလုံးသို့ ပျံ့နှံ့လျက်ရှိသည်။ ထိုဓာတ်ကြိုးများအနက် မိုင် ၄၀၀၀ နီးပါးရှည်သောဓာတ်ကြိုးများတွင်ရှိသည့်ဗို့အားမှာ ၁၃၂,၀၀၀ ဖြစ်သည်။ ဓာတ်တိုင်ကြီးများကို မျှော်စင်ပုံသဏ္ဍာန် ဆောက်လုပ်ထားကြသည်။ အမြင့်ဆုံးဓာတ်တိုင်များသည် ဒက်နမ်အရပ်၌ တင်းမြစ်ကို

ဓာတ်ကြိုးများကျော်ဖြတ်နိုင်အောင် ဆောက်လုပ်ထားသောဓာတ်တိုင်များ ဖြစ်ကြသည်။ အမြင့် ၄၇ ပေမျှရှိသည်။ ဓာတ်ကြိုးများကို မိုးကြိုးမခနိုင်အောင် ဓာတ်တိုင်ထိပ်များပေါ်၌ မိုးကြိုးလွှဲနန်းကြိုးဖြင့် သွယ်တန်းကာကွယ်ထားသည်။ ဓာတ်ကြိုးများသည် ဂရစ်ဌာနခွဲများ၌ပေါင်းဆုံကြ၏။ ဌာနခွဲအချို့မှာ လျှပ်စစ်ဓာတ်ကိုဆက်လိုကဆက်ပေးနိုင်အောင်၊ သို့တည်းမဟုတ် အဆက်ဖြတ်လိုကဖြတ်ပေးနိုင်အောင် ထရန်စဖေါမားစက်များ တပ်ဆင်ထားသည့် ဌာနများ ဖြစ်ကြသည်။ လန်ဒန်မြို့တဝိုက်တွင် ဗို့အား ၆၆,၀၀၀ ဖြင့် ဆက်သွယ်ထားသော မြေအောက်ဓာတ်ကြိုးများလည်း ရှုပ်ရှက်ခတ်မျှရှိသည်။

ဂရစ်လျှပ်စစ်စနစ်သည် လျှပ်စစ်ဓာတ်အားပေးစက်ရုံတရုံတည်းမှနေ၍ ဓာတ်အားပေးသောစနစ်ထက် အကျိုးကျေးဇူးများသည်။ ပဌမအကျိုးကျေးဇူးမှာ လျှပ်စစ်ဓာတ်ကို အဆက်မပြတ်ရရှိခြင်းပင်ဖြစ်၏။ ပမာအားဖြင့် ဒေသတခုတွင် လျှပ်စစ်ဓာတ်ကို အားပေးသော စက်ရုံတခုတည်းမှ ရယူနေသည်ဆိုပါစို့။ အကယ်၍အကြောင်းတခုခုကြောင့် အဆိုပါဓာတ်အားပေးစက်ရုံကို ရပ်စဲထားရပါက၊ အားပေးစက်ရုံရှိစက်များ ပြန်မလည်မခြင်း လျှပ်စစ်ဓာတ်ကို ရတော့မည်မဟုတ်ချေ။ အားပေးရုံမှ ပေးနိုင်သည်ထက်ပို၍လည်း လျှပ်စစ်ဓာတ်ကို ရနိုင်စရာအကြောင်း မရှိပေ။ သို့သော် ဂရစ်ဓာတ်ကြိုးမှ လျှပ်စစ်ဓာတ်ရရှိသည့်ဒေသများမှာမူ ဤဒုက္ခအခက်အခဲမျိုးမှ ကင်းလွတ်ကြပေသည်။ (ဓာတ်အားပေးစက်ရုံ — လည်းရှု။)

ဒုတိယအကျိုးကျေးဇူးမှာ မြို့နယ်ရှိလျှပ်စစ်ရုံနှင့် ဂရစ်လျှပ်စစ်ဓာတ်ကြိုးတို့ လျှပ်စစ်ဓာတ်အားဖလှယ်နိုင်မှုပင် ဖြစ်သည်။ ပမာအားဖြင့် မြို့နယ်တခုသည် ယင်း၏လျှပ်စစ်ဓာတ်အားပေးစက်ရုံက ထုတ်ပေးနိုင်သောဓာတ်အားထက်ပို၍ လျှပ်စစ်ဓာတ်ကိုအသုံးပြုသည် ဆိုပါစို့။ ထိုအခါမျိုးတွင် ဂရစ်ဓာတ်ကြိုးနှင့် ဆက်သွယ်ထားခြင်းရှိလျှင် ထိုလျှပ်စစ်ရုံသည် လိုသောဓာတ်အားကို ဂရစ်ဓာတ်ကြိုးမှ ရရှိနိုင်ပေသည်။ တဖန် မြို့နယ်တခုရှိလျှပ်စစ်ဓာတ်အားပေးစက်ရုံသည် ထိုမြို့နယ်ကအသုံးပြုနိုင်သည်ထက်ပို၍ လျှပ်စစ်ဓာတ်အားကို ထုတ်ပေးနိုင်သည် ဆိုပါစို့။ ထိုအခါမျိုးတွင်လည်း ဂရစ်ဓာတ်ကြိုးနှင့် ဆက်သွယ်ထားခြင်းရှိလျှင် လျှပ်စစ်ရုံမှ ပိုသောလျှပ်စစ်ဓာတ်အားကို ဂရစ်ကြိုးထဲသို့ ထည့်သွင်းပေးနိုင်ပေသည်။

တတိယအကျိုးကျေးဇူးကား စရိတ်သက်သာမှုပင်ဖြစ်၍ အရေးအကြီးဆုံး ဖြစ်၏။ ဓာတ်အားကို ဓာတ်အားပေးစက်ရုံတရုံတည်းမှနေ၍ပေးခြင်းသည် ဒေသကိုလိုက်၍ ကုန်



ဂရစ်လျှပ်စစ်ဓါတ်ဖြန့်ချီရေးဗဟိုဌာနရှိ လျှပ်စစ်အား ပေးစက်များ

ကျစရိတ်အမျိုးမျိုးရှိသည်။ ထိုဓာတ်အားပေးစက်ရုံများ၌ လျှပ်စစ်ဓာတ်ကိုအသုံးပြုကြသည်မှာ များသည့်အခါများ၍ နည်းသည့်အခါနည်းသည်။ နေ့အသုံးနှင့်ညအသုံးပင်မတူချေ။ တခုချင်းဓာတ်အားပေးရုံတွင် အသုံးပိုလာသည့်အခါဖြစ်စေ၊ နည်းသွားသည့်အခါဖြစ်စေ စက်ကိုရပ်ထား၍မရဘဲ အခါတိုင်းကဲ့သို့ပင် ခုတ်မောင်းနေရသဖြင့်စရိတ်သက်သာသင့်လျက် မသက်သာဘဲဖြစ်နေပေသည်။ ဂရစ်စံနစ်တွင်မူ လျှပ်စစ်ဓာတ်အသုံးလိုမှု အနည်းအများကိုလိုက်၍ လျှပ်စစ်ဓာတ်အားကို အသုံးမလိုသည့် နေရာမှအသုံးလိုသည့် နေရာသို့ လွှဲပြောင်းပို့ဆောင်ပေးနိုင်သည်။ အသုံးမလိုသည့်အခါ အားနည်းသော ဓာတ်အားပေးစက်ရုံအချို့ကို ရပ်နားထားခြင်းဖြင့် အလိုရှိသမျှလျှပ်စစ်ဓာတ်ကိုသာရအောင် ပြုလုပ်ပေးနိုင်သည်။ ဆိုလိုသည်မှာ အလိုရှိသမျှလျှပ်စစ်ဓာတ်ကို စရိတ်အနည်းဆုံးနှင့် ဖန်တီးပေးနိုင်ခြင်းပင်ဖြစ်သည်။ လျှပ်စစ်ဓာတ်ကို တပြည်လုံးသို့ အပိုအလိုမရှိစေဘဲညီညွတ်မျှတစွာဖြန့်ချိပေးစွမ်းနိုင်ခြင်းမှာဂရစ်လျှပ်စစ်စံနစ်မှ ရရှိသောအကျိုးကျေးဇူးတရပ်ပင် ဖြစ်ပေသည်။ (လျှပ်စစ်ဓာတ် — ရှု။)



ဂရစ်လျှပ်စစ်ဓါတ်ကြိုးများသွယ်တန်းထားသည့်မျှော်စင်

**ဂရိတ်ဗြိတိန်**။ ။အင်္ဂလန်၊ စကော့တလန်၊ ဝေလ၊ ဟက်ဗရိဒီးကျွန်းစု၊ အော့ကနီကျွန်းစု၊ ဝိုက်ကျွန်း၊ ရှက်တလန်ကျွန်းစုနှင့်မန်းကျွန်းတို့ကိုစုပေါင်း၍ ဂရိတ်ဗြိတိန်ဟုအမည်ပေးထားသည်။ မူလကစ၍ အိုင်ယာလန်မှာ ဂရိတ်ဗြိတိန်နှင့်မဆိုင်၊ သတ်သတ်ဖြစ်သည်။ မြေပုံအရဆိုလျှင် အင်္ဂလိပ်ရေလက်ကြားကြီး၊ မြောက်ပင်လယ်၊ အိုင်ရစ်ပင်လယ်၊ စိန့်ဂျော့ရေလက်ကြားကြီးတို့ဝန်းရံလျက်ရှိသော ကျွန်းနှင့်ကျွန်းစုများကို ဂရိတ်ဗြိတိန်ဟုသိရသည်။

ရာသီဥတုအားဖြင့် ဂရိတ်ဗြိတိန်၌ သမပိုင်းဒေသ၏ရာသီဥတု ရှိသည်။ မိုးရေချိန် အတန်ငယ်များသည်။ သိမ်းမြစ် (တင်းမြစ်)၊ ဆဲဗန်းမြစ်၊ ဟမ်ဗားမြစ်၊ မာဆီမြစ်နှင့် ကလိုက်မြစ်တို့သည် ကျွန်းမကြီးအတွင်းသို့ ပင်လယ်ခရီးမှ ဝင်လာရန် အတန်ငယ်ကျယ်သည်ဖြစ်၍၊ ဂရိတ်ဗြိတိန်၌ သင်္ဘောဆိပ်ကမ်းကောင်းများ ရှိသည်။ မြေဩဇာကောင်းမွန်သဖြင့် သမပိုင်းဇုန်၏သီးနှံများ ကောင်းစွာအောင်မြင်သည်။ တောင်တောင်ထူထပ်ရာမြောက်ပိုင်းနှင့်အနောက်ပိုင်းဒေသတို့တွင် သံနှင့်ကျောက်မီးသွေးထွက်သဖြင့် စက်မှုလက်မှုလုပ်ငန်း၌အလွန်ကြီးကျယ်လေသည်။

ဂရိတ်ဗြိတိန်ကျွန်း၌ မူလက အင်္ဂလန်သည်သာလျှင်ပြည်မကြီးဖြစ်သည်။ ခရစ် ၁၂၈၂ ခုနှစ်၌ ဝေလနယ်ကိုသိမ်းပိုက်လိုက်သဖြင့် ဂရိတ်ဗြိတိန်သည် ပထဝီဝင်အရဧရိယာတိုးလာခဲ့သည်။ ခရစ် ၁၆၀၃ ခုနှစ်ရောက်သောအခါ ဂျိမ်းဘုရင်သည် စကော့တလန်ပြည်၏ဆဋ္ဌမဂျိမ်းဘုရင်အဖြစ်နှင့်၎င်း၊ အင်္ဂလန်ပြည်၏ပဌမဂျိမ်းဘုရင်အဖြစ်နှင့်၎င်း အုပ်စိုးခဲ့သဖြင့် ဂရိတ်ဗြိတိန်၏နယ်နိမိတ်သည် ပို၍ကျယ်ဝန်းလာပြန်သည်။

သို့သော် ထိုစဉ်က ဂရိတ်ဗြိတိန်ဟု အသုံးမများသေးချေ။ ၁၇၀၇ ခုနှစ်တွင် အင်္ဂလန်နှင့်စကော့တလန်ကိုပေါင်းစပ်လိုက်သော ယူနီယန်အက်ဥပဒေကို အတည်ပြုလိုက်သည်တွင် ဂရိတ်ဗြိတိန်ဟူသောအမည်သည် ရုံးသုံးစကားအဖြစ်နှင့်အတည်ပြုခြင်းခံရလေသည်။ ၁၈၀၀ ပြည့်နှစ်၌ အိုင်ယာလန်ကို ဂရိတ်ဗြိတိန်နှင့် ပူးပေါင်းသောဥပဒေပြုသည်တွင် ဂရိတ်ဗြိတိန်နှင့်အိုင်ယာလန်ပူးပေါင်းသော ယူနိုက်တက်ကင်းဒမ်းဟူ၍ တွင်လာပြန်သည်။ ဤသို့ ၃ နိုင်ငံပေါင်းစပ်သောအထိမ်းအမှတ်ဖြင့် ယူနီယန်ဂျက်အလံ၌ အင်္ဂလန်၏အဖြူခံအနီကြက်ခြေခတ်ကို၎င်း၊ စကော့တလန်၏ အပြာခံအဖြူထောင့်တန်းကြက်ခြေခတ်ကို၎င်း၊ အိုင်လာလန်၏အနီထောင့်တန်းကြက်ခြေခတ်ကို၎င်း ရောခုတည်းဖြစ်အောင်ပေါင်းစပ်လိုက်လေသည်။

၁၉၂၂ ခုနှစ်၌ အိုင်ယာလန်တောင်ပိုင်းကို ဒိုမီနီယန်အုပ်ချုပ်ရေးပေးလိုက်ရာ မြောက်ပိုင်းမှာ ယူနိုက်တက်




ဂရိတ်ဗြိတိန်မြေပုံ

ကင်းဒမ်း၏ တစိတ်တဒေသအဖြစ်နှင့် ယနေ့တိုင်အောင်ပင် ရှိနေလေသည်။ (ဗြိတိန်။ ဗြိတိသျှကျွန်းစု၊ ဗြိတိသျှအင်ပိုင်ယာ၊ အင်္ဂလန်၊ စကော့တလန်ပြည်၊ အိုင်ယာလန်ကျွန်း၊ဝေလနယ် — ရှု။)

**ဂရိတ်လိတ်ဒေသ။** ။ဂရိတ်လိတ်အမည်ဖြင့်ထင်ရှားသော ရေအိုင်ကြီး ၅ အိုင်မှာ အမေရိကန်ပြည်ထောင်စုနှင့် ကနေဒါနိုင်ငံအကြား၌ တည်ရှိကြ၏။ ထိုရေအိုင်ကြီးများမှာ ဆူပီးရီးယားအိုင်၊ မစ်ရှီဂန်အိုင်၊ဟျူရွန်အိုင်၊ အီရီအိုင်နှင့် အွန်တေးရီးယိုးအိုင်တို့ ဖြစ်ကြလေသည်။ ဂရိတ်လိတ်ရေအိုင်ကြီးများ၏ ကျေးဇူးကြောင့် အမေရိကန်ပြည်ထောင်စုနှင့် ကနေဒါနိုင်ငံတို့၏ လမ်းပန်း ဆက်သွယ်ရေးမှာ ပိုမိုလွယ်ကူပြီးလျှင် ကူးသန်းရောင်းဝယ်ရေးမှာလည်း အထူးပင် ဖွံ့ဖြိုးတိုးတက်လာလေသည်။

ဂရိတ်လိတ်အိုင်ကြီး ၅ ခုအနက်၊ အွန်တေးရီးယိုးအိုင်ကို ခရစ် ၁၆၁၁ ခုနှစ်တွင် ပြင်သစ်လူမျိုးများက ရှေးဦးစွာ ရှာဖွေတွေ့ရှိခဲ့၏။ နောက် ၄ နှစ်အကြာတွင် ရှမ်ပလိန်ဆိုသူက ဟျူရွန်အိုင်ကို တွေ့ရှိပြန်၏။ သို့ရာတွင် အီရီအိုင်ကိုမူကား ယင်းဒေသရှိ အစ်ရိုကွိုင်လူမျိုးများ၏ ရန်ကြောင့် ၁၆၆၉ ခုနှစ်တွင်မှ တွေ့ရှိခဲ့ကြလေသည်။

ဂရိတ်လိတ်ရေအိုင်ကြီးများသည် ကနေဒါနိုင်ငံနှင့် အမေရိကန်ပြည်ထောင်စုတို့၏အကြားတွင် တည်ရှိသဖြင့် အဆိုပါ ၂ နိုင်ငံ၏ ရေကြောင်းဆက်သွယ်ရေးတွင် ထိုရေအိုင်ကြီးများသည် လွန်စွာအရေးပါအရာရောက်လေသည်။ ရေအိုင်ကြီးများအားလုံး၏ အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၁၀၀,၀၀၀ မျှရှိ၍၊ ရေအိုင်များမှရေကို အကျိုးခံစားနိုင်သော မြေဧရိယာမှာ စတုရန်းမိုင်ပေါင်း ၃၀၀,၀၀၀ ခန့် ရှိ၏။ ထိုရေအိုင်များမှာ ပြည်တွင်း၌တည်ရှိပြီးလျှင် အလွန်ကြီးမားလွန်းလှသဖြင့် ပြည်တွင်းပင်လယ်များ ဟုပင်ခေါ် စမှတ်ပြုကြ၏။ ရေအနက်မှာကား ပေ ၂၀၀ ကျော်မှ ၁,၃၈၀ ခန့်အထိ ရှိလေသည်။

ဂရိတ်လိတ်ရေအိုင်ကြီးများဒေသတဝိုက်ရှိ ရာသီဥတုမှာ ပင်လယ် သမုဒ္ဒရာဒေသတဝိုက်ရှိရာသီဥတုနှင့် များစွာမခြားနားလှချေ။ နွေအခါတွင် ရေအိုင်ကြီးများက အပူဓာတ်ကိုစုတ်ယူ၍ ဆောင်းရာသီတွင် အပူဓာတ်ကိုပေးလေရာ၊ ရာသီဥတုမျှတသည်။ အိုင်ကြီးများထဲ၌ လေမုန်တိုင်းများ ကျသည့်အခါတွင်လည်း သမုဒ္ဒရာလေမုန်တိုင်းကဲ့သို့ပင် ကြောက်မက်ဖွယ်ကောင်းလေသည်။ ထိုအိုင်ကြီးများတွင် တနှစ်လျှင် ၅ လခန့် ရေခဲနေတတ်၏။ ရေမခဲသောလများတွင်မူကား ကုန်သင်္ဘောများနှင့် လူစီးသင်္ဘောများသည်လူးလာခေါက်တုံ့ သွားလာနေကြသည်။

ရေအိုင်ကြီးများတွင် အိုင်ကြီးတခုမှတခုသို့ ရေကြောင်းဆက်သွယ်ရေး လွယ်ကူစိမ့်သော၄ှာ တူးမြောင်းများကို ဖေါက်လုပ်ထားလေသည်။ ဆူပီးရီးယားအိုင်၏ ထွက်ပေါက်ဖြစ်သော ဆူးစိန်မာရီအရပ်တွင် ၁၈၅၅ ခုနှစ်မှစ၍ ရေပြင်ညီဆည်များတပ်ဆင်ထားသော တူးမြောင်းတခုကို ဖေါက်လုပ်ခဲ့ကြ၏။ ယခုအခါတွင် ထိုနေရာ၌ ရေပြင်ညီဆည် ရှည်ကြီး ၂ ခုရှိလေသည်။ တခုမှာ ပနားမားတူးမြောင်းတွင်ရှိသော ရေပြင်ညီဆည်ထက် ပေပေါင်း ၃၅၀ ရှည်၏။ ထိုရေပြင်ညီဆည်မှ သင်္ဘောအဝင်အထွက်များပြားလေရာ ပျမ်းမျှ ၁၂ မိနစ်လျှင် သင်္ဘောတစင်းမျှ သွားလာနေသည်။ ခရီးသည်သင်္ဘောများလည်း ဥဒါဟို ကူးသန်းသွားလာနိုင်ကြ၏။ ထိုသို့သွားလာနေကြသော လှေသင်္ဘောများကို ဘေးမသီ၊ ရန်မခစေရန် မီးပြတိုက်များ၊ မီးပြသင်္ဘောများ၊



ဆူပီးရီးယားအိုင်ဆိပ်ကမ်းတခုတွင် သီးနှံများကို ကျီမြင့်မှသင်္ဘောသို့လောင်းချနေပုံ

ပေါ်ယာများ၊ အသက်ကယ်စခန်းများစသည်တို့ကို ပြသော ရေအိုင်နယ်မြေပုံများကို အရံသင့်ထားရှိကြလေသည်။ ထို့ပြင် ရေအိုင်များ၏အတိမ်အနက်ကိုသိသာစေရန် သက်ဆိုင်ရာတာဝန်ခံများကတိုင်းထွာ၍ အခါအားလျော်စွာ မှတ်တမ်းများရေးထုတ်ကြေငြာကြရလေသည်။ အဘယ်ကြောင့်ဆိုသော် လေးလံသောကုန်တင်သင်္ဘောကြီးများသည် ရေနည်းနေပါက ကောင်းစွာမခုတ်မောင်းနိုင်မည်စိုးသောကြောင့် ဖြစ်လေသည်။

၁၉၃၂ ခုနှစ်တွင် ဝဲလန်းတူးမြောင်းကို အီရီအိုင်မှ အွန်တေးရီးယိုးအိုင်သို့ နိုင်အဂ္ဂရာရေတံခွန်ကို ကျော်ပတ်ကာ ဖေါက်လုပ်ပြီးလျှင် စတင်အသုံးပြု၏။ အီရီတူးမြောင်းသည် အီရီအိုင်နှင့်ဟဒ်ဆန်မြစ်ကို ဆက်သွယ်ထား၏။

ရေအိုင်ကြီးများဒေသအထက်ပိုင်း၌တခါကမြင့်မားသော တောင်စဉ်တောင်တန်းများရှိခဲ့၏။ သို့ရာတွင် ကာလကြာရှည်လတ်သော် ရေနှင့်လေတို့တိုက်စားခြင်းကြောင့် တောင်များပြိုပျက်ကာ မြေနိမ့်လွင်ပြင်ဘဝသို့ ရောက်ရတော့၏။ အချို့နေရာများသည် ချိုင့်ခွက်များဖြစ်ကာ ဆောင်းရာသီတွင် ရေခဲနေ၍၊ နွေအခါ၌ ရေအိုင်ငယ်များအဖြစ်သို့ ရောက်ရှိနေကြလေသည်။ ထိုကဲ့သို့သောအိုင်မျိုးများသည် မစ်ရှီဂန်၊ မင်နီဆိုတာနှင့် ဝစ္စကွန်းဆင်းပြည်နယ်တို့၌ အများအပြားပင်ရှိလေသည်။

ဆူပီးရီးယားအိုင်ကြီး၏ တောင်ဖက်တလျှောက်၌ အဖိုးတန်ကြေးနီ အမြောက်အမြားထွက်၏။ ထိုဒေသ၌ ကြေးနီတူးဖေါ်ရေးလုပ်ငန်းသည် အကြီးအကျယ်ဆုံးဖြစ်၏။ ထိုအိုင်ကြီး၏အနောက်ဖက်ရှိ တောင်တန်းများတွင်လည်း သံသတ္တုတွင်းများရှိသည်။

ဂရိတ်လိတ်ခေါ် ရေအိုင်ကြီးများသည် ကနေဒါနိုင်ငံ ပရေရီဒေသများ၏ သယ်ယူပို့ဆောင်ရေးကို များစွာအထောက်အပံ့ပေးသည့်အပြင် ထိုဒေသရှိမြို့ကြီးများ၏ စီးပွားရေးကိုလည်း တိုးတက်စေလေသည်။ မွန်းထရီအော၊ ဖို့ဝီလျံ၊ ဟယ်မီလတန်၊ တိုရွန်တို၊ ကင်းစတန်စသောမြို့များသည်လွန်ခဲ့သည့်နှစ်အနည်းငယ်အတွင်းကပင် တိုးတက်လာခဲ့ကြ၏။ မစ်ရှီဂန်ရေအိုင်၏ တောင်ဖက်စွန်းတွင်ရှိသော ရှီကားဂိုးဆိပ်ကမ်းမြို့မှာ အမေရိကန်ပြည်ထောင်စုတွင်နယူးယောက့်မြို့ကလွဲလျှင် သင်္ဘောအများဆုံးဆိုက်ကပ်သောဆိပ်ကမ်းမြို့ကြီး ဖြစ်လေသည်။

ဂရန်းနိုက်ကျောက်။ ။နှမ်းဖတ်ကျောက် — ရှု။

ဂလူးကို့သကြား။ ။အချို့သစ်သီးနှင့်ဟင်းသီးဟင်းရွက်တို့တွင် ဂလူးကို့သကြားပါသောကြောင့် ချိုသည်။ ဂလူးကို့သကြားကို ကောက်နှံများမှရသောကစီမှ အများအပြားချက်ယူကြသည်။ ချက်ယူပုံမှာ ကောက်နှံများမှရသည့်ကစီမှုန့်ကို ရေတွင်ဖျော်ပြီးလျှင် ဟိုက်ဒရိုကလောရစ်အက်

ဆစ်အနည်းငယ်ထည့်၍ ကျိုသည်။ အက်ဆစ်သည် နောက်ဆုံးတွင် သမ်သွားသောအခါ ဂလူးကိုသကြားပွင့်ကလေးများ ဖြစ်လာသည်။ သကြားပွင့်အဖြစ်သို့ မရောက်သေးသောဂလူးကိုသည် သကာရည့်ကဲ့သို့ ချွဲပျစ်နေတတ်သည်။

ရောင်းဝယ်ဖေါက်ကားရေးအတွက် ဂလူးကိုကိုသကြားပွင့်အဖြစ်သို့မရောက်မီ သကာကဲ့သို့ချွဲပျစ်နေသော အနေဖြင့် ယူကြသည်။ ဂလူးကိုသည် လွယ်လင့်တကူသကြားပွင့်မတက်နိုင်သောကြောင့် သကြားလုံးများပြုလုပ်ရောင်းချရန်နှင့် သစ်သီးများတာရှည်ခံအောင်ပြုလုပ်ရန် များစွာအသုံးပြုကြသည်။ မုံ့တိုက်ကြီးများတွင်လည်း အဖိုးတန်မုံ့အကောင်းစားများလုပ်သည့်အခါ မုံ့တွင်သကြားပွင့်မတက်အောင် ဂလူးကိုကိုအသုံးပြုကြသည်။

ကျွန်ုပ်တို့၏ခန္ဓာကိုယ်အတွင်းသို့ အစာအာဟာရအဖြစ်ဖြင့် ဝင်သွားသောကစီတို့သည် နောက်ဆုံးတွင် ဂလူးကိုသကြားအဖြစ်သို့ ပြောင်းလဲပြီးလျှင် သွေးထဲသို့ ဝင်သွားသည်။ ဂလူးကိုသည် သွေးထဲသို့ဝင်သွားပြီးသော်၊ အားကိုဖြစ်စေလျက် ကျန်းမာမှုကို များစွာအထောက်အပံ့ဖြစ်စေသည်။ ဂလူးကိုသည် အစာကြေလွယ်သည်။ ထိုကြောင့် အထူးသဖြင့် နလံထခါစအားအင်နည်းသူများနှင့် ကလေးသူငယ်များ စားသုံးရန်အတွက် အလွန်ကောင်းသည်။ အပင်များ၌ရှိသောကစီသည် အချိန်ကာလအားလျော်စွာ ဂလူးကိုသကြားအဖြစ်သို့ ပြောင်းလဲသည်။ စပျစ်သီးခြောက်တွင်တွေ့ရသော သကြားပွင့်ကလေးများသည် အများအားဖြင့် ဂလူးကိုများပင်ဖြစ်၏။ ပျားရည်တွင်လည်း ဂလူးကိုသကြား အများအပြားပါဝင်သည်။

**ဂလက်စတုန်း, ဝီလျံ၊ အီ** (ခရစ် ၁၈ဝ၉–၁၈၉၈)။ အင်္ဂလိပ်နိုင်ငံရေးခေါင်းဆောင်ကြီး ဝီလျံ၊ အီးဝပ် ဂလက်စတုန်းသည် အလွန်ကျော်ကြားခဲ့ရာ၊ ထိုကျော်ကြားခြင်း၏အကြောင်းရင်းတို့မှာ ဂလက်စတုန်းသည် ဗြိတိသျှပါလီမန်အောက်လွှတ်တော်တွင် အနှစ် ၆ဝ ကျော်မျှ အမတ်အဖြစ်ဖြင့် ပါဝင်ခဲ့ခြင်း၊ လစ်ဗရယ်ပါတီကို အနှစ် ၃ဝ ကျော်မျှ ခေါင်းဆောင်မှုပေးခဲ့ခြင်း၊ နန်းရင်းဝန်အဖြစ်ဖြင့် ၄ ကြိမ်ဆောင်ရွက်ခဲ့ခြင်းတို့အပြင်၊ နိုင်ငံရေးနယ်ပယ်နှင့်လူမှုရေးရာနယ်ပယ်တို့တွင် ပြောင်းလဲတိုးတက်မှုစီမံချက်အများအပြားဖန်တီးကြံဆောင်ခဲ့ခြင်းတို့ ဖြစ်သည်။ ဂလက်စတုန်းသည်

**ဂရိတ်လိတ် ဒေသတည် နေရာပြမြေပုံ**

**နယ်နိမိတ်မျဉ်း၏အထက်ပိုင်းမှာကနေဒါနိုင်ငံဖြစ်၍၊ အောက်ပိုင်းမှာအမေရိကန်ပြည်ထောင်စုဖြစ်သည်။**





အိုင်ယာလံဟုမ္မရူးဥပဒေကြမ်းကို ဂလက်စတုံး တင်သွင်းနေစဉ်

၁၈၀၉ ခုနှစ်ဒီဇင်ဘာလ ၂၉ ရက်တွင် လီဗာပူးမြို့၌ ဖွားမြင်သည်။ မိဖများမှာ စကော့မျိုးရိုးဖြစ်၍၊ ကြွယ်ဝသောကုန်သည်ကြီးများဖြစ်ကြသည်။ သူသည် အီတန်ကျောင်း၌ ပညာသင်ကြားပြီးနောက် အောက်စဖို့တက္ကသိုလ်၊ ခရိုက်စချပ်ကောလိပ်ကျောင်းတွင် ဆက်လက်ဆည်းပူးခဲ့ရာသချာ်ာ တွင်၎င်း၊ ဂရိနှင့်လက်တင်စာပေတွင် ၎င်း ပဌမတန်းဂုဏ်ထူး ၂ ထပ်ဖြင့် ၁၈၃၁ ခုနှစ်တွင် အောင်မြင်ခဲ့သည်။ ဂလက်စတုန်းသည် အယူဝါဒကိုကိုင်း ရှိုင်းသူဖြစ်၍၊ ခရစ်ယန်ဘုန်းကြီးဖြစ် လိုစိတ်ရှိခဲ့၏။ သို့သော် မိဖများ၏ဆန္ဒအရ နိုင်ငံရေးနယ်ပယ်ထဲသို့ရောက်လာခဲ့၏။

၁၈၃၂ ခုနှစ်၊ အသက် ၂၄ နှစ်အရွယ်တွင် ဂလက်စတုန်းသည် ပါလီမန်အောက်လွှတ်တော်သို့ တိုရီပါတီဝင်အမတ်အဖြစ်ဖြင့် အရွေးခံရသည်။ ၁၈၃၄ ခုနှစ်၌ဆာ ရောဗတ်ပီးခေါင်းဆောင်သော အစိုးရအဖွဲ့တွင် ပဌမဦးစွာ ဘဏ္ဍာရေးဌာန၊ ထိုနောက် ကိုလိုနီဆိုင်ရာဌာန၌ ဝန်ကလေးအဖြစ် ခန့်ထားခြင်းခံ ခဲ့ရသည်။ သို့သော် ၁၈၃၅ ခုနှစ်တွင်ပီး၏ အစိုးရအဖွဲ့ ပြုတ်ကျသွားလေသည်။ ၁၈၄၁ ခုနှစ်တွင် တိုရီပါတီကတဖန် အစိုးရဖွဲ့နိုင်ပြန်သောအခါ ဂလက်စတုန်းသည် ကူးသန်းရောင်းဝယ်ရေးဌာနဝန်ကလေး ဖြစ်လာပြန်သည်။ ၁၈၄၃ ခုနှစ်တွင် ယင်းဌာန၌ ဝန်ကြီးခန့်ထားခြင်းခံရ၍ ကက်ဗိနက်အဖွဲ့ဝင်အဆင့်အတန်းရရှိသောဝန်ကြီးတဦး ဖြစ်လာသည်။ ၁၈၄၅ ခုနှစ်တွင် ကိုလိုနီဆိုင်ရာဝန်ကြီးအဖြစ်ဖြင့် ပြောင်းလဲဆောင်ရွက်သည်။

၁၈၄၆ ခုနှစ်တွင် ဂျုံသွင်းကုန်ပေါ်၌ အကောက်ခွန်ကောက်ခြင်းကို ဆာ ရောဗတ်ပီးက ပယ်ဖျက်ရန်ကြိုးစားသောအခါ သူ၏နောက်လိုက် တိုရီ (ဝါ) ကွန်ဆားဗတစ်ပါတီဝင်အများအပြားနှင့် သဘောကွဲလွဲ၍၊ ရာထူးမှနုတ်ထွက်လိုက်လေသည်။ ပီးနှင့်အတူ ဂလက်စတုန်းအပါအဝင်အစိုးရတဖွဲ့လုံး ရာထူးမှနုတ်ထွက်ကြပြီးနောက် တိုရီပါတီနှင့်ဂလက်စတုန်းသည် အဆက်ပြတ်သွားလေသည်။ သို့သော် တိုရီပါတီနှင့်အဆက်ပြတ်ပြီးနောက် ၁၃ နှစ်ကြာမှ လစ်ဗရယ်ပါတီသို့ဝင်သည်။ ဂလက်စတုန်းသည် ပါလီမန်အမတ်အဖြစ်မှလည်းနုတ်ထွက်၍ တဖန်ပြန်လည်အရွေးခံရာ၊ ချက်ခြင်းပင်ပြန်၍ရွေးကောက်တင်မြှောက်ခြင်းခံရသည်။



ဝီလျံ အီးဝပ် ဂလက်စတုန်း

၁၈၅၂ ခုတွင် ဂလက်စတုန်းသည် အတိုက်အခံအမတ်အဖြစ်နှင့်ရှိစဉ် ကွန်ဆားဗတစ် (တိုရီ) ပါတီအစိုးရ၏ ဘဏ္ဍာရေးဝန်ကြီး ဗင်ဂျမင်ဒစ်ဇရေလီတင်သွင်းသော ဗတ်ဂျက် (ဝါ) အစိုးရ၏ရသုံးမှန်းခြေငွေစာရင်းကို ထိရောက်စွာ မိမိရရဝေဖန်၍ အံချေးအတင်ပြောဆိုရာ၌ အနိုင်ရလိုက်သောကြောင့် ဝိုင်းဝန်းချီးကျူးခြင်းခံရ၏။ စကားပြော

ကောင်းသည်၊ အချက်အလက်နိုင်နင်းသည်ဟူ၍လည်း နာမည်ကျော်သွားလေသည်။ ဤသည်မှစ၍ ဂလက်စတုန်းနှင့်ဒစ်ဇရေလီတို့သည် နာမည်ကျော်နိုင်ငံရေးပြိုင်ဖက်များဖြစ်လာကြ၏။ (ဒစ်ဇရေလီ, ဗီ — ရှု။) ထိုနှစ်၌ပင် ကွန်ဆားဗတစ်အစိုးရပြုတ်ကျ၍၊ပီးဂိုဏ်းသားလော့အဗာဒင်းက လစ်ဗရယ် တို့၏ ထောက်ခံမှုဖြင့် အစိုးရဖွဲ့နိုင်ရာ၊ ဂလက်စတုန်းသည် ၁၈၅၃ ခုနှစ်တွင် ဘဏ္ဍာရေးဝန်ကြီးရာထူးကို လက်ခံခဲ့၏။ အဗာဒင်း၏အစိုးရသည် ၁၈၅၅ ခုနှစ်အထိ တည်မြဲခဲ့သည်။ ၁၈၅၉ ခုနှစ်တွင် ဂလက်စတုန်းသည် လစ်ဗရယ်ပါတီသို့ဝင်လိုက်သည်။ ၁၈၅၉ ခုမှ ၁၈၆၆ ခုနှစ်အထိ လစ်ဗရယ်အစိုးရအဖွဲ့များတွင် ဂလက်စတုန်းသည် ဘဏ္ဍာရေးဝန်ကြီးအဖြစ် ဆောင်ရွက်သည်။

ဂလက်စတုန်းသည် ၁၈၆၈ ခုနှစ်တွင် လစ်ဗရယ်ပါတီ၏ ခေါင်းဆောင်အဖြစ်ဖြင့် ပဌမအကြိမ် အစိုးရအဖွဲ့ ဖွဲ့နိုင်ခဲ့သည်။ ဂလက်စတုန်း နန်းရင်းဝန်အဖြစ်ဖြင့်ဆောင်ရွက်ခဲ့သည့် ၄ ကြိမ်မှာ ၁၈၆၈ ခုမှ ၁၈၇၄ ခုနှစ်အထိတကြိမ်၊ ၁၈၈၀ ပြည့်မှ ၁၈၈၅ ခုနှစ်အထိတကြိမ်၊ ၁၈၈၆ ခုဖေဖွာဝါရီလမှဇူလိုင်လအထိတကြိမ်၊ ၁၈၉၂ ခုမှ ၁၈၉၄ ခုအထိနောက်ဆုံးတကြိမ်ဖြစ်သည်။ ပဌမဦးဆုံးနန်းရင်းဝန်ဖြစ်သည့်အခါ ဂလက်စတုန်းမှာ အသက် ၅၉ နှစ်ရှိပြီ။

ဂလက်စတုန်းပဌမအကြိမ်နန်းရင်းဝန်အဖြစ်တွင် အရေးကြီးသောပြောင်းလဲတိုးတက်မှုများကို အောင်မြင်စွာဖန်တီးခဲ့၏။ ယင်းတို့မှာ အများပြည်သူတို့ပညာသင်သော မူလတန်းစာသင်ကျောင်းများကို အစိုးရကအထောက်အပံ့ပေးခြင်း၊ အောက်စဖို့နှင့် ကိမ်းဗရစ်တက္ကသိုလ်များသို့ အယူဝါဒဆိုင်ရာချုပ်ချယ်ဆီးတားမှုမရှိဘဲ ဝင်ခွင့်ပြုခြင်း၊ နိုင်ငံရေးရွေးကောက်ပွဲများတွင် လျှို့ဝှက်သောမဲစနစ်ဖြင့် မဲပေးစေခြင်း၊ အင်္ဂလိပ်လက်အောက်ဖြစ်သောအိုင်ယာလန်ပြည်တွင် ပြည်သူအများက ဗရင်ဂျီဂိုဏ်းဝင်ဖြစ်သော်လည်း အင်္ဂလိပ်ခရစ်ယန် ဂိုဏ်းအယူဝါဒကို နိုင်ငံတော်အယူဝါဒ အဖြစ်ဖြင့် ပြဋ္ဌာန်းထားခြင်းကို ၁၈၆၉ ခုတွင်ပယ်ဖျက်ခဲ့ခြင်း၊ အိုင်ယာလန်တောင်သူလယ်သမားများအား နစ်နာခဲ့စေသော မြေယာစံနစ်ကိုသက်သာမှုရရှိရန် ၁၈၇၀ ပြည့်နှစ်တွင် အက်ဥပဒေပြဋ္ဌာန်း၍ပြောင်းလဲပေးခြင်း၊ နိုင်ငံတော်စစ်တပ်တွင် ဗိုလ်ရာထူးများကို ငွေဖြင့်ဝယ် နိုင်မှ သာလျှင် စစ်ဗိုလ် ဖြစ် နိုင်သောစံနစ်ကိုပယ်ဖျက်ခြင်းတို့ဖြစ်သည်။

၁၈၇၄ ခုနှစ်မှ ၁၈၈၀ ပြည့်အထိ ဂလက်စတုန်းသည် အတိုက်အခံခေါင်းဆောင်အဖြစ်ဖြင့် နန်းရင်းဝန် ဒစ်ဇရေလီ၏နယ်ချဲ့ဝါဒကိုပြစ်တင်ဝေဖန်ခဲ့သည်။ ၁၈၇၉ ခုနှစ်တွင် ပါလီမန် ရွေးကောက်ပွဲကျင်းပရာ၊ မစ်ဒလိုသီယန်နယ်တွင် မိန့်ကြားသည့်ဂလက်စတုန်း၏မဲဆွယ်မိန့်ခွန်းများမှာ အလွန်အချက်ကျ၍ ထိမိလှပေသည်။ ရွေးကောက်ပွဲအပြီးတွင် လစ်ဗရယ်ပါတီအာဏာရလာပြီးနောက် ဂလက်စတုန်းလည်းဒုတိယအကြိမ်နန်းရင်းဝန်ဖြစ်လာပြန်သည်။

နန်းရင်းဝန်ကြီးဂလက်စတုန်းနေထိုင်ခဲ့သည့်အိမ်



စွာ ကြံစည်ခဲ့ကြသော ရိုက်ညီနောင်တို့ပင်လျှင် ဂလိုက်ဒါများဖြင့် စမ်းသပ်လေ့လာခဲ့ကြရလေသည်။

ဂလိုက်ဒါတွင် အလွတ်ပျံသန်းနိုင်သောအမျိုးနှင့် လေယာဉ်ပျံကကြိုးဖြင့် ဆွဲဆောင်ရသောအမျိုးဟူ၍ ၂ မျိုးရှိသည်။ ပဌမအမျိုးတွင် တဖန် အပျော်စီးဂလိုက်ဒါနှင့် 'လေယာဉ်ပျံအမောင်းသင်ဂလိုက်ဒါဟူ၍ ၂ စားရှိပြန်သည်။ အခြားတမျိုးမှာ ဝန်တင်ဂလိုက်ဒါမျိုး ဖြစ်၍ သာမန်ဂလိုက်ဒါတို့ထက် ကြီးမားကြသည်။ အချို့မှာ လူ ၃၀ ခန့်အထိ တင်ဆောင်နိုင်အောင်ပင် ကြီးမားကြသည်။ ဤဝန်တင်ဂလိုက်ဒါမျိုးကို စီးပွားရေးဖက်၌ ကုန်ပစ္စည်းတင်ရန် အသုံးပြု၍၊ စစ်ပွဲများ၌ စစ်သားစစ်လက်နက်နှင့်စစ်ရိက္ခာများ သယ်ယူပို့ဆောင်ရန် အသုံးပြုကြသည်။ ဗိုလ်ချုပ်မှူး ဝင်ဂိတ်သည် ပြီးခဲ့သောဒုတိယကမ္ဘာစစ်အတွင်းက မြန်မာနိုင်ငံရှိ ဂျပန်တပ်များကို ပြန်လည်ထိုးစစ်ဆင်ခဲ့စဉ်က ဤဂလိုက်ဒါမျိုးကို ထိရောက်စွာအသုံးပြုခဲ့လေသည်။

အင်္ဂလန်၊ ဂျာမနီ၊ အမေရိကန်၊ ရုရှစသော နိုင်ငံကြီးတို့၌ ဂလိုက်ဒါများ အလွန်ခေတ်စားခဲ့သည်။ အထူးသဖြင့် ဂျာမနီနိုင်ငံ၌ ပဌမ ကမ္ဘာစစ်ပြီးခေတ်တွင် ထူးထူးခြားခြား ခေတ်စားခဲ့၍ ဂလိုက်ဒါစီး သူရဲကောင်းများပေါ်ပေါက်ခဲ့ကြသည်။ ထိုနောက်တွင် ဂလိုက်ဒါသည် ရုရှနိုင်ငံ၌လည်း သိသိသာသာခေတ်စားလာခဲ့ပေသည်။

ဂလိုက်ဒါနှင့် အဝေးဆုံး ပျံသန်းခဲ့သော ကမ္ဘာ့စံချိန်မှာ မိုင်ပေါင်း ၄၆၅.၅၇၂ ဖြစ်သည်။ ထိုခရီးကို အော်လဂါကလက်ပီကိုဗာ ဆိုသူ ရုရှအမျိုးသမီးလေသူရဲက ၁၉၃၉ ခုနှစ်တွင် ပျံသန်းခဲ့သည်။ အမြင့်ဆုံးပျံသန်းခဲ့သောကမ္ဘာ့စံချိန်မှာ စတင်ပျံသန်းရာမှ ပေပေါင်း ၂၆,၄၁၀ မြင့်သည်။ ထိုအမြင့်ကို ပါအိပ်ဆဲပါဆန် ဆိုသူ ဆွီဒင်အမျိုးသားတဦးက ၁၉၄၇ ခုနှစ်တွင် ပျံသန်းခဲ့သည်။ လေထဲ၌ အကြာဆုံးနေခဲ့သော ကမ္ဘာ့စံချိန်မှာ ၃၆ နာရီ ၃၅ မိနစ်ဖြစ်သည်။ ထိုစံချိန်ကို ကွတ်ရှမစ် ဆိုသူ ဂျာမန်အမျိုးသားတဦးကထွင်ခဲ့လေသည်။ (လေယာဉ်ပျံ — လည်းရှု။)

**ဂလင်း**။ ။ဂလင်းဆိုသည်မှာ ခန္ဓာကိုယ်ကို ပြုပြင်ဆောက်တည်ရာ၌၎င်း၊ ကိုယ်တွင်းမှ မလိုအပ်သော အညစ်အကြေးများကို ပြင်ပသို့ထုတ်ရာ၌၎င်း အလွန်အသုံးဝင်၍ အကူအညီပေးသော အင်္ဂါဖြစ်သည်။ ဂလင်းသည် ခန္ဓာကိုယ်၌ အနှံ့အပြားရှိသည်။ နေရာကိုလိုက်၍ ဂလင်းတို့၌ အရွယ်နှင့်ပုံသဏ္ဌာန်အမျိုးမျိုးရှိသည်။ အချို့ဂလင်းတို့သည် ဆန်စေ့နှင့်တူကြ၍၊ အချို့လည်း အိတ်ကလေးများနှင့်တူကြသည်။ အချို့ဂလင်းတို့သည် ခပ်မြောင်းမြောင်း နေကြသည်။ အကျိတ်ကဲ့သို့သော ဂလင်းများလည်းရှိသည်။

အသက်ရှင်နေသရွေ့ကာလပတ်လုံး လူတို့သည် နေ့စဉ်



အမြင့်သို့ ပျံတက်စေရန် ဂလိုက်ဒါယာဉ်ကိုမော်တော်ကားဖြင့်အရှိန်ရအောင်ဆွဲနေပုံ

နေ့တိုင်း ခန္ဓာကိုယ်အတွင်းမှ အရည်များစွာကို ထုတ်လျက်ရှိကြ၏။ ငိုလိုက်သည်နှင့်တပြိုင်နက်၊ မျက်စိအစုံမှ မျက်ရည်များ ကျဆင်းလာသည်။ အနည်းငယ်ပူအိုက်၍လာသည့်အခါ ခန္ဓာကိုယ်အနှံ့အပြားရှိ အရေပြားပေါ်တွင် ချွေးများစို့ထွက်လာသည်။ ပါးစပ်ထဲ၌လည်း တံထွေးသည် အမြဲထွက်ပေါ်လျက်ရှိသည်။ ထိုမျက်ရည်၊ ချွေး၊ တံထွေး၊ စသော အရည်အသီးသီးသည် ဂလင်းတို့မှ ယိုစီးထွက်လာကြသည်။ ဂလင်းတို့သည် သွေးထဲမှ ရေနှင့် အခြားပစ္စည်းများတို့ကိုထုတ်ယူပြီးလျှင် မိမိတို့နှင့် ဆိုင်ရာအရည်ကို မိမိတို့ဖာသာဖန်တီး၍ ထုတ်ပေးကြသည်။ ပမာအားဖြင့် မျက်ရည်ကို မျက်လုံးအိမ်အတွင်းရှိ မျက်ရည်ဂလင်းများမှ၎င်း၊ တံထွေးကို မေးရိုးနှင့် လျှာအောက်ရှိ တံထွေးဂလင်းများမှ၎င်း၊ ဂုံစတြစ်ရည်ခေါ် အစာသစ်အိမ်ရည်ကို အစာအိမ်နံရံရှိ ဂုံစတြစ်ဂလင်းများမှ၎င်း၊ သည်းခြေရည်ကို အသည်းမှ၎င်း၊ ပန်ကရိ ရည်ကို အစာအိမ်အောက်နားရှိ ပန်ကရိခေါ် ဂလင်းမှ၎င်း အသီးသီးထုတ်ပေးကြသည်။ တံထွေး၊ ဂုံစတြစ်ရည်၊ သည်းခြေရည်နှင့် ပန်ကရိရည်တို့သည် စားမျိုလိုက်သော အစာကို တနည်းတလမ်းအားဖြင့် ချေချက်ပေးကြသည်။ ဂလင်းအားလုံးတွင် အသည်းသည် အကြီးဆုံးဂလင်းဖြစ်သည်။ အသည်းအောက်နား၌ သည်းခြေရည် သိုလှောင်ရာသည်းခြေ အိတ်ရှိသည်။ သည်းခြေရည်သည် ပြွန်ကလေး တခုမှ တဆင့်အူသိမ်အတွင်းသို့ စီးဝင်သည်။

အထက်၌ဖော်ပြခဲ့သော ဂလင်းများတွင် ခန္ဓာကိုယ်ပြင်ပသို့ဖြစ်စေ၊ အစာကြောင်း အတွင်းသို့ဖြစ်စေ မိမိတို့၏ အရည်များကို ထုတ်ပေးရန်ပြွန်အသီးသီး ပါရှိကြသည်။ သို့သော် ပြွန်မရှိသော ဂလင်းများလည်း ခန္ဓာကိုယ်အနှံ့အပြား၌ ရှိသေး၏။ ထိုဂလင်းများမှ ထွက်သောအရည်ကို ဟော်မုန်းဟုခေါ်သည်။ ဟော်မုန်းသည် သွေးကြောများထဲသို့ တိုက်ရိုက်စီးဝင်ပြီးလျှင် တကိုယ်လုံးသို့ ပျံ့နှံ့သွား၏။

ပြွန်မဲ့ဂလင်းများတွင်ဦးခေါင်းအတွင်း ဦးနှောက်အောက်ဖက်နား၌ရှိသော ဂလင်းကို ပစ်ကျူအစ်တာရီဂလင်းဟုခေါ်သည်။ ထိုဂလင်းသည် ကိုယ်ကာယထွားကျိုင်းမှုနှင့် သက်ဆိုင်၍အစိတ်အပိုင်းများစွာပါရှိသည်။ အစိတ်အပိုင်းတခုမှ ထွက်သောအရည်သည် နည်းလွန်းလျှင် ခန္ဓာကိုယ်ကို ပုညက်စေတတ်၍၊ များလွန်းလျှင် ကိုယ်ခန္ဓာကို အဆမတန်ကြီးထွားစေတတ်သည်။

ကျောက်ကပ်အထက်၌ ဆူပရာရီနယ်ခေါ် သေးငယ်သော ဂလင်း ၂ ခုရှိသည်။ ထိုဂလင်းတို့မှ သွေးအားရှိစေသော အရည်ကို အစဉ်အမြဲထုတ်ပေးလျက်ရှိသည်။ ဒေါသထွက်ခြင်း၊ ကြောက်လန့်ခြင်းစသော ရုတ်တရက်စိတ်လှုပ်ရှားချိန်မျိုး၌ အခါတိုင်းထက်ပို၍ ထိုအရည်ကိုထုတ်ပေးသည်။

လည်ပင်းအတွင်း၌ သိုင်းရွိုက်ဂလင်း ရှိ၍၊ ထိုဂလင်းနှင့် ကပ်လျက် စပါးစေ့သဏ္ဌာန် ပါရာသိုင်းရွိုက်ဂလင်း ၄ ခုရှိသည်။ ကလေးအရွယ်၌ သိုင်းရွိုက်ဂလင်းမှ အရည်အထွက်နည်းလျှင် ကလေးသည် ထုံထိုင်းပုညက်တတ်သည်။ လူကြီးအရွယ်၌လည်း ထိုဂလင်းမှ အရည်အထွက် နည်းလျှင် ကာယဗလ၊ ဉာဏဗလ ၂ မျိုးစလုံး သိမ်ဖျင်းလေးကန်တတ်သည်။ လည်ပင်းကြီးနာဖြစ်ပွားတတ်ခြင်းမှာ များသောအားဖြင့် ထိုဂလင်းမှ အရည်အထွက်နည်းခြင်းကြောင့်ပင်ဖြစ်၏။ သိုင်းရွိုက်ဂလင်းမှ သိုင်ရော့ဆင်းဟုခေါ်သော ဟော်မုန်းရည်ကို ထုတ်ပေးသည်။ ဤဟော်မုန်းသည် ကြွက်သားနှင့်စိတ်တို့၏ လှုပ်ရှားသွက်လက်မှု၊ နှလုံးခုန်မှုတို့ကို အားပေးသည်။ ပါရာသိုင်းရွိုက်ဂလင်းများမှထွက်သော ဟော်မုန်းကမူ ခန္ဓာကိုယ်အတွင်းရှိ ထုံးဓာတ်ကို ထိန်းသိမ်းပေးခြင်းဖြင့် အရိုးအဆစ် ကြီးပွားတောင့်တင်းမှုကို ထောက်ပံ့အားပေးသည်။ ဤဂလင်းများကို ထုတ်ပစ်ခဲ့သော် တက်တင်နီရောဂါ ဖြစ်တတ်သည်။ ထိုရောဂါဖြစ်သူသည် တက်တတ်သည်။ ကိုယ်အလေးချိန်မှာလည်း တဖြည်းဖြည်း လျော့လာတတ်သည်။ ဤရောဂါရလျှင် သေဖက်နီးလာသည်ဟုဆိုရပေမည်။

ပြွန်မဲ့ဂလင်းတို့သည် သေးငယ်ပင် သေးငယ်သော်လည်း ခန္ဓာကိုယ် ကျန်းမာသန်စွမ်းရေး အတွက် မရှိလျှင် မဖြစ်လောက်အောင် အရေးပါအရာရောက်ကြသည်။ အကယ်၍ ထိုဂလင်းများကို လူတယောက်၏ခန္ဓာကိုယ်မှ ထုတ်ယူလိုက်မည်ဆိုပါက၊ ထိုလူသည် သုံးလေးရက်အတွင်း အသက်သေဆုံးမည်မှာမုချပင်ဖြစ်သည်။

**ဂလစ်ဆရင်း။** ။ဂလစ်ဆရင်းသည် အရောင်ကင်း၍ အနံ့မထင်ရှားသော အချိုရည်ခပ်ပျစ်ပျစ်ဖြစ်သည်။ ရေထက်လေး၍ ရေတွင် ကောင်းစွာပျော်သည်။ အဆီနှင့် ဆီစစ်စစ်မှန်သမျှတွင် ဂလစ်ဆရင်းပါသည်။ ဂလစ်ဆရင်းကို အလှဆီဟူ၍လည်းသိကြသည်။ သကြားမှ ကဇော်ဖေါက်ယူရသော အရက်များတွင် ဂလစ်ဆရင်းအနည်းအကျဉ်းပါ၏။ ဂလစ်ဆရင်းကိုဆပ်ပြာလုပ်ငန်း၌ ဘေးထွက်ပစ္စည်းအဖြစ်ဖြင့် အများအပြားရရှိသည်။ ဂလစ်ဆရင်းစစ်စစ်ကို ဂလစ်ဆရိုဟု ခေါ်ကြသည်။ ဓာတုဗေဒအလိုအားဖြင့် ထရိုင်ဟိုက်ဒရစ်အယ်လကိုဟော ဟု ခေါ်၍ဓာတုသင်္ကေတမှာ $[C_3H_5(OH)_3]$ ဖြစ်၏။ အယ်လကိုဟောအစုတွင်ပါဝင်သော်လည်း ဂလစ်ဆရင်း၌ မူးယစ်စေတတ်သော သတ္တိအနည်းငယ်မျှမရှိချေ။

ဂလစ်ဆရင်းသည် ပစ္စည်းများစွာကို အရည်ပျော်စေနိုင်သည်။ အထူးသဖြင့် ထင်းရှူးစေးကဲ့သို့သော ပစ္စည်းမျိုးကို ကောင်းစွာ အရည်ပျော်စေနိုင်သည်။ အဝတ်၌စွဲသော



ဂလပ်စဂိုးမြို့ ဂျော့စကွဲယားပန်းခြံနှင့်မျူနီစီပယ်အဆောက်အအုံ

ကာဗီ၊ လက်ဖက်ရည်အစွန်းအထင်းများကို ဂလစ်ဆရင်းနှင့်တိုက်ချွတ်ဆေးကြောလျှင် အစွန်းအထင်းပျောက်သည်။ ဂလစ်ဆရင်းကို နိုက်ထရိုဂလစ်ဆရင်း၊ ဒိုင်နမိုက်စသော ပေါက်ကွဲစေတတ်သည့် ခဲယမ်းမီးကျောက်များပြုလုပ်ရာ၌ အသုံးများသည်။ ဆဲလိုဖိန်းနှင့်ပလပ်စတစ်ပစ္စည်းများပြုလုပ်ရာ၌လည်း သုံးသည်။

ဂလစ်ဆရင်းသည် မခြောက်သွေ့တတ်သော ပစ္စည်းတမျိုးဖြစ်ခြင်းကြောင့် စီးကရက်နှင့် ဆေးတံသောက်ဆေးများတွင် ရောစွက်အသုံးပြုကြသည်။ ချိုရှိစေးသောသတ္တိရှိခြင်းကြောင့် ဆပ်ပြာ၊ အလှဆီစသော အလှကုန်များ၊ ဘယဆေးများ၊ သရည်စာမုန့်များပြုလုပ်ရာ၌ ဂလစ်ဆရင်းကိုအများအစားအသုံးပြုကြသည်။ ဝမ်းနုတ်ဆေးအဖြစ်ဖြင့်လည်း သုံးကြသည်။

**ဂလပ်စဂိုးမြို့။** ။ဂလပ်စဂိုးမြို့မှာ စကော့တလန်ပြည်၏ အကြီးဆုံးဆိပ်ကမ်းမြို့ ဖြစ်၍ ကလိုက်မြစ်ပေါ်၌တည်ရှိပြီးလျှင်၊ အက်ဒင်ဗာရာမြို့တော်နှင့် ၄၇ မိုင်ခန့်သာကွာဝေးသည်။ ယခုအခါ လန်ဒန်မြို့မှလွဲလျှင် ဂရိတ်ဗြိတိန်တွင် အကြီးဆုံးမြို့ဖြစ်လေသည်။

ဂလပ်စဂိုးမြို့သည် ကျောက်မီးသွေးနှင့် သံထွက်ရာဒေသများ၏ဗဟိုတွင် တည်ရှိသည်။ ထို့ကြောင့်သင်္ဘောတည်ခြင်း၊ သံထည်ပစ္စည်းများထုတ်လုပ်ခြင်းစသော စက်မှုလက်မှုလုပ်ငန်းများ၌အလွန်ကြီးကျယ်သည်။ ထို့ပြင် စက်ဖြင့်သိုးမွေးထည်၊ ခြည်ထည်များရက်လုပ်ခြင်း၊ ဓာတ်ဆေးချက်ခြင်းတို့လည်း ထွန်းကားလေသည်။

မြို့ကို လှပစွာအကွက်ချ၍ ခေတ်မီအောင် တည်ထားသည်။ စက်ရုံကြီးများနှင့်အလုပ်ရုံကြီးများသည် နေရာအနှံ့ရှိသဖြင့် မီးခိုးထွက်နေသောခေါင်းတိုင်များ၊ တည်ဆောက်ဆဲသင်္ဘောကိုယ်ထည်များ၊ ခေတ်မီအသင်္ဘောကျင်းတလျှောက်တွင် ဆိုက်ကပ်ထားသော သင်္ဘောများမှ ရွက်တိုင်များသည် မြို့၏ရှုခင်းတရပ်ဖြစ်သည်။

တက္ကသိုလ်ကျောင်းတော်ကြီး၊ သုခုမပညာသင်ကျောင်းများ၊ ကောလိပ်ကျောင်းများ၊ ပြည်သူ့စာကြည့်တိုက်၊ မျူနီစီပယ်အဆောက်အအုံနှင့် စတော့ပွဲရုံကြီးများမှာမြို့၏ ကျက်သရေဆောင်များ ဖြစ်သည်။ သုခုမပညာပြခန်းကြီးမှာ ကယ်လဗင်ဂရိုခေါ်ပန်းခြံကြီးအတွင်းတွင် အနီရောင်သဲကျောက်ဖြင့် ဆောက်လုပ်ထားသော အဆောက်အအုံဖြစ်၍ ဗြိတိသျှကျွန်းစုမှ အလွန်ရှားပါးကောင်းမွန်သော ပန်းချီကားများကို တွေ့နိုင်လေသည်။

မြို့၏အကျယ်အဝန်းမှာ စတုရန်းမိုင် ၆၂ မိုင်ခန့်ရှိ၍ လူဦး

ရေ ၁၀,၀၀,၀၀၀ ကျော်မျှရှိပြီးလျှင် စက်မှုလက်မှုလုပ်ငန်းတွင် အကြီးအကျယ်ဆုံးဌာနဖြစ်ရုံမျှမက ဗြိတိန်နိုင်ငံ၏ သင်္ဘောတည်ဆောက်သည့်လုပ်ငန်းတွင် အချက်အခြာမြို့ကြီးဖြစ်လေသည်။

ထိုမြို့၏အုပ်ချုပ်ရေးမှာ စံထားလောက်အောင်ကောင်းကြောင်းဖြင့် ကမ္ဘာ့အရပ်ရပ်တွင် ကျော်ကြားလေသည်။ မြို့အုပ်ချုပ်ရေးရုံများ၊ ကျန်းမာရေးဌာနများ၊ အိုးအိမ်တည်ဆောက်ရေးများမှာ အလွန်စံနစ်ကျနသဖြင့် ကမ္ဘာ့မြို့ကြီးများကနည်းယူကြရလေသည်။

**ဂဟော။** ။ဂဟောဆိုသည်မှာ သတ္တုများကို တခုနှင့်တခုဆက်ရန်အတွက်သော်၎င်း၊ သတ္တုများကို ဖာထေးရန်အတွက်သော်၎င်း၊ အသုံးပြုသော သတ္တုစပ် ပင်ဖြစ်သည်။ ဂဟေပြုလုပ်ရာ၌ အရေးကြီးသောအချက်မှာ ဂဟေသည် ဆက်ယူမည့်သတ္တုများထက်ပို၍ အရည်ပျော်လွယ်နိုင်ရမည့် အချက်ဖြစ်သည်။

ဂဟေသည် ဂဟေပျော့၊ ဂဟေမာဟူ၍နှစ်မျိုးရှိသည်။ ဂဟေမာသည် အပူချိန်များမှ အရည်ပျော်၍၊ ဂဟေပျော့မှာမူ အပူချိန်နည်းမှ အရည်ပျော်သည်။ ဂဟေမာသည် အလွန်ခိုင်မာသဖြင့် ယင်းကိုအလိုရှိသလို ထုရိုက်၍ပုံသွင်းယူနိုင်ပေသည်။ အချို့ဂဟေမာကို နန်းဆွဲ၍ရသည်။ အချို့ကို အပြားခတ်၍ရသည်။ အသုံးအများဆုံးသော ဂဟေမာမှာ ငွေဂဟေဖြစ်သည်။ ငွေဂဟေ၌ ငွေ၊ ကြေးနီနှင့်သွပ်တို့ပါရှိသည်။ ငွေကိုထည့်စပ်ရခြင်းမှာ ဂဟေ၏ အရည်ပျော်မှတ်ကို နိမ့်ကျသွားစေရန်ဖြစ်၏။ ငွေဂဟေ၌ ပါဝင်လေ့ရှိသော ကြေးနီ၊ သွပ်၊ ငွေတို့၏အချိုးအစားမှာ ကြေးနီ ၄၅ ရာခိုင်နှုန်း၊ သွပ် ၃၅ ရာခိုင်နှုန်းနှင့် ငွေ ၂၀ ရာခိုင်နှုန်းဖြစ်သည်။ ထိုဂဟေသည် စင်တီဂရိတ်အပူချိန် ၇၀၇ ဒီဂရီတွင်အရည်ပျော်၏။

ထိုဂဟေမျိုးကို ကြေးဝါ၊ ကြေးနီ၊ ငွေ၊ သံတို့ကိုဆက်ရာတွင်အသုံးပြုကြသည်။ ရွှေပန်းထိမ်ဆရာများ ဂဟေလုပ်ရာ၌ ရွှေကိုအဓိကထား၍ ကြေးနီနှင့်ငွေတို့ကိုရောစပ်ယူကြသည်။

ဂဟေပျော့များသည် အပူချိန်နည်းနည်း၌အရည်ပျော်နိုင်ကြသည်။ ထိုဂဟေပျော့များသည် ကြွပ်ဆတ်သဖြင့် အထုအရိုက်မခံနိုင်ကြချေ။ လူသိများသောဂဟေပျော့များမှာ သံဖြူနှင့်ခဲကိုအဓိကထား၍ရောစပ်ထားသောဂဟေများပင်ဖြစ်သည်။ ဂဟေပျော့တမျိုး၌ သံဖြူ ၆၇ ရာခိုင်နှုန်းနှင့်ခဲ ၃၃ ရာခိုင်နှုန်းပါရှိသည်။ ထိုဂဟေမျိုးကိုအများအားဖြင့် သံဖြူဆရာများအသုံးပြုကြ၏။ ထိုဂဟေပျော့များအတွက် ကယ်ဒမီယမ်၊ ဗစ်စမတ်၊ အန်တီမိုနီနှင့်ငွေသတ္တုတို့ကိုလည်း ရောစပ်ယူရသည်။ ဂဟေဆက်ရာ၌ ပဌမ နီရဲအောင် မီးဖုတ်ထားသော ကြေးနီချောင်းဖြင့် ဂဟေကိုအရည်ပျော်စေသည်။ ထိုနောက် ကြေးနီချောင်း



ဂလပ်စဂိုးမြို့ကလိုက်မြစ်ဆိပ်

ထိပ်တွင် ဂဟေပျော်ရည်ကိုယူ၍ သတ္တုများကိုဆက်ပေးသည်။ တခါတရံ သတ္တုများကိုပျော်နေသော ဂဟေထဲ၌ နှစ်၍ရင်း၊ ဂဟေဆက်မည့်နေရာတွင် ဂဟေကိုမီးတောက်ဖြင့်အရည်ပျော် စေ၍ရင်း ဆက်ပေးတတ်သည်။ ထိုနည်းများအပြင် သတ္တုများကို မီးဖုတ်၍ဆက်သောနည်းလည်း ပါသေးသည်။ ထိုနည်းကို ငွေဂဟေနှင့်ကြေးဂဟေဆက်ရာတွင်အသုံးပြုကြ၏။

ဂဟေမဆက်မီ သတ္တုများသည် ချေးမတင်ဘဲစင်ကြယ်၍ နေရပေသည်။ သို့မှသာလျှင် သတ္တုများ၌ ဂဟေကောင်းစွာစွဲကပ်နိုင်ပေသည်။ ချေးရှိနေလျှင် ယင်းကိုစားပစ်ရန် သတ္တုပျော်ကူ ခေါ် ပစ္စည်းတမျိုးကိုအသုံးပြုရသည်။ ဂဟေပျော့အတွက် ထင်းရှူးစေးသို့မဟုတ် သွပ်ဖြင့်သတ်ထားသော ဟိုက်ဒရိုကလောရစ် အက်ဆစ် ကိုရင်း၊ ဂဟေမာအတွက် လက်ချားမှုန့်သို့မဟုတ် ဇဝက်သာကိုရင်း သတ္တုပျော်ကူအဖြစ်အသုံးပြုကြသည်။

**ဂဠုန်။** ။လေးသောဝန်ကိုဆောင်ယူတတ်သောသတ္တဝါသည် ဂဠုန်မည်၏ဟု မဂဓအဘိဓာန်များက အဓိပ္ပါယ်ဖေါ်ပြသည်။ ထို့အပြင် ဂဠုန်သည်ငှက်တို့၏မင်းဖြစ်သည်၊ နဂါးတို့ကိုနှိမ်နင်းသတ်ဖြတ်နိုင်သည်ဟုကျမ်းဂန်များ၌ဆို၏။ ယင်း၏အတောင်များမှာ ရွှေအဆင်းကဲ့သို့တောက်ပြောင်လှပသည်ဟု အဋ္ဌကထာကျမ်းများ၌ ဆိုသည်။ ဂဠုန်ငှက်မင်းသည်ယူဇနာ ၁၅၀ ခန့်အရွယ်ရှိကြောင်းသုတ်မဟာဝါ အဋ္ဌကထာ၊ မဟာနိဒါနသုတ်၌ပါရှိသည်။ ဂဠုန်မင်းသည် ဂဠုန်လေကိုပြုအံ့သောငှာ အားထုတ်လတ်သော် ယူဇနာ ၆၀၀၀ ရှိသော အရပ် သည် မလောက် ဟူ၍ သံယုတ်အဋ္ဌကထာ၌လာရှိလေသည်။

ဗေဒင်ကျမ်းဂန်များ၌ 'တနင်္ဂနွေဂဠုန်၊ ရွှေမြောက်ကြုံ၊ နေတုံခြောက်နှစ်မျ' ဟူသော သံပေါက်အရ၊ တနင်္ဂနွေဂြိုဟ်၏အမှတ်အသားမှာဂဠုန်ဖြစ်သည်။ ရဲရင့်ခြင်း၊ အားခွန်ဗလကြီးခြင်း၊ အောင်မြင်ခြင်းတို့ကိုဆောင်သည်။ ခရစ် ၁၉၃၀ ပြည့်နှစ်၌ မြန်မာနိုင်ငံတွင် ဗြိတိသျှအစိုးရအား ပုန်ကန်တော်လှန်သောဆရာစံသူပုန်ကြီးပေါ် ပေါက်ခဲ့ဘူးသည်။ စနေနံ (နဂါးရုပ်) ဖြစ်သော အင်္ဂလိပ်ကိုအောင်နိုင်စေခြင်းငှာ ဆရာစံသည် သုပဏ္ဏကဂဠုနရာဇာ (ဂဠုန်မင်း)ဘွဲ့ကို ခံယူခဲ့သည်။

မြန်မာစာပေတို့တွင် ဂဠုန် အကြောင်း ကို ဤသို့ တွေ့ရသည်။ 'ဂဠုန်နဂါးပုံမခြားစုံများတဲ့ရုပ်ကောင်၊ မှန်စွာ



သံဖြူထည်ကို ခဲဂဟေ ခေါ်ဂဟေပျော့ဖြင့် ဤသို့ဂဟေဆော်သည်။

ဖွေရှာသောချာမှန်း ထင်ကြည့်၊ လွမ်းချင်သည့် စိတ်ကဝိပ္ပလ္လာ' ဟူ၍ စိန်ခြယ်ဖြာရောင်လင်းကြိုးသီချင်းတွင် တိမ်ကို တင်စားနှိုင်းဖွဲ့ခဲ့သည်။ မြန်မာစာပေလောကတွင် စာဆိုအကျော်အမော်တပါးဖြစ်သော ရှင်ဥတ္တမကျော်၏ တောလားရတုတွင်လည်း 'တိမ်ညိုမိလ္လာ၊ တိမ်စူကာနှင့်၊ တိမ်ပြာရောယှက်၊ မရန်းဖက်၍၊ တိမ်သက်တံ့ရောင်၊ အဝါပေါင်ဝယ်၊ မှောင်ခဲ့တခါ၊ ပြာခဲ့တမျိုး၊ ညိုခဲ့တလီ၊ ရီခဲ့တဖုံ၊ မှုန်ခဲ့တချက်၊ ယုဂန်ထက်က၊ လေးဖက်လုံးခြုံ၊ တိမ်ဂဠုန်လည်း၊ နဂါးရုံကြွေ့၊ ရန်ချင်းတွေ့သော်၊ ခိုးငွေ့လွတ်ပြိုင်၊ ဂုဏ်ချင်းဆိုင်ခဲ့' ဟူ၍ တိမ်ကိုပင်သက်ဝင်လှုပ်ရှား ဂဠုန်ငှက်အလား တင်စားနှုန်းဖွဲ့ခဲ့သည်။ မြန်မာတို့ ဝေါဟာရအသုံးအနှုန်းတွင် စစ်ဆင်စစ်တက် ရာ၌ ဂဠုန်တောင်ဖြန့်သည် ဟူ၍ရင်း၊ ရှုန်းရင်းဆန်ခတ်ဖြစ်သည်ကို နဂါးဂဠုန်လိုက်သည် ဟူ၍ရင်း၊ ဆေးပင်ဝါးပင်များတွင် ဂဠုန်လက်သည်းပင်ဟူ၍ရင်း၊ ဂဠုန်ဆိုသောငှက်အထူးကိုတင်စား၍ဆိုလေ့ရှိကြသည်။ ပသိပုံပြင်များတွင်လည်း ဂဠုန်ကဲ့သို့ကြီးမားသော ငှက်များရှိကြောင်း ဖေါ်ပြပါရှိလေသည်။ ဘုရားဟောမုက္ခပါဠ်ငါးရာ့ငါးဆယ် ဖြစ်စဉ်တိံသနိပါတ်ပဏ္ဏရကဇာတ်တော်၌ကား ဂေါတမမြတ်စွာဘုရားအလောင်းတော်သည် ဂဠုန်မင်းဖြစ်ဘူးခဲ့သည် ဟုတွေ့ရလေသည်။



ဂဠုန်ငှက်ကို မြန်မာပန်းချီဖြင့် ဤသို့သရုပ်ဖေါ်သည်။

**ဂါတာ, ဖွန် ယိုဟန်း ဝုဖဂန်** (ခရစ် ၁၇၄၉–၁၈၃၂)။ ဂျာမန်စာဆိုတော်ကြီး ဂါတာသည် ၁၇၄၉ ခုနှစ်တွင် ဂျာမနီပြည် ဖရန့်ဖို့မြို့၌ဖွားမြင်သည်။ အမိဖက်မှ အဖိုးမှာ မြို့မျက်နှာဖုံး တရားသူကြီး တဦးဖြစ်သည်။ ငယ်စဉ်က အဖိုးဖြစ်သူနှင့်မိခင်ဖြစ်သူတို့က များစွာအလိုလိုက်ခဲ့၍ဖခင်ကိုယ်တိုင်သားငယ်ကိုအိမ်၌စာသင်ပေးလေသည်။ အသက် ၁၆ နှစ်ပြည့်မှ ဥပဒေပညာဆည်းပူးရန် လိုက်ပဆစ်မြို့သို့ ပို့လိုက်၏။ ဂါတာသည် ငယ်စဉ်အခါက ရုပ်သေးရုပ်များနှင့်ဇာတ်ခင်းကျင်းပြသ ကစားလေ့ရှိရာ နောင်အခါတွင် ပြဇာတ်ရေးဆရာကြီးဖြစ်မည့်နိမိတ်ဟုပြောဆိုကြ၏။

ဂါတာသည် လိုက်ပဆစ်မြို့၌ ကဗျာလင်္ကာများကိုစပ်ဆိုသေးသည်။ ထိုနောက် မကျန်းမာသဖြင့် ဖရန့်ဖို့မြို့သို့ပြန်လာပြီးလျှင် စထရက်ဇဗူးတက္ကသိုလ်၌ ဥပဒေပညာများကို ဆက်လက်ဆည်းပူးရာ ၁၇၇၁ ခုနှစ်တွင် ဥပဒေဘွဲ့ထူးကိုဆွတ်ခူးနိုင်ခဲ့သည်။ စထရက်ဇဗူးတက္ကသိုလ်တွင် ယိုဟန်းဟာဒါဆိုသူစာဆိုတဦးနှင့်မိတ်ဖြစ်ခဲ့၍၊ ဟာဒါက ဂါတာအား ရှေးသီချင်းကြီးများကိုစိတ်ဝင်စားအောင် ဆွဲဆောင်ခဲ့၏။ ထို့ပြင် ရှိတ်စပီးယား၏စာများကိုလည်း ဖတ်ရန်တိုက်တွန်းခဲ့သည်။ ထိုစဉ်က စပ်ဆိုသော ကဗျာများသည် ဂျာမနီပြည်၏ ခေတ်စမ်းကဗျာညွှန့်များဖြစ်၏။ သူ၏ကဗျာများစပ်ပုံစပ်နည်းကိုသူ ကိုယ်တိုင်ထွင်ယူ၍၊ သူရေးပုံရေးနည်းကို 'ဂါတာ၏စာဟန်' ဟုပင်ခေါ်တွင်ကြသည်။ ကဗျာများအပြင် ပြဇာတ်များကိုလည်း ရေးခဲ့၏။ ဓားပြဗိုလ်ကြီးကို ဇာတ်လိုက်အရာတင်၍ ရေးသောပြဇာတ်တခုကြောင့် နာမည်ကျော်ကြားလာလေသည်။ ထိုနောက် ဝတ္ထုများဆက်ရေးသားရာ မင်းမြီးမြောက်ခြင်းခံရသည်အထိဖြစ်ခဲ့၏။

ကမ္ဘာတွင်ကျော်ကြားတည်တံ့စေသော ဂါတာ၏လက်ရာမှာ 'ဖေါ့' ခေါ်ပြဇာတ်ဖြစ်သည်။ ထိုပြဇာတ်ကို ၁၇၇၃ ခုနှစ်တွင်စတင်ရေးခဲ့ရာ၊ ပဌမပိုင်းကို ၁၈၀၆ ခုနှစ် ၃၃ နှစ်ကြာမှပြီးစီးလေသည်။ ဒုတိယပိုင်းကို ၁၈၃၁ ခုနှစ်မှပြီးသဖြင့် စုစုပေါင်း ၅၈ နှစ်မျှကြာအောင်ရေးခဲ့လေသည်။ ထိုပြဇာတ်ကို အကြိမ်ပေါင်း ၃၀၊ ၄၀ ခန့်မျှ အင်္ဂလိပ်ဘာသာသို့ပြန်ဆိုခဲ့သည်။

ဂါတာ ထင်ရှားကျော်စောလာသောအခါ အရပ်ရပ်မှ ပညာလိုလားကြသောလူငယ်များသည် သူ့ထံသို့လာရောက်ဆည်းကပ်ကြလေသည်။ ထိုလူငယ်များတွင် ဂါတာကဲ့သို့ပင်ဂျာမန်စာပေလောက၌ ကျော်စောထင်ရှားသောစာဆိုတော် ရှီးလားလည်းပါဝင်၏။ ဂါတာသည် ရှီးလားကိုအလွန်ချစ်ခင်လေးစား၏။ ရှီးလားနှင့်အသက်ထက်ဆုံးခင်မင်ရင်းနှီးသောမိတ်ဆွေဖြစ်ခဲ့သည်မှာ ဂါတာအဖို့များစွာအကျိုးရှိလေသည်။ ရှီးလားမှာ လုံ့လဝီရိယငွဲ့သန်သူတယောက်ဖြစ်၍ ဂါတာကိုအစဉ်အမြဲနှိုးဆော်အားပေးလေ့ရှိသောကြောင့် 'ဖေါ့' ပြဇာတ်ပဌမပိုင်းကိုပြီးစီးအောင်ရေးသားနိုင်လေသည်။ အခြားကဗျာများကိုလည်း အများအပြားရေးသားခဲ့၏။ ရှီးလားကွယ်လွန်သောအခါ ဂါတာ

မှာစာမဖွဲ့နိုင်လောက်အောင် ပူဆွေးခဲ့လေသည်။ (ရှီးလား, ဂျေ၊အက် (စ) — ရှု။)

ဂါတာသည် ၁၈၃၂ ခုနှစ်တွင် ကွယ် လွန် လေ ရာ၊ အလောင်းကို သူ၏ မိတ်ဆွေ ရှီးလား၏ ဂူအနားၵွင် ပင်မြှုပ်နှံလိုက်ကြ၏။ ငယ်ရွယ်စဉ်ကစ၍သေသည်အထိ ဂါတာသည် လူ့ ဘဝလောကကို အသေးစိတ် ကြည့်ရှုမှတ်သားတတ်သူဖြစ်သည်။ မည်ကဲ့သို့သော အဖြစ်အပျက်မျိုးမဆို ဂါတာအတွက်သေးလွန်းနုပ်လွန်းသည် ဟုမရှိခဲ့။ စေ့စေ့စပ်စပ်လေ့လာသုံးသပ်ခဲ့သည်သာများလေသည်။



ဂျာမန်စာဆိုတော်ကြီးဂျော၊ဗျူ၊ဂါ တာ

ဂါတာသည် သူ၏ ကဗျာများ နှင့် ပြဇာတ် များ တွင် လူ့ဘဝကို အသေး စိတ် ဝေဖန်၍ ထိရောက်စွာ ရေးသားခဲ့လေသည်။ သူ၏ အတွေး အခေါ် များမှာ လက်နှင့် ကိုင်၍ ပြနိုင်လောက်အောင် မယ်မယ်ရရရှိသော စိတ်ကူးစိတ်သန်းများဖြစ်၍ သာမန်လူများဉာဏ်မမှီနိုင် အောင်ပြောင်မြောက်ပေသည်။ သို့ဖြစ်ရာ ဂါတာသည် ကမ္ဘာ့စာပေတွင်ရှိတ်စပီးယားကဲ့သို့ ထင်ရှားသောစာဆိုတော်တဦးဖြစ်သည်။ ဂါတာသည် စာပေကဗျာလင်္ကာဖက်၌သာထူးချွန်သည်မဟုတ်၊ သဘာဝသိပ္ပံပညာရပ်များ၌ ၎င်း၊ တိုင်းပြည် အုပ်ချုပ်မှု၌ ၎င်း ပါရမီရင့်သန်ခဲ့သောစွယ်စုံပညာရှိကြီးဖြစ်ပေသည်။ သူသည်လူတို့၏ သဘာဝကို အကြွင်းမဲ့နားလည်သူဖြစ်၏။ ဂါတာသည်တကမ္ဘာလုံး ကလေးစားကြည်ညိုရသော စာဆိုတော်ပညာရှိကြီးဖြစ်သည်ကို အမျိုးဘာသာမရွေး ဝန်ခံကြရသည်။ ဥရောပတိုက်နှင့်အမေရိကတိုက်ရှိများစွာသောမြို့ကြီး ပြကြီးများ၌ ဂါတာကိုဂုဏ်ပြုသောအားဖြင့် သူ၏ကျောက်ရုပ်ကို စိုက်ထူထားကြသည်။ သူမွေးဖွားရာနေရာဖြစ်သော ဖရန့်ဖို့မြို့ ရှိ အိမ် နှင့် သူနှစ် ပေါင်းများ စွာ နေထိုင် သွားသော ဗိုင်းမားရှိ အိမ်တို့ကို နောင်လာနောက် သား တို့ကြည့် ရှုရန် အမှတ်တရထားရှိလေသည်။

**ဂါထာ**။ ။ခုဒ္ဒကပါဠ်အဋ္ဌကထာ၊ မင်္ဂလသုတ္တအဖွင့်၌ဂါထာဟူသောပုဒ်ကို 'အက္ခရပဒနိယမိတဂန္ထိတေနဝစနေန' ဟူ၍၊ အဋ္ဌကထာဆရာ သျှင်မဟာဗုဒ္ဓဃောသဖွင့် ဆိုအပ် သည်နှင့် လျော်စွာ၊ အက္ခရာပုဒ်တို့ကို သတ်မှတ်၍ ဖွဲ့ဆိုရေးသား အပ်သော ပါဠိ အဖွဲ့ကို ဂါထာ ဟုခေါ် သည်။ ဂါထာကို ပဇ္ဇ ဟူ၍ ၎င်း၊ သိလောက ဟူ၍ ၎င်း ခေါ်ဆိုသေးသည်။

ဂါထာ သည် မြန်မာမှု၌ ကဗျာနှင့် သဘောတူသည်။ သို့ဖြစ်၍ ဂါထာ သည် ပါဠိကဗျာပင်ဖြစ်သည်။ (ကဗျာလင်္ကာ — လည်းရှု။) တဂါထာ၌ လေးပါဒရှိ သည်။ မတြာ အရေ အတွက် ဖြင့် သတ်မှတ်ဖွဲ့ဆိုအပ်သော ဂါထာ၊ အက္ခရာအရေအတွက်ဖြင့်သတ်မှတ်ဖွဲ့ဆိုအပ်သော ဂါထာဟူ၍ဂါထာ ၂ မျိုးရှိပြန်သည်။

မတြာဆိုသည်မှာ မျက်စိတမှိတ် လျပ် စစ် တပြက် လက်ဖျစ်တတီး ကာလကို ခေါ်သည်။ သာမန်အားဖြင့် အ၊ ဣ၊ ဥဟူသောအက္ခရာများသည် တမတြာရှိ၏။ အသံပေါ့သောကြောင့် လဟု ဟုခေါ် သည်။ အာ၊ ဤ၊ ဦ၊ ဧ၊ ဩဟူသောအက္ခရာများသည် နှစ်မတြာရှိ၏။ အသံလေးသောကြောင့် ဂရုဟုခေါ် သည်။

မတြာအရေအတွက် အားဖြင့် သတ်မှတ် ဖွဲ့ဆိုအပ်သော ဂါထာမျိုးကို မတြာဝုတ္တိဂါထာဟုခေါ် သည်။ ထိုမတြာဝုတ္တိဂါထာသည်

၁။ အရိယာဂါထာမျိုး
၂။ ဂီတိဂါထာမျိုး
၃။ ဝေတာလီဂါထာမျိုး
၄။ မတ္တာသမကဂါထာမျိုး

ဟူ၍လေးမျိုးပြားသည်။

၁။ ဆဋ္ဌောဇ်လလဟုဇောဝါ၊ ၁၂ မတြာ
၂။ ဂဃုတညေဆဂ္ဂဏာနဇောဝိသမေ။ ၁၈ ။
၃။ အရိယာဃန္တဒွေလော၊ ၁၂ ။
၄။ ဆဋ္ဌောဇန္တေဂါဂဏာဆည္ဓေ။ ၁၅ ။

အထက်ပါဂါထာ၌ ပဌမ ဒုတိယနှစ်ပါဒဟူသော ရှေ့ထက်ဝက်တွင် မတြာ ၃၀၊ တတိယ စတုတ္ထနှစ်ပါဒဟူသော နောက်ထက်ဝက်တွင် မတြာ ၂၇၊ ပေါင်း ၅၇ မတြာဖြင့်

သတ်မှတ်ဖွဲ့ဆိုထားသည်။ ဤဂါထာမျိုးကို အရိယာဂါထာမျိုးဟုခေါ်သည်။

၁။ သဗ္ဗံပထမဒလေယဒိ၊ ၁၂ မတြာ
၂။ လက္ခဏမရိယာယဝုတ္တမုဘယေသု။* ၁၈ ။
၃။ ယဿာဒလေသုယုတ္တံ၊ ၁၂ ။
၄။ ဝုတ္တာသာဂီတိဝုတ္တယတိလလိတာ။ ၁၈ ။

အထက်ပါဂါထာ၌ ရှေ့ထက်ဝက်တွင် မတြာ ၃၀၊ နောက်ထက်ဝက်တွင် မတြာ ၃၀၊ ပေါင်း မတြာ ၆၀ ဖြင့်သတ်မှတ်ဖွဲ့ဆိုထားသည်။ ဤဂါထာမျိုးကို ဂီတိဂါထာမျိုးဟုခေါ်သည်။

၁။ ဝိသမေဆသိယုံကလာမုခေ၊ ၁၄ မတြာ
၂။ သမေတွင္ဌရလဂါတတောပရိ။* ၁၆ ။
၃။ ဝေတာလီယံတမုစ္စတေ၊ ၁၄ ။
၄။ လဟုဆက္ကံနနိရန္တရံသမေ။ ၁၆ ။

အထက်ပါဂါထာ၌ ပဌမပါဒတွင် ၁၄ မတြာ၊ ဒုတိယပါဒတွင် ၁၆ မတြာ၊ တတိယပါဒတွင် ၁၄ မတြာ၊ စတုတ္ထပါဒတွင် ၁၆ မတြာ၊ ပေါင်း ၆၀ မတြာဖြင့်သတ်မှတ်ဖွဲ့ဆိုထားသည်။ ဤဂါထာမျိုးကို ဝေတာလီဂါထာမျိုးဟုခေါ်သည်။

၁။ ယမတီတလက္ခဏဝိသေသယုတံ၊ ၁၆ မတြာ
၂။ မတ္တာသမာဒိပါဒါဘိဟိတံ။ ၁၆ ။
၃။ အနိယတဝုတ္တပရိမာဏသဟိတံ၊ ၁၆ ။
၄။ ပထိတံဇနေသုပါဒါကုလကံ။ ၁၆ ။

အထက်ပါဂါထာ၌ ပါဒတိုင်းတွင် ၁၆ မတြာစီ အညီအမျှထား၍၊ ၆၄ မတြာဖြင့် သတ်မှတ်ဖွဲ့ဆိုထားသည်။ ဤဂါထာမျိုးကို မတ္တာသမကဂါထာမျိုးဟုခေါ်သည်။

အက္ခရာအရေအတွက်အားဖြင့် သတ်မှတ်ဖွဲ့ဆိုအပ်သော ဂါထာမျိုးကို ဝဏ္ဏဝုတ္တိ ဂါထာ ဟုခေါ်သည်။ ထိုဝဏ္ဏဝုတ္တိဂါထာသည်

၁။ သမဝုတ္တိ၊ လေးပါဒလုံးတူညီသောဂါထာ
၂။ အဍ္ဎသမဝုတ္တိ၊ ထက်ဝက် (၂ပါဒစီ) တူညီသောဂါထာ
၃။ ဝိသမဝုတ္တိ၊ တပါဒ နှင့် တပါဒ မတူညီသောဂါထာ

ဟူ၍သုံးမျိုးပြားသည်။

| | | | | | | | | | | | |
|---|---|---|---|---|---|---|---|---|---|---|---|
| ၁။ | ယံ | ဒု | န္နိ | မိ | တ္တံ | အ | ဝ | မ | င်္ဂ | လ | ဉ္စ၊* |
| | ဂ | ဂ | လ | ဂ | ဂ | လ | လ | ဂ | လ | ဂ | ဂ |
| ၂။ | ယော | စာ | မ | နာ | ပေါ | သ | ကု | ဏ | ဿ | သ | ဒ္ဒေါ။ |
| | ဂ | ဂ | လ | ဂ | ဂ | လ | လ | ဂ | လ | ဂ | ဂ |
| ၃။ | ပါ | ပ | ဂ္ဂ | ဟော* | ဒု | ဿု | ပိ | နံ | အ | က | န္တံ၊ |
| | ဂ | ဂ | လ | ဂ | ဂ | လ | လ | ဂ | လ | ဂ | ဂ |
| ၄။ | ဗု | ဒ္ဓါ | နု | ဘာ | ဝေ | န | ဝိ | နာ | သ | မေ | န္တု။* |
| | ဂ | ဂ | လ | ဂ | ဂ | (ဂ) | လ | ဂ | လ | ဂ | ဂ |

အထက်ပါဂါထာသည် ၁၁ လုံးစီ အညီအမျှသတ်မှတ်ဖွဲ့ဆိုထားအပ်သော ဝဏ္ဏဝုတ္တိဂါထာမျိုးဖြစ်၏။ လေးပါဒလုံး ဂရု လဟုဂိုဏ်းနေ ဂိုဏ်းထားတူညီသောကြောင့် သမဝုတ္တိဂါထာဟုခေါ်သည်။ (ဂရုကို ဂ ငယ်ဖြင့်ရင်း၊ လဟုကို လ ငယ်ဖြင့်ရင်းပြထားသည်။)

| | | | | | | | | | | | |
|---|---|---|---|---|---|---|---|---|---|---|---|
| ၁။ | စ | တူ | ဟ | ပါ | ယေ | ဟိ | စ | ဝိ | ပ္ပ | မု | တ္တော၊ |
| | လ | ဂ | လ | ဂ | ဂ | လ | လ | ဂ | လ | ဂ | ဂ |
| ၂။ | ဆ | စ္စာ | ဘိ | ဌာ | နာ | နိ | အ | ဘ | ဗ္ဗ | ကာ | တုံ။ |
| | ဂ | ဂ | လ | ဂ | ဂ | လ | လ | ဂ | လ | ဂ | ဂ |
| ၃။ | ဣ | ဒ | မ္ပိ | သံ | ဃေ | ရ | တ | နံ | ပ | ဏီ | တံ၊ |
| | လ | ဂ | လ | ဂ | ဂ | လ | လ | ဂ | လ | ဂ | ဂ |
| ၄။ | ဧ | တေ | န | သ | စ္စေ | န | သု | ဝ | တ္ထိ | ဟော | တု။* |
| | ဂ | ဂ | လ | ဂ | ဂ | လ | လ | ဂ | လ | ဂ | ဂ |

အထက်ပါဂါထာသည်လည်း ၁၁ လုံးစီ အညီအမျှဖွဲ့ဆိုထားအပ်သော ဝဏ္ဏဝုတ္တိဂါထာမျိုးဖြစ်၏။ သို့သော် ပဌမပါဒနှင့် တတိယပါဒ၊ ဒုတိယပါဒ နှင့် စတုတ္ထပါဒအားဖြင့် ၂ ပါဒစီ ဂရု လဟု ဂိုဏ်းနေ ဂိုဏ်းထား တူညီသောကြောင့် အဍ္ဎသမဝုတ္တိဂါထာဟုခေါ်သည်။

* ခရားပွင့် အမှတ်ပါ အက္ခရာများသည် ပါဒဆုံး ဂရု (ပါဒန္တဂရု) များဖြစ်ကြ၏။ ဂိုဏ်းအကြောင်းတွင်ရှုပါ။

| | | | | | | | | |
|---|---|---|---|---|---|---|---|---|
| ၁။ | အ | နေ | က | ဇာ | တိ | သံ | သာ | ရံ၊ |
| | လ | ဂ | လ | ဂ | လ | ဂ | ဂ | ဂ |
| ၂။ | သ | န္ဓာ | ဝိ | ဿံ | အ | နိ | ဗ္ဗိ | သံ။ |
| | ဂ | ဂ | ဂ | ဂ | လ | ဂ | လ | ဂ |
| ၃။ | ဂ | ဟ | ကာ | ရံ | ဂ | ဝေ | သ | န္တော၊ |
| | လ | လ | ဂ | ဂ | လ | ဂ | ဂ | ဂ |
| ၄။ | ဒု | က္ခာ | ဇာ | တိ | ပု | န | ပ္ပု | နံ။ |
| | ဂ | ဂ | ဂ | လ | လ | ဂ | လ | ဂ |

အထက်ပါဂါထာသည် ၈ လုံးစီ အညီအမျှဖွဲ့ဆိုထားအပ်သော ဝဏ္ဏဝုတ္တိဂါထာမျိုးဖြစ်၏။ လေးပါဒလုံး တပါဒနှင့် တပါဒ ဂရု လဟု ဂိုဏ်းနေ ဂိုဏ်းထား မတူသောကြောင့် ဝိသမဝုတ္တိဂါထာဟုခေါ်သည်။ မြန်မာပြည်၌ ဤရှစ်လုံးဖွဲ့ဂါထာမျိုးကိုအဖွဲ့များသည်။ ဦးထွန်းမြင့်။

**ဂါးရင်း, အိပ်၊ ဒဗျူ** (ခရစ် ၁၈၉၃–၁၉၄၆)။ ။ဂျာမန်နိုင်ငံ နတ်ဆီ (နာဇီ) ခေါင်းဆောင် တဦးဖြစ်သော ဟာမင် ဝီလင် ဂါးရင်းသည် ဗားဗေးရီးယားပြည် ရိုဇင်ဟိုင်းမြို့၌ ၁၈၉၃ ခုနှစ်ဇန္နဝါရီလ ၁၂ ရက်နေ့တွင်ဖွားမြင်သည်။ ၁၉၁၂ ခုနှစ်တွင် ကြည်းတပ်ဗိုလ်အဖြစ်ဖြင့် စစ်မှုထမ်းရာမှ၊ ပဌမ ကမ္ဘာစစ် ဖြစ်သော် လေတပ်သို့ ကူးပြောင်းခဲ့သည်။



ဂျာမန်လေတပ်ဗိုလ်ချုပ်မှူး ဟာမင်ဝီလင်ဂါးရင်း

ရန်သူလေယာဉ်ပျံများကို အများဆုံးပစ်ချနိုင်သဖြင့် ပဌမတန်းလေယာဉ် သူရဲကောင်း ဟုခြီးကျူးခြင်းခံရသည်။

၁၉၂၂ ခုနှစ်တွင် ဟစ်တလာတည်ထောင်သော နတ်ဆီအဖွဲ့သို့ဝင်သည်။ နတ်ဆီအဖွဲ့ မုန်တိုင်းတပ်ကိုဖွဲ့စည်းအုပ်ချုပ်ရသည်။ ၁၉၃၃ ခုနှစ်၌ ပရပ်ရှားပြည်နယ် ဝန်ကြီးချုပ်ဖြစ်၍ ပြည်ထဲရေးဝန်ကြီးလည်းဖြစ်လာသည်။ ဂျာမန်လေတပ်ကို ကိုယ်တိုင်ဖွဲ့စည်းအုပ်ချုပ်ခဲ့သည်။ ၁၉၃၆ ခုနှစ်၌ ဒုတိယကမ္ဘာစစ်အတွက် ပြင်ဆင်မှုဖြစ်သော ၄ နှစ်စီမံကိန်းကိုလုပ်ဆောင်ခဲ့သည်။ နတ်ဆီများတန်ခိုးကြီးချိန်တွင် ဂျာမန်လေတပ်ဗိုလ်ချုပ်မှူးဖြစ်သော ဂါးရင်းသည် အလွန်အရေးပါအရာရောက်ခဲ့၍ ဟစ်တလာ၏ညာလက်ရုံးကြီးဖြစ်ခဲ့သည်။ သို့သော် ဒုတိယကမ္ဘာစစ်ကြီးပြီးခါနီး ၁၉၄၅ ခုနှစ်တွင် ဟစ်တလာနှင့်မသင့်မတင့်ဖြစ်၍၊ နတ်ဆီပါတီမှနုတ်ထွက်ခဲ့လေသည်။ စစ်ကြီးအပြီး စစ်ရာဇဝတ်ကောင်များကိုစစ်ဆေးသော မဟာမိတ်စစ်ခုံရုံးက ဂါးရင်းအား စစ်ရာဇဝတ်ကောင်အဖြစ်ဖြင့် ၁၉၄၆ ခုနှစ် အောက်တိုဘာလ ၁ ရက်နေ့၌ သေဒဏ်အမိန့်ချမှတ်လိုက်သည်။ သေဒဏ်အပြစ်ပေးရန် နေ့သို့မရောက်မီ ဂါးရင်းသည် မိမိကိုယ်ကို မိမိအဆိပ်ခတ်၍အဆုံးစီရင်လိုက်လေသည်။

ဂီတာ။ ။သီချင်းများ — ၅။

**ဂီယားနားနယ်များ။** ။ဂီယားနားအမည်ရှိသောနယ်မှာ သာမန်အားဖြင့် တောင်အမေရိကတိုက် အမေဇုန်မြစ်၏မြောက်ဖက်နှင့် အော်ရင်နိုးကိုးမြစ်၏ အရှေ့ဖက်၌ရှိ၍၊ အကြမ်းအားဖြင့် အကျယ်အဝန်း စတုရန်းမိုင်ပေါင်း ၆၉၀,၀၀၀ ရှိသောနယ်ဖြစ်သည်။ သို့ရာတွင် ယခုအခါ၌ကား တောင်အမေရိကတိုက်တွင် ဗြိတိသျှ၊ ပြင်သစ်၊ နှင့် ဒပ်ချတို့စုပေါင်းပိုင်ဆိုင်ကြသောနယ်တို့ကိုအတိအကျသတ်မှတ်၍ ဂီယားနားနယ်ဟုခေါ်တွင်သည်။ ထိုဂီယားနားနယ် ၃ နယ်၏အကျယ်အဝန်းမှာ စတုရန်းမိုင် ၁၇၇,၅၀၀ ရှိသည်။ အဆိုပါနယ် ၃ နယ်မှာ ဗြိတိသျှဂီယားနား၊ ဒပ်ချဂီယားနားနှင့်ပြင်သစ်ဂီယားနားတို့ဖြစ်၏။

ထိုဂီယားနားနယ် ၃ နယ်စလုံး၏ပကတိအနေအထားအသွင်အပြင်မှာ တမျိုးတည်းဖြစ်၏။ ပင်လယ်ကမ်းရိုးတန်းတလျှောက်၌ နိမ့်သောလွင်ပြင်ဒေသရှိ၍ အတွင်းဖက်တွင် ဂီယားနားကုန်းပြင်မြင့်ရှိသည်။ မြစ်များသည်မြင့်သောတောင်တန်းများမှ သမုဒ္ဒရာထဲသို့စီးဝင်ကြ၏။ ထိုမြစ်တို့သည် များသောအားဖြင့် ရေစီးသန်သဖြင့် လှေများကိုခရီးဝေးအတွက်အသုံးမပြုနိုင်ချေ။

ဂီယားနားသစ်တောများ၌ ချုံနွယ်ပိတ်ပေါင်းမှအစ ပေပေါင်းများစွာမြင့်မားသော သစ်ပင်ကြီးများအထိ ပေါက်ရောက်ကြ၍ တောတိရစ္ဆာန်ကြီးငယ်တို့သည်လည်း ကျက်စားသွားလာနေထိုင်ကြ၏။ မြစ်ချောင်းအင်းအိုင်များထဲတွင်ကား မိကျောင်းခေါင်းတိုများနှင့်အခြားတွားသွားကောင်များကိုတွေ့ရှိနိုင်သည်။

ဂီယားနားနယ်များ၏ရာသီဥတုတို့မှာ အပူပိုင်းရာသီဥတုပင်ဖြစ်သော်လည်း အောက်တိုဘာလနှင့်ဇူလိုင်လအတွင်းအချိန်မှန်တိုက်ခတ်သော အရှေ့မြောက် ကုန်သည်လေမှန်ကြောင့် ရာသီဥတုမှာ ပြင်းထန်သင့်သလောက် မပြင်းထန်ချေ။ ဩဂုတ်လနှင့် စက်တင်ဘာလ အတွင်း၌ကား လွန်စွာပူပြင်း၏။ မေလမှဩဂုတ်လဆန်းအထိနှင့်ဒီဇင်ဘာလ၊ ဇန္နဝါရီလများတွင်မိုးအများဆုံးရွာသွန်းသည်။

ဂီယားနားနယ် ၃ နယ်လုံး၏ လူဦးရေ စုစုပေါင်းမှာ ၅၅၀,၀၀၀ ဖြစ်၏။ ထိုအနက် နိုင်ငံခြားလူမျိုးပေါင်းစုံသာလျှင်များပြား၍တိုင်းရင်းသားလူမျိုးများမှာ အနည်းငယ်သာပါဝင်သည်။ ဗြိတိသျှဂီယားနားနယ်တွင် တိုင်းရင်းသားဦးရေ ၉,၀၀၀၊ ဒပ်ချဂီယားနားတွင် ၃,၀၀၀ နှင့်ပြင်သစ်ဂီယားနားတွင် ၂,၅၀၀ မျှဖြစ်၏။

ခရစ် ၁၄၉၇ ခုနှစ်တွင် ကမ္ဘာလှည့်သူ ကိုလံဗပ်သည် ဂီယားနား ကမ်းခြေကို အဝေး ကလှမ်း၍ မြင်ရုံသာ မြင်ခဲ့ရသည်။ ကမ်းပေါ်သို့မတက်ခဲ့ချေ။ အနောက်တိုင်းသားတို့၏ သုဝဏ္ဏဘုမ္မိဟုဆိုရမည်ဖြစ်သော အယ်ဒိုရားဒိုးနိုင်ငံကိုစပိန်နှင့်ပေါ်တူဂီသဘော်သားတို့က ဂီယားနားနယ်၌ရှာ

ဖွေရန်ကြိုးစားသော်လည်း မအောင်မြင်ခဲ့ချေ။ ဗြိတိသျှလူမျိုး ဆာ ဝေါ်လတာရာလေးလည်း ထိုအတူပင်မအောင်မြင်ခဲ့ပေ။ ၁၇ ရာစုအလယ်ပိုင်းသို့ရောက်ခါမှ ထိုဒေသများ၌ ကိုလိုနီနိုင်ငံများကို ဥရောပတိုက်သားတို့စတင်ထူထောင်မိကြလေတော့သည်။

ဗြိတိသျှဂီယာနာနယ်သည် တောင်အမေရိကတိုက်၏ မြောက်ဖက်ပင်လယ်ကမ်းတွင်တည်ရှိသည်။ ထိုနယ်ကိုဗြိတိသျှဘုရင်ခံက 'ကရောင်းကိုလိုနီ' နယ်အဖြစ်အုပ်ချုပ်သည်။ ထိုနယ်မှာ စတုရန်းမိုင် ၈၃,၀၀၀ ကျယ်၏။ ၁၉၅၁ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၄၃၇,၀၂၂ ရှိ၏။ လူမျိုးထဲတွင် အရှေ့အိန္ဒိယလူမျိုးနှင့်ကပ္ပလီများအများဆုံးဖြစ်၍ အင်္ဂလိပ်၊ ပေါ်တူဂီနှင့်တရုပ်အပြင်အခြားလူမျိုးများသောင်းပြောင်းရှိကြ၏။ ထိုနယ်မှာ ပေ ၂,၀၀၀ အမြင့်မှကျလာသော ကိုင်အက်တူးရေတံခွန်ကြောင့် ကျော်စော၏။ တွေ့ရှိနိုင်သော ဓာတ်သတ္တုများကား ရွှေ၊ စိန်၊ မန်ဂနီနှင့် ဗောက်ဆိုက်တို့ဖြစ်၍ ထုတ်ကုန်များမှာ သစ်၊ သကြား၊ ဆန်၊ ရမ်အရက်၊ သကာ၊ ကာဖီနှင့်အုန်းသီးများဖြစ်၏။ မြို့တော်မှာ ဂျော့တောင်းဖြစ်သည်။

ဒပ်ချဂီယာနာနယ်ကား ဗြိတိသျှနှင့်ပြင်သစ်ဂီယာနာနယ်ကြားတွင်တည်ရှိသည်။ စတုရန်းမိုင် ၅၅,၁၂၉ ကျယ်၍၊ လူဦးရေမှာ ၁၉၄၀ ပြည့်နှစ် သန်ကောင်စာရင်းအရ ၁၇၇,၂၉၀ ရှိ၏။ မြို့တော်မှာ ပရမ္မာရီဗိုဖြစ်သည်။

ထိုနယ်ကို ဒပ်ချအစိုးရကတိုက်ရိုက်ခန့်အပ်သည့်ဘုရင်ခံက အုပ်ချုပ်သည်။ ဒပ်ချဂီယာနာနယ်၏ထွက်ကုန်များမှာ ဗောက်ဆိုက်၊ ရွှေ၊ သကြား၊ ကာဖီ၊ ငှက်ပျောသီးနှင့်သစ် စသည်တို့ဖြစ်၏။

ပြင်သစ်ဂီယာနာနယ်သည် တောင်အမေရိကတိုက်အရှေ့မြောက်ထောင့်စွန်း၌တည်ရှိ၍ စတုရန်းမိုင် ၃၄,၇၅၀ ကျယ်ဝန်း၏။ ၁၉၄၆ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၂၈,၅၃၇ ရှိသည့်အနက် ကယင်းမြို့တွင် ၁၁,၇၀၄ ယောက်ရှိလေသည်။

ပြင်သစ်ဂီယာနာနယ်အုပ်ချုပ်ရေးမှာ ဗဟိုအစိုးရက တိုက်ရိုက်ခန့်ထားသောဘုရင်ခံနှင့် သူ၏အတိုင်ပင်ခံအဖွဲ့၏ လက်ထဲတွင်ရှိသည်။

ပြင်သစ်ဂီယာနာနယ်မှထွက်သောကုန်ပစ္စည်းနှင့် အသီးအနှံများမှာကိုကိုး၊ ငှက်ပျောသီး၊ သစ်အမျိုးမျိုး၊ ရွှေ၊ ရမ်အရက်၊ သားရေအစိုအခြောက်၊ ဆန်စပါး၊ ပြောင်းဆန်နှင့်ကြံပင်တို့ဖြစ်လေသည်။

ဗြိတိသျှဂီယာနာနယ် ဂျော့တောင်းမြို့တော်၏ရှုခင်း





နာမည်ကျော်ပြဇာတ်ဆရာ ဆာ ဝီလျံ ဂီးလဗတ်

**ဂီးလဗတ်နှင့်ဆာလီဗန်။** ။အနောက်နိုင်ငံပြဇာတ်အနုပညာ၌ အဆိုနှင့်အကကိုသာရောဖက်၍ပြသောဇာတ်ရှင်ဇာတ်မျိုးဟူ၍ရှိသည်။ ယင်းဇာတ်များကို ကောမစ်အော်ပရာ ဟုခေါ်သည်။ မြန်မာလိုတေးသံစုံကဇာတ်ရှင်ဟုခေါ် ဆိုနိုင်သည်။ ထိုဇာတ်တို့တွင် သီချင်းစာ ရေးသားခြင်းနှင့်သီချင်းတေးသံသွင်းခြင်းသည် အရေးပါအရာရောက်ပေသည်။ ဆာဘွဲ့ရ ဝီလျံ ဆွင့် ဂီးလဗတ်သည် နာမည်ကျော်ပြဇာတ်ရေးဆရာဖြစ်၍၊ ဆာဘွဲ့ရ အာသာဆာလီဗန်သည်လည်း နာမည်ကျော် ဂီတဆရာကြီးဖြစ်လေရာ၊ ထိုပုဂ္ဂိုလ် ၂ ဦးတို့က ပြဇာတ်စာသားနှင့်ဂီတအသံကိုစပ်တူရေးသားသီဆိုကြသည်မှာ အထူးပင်သဟဇာတဖြစ်ကြ၍၊ ဂီး လဗတ် နှင့် ဆာလီဗန် ဟူသော အမည် ၂ ခုမှာ ပြဇာတ်သမိုင်းတွင် ဒွန်တွဲလျက် ထင်ပေါ် ကျော်ကြား ခဲ့လေသည်။ ထိုပုဂ္ဂိုလ် ၂ ဦး၏ဇာတ်ရှင်ဇာတ်မျိုးများမှာ လူ ဘဝကိုရှင်မြူး ဖွယ် ဖြစ် အောင် သရုပ် ဖေါ် နိုင် သဖြင့် ယနေ့တိုင်အများ ကနှစ်သက်ကြပေသည်။

လန်ဒန်မြို့ရှိ ဆဗွိုင်းရုံတော်၌နာမည်ကျော်ပုဂ္ဂိုလ် ၂ ဦးတို့၏ဇာတ်မျိုးများကိုရုံတင်ပြသခဲ့ဘူးသည်။ သူတို့ ၂ ဦးသည်နှစ်ပေါင်း ၂၀ ကျော်မျှတွဲဖက်လုပ်ကိုင်ခဲ့ရာ၊ ပြဇာတ်အနုပညာဖက်တွင်သာမက ငွေရေးကြေးရေးဖက်တွင်လည်း အလွန်ပင်ကျေးဇူးများခဲ့သည်။

ဂီးလဗတ်သည် ခရစ် ၁၈၃၆ ခုနှစ် နိုဝင်ဘာလ ၁၁ ရက်နေ့တွင် လန်ဒန်မြို့၌ဖွားမြင်သည်။ ပဋ္ဌမတွင်အစိုးရအမှုထမ်းခဲ့သည်။ နောင်သော်ဝတ်လုံအဖြစ်နှင့် အသက်မွေးယင်း ၁၈၆၁ ခုနှစ်တွင် ရယ်ရွှင်ဖွယ် ကဗျာများ ရေးခဲ့ရာမှ စာဆိုလောကတွင် နာမည် ကျော် လာခဲ့၍ နောက် တွင်ဂီတနာမည်ကျော်ဆာလီဗန်နှင့် တွဲဖက်မိခဲ့ကြသည်။ ၁၉၁၁ ခုနှစ်တွင် ဆာဝီလျံ ဂီးလဗတ်သည် ရေနစ်သေဆုံးသည်။

အာသာဆာလီဗန် (ခရစ် ၁၈၄၂–၁၉၀၀) သည် အင်္ဂလန်ပြည်ဆင်းဟတ်မြို့ စစ်တပ်တီးဝိုင်းဆရာ၏သားဖြစ်၍ငယ်စဉ်ကပင် ဖခင်၏ တီးဝိုင်းသို့လာရောက်နားထောင်လေ့ရှိသဖြင့် တီးမှုတ်သူများနှင့်အကျွမ်းဝင်ခဲ့သည်။ ထိုကြောင့်ပင်တူရိယာအသီးသီး တီးမှုတ်သူများသည် သူ့ အားတတ်စွမ်းသမျှသင်ကြားပေးကြသဖြင့်၊ အသက် ၈ နှစ်သို့ရောက်သောအခါ တီးဝိုင်း မှသီချင်း အားလုံးကို အလွတ်ရနေ၍ မည်သည့်တူရိယာကိုမဆိုတီးမှုတ်နိုင်လေသည်။ ဖခင်သည်သားအတွက်



ဂီတအနုပညာရှင်ဆာ အာသာ ဆာလီဗန်

ဂုဏ်ယူသော်လည်း တူရိယာဝိုင်း တွင် အတင်း ဝင်ရောက်အသက်မွေးရန်မတိုက်တွန်းချေ။ မိခင်မှာ ကျောင်းဆရာမဖြစ်ရာ သားငယ်အား ဂီတပညာတတ်သလို စာပေပညာတတ်မြောက် စေရန် ဂရုစိုက် လေသည်။ သားငယ်၏ ရှေးအမျိုးသားသီချင်းကြီးများ၊ ရှေး ဟောင်းကဗျာများကိုနှစ်သက်ခြင်းမှာ မိခင်ထံမှရရှိသာအမွေပင်ဖြစ်တော့သည်။

အသက် ၁၂ နှစ်အရွယ်၌ ဆာလီဗန်သည်ဘုရင့်ဝတ်ကျောင်းတော်ဓမ္မသီချင်းဝိုင်းတွင် ဝင်ရောက်အမှုထမ်းလေသည်။ အသက် ၁၄ နှစ်ခန့်တွင် ပညာတော်သင် စရိတ်ရရှိ၍ လန်ဒန်မြို့ရှိ တော်ဝင်ပန်တျာပညာတံခွန်အသင်းနှင့် လိုက်ပဆစ် ပန်တျာကျောင်းများတွင် ဆရာကောင်းများနှင့်သင်ကြားခွင့်ရရှိခဲ့သည်။ နောင်အခါသော် ကမ္ဘာကျော်ပြဇာတ်ဆရာကြီး ရှိတ်စပီးယား၏သီချင်းစာသားတို့ကို တေးသံသွင်းပေးရာ၌ ပိုမိုထင်ရှားကျော်စောလာသည်။ ၁၈၆၄ ခုနှစ်တွင် သူ၏ ဗယ်လေခေါ် ကဇာတ်ကို ရုံတင်ပြခဲ့ရာ၊ နိုင်ငံကျော်ဖြစ်လာလေသည်။ (ဗယ်လေ— ရှု။) ၁၈၇၁ ခုနှစ်တွင် ပန်တျာလောကမှပြဇာတ်လောကသို့ကူးပြောင်းခဲ့ပြီး ဂီးလဗတ်နှင့်တွဲဖက်မိသည်။

ဓမ္မသီချင်းများကို ဩဂင်စန္ဒယားနှင့်တီးရာ၌ ဆာလီဗန်ကိုလူကြိုက်များကြသည်မှန်၏။ သို့သော် ဂီးလဗတ်နှင့်တွဲဖက်၍ပြသသောဇာတ်ရှင်ဇာတ်မျိုးများမှ ဂီတကြောင့်သူ့ကိုပို၍လူကြိုက်များကြသည်။

ဂီးလဗတ်၏စာသားမှာ ထိမိလှသည်။ သူ၏စာသားပြောင်သလောက် ဆာလီဗန်၏ဂီတသံကလည်းပြောင်မြောက်လှပေသည်။ ထို့ကြောင့် သူတို့ ၂ ဦးသားစပ်တူအလုပ်ကို နှစ်ပေါင်း ၂၀ မျှလုပ်ကိုင်ခဲ့ကြရာ၊ လန်ဒန်မြို့ဆဗွိုင်းဇာတ်ရုံတော်မှာ သူတို့၏ဇာတ်ပွဲကပြတိုင်းလူပြည့်ကျပ်လျက်ရှိခဲ့လေသည်။ ဆာလီဗန်သည် ၁၈၈၃ ခုနှစ်တွင် ဆာဘွဲ့ဖြင့်သူကောင်းပြုခြင်းခံရသည်။ ၁၉၀၀ ပြည့်နှစ်တွင် သူ၏အော်ပရာဇာတ်တခုကို စီကုံးရေးသားဆဲကွယ်လွန်အနိစ္စရောက်လေရာ၊ သူ၏ရုပ်ကလာပ်ကို သူငယ်စဉ်က ဓမ္မသီချင်းများသီဆိုခဲ့ရာဖြစ်သော စိန်ပေါဘုရားရှိခိုးကျောင်းတွင် မြှုပ်နှံသင်္ဂြိုဟ်ထားလေသည်။ (အော်ပရာဇာတ်ပွဲ — လည်းရှု။)



ဂီးလဗတ်နှင့်ဆာလီဗန်တို့ကိုဇာတ်ခုံပေါ်၌မြင်ရပုံ

ဂူ။ ။ကမ္ဘာ့မြေမျက်နှာပြင်တွင် ဂူကြီးများ၊ ဥမင်လိုဏ်ခေါင်းကြီးများ သဘာဝအလျောက်ဖြစ်ပေါ်လာသည်မှာ များစွာအံ့ဩဖွယ်ကောင်းသည်။

မြေအောက်တွင် ကြွက်များဖေါက်ထားသော ဂယ်ပေါက်ခေါ် လိုဏ်ခေါင်းကလေးများကို တွေ့မြင်ဘူးကြပေလိမ့်မည်။ ဥမင်လိုဏ်ဂူများမှာ ဂယ်ပေါက်များကဲ့သို့မြေအောက်၌ရှင်း၊ တောင်ကမ်းပါးယံများ၌ရှင်း၊ အတွင်းသို့ထိုးဖေါက်ဝင်ရောက်ကာ အပေါက်လိုဏ်ခေါင်းကြီးများဖြစ်နေတတ်သည်။

ထိုဥမင်လိုဏ်ခေါင်းများထဲ၌ ကမ္ဘာဦးအစ၌လူများနေထိုင်ခဲ့ကြ၏။ ထိုလိုဏ်ခေါင်းကြီးများကို ပုန်းအောင်းရာနေရာအဖြစ်ဖြင့်၎င်း၊ လူအလောင်းများကိုမြှုပ်နှံသင်္ဂြိုဟ်ရာအဖြစ်ဖြင့်၎င်း အသုံးပြုခဲ့ကြသည်။

ယင်းဂူလိုဏ်တို့ဖြစ်ပေါ်လာပုံမှာ ဤသို့ဖြစ်သည်။ မိုးရေသည် ထုံးရောနေသောကျောက် သို့မဟုတ်ထုံးကျောက်ကိုစားသောကြောင့် ရေစားရာနေရာတွင် အပေါက်ဖြစ်လာတတ်သည်။ ထိုပြင်ပင်လယ်ရေစီးကြောင်းများ၊ လှိုင်းလုံးများသည် ထုံးကျောက်ကမ်းပါးယံများအား အမြဲရိုက်ပုတ်၍၊ စားဖန်များလတ်သော် တွင်းကြီး၊ လိုဏ်ကြီး၊ အပေါက်ကြီးများဖြစ်ပေါ်လာတတ်သည်။

မြေကြီးထဲသို့စိမ့်ဝင်သော မိုးရေများသည်လည်း နိမ့်ကျသောနေရာတနေရာရာတွင် စုပေါင်းဝင်ရောက်၍ ထုံးကျောက်များကိုပဌမလှိုက်၍စား၏။ ဤသို့တဖြည်းဖြည်းစားလျက် မာ၍မစားနိုင်သောကျောက်လွှာကျောက်သားကျောက်စိုင်ကျောက်ခဲများနှင့်တွေ့သောအခါ မြေမာမြေခဲကိုချန်လှပ်ပြီးနောက် မြေပျော့ကိုသာလျှောက်၍ စားပြန်သည်။ ထိုအခါကြွက်တွင်း ဂယ်ပေါက်များသဏ္ဍာန် ဂူနှင့်လိုဏ်ခေါင်းကြီးများဖြစ်ပေါ်လာလေသည်။

အိုက်စလန်ကျွန်းနှင့် ကနေရီကျွန်းရှိ အချို့ဂူများမှာမီးတောင်မှထွက်သောချော်မြုပ်များ ကျောက်ရည်များကြောင့်ဖြစ်ပေါ်လာရသည်။ ထို့ကြောင့်လည်း ထုံးကျောက်

များကို တဖြည်းဖြည်း ရေစား၍ဖြစ်လာသော ဥမင်လိုဏ်ခေါင်းများအတွင်းတွင် အလွန်လှပတင့်တယ်ရှုချင်ဖွယ်ကောင်းသည့် ဖြူဖွေးသောကျောက်တိုင်များကို အများအားဖြင့်တွေ့ရလေသည်။

ဂူ၏အမိုးဖြစ်သော အပေါ်ထုံးကျောက်ချပ်များကြားမှ စိမ့်ယို၍ကျသောရေသည် အောက်သို့တစက်စက်ကျသောအခါ ယင်း၌ပါသော ထုံးဓာတ်သည် အချို့အမိုး၌တင်၍ကျန်ရစ်ခဲ့၏။ ထိုထုံးဓာတ်သည် တနေ့တခြားစုပေါင်းမိသောအခါအစိုင်အခဲဖြစ်လာ၍ နှစ်ပရိစ္ဆေဒ ရှည်ကြာလတ်သော် ကျောက်တိုင်ဖြစ်ကာ အောက်သို့တဖြည်းဖြည်းတွဲရရွဲကျဆင်းလာလေသည်။

ထိုအတူ ဂူ၏အောက်မျက်နှာပြင်ပေါ်သို့တစက်စက်ကျဆင်းလျက်ရှိသော ရေစက်များသည်လည်း ကျဖန်များလတ်သော် ထုံးများတဖြည်းဖြည်းစုမိလာပြီးနောက် နှစ်လနေ့ရက်ရှည်ကြာသောအခါဖြူဖွေးသောကျောက်တိုင်ကြီးများ မြေမှပေါက်လာဘိသကဲ့သို့ အပေါ်သို့တဖြည်းဖြည်းထိုးတက်လာလေသည်။

အမိုးမှကပ်၍အောက်သို့တွဲရရွဲတည်နေသော ကျောက်တိုင်များကို ကျောက်စက်ပန်းဆွဲ ဟူ၍၎င်း၊ အောက်မှအပေါ်သို့ထိုးတက်နေသောကျောက်တိုင်များကို ကျောက်စက်မိုးမျှော်ဟူ၍၎င်း အသီးသီးခေါ်စမှတ်ပြုကြ၏။

အမေရိကန်ပြည်ထောင်စု၌ ဂူကြီးများ၊ ဥမင်လိုဏ်ခေါင်းများ အများအပြားရှိ၏။ ကင်တပ်ကီးပြည်နယ်ရှိ မမ္မုတ်ဂူကြီးမှာ ကမ္ဘာပေါ်တွင်အကြီးဆုံးဂူကြီးဖြစ်၏။

ထိုဂူကြီးသည် ၁၀ မိုင်ခန့်ရှိသည်။ သို့ရာတွင် လိုဏ်ခေါင်းအတွင်း၌ ဝက်ဘာကဲ့သို့ကွေ့ကောက်တွန့်လိမ်လျက်ရှိသောလမ်းများမှာမူကား၊ မိုင်ပေါင်း ၃၀ ခန့်ပင်ခရီးရှည်လေသည်။ လိုဏ်ခေါင်း၏အကျယ်ဆုံးသောနေရာတွင်ပေ ၃၀၀ ခန့်ကျယ်ဝန်း၏။

အခြားထူးဆန်းကြီးကျယ်သော ဂူကြီးတခုမှာ ဣတလီနိုင်ငံ နေပယ်မြို့အနီး ကပရီကျွန်းရှိ ဗလူးဂရော့တိုခေါ် ဥမင်လိုဏ်ခေါင်းကြီးဖြစ်၍ အတွင်းသို့ဝင်ရန် ပင်လယ်ဖက်မှသာဝင်ပေါက်ရှိ၏။ အဝင်ဝမှာ ၃ ပေသာကျယ်ပြီးလျှင် အမြင့် ၅ ပေရှိ၏။ အတွင်း၌ကား ဂူကြီးတခုလုံးကိုအပြာနုရောင်ဖြင့်လွှမ်းလျက်ရှိ၏။ အဘယ်ကြောင့်ဆိုသော် ရေအောက်တွင် အပေါက်တပေါက်ရှိ၏၊ နေ၏အလင်းရောင်သည် ထိုအပေါက်မှဝင်ကာရေကိုဖြတ်လာရသဖြင့် အပြာရောင်သာကျန်ရှိတော့၏။ ဂူနံရံများမှာ အဖြူရောင်ဖြစ်



ဣတလီနိုင်ငံ၊ နေပယ်မြို့ အနီး၊ ကပရီကျွန်းရှိ ဗလူးဂရော့တို ခေါ် ဥမင်လိုဏ်ခေါင်းကြီး



တရုပ်နိုင်ငံဟန်ချောင်မြို့ရှိရုပ်ပွားတော် ၁၀၀၀ လိုဏ်ဂူ

သည့်အတိုင်း ထိုအပြာရောင်နှင့်ဟပ်မိသောအခါ ချစ်စဖွယ်ကောင်းသောအပြာနုရောင်သည် တဂူလုံးကိုလွှမ်းမိုးလျက်ရှိသည်။ ရေမှာမူကား အလွန်ကြည်လင်၍ ဘော်ငွေရောင်အဆင်းရှိ၏။ ထိုဂူ၌ အစိမ်းသူရဲနှင့်ဥစ္စာစောင့်များနေထိုင်သည်ဟုအနီးပတ်ဝန်းကျင်ရှိ တံငါများက အယူရှိကြ၏။

ရှေးဂရိနှင့်ရောမလူမျိုးတို့သည်လည်း ဂူထဲ၌နတ်သမီးနတ်သားများနေထိုင်ကြသည်ဟုယုံကြည်ကြ၏။ မြန်မာရှေးဟောင်းကျမ်းဂန်များ၌လည်းတန်ခိုးကြီးသော ဝိဇ္ဇာ ဇော်ဂျီနှင့် ရသေ့ရဟန်းတို့သည် ဟိမဝန္တာတောင်၏ကျောက်ဂူများ၌နေထိုင်ကြကြောင်းပါရှိ၏။ အမှန်စင်စစ်လည်း ဟိမဝန္တာတောင်ပေါ်ရှိ ကျောက်ဂူများ၌ နှစ်ရှည်လများ တရားအားထုတ်နေသော တိဗက်ဘုန်းတော်ကြီးများရှိကြောင်း အနောက်တိုင်းသားခရီးသည်များ၏မှတ်တမ်းများ၌တွေ့ရပေသည်။

ဂူနေရှေးလူ။ ။ကျောက်ခေတ်သစ်မတိုင်မီက လူတို့သည် မိုးတွင်းနေထိုင်ရန်တဲ၊အိမ်စသည်တို့ကိုမဆောက်လုပ်တတ်ကြသေးဘဲ သားရဲတိရစ္ဆာန်ကြီးများ၏ ဘေးရန်မှလွတ်ကင်းစေရန် သဘာဝအလျောက်လုံခြုံသောကျောက်ဂူများဥမင်များ၌တွင်းသာ နေထိုင်လေ့ရှိခဲ့ကြသည်။ (ဂူ — ရှု။) ထိုကြောင့် သူတို့အား 'ဂူနေရှေးလူများ' ဟူ၍ခေါ်ဝေါ်ကြသည်။ ရှေးကမ္ဘာ့သမိုင်းကို လေ့လာကြသော သိပ္ပံပညာရှင်ကြီးများ၏ စူးစမ်းရှာဖွေတွေ့ရှိချက်များအရ ထိုဂူနေလူများသည် ကိုယ်ခန္ဓာထွားကျိုင်းသန်မာ၍ အရပ်အမောင်းမြင့်မားသည်။ ဦးနှောက်များမှာလည်း ယခုခေတ်အချို့သောလူရိုင်းများ၏ ဦးနှောက်ထက်ပင်ကြီးမားသေးသည်ဟုဆို၏။ ဤအချက်ကိုထောက်၍ ဂူနေရှေးလူများ၏အသိဉာဏ်အဆင့်အတန်းသည် ရှေးဦးလူများထက်များစွာမြင့်လာပြီဟုဆိုရပေမည်။

ဂူအောင်းလူများ၏အရိုးစု အကြွင်းအကျန်များကို ပြင်သစ်နိုင်ငံတောင်ပိုင်း ဗေးဇဲမြစ်ပေါ်ရှိ ကရိုမန်းယန်းအရပ်တွင် ပဌမဦးဆုံးတူးဖော်ရရှိလေရာ ထိုသူတို့အား ကရိုမန်းယန်းလူများဟူ၍ခေါ်ဝေါ်ကြသည်။ ထိုအရပ်တွင်တွေ့ရှိရသော အရိုးစုများကိုလေ့လာခြင်းအားဖြင့် ကရိုမန်းယန်းလူများသည် ထိုခေတ်တွင်ဉာဏ်အထက်မြက်ဆုံးလူများဖြစ်ကြောင်းသိရှိရသည်။ သူတို့၏အမူအရာများမှာမူ ကြမ်းတမ်းလှပေသည်။ ထိုခေတ်က မိန်းမများမှာလည်း ယောကျ်ားများကဲ့သို့ကြမ်းတမ်းသည်ဟုသိရှိရလေသည်။ ခေတ်၏အခြေအနေအရ ဂူအောင်းလူများ ကြမ်းတမ်းခက်ထန်ကြသည်မှာ အံ့သြဖွယ်ရာမရှိချေ။ အကြောင်းမှာ ဂူအောင်းသူများသည် အငယ်စား သားရဲတိရစ္ဆာန်များအား လိုက်လံဖမ်းဆီးစားသောက်နိုင်သော်လည်း ခြသေ့၊ ဂအောင်း



အမဲဆီမီးခွက် အလင်းရောင်ဖြင့် ဂူနံရံများတွင်ပန်းချီ ရေးဆွဲလေ့ရှိသော ဂူနေစရှေးလူများ

ဝက်ဝံ စသောတိရစ္ဆာန်ရိုင်းကြီးများကလည်း ထိုလူများကိုလိုက်လံဖမ်းဆီး စားသောက်ကြသောကြောင့် အသက်ဘေးမှကင်းလွတ်ရန်ကြမ်းတမ်းခက်ထန်ဖို့လိုပေသည်။

ဂူနေလူများသည် သားကောင်များမှရရှိသောသားရေများကို အရိုးအပ်များဖြင့် အဝတ်အထည်များချုပ်လုပ်ကာ ခါး၌ဝတ်ဆင်ကြ၏။ တောတိရစ္ဆာန် အငယ်စားများကို လေး၊ မြား၊ လှံ၊ အစရှိသည့်လက်နက်တို့ဖြင့် ပစ်ခတ်စားသောက်နိုင်ကြသော်လည်း ဆင်၊ ကြံ့၊ ကဲ့သို့ကြီးမားသော တိရစ္ဆာန်တို့၏ ဘေးရန်ကို ကြောက်ကြရသေးသည်။ အစားအစာများကို ချက်ပြုတ်၍ မစားသောက်တတ်ကြသေးဘဲမီးဖိုကြီးများတွင် ဖုတ်ကင်၍စားသောက်ကြသည်။ အသီးအနှံများ စိုက်ပျိုးခြင်းကိုလည်း နားမလည်ကြသေးချေ။



ကျောက်ခေတ်သစ်
မတိုင်မီကဂူနေရှေးလူ

မှတ်သားဖွယ်ကောင်းသည်မှာ ဂူနေရှေးလူများ၏ အသိဉာဏ်သည် သူတို့၏ဘိုးဘေးဘီဘင်တို့၏ အသိဉာဏ်ထက် များစွာအဆင့်အတန်းမြင့်လာခြင်းပင်ဖြစ်၏။ အဘယ်ကြောင့်ဆိုသော်ဂူအောင်းလူများသည် မိမိတို့နေထိုင်သော ဂူနံရံများပေါ်တွင် တွေ့ကြုံရသောအကြောင်းအရာများကို အရုပ်များရေးဆွဲထားခဲ့ကြသောကြောင့်ဖြစ်သည်။ ထိုသူများအရုပ်ရေးဆွဲကြပုံကိုတွေ့ကြည့်လျှင် များစွာစိတ်ဝင်စားဖွယ်ကောင်းလေသည်။ ညနေစောင်း အချိန်တွင် ဂူအောင်းပန်းချီဆရာသည် ကျောက်ဖြင့်ပြုလုပ်အပ်သောကရိယာတမျိုးဖြင့် အရုပ်များကို ဂူ၏နံရံပေါ်တွင်ရေးဆွဲနေစဉ် သူ၏အဖော်တဦးသည် အနီးမှနေ၍ အမဲဆီမီးခွက်တခုဖြင့်အလင်းရောင် ပြပေးရ၏။ ကျောက်သားနံရံပေါ်တွင်ပုံကြမ်းကိုရေးဆွဲပြီးသောအခါ ရွှံ့စေးဖြင့်ပြုလုပ်ထားသောအဝါအစိမ်း အနီဆေးရောင်စုံများဖြင့် ခြယ်လေတော့သည်။ ဤသို့ဖြင့် ပန်းချီဆေးရေးခြင်းအတတ်သည် ကမ္ဘာတွင် ပဌမဦးစွာပေါ်ပေါက်လာခဲ့လေသည်။

နှစ်ပရိစ္ဆေဒထောင်ပေါင်းများစွာကြာသောအခါ ဂူနေခေတ်ကုန်ဆုံး၍ နောက်ဆုံးကျောက်ခေတ်သစ်သို့ ရောက်ရှိလာသည်။ (ကျောက်ခေတ် — လည်းရှု။) လူ၏သမိုင်းကို လေ့လာရာတွင် ကျောက်ဂူများသည် များစွာအထောက်အပံ့ရ၏။ ကမ္ဘာ့သမိုင်းကိုစူးစမ်းလေ့လာကြသောပညာရှိ

များသည် မြေကြီးကိုတူးပေါ်၍ကျောက်ဂူများထဲမှ လူရိုးများ၊ တိရစ္ဆာန်ရိုးများနှင့်ကျောက်ကရိယာများကိုလေ့လာကာ ရှေးလူများ၏အကြောင်းကိုတွေးတောဆက်စပ်ကြည့်ရပေသည်။ ထိုမှတဆင့်တက်၍ နောက်ထပ်မြေကြီးလွှာတထပ်ကိုတူးပေါ်ရာတွင် မြေလွှာအထပ်အောက်၌ ဂူနေခေတ်ထက်ရှေးကျသောခေတ်လူများ၏အရိုးများနှင့်ရှေးဟောင်းကရိယာတန်ဆာပလာများကိုတွေ့ရပြန်သည်။ ထိုတွေ့ရှိရသောအရာဝတ္ထုများကို အထောက်အထားပြုကာ ရှေးဦးလူတို့၏သမိုင်းအတ္ထုပ္ပတ္တိများကို နှောင်းလူများတို့သည် ကြံစည်တွေးဆယူကြရလေသည်။

**ဂုလီကစားခြင်း။** ။ဂူလီ၊ သို့မဟုတ် ကုလီ၊ သို့မဟုတ် ပိုလိုရိုက်ကစားနည်းသည် အလျားကိုက် ၃၀၀၊ အနံကိုက် ၁၅၀ မှ ၂၀၀ အထိကျယ်သော မြေပြန့်ညီမြက်ခင်းကစားကွင်းအတွင်းဝယ် တဖက်လျှင်မြင်းစီးသမား ၄ ယောက်စီနေ၍၊ သစ်သားဘောလုံးကိုတုတ်တံဖြင့် မြင်းပေါ်မှရိုက်ကစားရသည့် ကစားနည်းတမျိုးဖြစ်သည်။ ဤကစားနည်းသည် အရှေ့တိုင်းမှအစပြုပေါ်ပေါက်ခဲ့၍ အနောက်တိုင်းသို့ရောက်ရှိသွားသည်။ တရုပ်လူမျိုးတို့က ဤကစားနည်းကိုမိမိတို့စတင်တီထွင်ခဲ့သည်ဆို၍ ပါးရှင်းလူမျိုးတို့ကလည်းသူတို့စခဲ့သည်ဟုဆိုကြသည်။ ပါးရှင်းလူမျိုးတို့တန်ခိုးကြီးသည့်ခေတ်ဖြစ်သော လွန်ခဲ့သည့်နှစ်ပေါင်း ၄,၀၀၀ ကျော်က ပါးရှင်းမြင်းသည်တော်များသည် နိုင်ငံတော်၏ကာကွယ်ရေးတွင် အထူးအားကိုးလောက်သူများ ဖြစ်ခဲ့သည်။ မြင်းသည်တော်သည် မြင်းစီးအတတ်၌ တဖက်ကမ်းခပ်တတ်မြောက်ကြကာ မြင်းများကလည်း လက်ရွေးဆန်များဖြစ်သဖြင့် နိုင်ငံသမိုင်းတွင်ထင်ရှားခဲ့ပေသည်။ ထိုခေတ်က မြင်းသည်တော်များစစ်ရေးလေ့ကျင့်ရာ၌ မြင်းရော လူပါ လွန်စွာကျွမ်းကျင်ရန်လိုအပ်သည့်အတိုင်း ပိုလိုရိုက်ကစားနည်းကိုလေ့ကျင့်ခန်းတရပ်အနေဖြင့် လေ့လာခဲ့ကြလေ၏။

သို့ဖြစ်ရကား ပိုလိုကစားနည်းသည် ပါးရှားနိုင်ငံမှစတင်ဖြစ်ပေါ်လာသည်ဟုယူဆဖွယ်ရှိ၏။ ပိုလိုကစားခြင်းနှင့်စပ်လျဉ်းသော အဖွဲ့အနွဲ့များကို ပါရှင်းစာဆို အိုမာခယမ်း၏ကဗျာများတွင်လည်းတွေ့နိုင်ပေသည်။ဤသို့ဖြင့်ပိုလိုကစားနည်းသည် ထိုမှတဆင့် တိဗက်၊ အိန္ဒိယနှင့်တရုပ်နိုင်ငံများသို့ပျံ့နှံ့သွားပြီးသော် မြင်းစီးအတတ်ကျင်လျင်စေသော ကစားနည်းအဖြစ်ကစားကြ၏။ တရုပ်နိုင်ငံတန်မင်းများလက်ထက် (ခရစ် ၆၆၀–၉၁၅) ခန့်က ထုလုပ်သည် ဟုယုံကြည်ရသောပိုလိုကစားနေသည့်ရုပ်တုများကို လန်ဒန်မြို့ရှိဗြိတိသျှပြတိုက်တွင် တွေ့မြင်နိုင် ပေသည်။ အထူးသဖြင့် အိန္ဒိယနိုင်ငံသည် ကမ္ဘာတွင်ပိုလိုအများဆုံးရိုက်ကစားသော ထင်ရှားသည့်နိုင်ငံဖြစ်လေသည်။

ပိုလိုရိုက်ကစားနည်း၏သဘောမှာ ဘောလုံး၊ ဟော်ကီစသည်တို့ကဲ့သို့ပင် တဖက်နှင့်တဖက် အရှုံးအနိုင်ကစားရသည်။ (ဘောလုံးကစားခြင်း၊ ဟော်ကီကစားခြင်း — လည်းရှု။) အချင်း ၃၂ လက်မရှိသော သစ်သားဘောလုံးငယ်ကိုမြင်းပေါ်မှနေ၍ လက်မ ၅၀ မှ ၅၆ အထိရှည်သော တုတ်တံရှည်ဖြင့်တဖက်ရှိဂိုးပေါက်တွင်းသို့ရိုက်သွင်းရသည်။ ဘောလုံးကို ပေါ့သောသစ်သားဖြင့်လုပ်ရ၍ ဆေးဖြူခြယ်ထားသည်။ အလေးချိန်မှာ ၅ အောင်စခန့်ရှိ၏။ တုတ်တံ၏အဖျားတွင် သစ်မာသားတခုကိုကန့်လန့်ဖြတ်ထား၍၊ ထိုအဖျားဖြင့်ဘောလုံးကိုရိုက်ရသည်။ အရင်းပိုင်း၌ကား လက်ကိုင်မြဲရန် သားရေဖြင့်ပတ်ထားသည်။ ကစားသူကျင်လျင်သလောက် မြင်းကိုလည်းလိမ်မာကျင်လျင်အောင်လေ့ကျင့်ထားရာ ကစားကြသည့်အခါ ကျွမ်းကျင်ပြီးဖြစ်သောမြင်းလိမ်မာများသည် ဘောလုံးနောက်သို့မိမိတို့ဖာသာ ကျွေကောက်လှည့်ပတ်၍ လိုက်ကြသည်။ ဤကစားနည်း၌ အခြားကစားနည်းများကဲ့သို့ နာရီဝက်တနာရီစသည်ဖြင့်ဆက်တိုက်မကစားရချေ။ အင်္ဂလန်ပြည်တွင် ၈ မိနစ်လျှင်တကြိမ်ကျ မြင်းလဲ၍ ၃ မိနစ်စီအနားပေးသည်။ ၇ ကြိမ်ကစားပြီးလျှင် ပွဲပြီး၏။ အမေရိကန်နိုင်ငံတွင်မူ ၇½ မိနစ်လျှင် တကြိမ်ကျမြင်းလဲရန် ၃ မိနစ်အနားပေး၏။ ၆ ကြိမ်ဖြစ်စေ၊ ၈ ကြိမ်ဖြစ်စေကစားပြီးလျှင်ပွဲပြီးလေသည်။

ဂိုးပေါက်မှာ ၈ ကိုက်ကျယ်၍ဂိုးစောင့်ဟူ၍ သီးခြားမရှိချေ။ ကစားသူ ၄ ယောက်အနက် ၂ ယောက်မှာ ရှေ့တန်းတက်ရ၍ တယောက်ကနောက်ပိုင်းမှကာကွယ်ရသည်။ ကျန်တယောက်မှာ ရှေ့ရော နောက်ပါကျင်လျင်စွာကစားရသည်။ ၁၉၀၉ ခုနှစ်ခန့်အထိပိုလိုကစားပွဲအတွက်မြင်းကောင်းများကို အိုင်ယာလန်၊ အင်္ဂလန်နှင့် ဩစတြေလီးယားနိုင်ငံများကမွေးမြူရောင်းချကြ လေသည်။ ထိုနောက်အာရေဗျနိုင်ငံကအများ အပြားမွေးမြူလာခဲ့သည်။ ဩစတြေးလီးယားနိုင်ငံမှပေါက်ပွားသော ဝေလာမြင်းများသည် ပိုလိုကစားရန်အတွက်မြင်း ကောင်း များဖြစ်သည်ဟုကျော်ကြားသည်။ ထိုမြင်းမျိုးကိုအိန္ဒိယနိုင်ငံ ကအများအပြားအသုံးပြုလေ့ရှိသည်။ ပိုလိုကစားပွဲအတွက် မြင်းကောင်းများလိုသည့်အတိုင်း ပိုလိုကစားကျွမ်းကျင်သောမြင်းလိမ်မာတစီးကိုအဖိုးငွေမြောက်မြားစွာပေး၍ ဝယ်ရသည်။ ထိုကြောင့် ဤကစားနည်းကို ချမ်းသာကြွယ်ဝသူများကစားလေ့ရှိကြ၍ အထူးသဖြင့် စစ်တပ်များတွင်လည်းကစားလေ့ရှိ၏။ မြန်မာသမိုင်းတွင် စာဆိုတော်ဘုရင်တောင်ငူနတ်သျှင်နောင်သည် ကုလီသဘင်၌ ပျော်ရွှင်သည်ဟုပါရှိရာ၊ ကုလီသဘင်မှာ ပိုလိုကစားပွဲပင်ဖြစ်သည်။ (နတ်သျှင်နောင်ဘုရင် — လည်းရှု။)



ဂူလီသို့မဟုတ်ပိုလိုကစားနေကြပုံ

ဤကစားနည်းသည် အရှေ့တိုင်းမှစတင်ပေါ် ပေါက်လာပြီးနောက်၊ ၁၈၆၉ ခုနှစ်လောက်တွင် အိန္ဒိယမှအင်္ဂလန်ပြည်သို့ ရောက်သွားသည်။ အမေရိကန်နိုင်ငံသို့ကား ၁၈၇၆ ခုနှစ်တွင် သဌေးတဦးဖြစ်သော ကစားခုန်စား ဝါသနာထုံသူ ဂေါ်ဒင် ဗင်းနက်၏ဆောင်ယူမှုကြောင့်ရောက်ခဲ့လေသည်။

**ဂေးလစ်လူမျိုးနှင့်ဂေးလစ်စာပေ။** ။စကော့တလန်ပြည်၏ပထဝီဝင်ကို လေ့လာသည့်အခါ၌ရင်း၊ ထိုတိုင်းပြည်သို့အလည်အပတ် ရောက်သည့်အခါ၌ရင်း၊ တောင်၊ မြစ်၊ မြို့ စသည်တို့၏ထူးဆန်းသော အမည်နာမများကိုကြားရတွေ့ရကြပေလိမ့်မည်။ ထိုအမည်များမှာ သမိုင်းတင်စ အခါက ဗြိတိသျှကျွန်းစုတွင် နေထိုင်ခဲ့သော ဂေးလစ်လူမျိုးတို့၏ ဘာသာစကားဖြင့် မှည့်ခေါ် သော အမည် များ ဖြစ်သည်။ ဂေးလစ်လူမျိုးတို့သည် ကဲ့ အမျိုးအနွယ်မှဆင်းသက်သူများဖြစ်၍ ဗြိတိသျှကျွန်းကိုရောမလူမျိုးများ လွှမ်းမိုးရန်ရောက်လာခဲ့ကြသည့်အခါတွင် ခုခံတိုက်ခိုက်ခဲ့ကြ၏။ တောင်ပေါ် သား စကော့များမှာ ဂေးလစ်လူမျိုးများ၏အဆက်အနွယ်များဖြစ်၍ ယခုအခါတွင် ဂေးလစ် ဟူသော ဝေါဟာရမှာလည်း ရံဖန်ရံခါတောင်ပေါ် သား စကော့တို့ကို ပင်ဆိုလိုပေသည်။ သို့သော် တောင်ပေါ် သားစကော့တို့ကို သူတို့ပြောဆိုနေကြသော ဂေးလစ်ဘာသာစကားကြောင့် ဂေးလစ်လူမျိုးဟုခေါ် မည်ဆိုလျှင် အိုင်းရစ်လူမျိုးကိုလည်း ဂေးလစ်လူမျိုးဟုခေါ် ဆိုထိုက်သည်။ ဂေးလစ်ဘာသာစကားကို အိုင်ယာလန်သမိုင်းအစလောက်မှစ၍ အိုင်ယာလန်တွင် ပြောဆိုသုံးစွဲခဲ့ကြ၏။ သို့သော် ခရစ် ၁၇၀၀ ပြည့်နှစ်နောက်ပိုင်းတွင် အိုင်ရစ်လူမျိုးအနည်းငယ်ခန့်သာ ပြောဆိုသုံးစွဲကြတော့သည်။

ယခုအခါတွင်ကား အိုင်ယာလန်ကျွန်း တောင်ပိုင်းတွင် တည်ထောင်ဖွဲ့စည်းထားသော အေး်ရာနိုင်ငံတွင် ဂေးလစ်ဘာသာစကားမှာ ရုံးသုံးဘာသာစကားဖြစ်၍ ကျောင်းများတွင် လည်း သင်ကြား ပေး လေသည်။ ထို့ပြင် အချို့သော အလုပ်အကိုင်များအတွက် ဂေးလစ်ဘာသာစကား တတ်ရမည်ဖြစ်၍၊ ဂေးလစ်ဘာသာစကားကို အသုံးပြုသူများသည် ယခုအခါပိုမိုများပြားလာ၏။

ဂေးလစ်ဘာသာစကားမှာ တောင်ပေါ် သား စကော့တို့၏ ပင်ရင်းဘာသာစကားပင်ဖြစ်သော်လည်း၊ ယခုအခါ တောင်ပေါ် သား စကော့အများပင် အင်္ဂလိပ် ဘာသာစကားကိုပြောဆိုနေကြသည်။

ထို့ပြင် ဂေးလစ်ဘာသာစကားမှာ မန်းကျွန်းတွင်နေထိုင်သော မန်းလူမျိုးတို့၏တိုင်းရင်းဘာသာစကားပင်ဖြစ်သော်လည်း၊ ယခုအခါ များစွာပြောဆိုသုံးစွဲသည့် အလေ့အထမရှိတော့သဖြင့် ထိုကျွန်းတွင်တိမ်ကောလုမတတ်ရှိနေလေပြီ။

ဂေးလစ်ဘာသာစကားသည် သင်ကြားနားလည်ရန်မဆိုထားဘိ၊ အသံထွက်အမှန်ကို ပီအောင်ရွတ်ဆိုရန်ပင်ခဲယဉ်းလှလေသည်။ ထို့ကြောင့်ပင် ဂေးလစ်စာပေတွင် ကဗျာလင်္ကာအဖွဲ့အနွဲ့များနှင့် ရှေးဟောင်းပုံပြင်ကလေးများရှိခဲ့စေကာမူ၊ ဘာသာစကားခက်ခဲမှုကြောင့် ပညာရှင်များလိုက်စားခြင်းမပြုလိုကြချေ။

**ဂယ်ရီဗောဒီး, ဂျီ** (ခရစ် ၁၈၀၇–၁၈၈၂)။ ။ဣတာလျံမျိုးချစ်ခေါင်းဆောင်ကြီး တဦးဖြစ်သူ ဂျူးဇက်ပေ ဂယ်ရီဗောဒီးသည် ၁၈၀၇ ခုနှစ် ဇူလိုင်လ ၄ ရက်နေ့၌ ဣတာလီပြည် နီးစ်မြို့တွင် မွေးဖွားသည်။ သူသည် ဣတာလီပြည် သွေးစည်းလွတ်မြောက်ရေးတွင် ပါဝင်ဆောင်ရွက်ခဲ့သော လူစွမ်းကောင်း တဦး ဖြစ်သည်။ သူသည် ငယ်ရွယ်စဉ်ကပင် သင်္ဘောသား အဖြစ် လုပ်ကိုင်ခဲ့၏။ ၂၆ နှစ်သား အရွယ်တွင် ဣတာလီပြည် လွတ်လပ်ရေး အတွက် မတ်ဇီးနီးခေါင်းဆောင်၍ လျှို့ဝှက်စွာတည်ထောင် ခဲ့သော ဣတာလီလူငယ်အဖွဲ့တွင် ပါဝင်ခဲ့လေသည်။

၁၈၃၄ ခုနှစ်တွင် သူသည် သူ၏ ရဲဘော်တစုနှင့်အတူ ဂျီနိုးအာမြို့ရှိ လက်နက်တိုက်ကို ဝင်စီးရန် ကြံစည်ရာ သူတို့၏ အကြံကို ဩစတြီးယား အစိုးရ ရိပ်မိသွား၍ ၁၈၃၆ ခုနှစ်တွင် တောင်အမေရိကတိုက်သို့ ထွက်ပြေးခဲ့ရလေသည်။

တောင် အမေရိကတိုက်တွင် ၁၄ နှစ်ခန့် နေထိုင်ခဲ့စဉ် ဂယ်ရီဗောဒီးသည် အူရုဂွေးနှင့် ဗရာဇီး နိုင်ငံများ၌ မျိုးချစ်သူပုန်များနှင့် လက်တွဲ၍ တော်လှန်ရေးစစ်ပွဲများတွင် ပါဝင်ဆင်နွှဲ ခဲ့လေသည်။ ထိုနောက် ၁၈၄၈ ခုနှစ်တွင် ဣတာလီသို့ ပြန်သွားလေသည်။ ထိုနှစ်၌ ဣတာလီပြည် မြောက်ပိုင်းသားတို့ ဩစတြီးယား လက်အောက်မှ လွတ်မြောက်ရန် တော်လှန် ပုန်ကန်ကြရာတွင် ပါဝင်ခဲ့သော်လည်း မအောင်မြင်ခဲ့ပေ။ ဂယ်ရီဗောဒီးမှာ ဣတာလီပြည် အလယ်ပိုင်းကို ဖြတ်၍ ဆုတ်ခွါ ထွက်ပြေးရလေသည်။ ဤအကြိမ်၌ အမေရိကန်နိုင်ငံ နယူးယော့မြို့သို့သွားရောက်နေထိုင်ခဲ့ရာ အသင့်အတင့် စီးပွါးဖြစ်ထွန်းခဲ့လေသည်။ ၁၈၅၄ ခုနှစ်တွင် သူသည် ဣတာလီပြည်သို့ ပြန်သွား၍ မြေထဲပင်လယ် အတွင်းရှိ ကပရယ်ရာ ကျွန်းကလေးကို ဝယ်ယူပြီးလျှင် ထိုကျွန်းပေါ်တွင် အခြေစိုက်ကာ နေထိုင်ခဲ့လေသည်။

၁၈၅၉ ခုနှစ်တွင် ဆာဒင်းနီးယားပီးဒမွန့်နိုင်ငံ ပြည့်ရှင် အီမန်းနျူအယ်ဘုရင် ခေါင်းဆောင်ကာ ပြင်သစ်တို့ အကူအညီဖြင့် ဩစတြီးယားကို ပုန်ကန်တိုက်ခိုက်ခဲ့ရာ ဂယ်ရီဗောဒီးလည်း ပါဝင် တိုက်ခိုက်၍ သူကြီးမှူးသောခြေလျင်တပ်များသည် ဣတာလီပြည် မြောက်ပိုင်းတွင် အောင်ပွဲများ ရခဲ့လေသည်။ သို့ရာတွင် ပြင်သစ်တို့က ဩစတြီးယားနှင့် ရုတ်တရက် စစ်ပြေငြိမ်းလိုက်ခြင်းကြောင့် ဂယ်ရီဗောဒီးအဖို့ ရှေ့သို့ တိုးတက်ချီတက်ရန် မျှော်လင့်ချက်များမှာ ပျက်ပြားသွားလေတော့၏။ ထိုနောက်မကြာမီ ပီးဒမွန့် ဝန်ကြီးချုပ် ကောင့်ကဗူးနှင့် အင်္ဂလိပ်တို့၏ အကူအညီဖြင့် နေပယ်ဘုရင်ပိုင် စစ္စလီကျွန်းပေါ်သို့ သူ၏ ရှပ်နီတပ်သား ၁,၀၀၀ နှင့် တက်ရောက် တိုက်ခိုက်ရာ ရက်သတ္တပတ် အနည်းငယ်အတွင်း ရန်သူ အားလုံးကို ကျွန်းပေါ်မှ မောင်းနှင် ထုတ်နိုင်ခဲ့ပြီးလျှင် ကျွန်းကိုလည်း သိမ်းယူနိုင်ခဲ့လေသည်။

ကျွန်းပေါ်သို့ တက်ရောက်စဉ်က သူ၏ နောက်မှ လက်ရွေးဆန် ရဲဘော် ၁,၀၀၀ မျှသာ ပါရှိသော်လည်း ကျွန်းကို သိမ်းပိုက်မိသောအခါ၌မူ ရန်သူများ ထံမှ ပိုက်ဆံ ကြေးငွေ လက်နက်ရိက္ခာ အမြောက်အမြား ရရှိလိုက်၍ သူ၏ စစ်တပ်မှာ စစ်သား ဦးရေ ၂၅,၀၀၀ အထိ အင်အား တိုးတက်ခဲ့လေသည်။ သူသည် မိမိကိုယ်ကို အာဏာရှင် အဖြစ် ကြေညာ၍ ဣတာလီကုန်းမကြီး ပေါ်သို့ ဆက်လက် ချီတက်သွားခဲ့၏။

သူဖြတ်သွားရသော မြို့ရွာများက ခုခံတိုက်ခိုက်ခြင်း မပြုဘဲ အသာတကြည် လက်နက် ချအပ်ကြလေသည်။ နေပယ် မြို့ထဲသို့ ဝင်ရောက်သွားသောအခါ သူ့ကိုလူများက သောင်းသောင်း ဖြဖြ ဝိုင်းဝန်းကြိုဆိုကြလေသည်။ ထိုသို့ လူများက ဝိုင်းဝန်း ခြီးမြှောက်ကြသော်လည်း ဘဝင်မြင့်မသွားချေ။ သူသည် စစ္စလီကျွန်းနှင့် နေပယ်မြို့ကို ဗစ်တာ အီမန်းနျူအယ်ဘုရင်အား ပေးအပ်ပြီးနောက် သူ၏ နေရင်းဌာန ကပရယ်ရာကျွန်းသို့ ပြန်သွားလေသည်။

အမျိုးသားများ အတော်အတန် စည်းလုံးမိပြီ ဖြစ်သော်လည်း သူသည် ကြာရှည်စွာ အေးအေး ဆေးဆေး မနေနိုင် သေးချေ။ ဣတာလီ အစိုးရက သူ၏ဇာတိချက်မြုပ်



ဣတာလျံမျိုးချစ်ခေါင်းဆောင်ကြီးဂယ်ရီဗောဒီး

မြို့ဖြစ်သော နီးစမြို့ကို ပြင်သစ်တို့အား ပေးအပ်ခဲ့သည်က တကြောင်း၊ သူ၏ ရဲဘော်များကို မေ့လျော့နေသည်က တကြောင်း၊ ဤအကြောင်းများကြောင့် သူသည် စိတ်ထဲ၌ များစွာ မကျေမနပ် ဖြစ်ခဲ့ရလေသည်။ ထို့ပြင် သူသည် ရောမမြို့ကို ဣတလီပြည်၏ မြို့တော် ဖြစ်စေလိုသောကြောင့် ရောမမြို့ကို လုယူ သိမ်းပိုက်လိုသော ဆန္ဒ လွန်စွာ ပြင်းပြလျက်ရှိရာ ပြင်သစ်နှင့် ဩစတြီးယားတို့၏ ရန်ကို ကြောက်လန့်သော ဣတလီ အစိုးရက သူ ကို အတန်တန် ဟန့်တားထားရလေသည်။ သို့သော် သူသည် ၂ ကြိမ်တိုင်တိုင်ရောမမြို့ကို သိမ်းပိုက်ရန် ကြိုးစားခဲ့သေးသည်။ ၁၈၆၇ ခုနှစ်တွင် ဒုတိယ အကြိမ် ကြိုးပမ်းခဲ့စဉ် ပုပ်ရဟန်းမင်းဖက်မှ ကူရန်လာသော ပြင်သစ်တပ်များ၏ နှိမ်နင်းခြင်း ခံရလေသည်။ ထို့ပြင် ရန် သူတို့၏ အဖမ်းအဆီးကိုလည်း ခံရပြီးနောက် မကြာမီ လွတ်မြောက်လာခဲ့လေ၏။

ပြင်သစ် ဂျာမန် စစ်ပွဲဖြစ်ပွားစဉ်က ဂယ်ရီဗော်ဒီးသည် ပြင်သစ်အပျော်ထမ်းတပ်စုတစုကို ခေါင်းဆောင်၍ ပါဝင်တိုက်ခိုက်ခဲ့သေးလေသည်။

၁၈၇၀ ပြည့်နှစ်၌မူ ဣတာလျံစစ်တပ်များက ရောမမြို့ကို သိမ်းယူလိုက်သဖြင့် သူ၏အလို ပြည့်ဝသွားပေတော့သည်။

ပြင်သစ် ဂျာမန် စစ်ပြီးသွားသော အခါ သူသည် ကပရယ်ရာကျွန်းသို့ ပြန်သွားလေသည်။ ထိုအတောအတွင်း ဣတလီပြည်မှာ လွတ်လပ်သွေးစည်းမိပြီးလျှင် ရောမမြို့မှာလည်း လွတ်လပ်သော ဣတလီနိုင်ငံ၏မြို့တော် ဖြစ်လာလေသည်။ သူ့ကို ဣတလီ အစိုးရက ဆုတော်ငွေ ပေါင် ၄,၀၀၀ နှင့် နှစ်စဉ် အငြိမ်းရိက္ခာ ငွေ ပေါင် ၂,၀၀၀ ပေးရန် ဆုံးဖြတ်ခဲ့ရာ ပဌမသော် ငြင်းဆန်ခဲ့သော်လည်း နောင်အခါ၌ သဘောကြိုက်ညီ လက်ခံလိုက်လေသည်။ သူသည် ၁၈၈၂ ခုနှစ်၌ ကွယ်လွန်သွားလေရာ ဣတာလျံလူမျိုးများကသူ့ကို ဣတလီမျိုးချစ်ခေါင်းဆောင်ကြီးတဦး အနေဖြင့် အမြဲတစေသတိရလျက် ရှိကြပေသည်။

**ဂယ်လဗားနီး, အယ်** (ခရစ် ၁၇၃၇–၁၇၉၈)။ ။လွိုက်ဂျီ ဂယ်လဗားနီးသည် ဣတာလျံလူမျိုး ဖီဇီဩလိုဂျီ ပညာရှင် တဦး ဖြစ်သည်။ ဗလုံးညားမြို့တွင် ခရစ် ၁၇၃၇ ခုနှစ် စက်တင်ဘာလ ၉ ရက်နေ့၌ ဖွားမြင်သည်။ဘာသာတရားကို ကြည်ညိုလေးစား၍ ဘုန်းကြီး လုပ်ရန်ပင် ကြံရွယ်ခဲ့သည်။ သို့သော် မိဖများက သူ့အလိုကို မလိုက်ဘဲ ဆေးပညာ သင်ကြားစေခဲ့သည်။ ဆေးပညာ သင်ကြားပြီးနောက် ၁၇၆၂ ခုနှစ်တွင် ဆရာဝန် ဖြစ်လာသည်။ သူသည် အနာတမီနှင့် ဖီဇီဩလိုဂျီ ပညာများကို အဓိကထား၍ လိုက်စားပြီးလျှင် မကြာမီပင် ဗလုံးညား တက္ကသိုလ်၌ အနာတမီ ပါမောက္ခအဖြစ်ဖြင့် ခန့်အပ်ခြင်းခံရသည်။

ဂယ်လဗားနီးသည် လေထုမှ လျှပ်စစ်ဓာတ် ရရှိအောင် ဖားသေကောင်များနှင့် အမျိုးမျိုး စမ်းသပ် ကြည့်သည်။ ဖားသေကောင်၏ ခြေတဖက်ကို အေရီယယ်ကြိုး (ကောင်းကင်ကြိုး) နှင့် ဆက်၍ အခြား ခြေတဖက်ကို မြေကြီးနှင့် ဆက်ထားသည်။ ထိုသို့ ဆက်ထားခိုက် မိုးချုန်းလိုက်တိုင်း ဖားသေကောင်၏ ကြွက်သားများ လှုပ်ရှားသည်ကို တွေ့ရသည်။ သို့သော် တခါတွင် သူ၏ တပည့်များက ဖားသေကောင်များကို ကြေးချိတ်ဖြင့် ချိတ်၍ လသာဆောင်ရှိ သံတန်းများ၌ ဆွဲချိတ် ထားမိသည်။ ထိုသို့ ဆွဲချိတ်ထားစဉ် သံတန်းနှင့် ဖားသေကောင်တို့ တွေ့ထိမိသည့် အခါတိုင်း ဖား၏ ကြွက်သားများသည် မိုးချုန်းခြင်း၊ လျှပ်စစ်ပြက်ခြင်း မရှိဘဲ အလိုအလျောက် လှုပ်ရှားသည်ကို အံ့ဩစွာ တွေ့ရလေသည်။ ဤသို့ အခန့်သင့် တွေ့ရှိမှုကလေးကား ဂယ်လဗားနီးအား ကျော်ကြားစေမည့် တွေ့ရှိမှုပင် ဖြစ်တော့၏။ ဂယ်လဗားနီး၏ယူဆချက်မှာ ဖားသေကောင်သည် လျှပ်စစ်ဓာတ်ဝင်နေသော ဓာတ်အိုးကဲ့သို့ ပြုမူခြင်း ဖြစ်သည်။



လျှပ်စစ်ဓာတ်ကြောင့် ဖားသေကောင်၏ ကြွက်သားများ လှုပ်လာပုံ

ထိုယူဆချက်နှင့် စပ်လျဉ်း၍ ဂယ်လဗားနီးသည် အခြား လျှပ်စစ်ဓာတ်ပညာရှင်ကြီး တဦးဖြစ်သူ ဗောလတားနှင့် အငြင်းပွားခဲ့ရသေးသည်။ ဖား၏ ကြွက်သား လှုပ်ရှားခြင်းမှာ လျှပ်စစ်ဓာတ်ကြောင့် ဖြစ်သည်မှာ မှန်၏။ သို့သော် ထို



နက္ခတ်တာရာအကြောင်းကို ကျနစ္စာရှင်းပြနေသော ဂယ်လီ လေအို

လျှပ်စစ်ဓာတ်သည် ဖား၏ အကြောနှင့် ကြွက်သားများမှ ဖြစ်ပေါ်လာခြင်း မဟုတ်ပေ။ အမှန် စင်စစ် အဆိုပါ လျှပ်စစ်ဓာတ်မှာ နောင်အခါ ဗောလတား စမ်းသပ် တွေ့ရှိသည့် အတိုင်း သံနှင့် ကြေးဖြစ်သော သတ္တုများနှင့်ဖားကိုယ်တွင်းရှိ ဓာတ်ဆားများ ပါဝင်သော အရည်တို့ တွေ့ထိရာမှ ဓာတုဗေဒနည်းဖြင့် ဖြစ်ပေါ်လာသောလျှပ်စစ်ဓာတ်သာဖြစ်၏။

ဂယ်လဗာနီးကို အမှတ်တရ ဖြစ်စိမ့်သောငှါ လျှပ်စစ်ဓာတ်စီးတိုင်းတာသည့် ကရိယာကို 'ဂယ်လဗာနိုမီတာ' ဟူ၍ ၎င်း၊ သံချေး မတက်အောင် သွပ်ရည်စိမ်ထားသော သံပြားကို 'ဂယ်လဗာနိုက်သံ' ဟူ၍၎င်း ခေါ်ဆိုလေ့ ရှိကြသည်။ ရှေးက သံပြားများကို သွပ်ရည်စိမ်ရာတွင် ဂယ်လဗာနစ်နည်း သို့မဟုတ် လျှပ်စစ်ဓာတ်ခွဲနည်းကို အသုံးပြုကြသည်။ ယခု ခေတ်တွင်မူ သံပြားကို သွပ်ရည်ထဲတွင် အချပ်လိုက်နှစ်ပေးခြင်းဖြင့် သွပ်ရည်စိမ် သံပြားများကို လုပ်ယူကြပေသည်။ (လျှပ်စစ်ဓတ် — ရှု။)

ဂယ်လီလေအီ (ခရစ် ၁၅၆၄–၁၆၄၂)။ ။မဏ္ဍင်းနစ်ပညာကို ပဌမဆုံး လက်တွေ့ လေ့လာခဲ့သော နက္ခတ်ပညာကျော် ဂယ်လီလေအိုသည် ဣတလီပြည် ပီစာမြို့၌ မွေးဖွားသည်။ သူ၏ အပြည့်အစုံ အမည်မှာ ဂယ်လီလေအို ဂယ်လီလေအီ ဖြစ်သည်။ သူသည် အသက် ၁၉ နှစ်အရွယ်၌ ဘုရားရှိခိုးကျောင်းမျက်နှာကြက်မှ တွဲလွဲဆွဲထားသော မှန်မီးအိမ် လွဲနေပုံကို သတိပြုမိရာမှ ချိန်သီးလွှဲပုံ အကြောင်းနှင့် စပ်လျဉ်း၍ ယခင်က လူများ မသိသေးသော အချက်များကို သိရှိလေသည်။ (ချိန်သီး — ရှု) ထိုချိန်သီးဖြင့် အချိန်ကို သတ်မှတ်နိုင်သဖြင့် နောင်အခါ၌ သိပ္ပံပညာရှင်တို့သည် နာရီကို ကြံစည်လုပ်ကိုင် နိုင်ကြလေသည်။

ဂယ်လီလေအိုသည် ပီစာနှင့် ပက်ဒူအား တက္ကသိုလ်များ၌ သင်္ချာပါမောက္ခ အဖြစ် လုပ်ကိုင်နေစဉ် ရူပဗေဒ နှင့် နက္ခတ္တဗေဒ ပညာရပ်များကို လေ့လာခဲ့သည်။ အမြင့်မှ တပြိုင်တည်း ကျသော အရာဝတ္ထု ၂ ခုသည် အလေးချိန် မတူညီစေကာမူ မြေသို့ တပြိုင်တည်းကျရောက်ကြောင်းကို သိရှိသည်။ ထိုအချက်ကို ပီစာမျှော်စင်ကြီးပေါ်မှ အလေးချိန်မတူသော အရာဝတ္ထုများကို ချ၍ လက်တွေ့ ပြသခဲ့သည်။ (အာကာခုနသတ္တိ — ရှု။)

ဂယ်လီလေအိုသည် အဝေးကြည့် မှန်ပြောင်း (တယ်လီစကုပ်) ကို တီထွင်သူ ဖြစ်သည်။ ထိုမှန်ပြောင်းဖြင့် အရာဝတ္ထု တခုကို ကြည့်လျှင် မူလအရွယ်ထက် ၃ ဆမျှကြီး၍ မြင်ရသည်။ ထိုနောက် အဆ ၃၀ မျှ ပို၍ ကြည့်အားကောင်းသော မှန်ပြောင်းကို တီထွင်လေသည်။ ထိုမှန်ပြောင်းဖြင့် ကြည့်သောအခါ လတွင်ရှိသောတောင်များကိုတွေ့ရသည်။ ကြာသပတေးဂြိုဟ် (ဂျူပီတာ) ၏ အရံဂြိုဟ် ၄ လုံးကို

လည်းတွေ့ရ၍ ကွင်းစွပ်လျက်ရှိသောစနေဂြိုဟ် (ဆက်တန်) ၏ ထူးဆန်းသော ပုံသဏ္ဍာန်ကိုလည်း မြင်ရသည်။

ဂယ်လီလေအို၏ယူဆချက် တခုမှာ ကမ္ဘာလုံးသည် ဝင်ရိုးပေါ်၌ လည်ပြီးလျှင် နေကိုလှည့်ပတ်လျက် ရှိသည်ဟူသော ယူဆချက်ပင်ဖြစ်သည်။ သာသနာရေး အာဏာပိုင်များက ထိုအယူကိုမိစ္ဆာအယူဟု စွဲမြဲ မှတ်ယူထားသဖြင့် ၁၆၁၆ ခုနှစ်၌ သူ့အား ထိုအယူကို စွန့်လွှတ်ရန် သတိပေး၏။သို့ရာတွင် ၁၆၃၂ ခုနှစ်၌ထိုအယူကို ထုတ်ဖော်ရေးသားသဖြင့် ရောမမြို့ရှိ သာသနာရေး ဆိုင်ရာ တရားရုံးက ခေါ် ယူစစ်ဆေးသည်။ တရားရုံးတွင် သူသည် ထိုအယူအဆ မှားယွင်းကြောင်းကို ဝန်ခံရပြီးနောက် ဇာတိရပ်ရွာသို့ ပြန်၍ နေထိုင်ရသည်။ ထိုအရပ်တွင် ယန္တရားကြိုးစား၍ လေ့လာ ဆည်းပူး ခဲ့သော မက္ကင်းနစ်ပညာရပ် အကြောင်းကို ရေးသားကာ ၅ာအုပ်ထုတ်ဝေလေသည်။

ဂယ်လီလေအိုသည် ပညာဉာဏ် စူးရှ၍ လက်တွေ့ စမ်းသပ် လုပ်ကိုင် လေ့ရှိသဖြင့် ထိုခေတ်က ထူးချွန်သော သိပ္ပံပါရဂူ တဦးဖြစ်ခဲ့သည်။ လူအများပင်ယုံကြည်နေကြသော အယ်ရစ္စတိုတယ်ရေးသားချက်များကိုမှားသည်ဟု ရဲဝံ့စွာ ပြောဆိုခဲ့၏။ (အယ်ရစ္စတိုတယ် — လည်းရှု)။ သာသနာရေး အာဏာပိုင်များနှင့် အတိုက်အခံပြုကာ ကိုယ်တွေ့စုံစမ်းသိရှိရသော အချက်များကို ထုတ်ဖော် ပြသခဲ့၏။ ဤသို့ ရှေးဟောင်း အစဉ်အလာ အယူအဆ များကို ရဲဝံ့စွာ တော်လှန်၍ မှန်ကန်သော အချက်များကို ထုတ်ဖော် ပြသခဲ့သဖြင့် သိပ္ပံပညာသည် တိုးတက်ခဲ့ပေသည်။



ရောမနိုင်ငံကို တိုက်ခိုက်ရန် ချီတက်လာသော ဂေါ့သ စစ်သည်များ

**ဂေါ့သလူမျိုး။** ။ဘီစီ ၃၀၀ လောက်က ရောမ နိုင်ငံကို ဝင်ရောက် တိုက်ခိုက်သော ဂျာမန် လူမျိုး တမျိုးမှာ ဂေါ့သလူမျိုးဖြစ်သည်။ မူလက သူတို့သည် ဗောလတစ် ပင်လယ် ကမ်းခြေတလျှောက်တွင်နေထိုင်ကြ၏။အေဒီ ၂၀၀ လောက် ရောက်သော အခါ သူတို့သည် ဒန်းညုမြစ်နှင့် ပင်လယ်နက် မြောက်ဖက်တွင် လူအင်အား တောင့်တင်းစွာဖြင့် နိုင်ငံကြီး တနိုင်ငံကို တည်ထောင် ကြသည်။ ထိုနောက် ဂေါ့သတို့သည် ရောမပိုင်နက် ဖြစ်သော ဒေးရှီယာကို ဝင်ရောက်တိုက်ခိုက်ကြရာ ဩရီးလီယန် ဘုရင်သည် ၂၇၂ ခုနှစ်တွင် ဂေါ့သတို့ လက်သို့ ဒေးရှီယာကို အပ်လိုက်ရ၏။ နှစ်ပေါင်း ၁၀၀ ခန့်ကြာသောအခါ ဂေါ့သ လူမျိုး ၂ စုကွဲသွား၏။ တစုမှာ အော်စတြိုဂေါ့သခေါ် အရှေ့ပိုင်းဂေါ့သဖြစ်၍ ကျန်တစုမှာ ဗီစီဂေါ့သခေါ် အနောက်ပိုင်း ဂေါ့သတို့ဖြစ်သည်။ အော့စတြိုဂေါ့သတို့သည် ပင်လယ်နက် ကမ်းခြေတလျှောက်တွင် နေထိုင်ကြ၍ ဗီစီဂေါ့သတို့မှာကားဒေးရှီယာနယ်နှင့် ဒန်းညုမြစ်ကမ်း တလျှောက်၌ နေထိုင်ခဲ့ကြ၏။

၃၇၅ ခုနှစ် သီအိုဒိုးဆီးယပ် ဘုရင် နတ်ရွာစံသော အခါ အဲလရစ်ဘုရင် ကြီးမှူးသော ဗီစီဂေါ့သတို့သည် ပုန်ကန်ထကြွကြ၍ ဂရိပိုင်နယ်များကို သိမ်းယူကြသည်။ ထိုနောက် ဣတလီသို့ ချီတက် တိုက်ခိုက် ကြပြန်ရာ ရောမမြို့တော်သည်လည်း ၄၁၀ ပြည့်နှစ်တွင် ဂေါ့သတို့ လက်ထဲသို့ ကျရောက်ရလေသည်။ ခေါင်းဆောင် အဲလရစ်မှာ စစ္စလီနယ်မြေများသို့ သွားရောက် တိုက်ခိုက်ရန် ပြင်ဆင်ဆဲတွင် သေဆုံးသွားလေသည်။ အဲလရစ်၏ နေရာကို ဆက်ခံသော ဂေါ့သတို့သည် သူတို့ လူများနှင့် ဣတလီနိုင်ငံမှ ထွက်ခွါသွားကြ၍ စပိန်နှင့် ဂေါ့သ တောင်ပိုင်း (ယခု ပြင်သစ်) တွင်နိုင်ငံသစ် တည်

ထောင် ကြသည်။ ဖရန့်လူမျိုး များနှင့် ၅၀၇ ခုနှစ်တွင် တိုက်ခိုက်ကြပြန်ရာ ဗီစီ ဂေါ့သတို့ အရေးနိမ့်၍ သူတို့၏ မြောက်ပိုင်း နယ်မြေများကို ဖရန့် ဘုရင် ကလိုးဗစ် လက်သို့ ပေးအပ် လိုက်ရသည်။ စပိန်ပြည်တွင် တည်ထောင်သော ဂေါ့သနိုင်ငံမှာကား ၇၁၁ ခုနှစ်ကျမှ ပျက်စီး၏။ မူးဝါးခေါ် မွတ်စလင်များက အာဖရိကတိုက်မှ လာရောက်၍ တိုက်ခိုက်ကြရာ ဂေါ့သဘုရင် ရောဒရစ် ကျဆုံး သွားသော အခါ တိုင်းပြည်ကိုပါ အပ်လိုက်ရသည်။

ခရစ် နှစ် ၄၀၀ ကျော်လောက်တွင် အော့စတြို ဂေါ့သတို့သည် ဒန်းညုမြစ်နှင့် ဆားဗားမြစ် အကြား ရှိ ရောမပိုင် နယ် ဖြစ်သော ပန်နိုးနီးယား၌ နေထိုင်ခွင့် ရကြလေသည်။ သူတို့၏ ခေါင်းဆောင်မှာ သီအိုဒေါရစ် ဘုရင် ဖြစ်သည်။ သူသည် ၄၈၈ ခုနှစ်တွင် ဣတလီနိုင်ငံထဲသို့ ဝင်ရောက်တိုက်ခိုက်သည်။ နှစ်ပေါင်း အတော်ကြာ တိုက်ခိုက်ပြီးနောက် ၄၉၃ ခုနှစ် ကျမှ သူသည် ရောမထီးနန်းကို မတရား သိမ်းပိုက်ထားသော အော်ဒိုစာ ဘုရင်ကိုသတ်ဖြတ်၍ ဂေါ့သနိုင်ငံကြီး တခု တည်ထောင် နိုင်သည်။ သီအိုဒေါရစ်သည် သူတည်ထောင်ခဲ့သော နိုင်ငံကြီးကို မပြိုမကွဲအောင် စောင့်ရှောက်ထိန်းသိမ်းလျက် ၅၂၆ ခုနှစ်၌ ကွယ်လွန် လေသည်။ သီအိုဒေါရစ် ကွယ်လွန်ပြီးနောက် နိုင်ငံကို တည်တံ့အောင် အုပ်ချုပ် နိုင်မည့် ခေါင်းဆောင်ကောင်းများ မပေါ်ပေါက်တော့ချေ။ အော့စတြို ဂေါ့သတို့ကို အရှေ့တိုင်းမှ ဘုရင်များက မကြာခဏ လာရောက် တိုက်ခိုက် နှောင့်ယှက်ကြ၏။ ဤသို့ နှောင့်ယှက်ဖန် များသောအခါ အော့စတြို ဂေါ့သတို့မှာ ကြာရှည်မခံနိုင်ကြတော့ဘဲ လုံးပါး ပါးကာ ၅၅၄ ခု နှစ်လောက်တွင် ဂေါ့သလူမျိုးတို့၏ နိုင်ငံမှာ လုံးဝ ပျက်စီးသွားတော့၏။ ထိုအခါ မှ စ၍ ဂေါ့သလူမျိုးများသည် တိမ်ကောပပျောက်သွားကြကာ ဥရောပ နိုင်ငံသမိုင်းတွင် ဂေါ့သလူမျိုးဟူ၍ သီးခြား မတွေ့ရတော့ချေ။

**ဂေါ်တန်။** ။ကျောက်သလင်း — ရှု။

**ဂေါ်ဒင်, စီ၊ ဂျီ** (ခရစ် ၁၈၃၃–၁၈၈၅)။ ။ချားလ်ဂျော့ ဂေါ်ဒင်သည်ထင်ရှားသောဗြိတိသျှဗိုလ်ချုပ်တဦးဖြစ်သည်။ ဝူးလစ်မြို့၌ ၁၈၃၃ ခုနှစ် ဇန္နဝါရီလ ၂၈ ရက်နေ့တွင် မွေးဖွားခဲ့ရာ မျိုးရိုးအားဖြင့် စစ်သားရိုးရိုးပင် ဖြစ်သည်။ ထိုမြို့ရှိ ဘုရင့်တက္ကသိုလ်တွင် စစ်ပညာများကို သင်ကြား အောင်မြင်သည်။ ၁၈၅၂ ခုနှစ်တွင် ဘုရင့်အင်ဂျင်နီယာတပ်၌ ဗိုလ်အဖြစ် စတင်အမှုထမ်းခဲ့၍ ကရိုင်းမီးယား စစ်ပွဲတွင် ၁၈၅၅ ခုနှစ်၌ ပါဝင်တိုက်ခိုက်ခဲ့သည်။ ထိုနောက် အသက် ၃၀ အရွယ်တွင် တရုပ်နိုင်ငံ တိုင်ပင်သူပုန်အရေး၌ တရုပ်အစိုးရ ဖက်မှကူညီ၍ သူပုန်တို့ကို နှိမ်နင်းပေးခဲ့သည်။

တိုင်ပင်သူပုန်အရေးမှာ ၁၀ နှစ်မျှကြာသည့်တိုင်အောင် နှိမ်နင်းမရဖြစ်ခဲ့ရာ၊ ဗြိတိသျှအစိုးရ၏ သဘောတူညီချက်အရ ဂေါ်ဒင်သည် ဥရောပတိုက်သားများနှင့် အမေရိကန်တို့က လေ့ကျင့်ပေးထားသော တရုပ်စစ်တပ်များကို ကွပ်ကဲအုပ်ချုပ် တိုက်ခိုက်ခဲ့သည်တွင် ၁၈ လအတွင်း သူပုန်အရေး ငြိမ်းအေး သွားလေသည်။ ထိုကြောင့် တရုပ်အစိုးရက ကြီးကျယ်စွာ မြှောက်စား ချီးမြှင့်လိုသည်ဟုစကားကမ်းလှမ်းသည်။ သို့သော် ဂေါ်ဒင်ကလက်မခံခဲ့ပေ။

အင်္ဂလန်သို့ ဗိုလ်မှူးကြီးအဆင့်အတန်းဖြင့် ပြန်လာပြီးနောက် အင်္ဂလန်ပြည် တင်း မြစ်တလျှောက်တွင် ခံတပ်များဆောက်လုပ်ရာ၌ အင်ဂျင်နီယာမှူးအဖြစ် ဆောင်ရွက်ခဲ့ရလေသည်။ အင်ဂျင်နီယာမှူးအဖြစ် ၆ နှစ်မျှ ဆောင်ရွက်နေရစဉ်အတွင်း ဂေါ်ဒင်၏အိမ်သည် အိုးအိမ်မရှိ လေလွင့်နေသူများအား ထိန်းသိမ်းစောင့်ရှောက်၍ ပြုစုပျိုးထောင်ပေးရာဌာနဖြစ်နေလေသည်။ ထိုလေလွင့်နေသူများအား ဆေးဝါးများ ကုသပေး၍ ညနေသင်တန်းများ ဖွင့်ကာ ပညာသင်ကြားပေးသောအားဖြင့် အသက်မွေးမှုအတွက် လုံလောက်အောင် ဆောင်ရွက်ပေး၏။ ယင်းသို့ ပြည်သူ့ဝန်ထမ်းလုပ်



ဗြိတိသျှစစ်ဗိုလ်ချုပ် စီ၊ ဂျီ၊ ဂေါ်ဒင်

ငန်းများကိုဆောင်ရွက်ရာ၌ မည်သူ၏အကူအညီ အထောက်အပံ့ကိုမျှ မယူဘဲ၊ သူ့ရသမျှသော လခနှင့်ပင် ဆောင်ရွက်ခဲ့ပေသည်။ ယင်းသို့ဖြင့် ဂေါ်ဒင်သည် လူကြမ်းစိတ်ကြမ်းနှင့် စစ်ပွဲဝင်ခဲ့သည့် စစ်သားကောင်းတယောက် ဖြစ်သော်လည်း သူ၏ပင်ကိုယ်စိတ်ဓာတ်မှာ နူးညံ့သိမ်မွေ့၍ ကြင်နာ စာနာ တတ်ကြောင်းသိရသည့်ပြင် ဘာသာရေး၌လည်း လေးစား ကိုင်းရှိုင်းသူ ဖြစ်ပေသည်။

၁၈၇၃ ခုနှစ်တွင် အင်္ဂလိပ်ဘုရင်ခံချုပ်က ဂေါ်ဒင်အား အင်္ဂလိပ်ပိုင် အီကွေတာပိုင်း ဒေသများ၏ ဘုရင်ခံအဖြစ် ခန့်ထားလေသည်။ သို့သော် ငွေဝယ်ကျွန်စံနစ် ပပျောက်အောင် ဆောင်ရွက်ခဲ့ရာ၌ ဆူဒန်နယ်ဘုရင်ခံက အနှောင့်အယှက် ပေးသဖြင့် စိတ်ပျက်ပြီးသော် အလုပ်မှ နုတ်ထွက်၍ အင်္ဂလန်ပြည်သို့ ပြန်သွားလေသည်။ ၁၈၇၇ ခုနှစ်တွင် ငွေဝယ်ကျွန်စံနစ် ပပျောက်ရေး ဆောင်ရွက်ရန် အခွင့်ရမှသာ ရာထူးလက်ခံမည်ဟု ဆိုသည့်အတိုင်း အခွင့်ရရှိလာသဖြင့် ဆူဒန်နယ်၏ ဘုရင်ခံအဖြစ် ဆောင်ရွက်ခဲ့သည့်အပြင် ငွေဝယ်ကျွန်စံနစ် ပပျောက်အောင်လည်း ကြိုးပမ်းခဲ့လေသည်။ ထိုနောက်တွင် ဂေါ်ဒင်မှာ တရုပ်နိုင်ငံ မောရစ်ရှပ်ကျွန်းနှင့် အာဖရိကတိုက် တောင်ပိုင်းတို့တွင် အမှုထမ်းရွက်ခဲ့သေး၏။

ဤသို့ တရုပ်နိုင်ငံနှင့် အင်္ဂလိပ်နိုင်ငံတို့တွင် စစ်ရေးနှင့် အုပ်ချုပ်ရေးတို့၌ အမှုထမ်းရွက်ခဲ့သည်ကို အစွဲပြု၍ ဂေါ်ဒင်သည် 'တရုပ်ဂေါ်ဒင်' ဟူ၍၎င်း၊ 'ဂေါ်ဒင်ပါရှား' ဟူ၍၎င်း အမည်နှစ်မျိုးရခဲ့သည်။

၁၈၈၄ ခုနှစ်တွင် ဆူဒန်နယ်၌ မာဒီခေါင်းဆောင်သည့် သူပုန်အရေးကြောင့် အခြေအနေမှာ အတော်ပင် ဆိုးရွားလာလေသည်။ ထိုကြောင့် ဆူဒန်နယ်မှ အင်္ဂလိပ်စစ်တပ်များကို ရွှေ့ပြောင်းရာတွင် အင်္ဂလိပ်ဘုရင်ခံချုပ်အား ကူညီရန် ဗြိတိန်အစိုးရက ဂေါ်ဒင်အား စေလွှတ်လိုက်လေသည်။ ဂေါ်ဒင်သည် တခါက သူအုပ်ချုပ်ခဲ့သည့် နယ်ဖြစ်၍ သူစီမံခန့်ခွဲလိုက်ပါက သူပုန်အရေးပင် ငြိမ်းအေးသွားမည်ဟု မြော်လင့်ခဲ့၏။ သို့ဖြစ်၍ အချိန်ရခိုက် စစ်တပ်များကို မပြောင်းသေးဘဲ အခြေအနေ ပြန်ကောင်းလာအောင် ဆောင်ရွက်ခဲ့လေသည်။ အခြေအနေကား ဂေါ်ဒင် မြော်လင့်သလို ကောင်းမလာဘဲ သူနှင့်တကွ စစ်တပ်များပါ ခါတွမ်းမြို့ထဲ၌ ရန်သူဖြစ်သော မာဒီ၏ နောက်လိုက်များက ဝိုင်းဝန်းပိတ်ဆို့ခြင်း ခံရလေတော့သည်။

ဂေါ်ဒင်သည် မြို့ကိုရန်သူ လက်သို့ အကျမခံဘဲ မြို့အတွင်းမှနေ၍ ၁၀ လမျှခုခံခဲ့၏။ ထိုအတောအတွင်း အင်္ဂလိပ်



ဗိုလ်ချုပ်ဂေါ်ဒင်သည်နောက်ဆုံးအချိန်ထိအောင် ရန်သူကိုကြံ့ကြံ့ခံခဲ့၏။

အကူစစ်တပ်သည်လည်း အပြင်းချီတက်လာရာ ၁၈၈၅ ခုနှစ် ဇန္နဝါရီလ ၂၈ ရက်နေ့တွင် ခါတွမ်းမြို့အနီးသို့ ရောက်ရှိခဲ့၏။ သို့သော် အလာနှောင်းသောကြောင့် ဂေါ်ဒင်နှင့်တကွ နောက်လိုက်ရဲမက်အားလုံးတို့သည် ရန်သူမာဒီ၏တပ်သားများ သတ်ပစ်ခြင်းကို တပြုံလုံးခံလိုက်ရလေသည်။

**ဂေါ်ဘီထုပ်။** ။ဂေါ်ဘီထုပ်သည် ဂေါ်ဘီပွင့် (ပန်းမုန်လာ) ခါးပုံမုန်ညင်း၊ စမုန် စသည်တို့နှင့်အတူ 'ကရူစီဖာရီး' မျိုးရင်းတွင် ပါဝင်သည်။ ဂေါ်ဘီထုပ်၏ ရုက္ခဗေဒအမည်မှာ 'ဗရပ်စီကားအိုလရာစီအေး' ဖြစ်သည်။ ဂေါ်ဘီထုပ်ကို မုန်လာထုပ် ဟူ၍လည်းခေါ်သည်။



လူကြိုက်များသော ဂေါ်ဘီထုပ်

ဂေါ်ဘီထုပ်သည် ရေမတင်နိုင်သော မြေနုမြေမွမ်များတွင် ကောင်းစွာဖြစ်ထွန်းသည်။ ယင်းကို ပျိုးထောင်ပြီးမှ စိုက်ခင်းတွင် ထပ်မံ၍ စိုက်ရသည်။ မျိုးစေ့များမချမီ ပျိုးခင်းတွင် ဖောင်နိမ့်နိမ့်ပြုလုပ်ရသည်။ ထိုနောက် ဖောင်ပေါ်တွင် ၄ လက်မ၊ ၅ လက်မစီ ခွါလျက် မျိုးစေ့များကို အတန်းလိုက် ပါးပါးချပေးရသည်။ ထိုမျိုးစေ့များပေါ်တွင် မြေစာ မြေမှုန့်တို့ကို ခပ်ပါးပါး ဖုံးအုပ်ပေးပြီးနောက် ပန်းကရားဖြင့် ရေလောင်းပေးရသည်။ ဖောင်များကို ငှက်ပျောရွက်၊ ထန်းရွက် စသည်တို့ဖြင့် နေပူမှုကာကွယ်ရန် ဖုံးအုပ်ပေးရသည်။ ပျိုးပင်ကလေးများသည် ၄ လက်မခန့် ကြီးမြင့်လာ၍ အရွက် ၃ ရွက်မှ ၆ ရွက်အထိရှိလာသောအခါ ရွှေ့ပြောင်းစိုက်ရန် သင့်ပြီဖြစ်သည်။

ပျိုးပင်ကလေးများကို ရွှေ့ပြောင်း မစိုက်မီ စိုက်ခင်းများကို ရေကောင်းစွာ ဖျန်းပေးရသည်။ ထိုနောက် ဖောင်တန်းများတွင် တပေစီခွါလျက် ကျင်းငယ်ကလေးများ ခပ်နက်နက် တူးပြီးလျှင် ထိုကျင်းများထဲ၌ ပျိုးပင်ကလေးများကို စိုက်ပျိုးရသည်။ ရွှေ့ပြောင်းစိုက်ပြီးနောက် ၃၊ ၄ ရက်လောက် ကြာအောင် အပင်ကလေးများကို နေပူမှ ကာကွယ်ပေးရ၍ ရေကိုလည်း နိုင်နိုင် လောင်းပေးရသည်။

ဂေါ်ဘီထုပ်ပင်များသည် ၃၊ ၄ လ ကြာမှ ကြီးရင့်လာကြသည်။ မကြီးရင့်မီ အပင်များအကြားရှိ မြေကို ဆွပေး၍ နွားမြင်းတို့၏ အညစ်အကြေးရေနှင့် နွမ်းဖတ်ပုပ်ရေများကို မကြာခဏ လောင်းပေးလျှင် အပင်များသည် အထူးသန်စွမ်းကြသည်။

ဂေါ်ဘီထုပ်တွင် အာဟာရဓာတ် များပြားစွာပါရှိသောကြောင့် အနောက်နိုင်ငံများတွင် ဂေါ်ဘီထုပ်ပင်များကို မျိုးကွဲများဖြစ်ထွန်းအောင် ပြုပြင်၍ စိုက်ပျိုးခဲ့ကြသည်။ ယခုအခါ ဂေါ်ဘီထုပ်မျိုးပေါင်း ၁၀၀ ကျော်မျှ ရှိလေပြီ။ သိပ္ပံပညာရှင်များက ဂေါ်ဘီထုပ်တွင် အခြားအပင်များမှာထက် လတ်ဆတ်သောအစာ ပို၍ ပါရှိသည်ဟု ဆိုကြသည်။

**ဂေါ်မိတ်။** ။ကျောက်သလင်း — ရှု။

**ဂေါ်မုတ်။** ။ကျောက်သလင်း — ရှု။

**ဂေါ်ရကီ, မတ်ဆီယင် (ခရစ် ၁၈၆၈–၁၉၃၆)။** ။အလုပ်သမား လူတန်းစားတို့၏ တော်လှန်ရေးကို သရုပ်ဖော်၍ စာပေ၌ ရှေ့ဆောင် ပြုသည်ဟု ဆိုဗီယက်ရုရှနိုင်ငံက အသိအမှတ်ပြု၍ ကမ္ဘာ၌လည်း ထင်ရှား ကျော်ကြားသော မတ်ဆီယင် ဂေါ်ရကီသည် ၁၈၆၈ ခုနှစ် မတ်လ ၁၄ ရက်နေ့တွင် နစ်ဇနီနိုဂိုရော့မြို့၌ မွေးဖွားသည်။ ဂေါ်ရကီဟူသော အမည်မှာ အမည်ရင်း မဟုတ်ချေ။ သူ၏ငယ်နာမည်ရင်းမှာ အလျက်ဆယေအီ၊ မတ်ဆယီမဗျစ်ပေျရှကတ် ဖြစ်သည်။ သူ၏ဘဝဖြစ်စဉ်မှာ စိတ်နာကျည်းစရာတို့နှင့်သာ ပြည့်နှက်နေရကား ရုရှဘာသာ စကားဖြင့် စိတ်နာသူဟု အဓိပ္ပါယ်ရသော ဂေါ်ရကီဟူသော အမည်ကို ကလောင်နာမည်အဖြစ်နှင့်ယူ၍ စာများရေးသားခဲ့သည်တွင် ဂေါ်ရကီ ဟူသော အမည်မှာ ကမ္ဘာကျော်ကြားသွားလေသည်။

ဂေါ်ရကီ၏ ဖခင်မှာ စားပွဲကုလားထိုင် အိမ်ထောင်ပရိဘောဂ အဖုံးတို့ကို လုပ်သော အလုပ်သမားဖြစ်သည်။ မိခင်၏မျိုးရိုးမှာ အထည်ဆေးဆိုးသော အလုပ်ကို လုပ်သူများဖြစ်သည်။ဂေါ်ရကီ ၄၊ ၅ နှစ်သား အရွယ်၌ ဖခင် သေဆုံးသွားသောအခါ မိခင်သည် နောက်အိမ်ထောင် ပြုသောကြောင့် အမိဖက်က အဖိုးနှင့် အတူနေရသည်။ သို့သော် ပညာကောင်းစွာ မသင်ရသေးမီ ဖိနပ်ချုပ်သမား လုပ်ရ

သည်။ နောက် ၂ လမျှမကြာမီ မြေပုံဆွဲသမားများ၏ အစေ အပါးအဖြစ် အလုပ်လုပ်ပြီးလျှင် အိမ်မှထွက်ပြေးလေသည်။ ထိုနောက်၌ကား ပန်းကန်ဆေး၊ မုန့်ဖုတ်၊ ထမင်းချက်၊ ကူလီ လိုက် စသော သောင်းပြောင်းထွေလာ အလုပ်တို့ကို လုပ်ခဲ့ ရသည့် အပြင် ဓာတ် သမား လည်း လုပ် ဘူး သည်။ ဘုတာရုံ ညစောင့် သမား၊ ရှေ့နေ စာရေး၊ ပန်းဘဲ သမား စသဖြင့် လည်း အသက် မွေးခဲ့ရ သည်။ ဤသို့ဘဝမျိုးစုံ၌ ကျင်လည် ခဲ့ရခြင်းသည် ဂေါ်ရကီအဖို့ သူရေးသား သော စာပေထဲ၌အသုံးချ စရာ အခြေခံ များ ဖြစ် သည်သာမက ကမ္ဘာ ကျော် စာရေးဆရာဘဝ သို့ရောက်အောင်လည်း ပို့ဆောင် ခဲ့လေသည်။ ဂေါ်ရကီ သည် အသက် ၁၆ နှစ်အရွယ်သို့ရောက်သောအခါ ကာဇန် တက္ကသိုလ်သို့ ဝင်ခွင့်ရအောင် ကြိုးစားခဲ့သည်။ သို့သော် မအောင်မြင်သဖြင့် ဗီစကွတ်မုန့်လုပ်သော စက်ရုံ၌ အလုပ် လုပ်သည်။ ၁၈၈၈ ခုနှစ်၌ စိတ်ညစ်လွန်း၍ မိမိကိုယ်ကို မိမိ သတ်သေရန် ကြံခဲ့၏။ သို့သော် မအောင်မြင်ချေ။ ထိုမှစ၍ ခြေသလုံးအိမ်တိုင် နေထိုင်ခဲ့ရာမှ ၁၈၉၂ ခုနှစ်တွင် တစ်ဖလစ် မြို့ထုတ် မထင်ရှားသော ဂျာနယ်ကလေးတစောင်တွင် သူ၏ ပဌမဦးစွာ ရေးသားသော ဝတ္ထုတိုတပုဒ်ကို ထည့်သွင်း ထုတ်ဝေခွင့်ရရှိခဲ့လေသည်။



မတ်ဆီယင် ဂေါ်ရကီ

ထိုနောက်၌ကား ဂေါ်ရကီသည် ဝတ္ထုတိုအများအပြား အပြင် ဝတ္ထုရှည်ကိုပါ ရေးသားလာခဲ့သည်။ ထိုဝတ္ထုများ သည် သူကြုံတွေ့ခဲ့ရသော ဘဝ၏ အရောင်ပြန်ဟပ်သော ဝတ္ထုများဖြစ်သည်။ မုန့်ဖိုတွင် အလုပ် လုပ်နေသော အလုပ် သမား ယောကျ်ားကြီး ၂၆ ယောက်နှင့် မိန်းကလေးတဦး၏ ပုံပြင်မှာ သူကိုယ်တိုင် မုန့်ဖုတ်သမားဘဝ၌ ကြုံတွေ့ခဲ့ရသော ဘဝကိုသရုပ်ဖော်ပြလေသည်။ ခရစ် ၁၉၀၀ နှင့် ၁၉၀၄ ခုနှစ် အကြားတွင် ပြဇာတ်များရေးခဲ့ရာ သူ၏ 'အောက်ဆုံးလွှာ' (၁၉၀၃) ဟူသောပြဇာတ်တွင်လေလွင့်နေသူများ၊ခြေသလုံး အိမ်တိုင်များ၊ ရာဇဝတ်ကောင်များ၊ ပြည့်တန်ဆာ များ၏ ဘဝအမှန်အဖြစ်အပျက်တို့ကို ဖော်ပြခဲ့သည်။ ၁၉၀၇ ခုနှစ် တွင်ရေးသားသော 'အမေ' ဟူသော ဝတ္ထုရှည်ကြီး၌ကား သူ၏အဖိုးဖြစ်သူ၏ ရက်စက်ကြမ်းကြုတ်မှုနှင့် သူ၏ချစ်လှစွာ သော အမေ၏ ကြင်နာမှုတို့ကို ယှဉ်၍ ပြခဲ့သည့်ပြင် အလုပ် သမား လယ်သမားတို့၏ တော်လှန်ရေး စိတ်ဓာတ်ကို ဖွံ့ဖြိုး ခဲ့ သည်။ 'ကလေးဘဝ' (၁၉၁၃) 'လောကတခွင်' (၁၉၁၅) နှင့် 'ကျွန်ုပ်အတွက်တက္ကသိုလ်များ' (၁၉၂၃) ဟူသောစာတို့ မှာမူ ဂေါ်ရကီ၏ကိုယ်တိုင်ရေးအတ္ထုပ္ပတ္တိများဖြစ်၍ များစွာ ကျော်ကြားလေသည်။ အားလုံးကိုခြုံ၍ပြောရလျှင်ဂေါ်ရကီ သည် ရုရှစာပေ၏ အစဉ်အလာထဲတွင် မတ်၏သဘောတရား တို့ကို သွတ်သွင်းခဲ့သူဖြစ်သည်။ (မတ်, ကားလ — ရှု)။

ဂေါ်ရကီသည် ရုရှနိုင်ငံကို အုပ်စိုးလျက်ရှိသော ဇာ ဘုရင့် အစိုးရအား ဆန့်ကျင်သည့် ဗော်လရှီဗစ် တော်လှန် ရေးအင်အားစုများနှင့်ပူးတွဲ၍ လွတ်မြောက်ရေးကို ကြိုးပမ်း ဆောင်ရွက်ခဲ့သဖြင့်လည်း ၃ ကြိမ်တိုင်တိုင် အကျဉ်း ချထား ခြင်းခံခဲ့ရသည်။ ၁၉၀၇ ခုနှစ်၌ တော်လှန်ရေး ကိစ္စဖြင့် ကပရီသို့သွားရာ ကပရီ၌ လီနင်နှင့်တွေ့ဆုံ၍ ရင်းနှီးခင်မင် သွားသည်။ ၁၉၁၇ ခုနှစ် ရုရှပြည် တော်လှန်ရေးကြီး အောင်မြင် ပြီးနောက် ဂေါ်ရကီသည် အနုပညာဆိုင်ရာ ပစ္စည်းထိန်းသိမ်းရေး အကြီးအကဲ ဖြစ်လာသည်။ ထိုနောက် ဆိုဗီယက်စာရေးဆရာ သမဂ္ဂကိုဦးစီးရှေ့ဆောင်ခဲ့လေသည်။

၁၉၃၆ ခု ဇွန်လ ၁၈ ရက်နေ့၌ ဂျာမန်ဖက်ဆစ် သူလျှို များ၏ လက်ချက်ဖြင့် ကမ္ဘာကျော် ဆိုဗီယက် စာရေးဆရာ ကြီး ဂေါ်ရကီကွယ်လွန်လေသည်။ သူ့အား ဂုဏ်ပြုသော အားဖြင့် သူ၏ မွေးဖွားရာ နစ်ဇနီနိုဂိုရော့မြို့ကို ဂေါ်ရကီမြို့ ဟုခေါ်တွင် စေခဲ့သည်။



အရွယ်မရောက်သေးသော ဂေါ်ရီလား မျောက်ဝံ

**ဂေါ်ရီးလား မျောက်ဝံ။** ။ဂေါ်ရီးလားမျောက်ဝံတို့သည် အာဖရိကတိုက်အနောက်ပိုင်းရှိ တောနက်ရာ ဒေသများတွင် နေထိုင်ကြသည်။ ဂေါ်ရီးလားသည် လူနှင့်အတူဆုံးသော မျောက်ဝံမျိုး ဖြစ်သည်။ မျောက်ဝံမျိုး အားလုံးတွင် ဂေါ်ရီးလားသည် အကြီးဆုံးဖြစ်၏။ ရှားလည်း အရှားပါးဆုံး ဖြစ်သည်။ (မျောက်ဝံမျိုး — ရှု။)

ဂေါ်ရီးလား၌ အမြီးမရှိ။ ခြေ ၂ ချောင်း လက် ၂ ဖက်ရှိသည်။ မတ်တတ် ရပ်၍ သွားနိုင်သည်။ လူ၏ ခြေသည်း လက်သည်းမျိုး ရှိသည်။ ဤသည်တို့ကား လူနှင့် တူသော အချက်များဖြစ်ကြ၏။ သို့ရာတွင် လူနှင့် မတူသော အချက်များလည်း ရှိသည်။ ဂေါ်ရီးလား၏ ကိုယ်အနေအထားမှာ တုတ်ခိုင်၍ အချိုးမကျ၊ အရုပ်ဆိုးသည်။ ခြေထောက်များသည် တို၍ လက်များမှာ ရှည်သည်။ တခါတရံ ခြေဖြင့် လျှောက်သော အခါ သစ်ကိုင်းများကို လက်ဖြင့် အားပြု၍ လျှောက်တတ်သည်။ အမွေးအမှင် ထူထပ်ပေါများသည်။ ရှေးက အာဖရိကတိုက်တောနယ်အတွင်း ခရီးလှည့် သွားလာသူတို့သည် ယင်းတို့ကို ကြောက်မက်ဖွယ်ကောင်းသော လူရိုင်း တမျိုးဟု ထင်မှတ်ခဲ့ကြလေသည်။

အမြင့်ဆုံးသော ဂေါ်ရီးလားသည် ၅ ပေခွဲ၊ ၆ ပေခန့် ရှိသည်။ ကိုယ်အလေးချိန်ပေါင် ၄၀၀ မှ ၄၅၀ ခန့် အထိကြီးမားသော ဂေါ်ရီးလားများ ရှိခဲ့ဘူးသည်။ အသားအရေမှာ မည်းနက်၏။ ခြေဖဝါး လက်ဖဝါး၌ အမွေးမပေါက်သော်လည်း ခြေလက်နှင့် တကိုယ်လုံး၌ ညိုမည်းသော အမွေးကြမ်းများ ဖုံးအုပ်လျက် ရှိသည်။ ဦးခေါင်းမှာ ကြီးသည်။ ကုပ်တိုသည်။ နှာခေါင်းပြား၍ မျက်ခုံး မို့မောက်သည်။အလွန် ရက်စက် ကြမ်း ကြုတ် သော မျက်နှာထား ရှိသည်။ လူနှင့် တွေ့လျှင် ရှောင်ရှား ပြေးလွှားတတ်၏။ သို့သော် စိတ်ထွက်သော အခါနှင့် ရန်စခံရသော အခါမျိုးတွင်မူ အလွန် ပြင်းထန်စွာ ပြန်လည် ရန်မူတတ်သည်။ စိတ်ဆိုးလာသောအခါ ရင်ပတ်ကို လက် ၂ ဖက်ဖြင့် ထု၍ ကျယ်လောင်စွာ အော်ဟစ် တတ်သည်။ ရက်စက်ကြမ်းတမ်းလှသဖြင့် ခြင်္သေ့၊ သစ်၊ ကျားစသော သားရဲ တိရစ္ဆာန်များတို့ပင်လျှင် ယင်းတို့အား အလွယ်တကူနှင့် ရန်မမူဝံ့ကြချေ။

ဂေါ်ရီးလား တို့သည် အလွန် နက်သော တောကြီးထဲတွင် တနေရာတည်း၌ အတည် မနေဘဲ နေ့စဉ်နှင့် အမျှ လှည့်လည် နေထိုင်လေ့ ရှိကြသည်။ မိသားတစုတွင် အထီးကြီး တကောင် အမ ၂ ကောင် ၃ ကောင်နှင့် သားငယ်သမီးငယ်များ ပါဝင်တတ်သည်။ အိပ်ချိန်တွင် အမနှင့် သားသမီးများက သစ်ပင်ပေါ်၌ အိပ်ကြ၍ အထီးက သစ်ပင်ခြေရင်း၌ စောင့်အိပ်လေ့ ရှိသည်။ ယင်းတို့၏ အစားအစာများမှာ သစ်သီး သစ်ရွက်များဖြစ်ကြလေသည်။

ဂေါ်ရီးလားကို လွယ်ကူစွာ ဖမ်းဆီး၍ မရပေ။ ဖမ်းဆီးရမိထားသော ဂေါ်ရီးလားတို့သည်လည်း များသော အားဖြင့် အသက်ရှည်ရှည် မနေနိုင်ကြချေ။

**ဂေါ်လ္ဒာသိ, ဂျေ (ခရစ် ၁၈၆၇–၁၉၃၃)။** ။ဂျွန်ဂေါ်လ္ဒာသီမှာ အင်္ဂလိပ်လူမျိုး ဝတ္ထုရေးဆရာနှင့် ပြဇာတ်ရေး ဆရာကြီးဖြစ်၏။ ၁၈၆၇ ခုနှစ် ဩဂုတ်လ ၄ ရက်နေ့တွင် အင်္ဂလန်ပြည် ဆာရီခရိုင်၊ ကင်းစတန်းမြို့၌ ဖွားမြင်သည်။

ဂေါ်လ္ဒာသီသည် လူချမ်းသာ၏ သားဖြစ်သည့် အားလျော်စွာ လူကုံထံ သားသမီးများသာ သွားရောက် သင်ကြားနိုင်သော ဟယ်ရိုကျောင်းနှင့် အောက်စဖို့တက္ကသိုလ်တွင် ပညာသင်ကြားခဲ့သည်။ သူသည် ဝတ်လုံစာမေးပွဲကို အောင်မြင်ခဲ့သော်လည်း ရှေ့နေ အလုပ်ဖြင့် အသက်မွေးရန် ရည်ရွယ်ရင်း မရှိခဲ့ပေ။ သို့ဖြစ်ရကား သူသည် ကျောင်းမှ ထွက်သောအခါ ဥရောပ နိုင်ငံများသို့ လှည့်လည် သွားရောက်ကာ ဒေသန္တရ ဗဟုသုတများ ရှာမှီးခဲ့သည်။



မျောက်ဝံမျိုးတွင် အကြီးဆုံးဖြစ်သော ဂေါ်ရီးလား

အင်္ဂလန်ပြည်သို့ ပြန်ရောက်သော အခါ ဂေါ်ဇွာ သီသည် စာရေးခြင်း အလုပ်ကို စတင် လုပ်ကိုင် သည်။ သူသည် ဝတ္ထုများကိုအများဆုံးရေးခဲ့သည်။ ၁၉၀၆ ခုနှစ်တွင် ထုတ်ဝေသော 'ပစ္စည်းရှင်' ဝတ္ထုမှာ ဂေါ်ဇွာသီ၏ ပွဲဦးထွက် ဝတ္ထုဖြစ်သည်။ ထိုဝတ္ထု၏ ဇာတ်လိုက်မှာ ဆုမ်းဖောဆိုက်ဖြစ်၍ ထိုဇာတ်လိုက် ပါဝင်သော ဝတ္ထုများကို တခုပြီး တခု ဆက်လက် ရေးသားခဲ့သည်။

ဂေါ်ဇွာသီသည် သူရေးသားသော ဝတ္ထုများတွင် ၂၀ ရာစု နှစ်ဦးက အင်္ဂလန်ပြည်ရှိ လူလတ်တန်းစားတို့၏ ဘဝကို ဖော်ပြခဲ့သည်။ သူ့ ခေတ်က လူမှုစံနစ်ကို ပြုပြင် ပြောင်းလဲ ပစ်လိုသော ဆန္ဒကို ဖော်ပြပြီးလျှင် လူချင်း မတူဝါဒစွဲကို ပြင်းထန်စွာ တိုက်ဖျက်လေသည်။



ကမ္ဘာကျော် အင်္ဂလိပ်စာရေးဆရာကြီးဂျွန် ဂေါ်ဇွာသီ

ဂေါ်ဇွာသီသည် ဝတ္ထုများကိုသာမဟုတ် ပြဇာတ်များနှင့် ကဗျာများကိုလည်း ရေးသားခဲ့သည်။ 'ငွေသေတ္တာ' ပြဇာတ်တခုတည်းနှင့်ပင် ဂေါ်ဇွာသီသည် နာမည်ကျော်ကြားခဲ့သည်။ ထိုနောက် ပြဇာတ်များကို ဆက်ကာဆက်ကာ ရေးသားခဲ့၏။ ထိုပြဇာတ်များတွင် လူ၏ စာရိတ္တမကျိုင်ပျက်စီးမှုကို ဝေဖန် ထား၏။

၁၉၂၉ ခုနှစ်တွင် ဂေါ်ဇွာသီသည် အို၊ အမ် (အော်ဒါအော့မဲရစ်) ဘွဲ့ထူးကို ရရှိခဲ့၏။ ၁၉၃၂ ခုနှစ်တွင် စာပေအတွက် နိုဗဲဆု ချီးမြှင့်ခြင်း ခံရပြန်သည်။ ထိုနောက် ၁၉၃၃ ခုနှစ် အသက် ၆၆ နှစ်တွင် ကမ္ဘာကျော် စာရေး ဆရာကြီး ဂေါ်ဇွာသီသည် ကွယ်လွန်သွားလေသည်။

ဓဂါတမမြတ်စွာဘုရား။ ။ဂေါတမ မြတ်စွာဘုရားသည် ဤဘဒ္ဒကမ္ဘာအတွင်း ပွင့်တော်မူခဲ့ပြီးသော ဘုရားရှင်လေးဆူအနက် စတုတ္ထပွင့်တော်မူသော ဘုရားရှင် ဖြစ်သည်။

ကပိလဝတ်ပြည်မှ သုဒ္ဓေါဒနမင်းနှင့် မိဖုရား မာယာဒေဝီတို့၏ သားတော် ဖြစ်၏။ အရွယ် ရောက်သော် ယသောဓရာ မင်းသမီးနှင့် လက်ထပ် ထိမ်းမြား၏။ သားတော်ရာဟုလာတပါးကို ဖွားမြင်ပြီးနောက် လောကီစည်းစိမ်ကိုပယ်စွန့်ကာ တောထွက်တော်မူသည်။ ခြောက်နှစ်ကြာမျှ ဒုက္ကရစရိယာကျင့် တော်မူပြီး နောက် ညောင် ဗုဒ္ဓဟေ ဗောဓိပင်ရင်းဝယ် သဗ္ဗညုတဉာဏ်ကို ရ၍ဘုရား ဖြစ်တော်မူသည်။

ထိုမြတ် စွာ ဘုရား၏ အဂ္ဂသာဝက နှစ်ပါး ကား အရှင်သာရိပုတ္တရာနှင့် အရှင်မောဂ္ဂလာန် တို့ ဖြစ်၏။ (သာရိပုတ္တရာထေရ်၊ မောဂ္ဂလာန်ထေရ် — ရှု။) အဂ္ဂသာဝိကာနှစ်ပါးမှာ ကား ခေမာထေရီနှင့် ဥပ္ပလဝဏ် ထေရီ ဖြစ်၏။ (ခေမာထေရီ၊ ဥပ္ပလဝဏ်ထေရီ — ရှု။) အလုပ်အကျွေးကား အရှင်အာနန္ဒာ ဖြစ်သည်။ (အာနန္ဒာထေရ် — ရှု။)

ထိုမြတ်စွာဘုရား၏ ဉာဏ်တော် အမြင့်သည် ၁၈ တောင် ဖြစ်၏။ သက်တော် ၈၀ ရှည်တော်မူ၍ ကုသိနာရုံ ပြည်ကြီး၌ ပရိနိဗ္ဗာန် ပြုတော်မူရာ ကြွင်းသော ဓာတ်တော်များကို ဒေါနပုဏ္ဏားကြီးက အဇာတသတ်မင်း စသော မင်းအပေါင်းအား ခွဲဝေပေးသဖြင့် ဇမ္ဗူဒိပါကျွန်း အနှံ့ စေတီပုထိုးများ တည်ထား ကိုးကွယ်ကြ၏။ (ဗုဒ္ဓအယူဝါဒ — ရှု။) ဆရာဆိုင်

ဂေါတမီထေရီ။ ။ဂေါတမီထေရီသည် အဉ္ဇနမင်းကြီးနှင့် ယသောဓရာဒေဝီတို့မှ ဖွားမြင်သည်။ ဂေါတမ မြတ်စွာဘုရားသခင်၏ မိထွေးတော် ဖြစ်၍ မိထွေးတော် ဂေါတမီဟု ထင်ရှား၏။ ဂေါတမီသည် ဒေဝဒဟပြည့်ရှင်၏ သမီးဖြစ်သည့်အတိုင်း စည်းစိမ်ဥစ္စာနှင့် ပြည့်စုံ၏။ မြတ်စွာဘုရား၏ မယ်တော် မဟာမာယာဒေဝီ၏ ညီမတော်လည်း ဖြစ်သည်။ ပုဏ္ဏားတို့က မြတ်သောသား၏ မိခင်ဖြစ်မည်ဟု နိမိတ်ဖတ်သဖြင့် မဟာပဇာပတိဂေါတမီဟု တွင်သည်။

အရွယ်ရောက်လတ်သော် ကပိလဝတ်ပြည့်ရှင်သုဒ္ဓေါဒနမင်းကြီးနှင့် ထိမ်းမြားသဖြင့် မြောက်နန်း မိဖုရား အဖြစ် စံစားရသည်။ အစ်မတော် မဟာမာယာ ဒေဝီသည် သိဒ္ဓတ္ထမင်းသားကို ဖွားမြင်တော်မူပြီး နောက်နတ်ရွာစံလေသော် ဂေါတမီသည် အဂ္ဂမဟေသီဘွဲ့ဖြင့် မိဖုရားကြီး ဖြစ်သည်။ နန္ဒမင်းသားကို ဖွားမြင်သည်။ တူသားဖြစ်သော သိဒ္ဓတ္ထမင်းသားကိုလည်းထိန်းသိမ်းမွေးမြူရသည်။

သိဒ္ဓတ္ထမင်းသားသည် ဘုရားအဖြစ်သို့ ရောက်တော်မူ၍ သုဒ္ဓေါဒန မင်းကြီးလွန်သည်နောက် ဂေါတမီ မိဖုရားသည် သံသရာမှ ထွက်မြောက်ရာကို ရှာကြံလျက် မြတ်စွာဘုရားထံသို့ သွားရောက်ကာ မာတုဂါမများအား ရဟန်းပြုခွင့်ပေးပါရန် လျှောက်ထားသည်။ မြတ်စွာဘုရားက သာသနာ



ဂေါတမဗုဒ္ဓလောင်းလျာ သိဒ္ဓတ္ထမင်းသား တောထွက်တော်မူပုံ

(ရွှေရိုးမြန်မာပန်းချီမှ)

တော် ရှုပ်ထွေး၍ အညစ်အကြေး များမည်စိုးသဖြင့် ခွင့်မပြုဘဲ ပယ်ရှားတော်မူသည်။ ၃ ကြိမ်တိုင် လျှောက်ထားသော်လည်း ခွင့်မရချေ။ ဂေါတမီသည် စိတ်အားမလျှော့ဘဲ ထပ်မံ လျှောက်ထားပြန်သည်။

ဂေါတမီသည် သာကီဝင် မင်းသမီး ငါးရာနှင့် အတူ ဇင်ပန်း ဆင်းရဲခံလျက် မြတ်စွာဘုရားထံသို့ ဝပ်တွားကာ လျှောက်ထားရာ ညီတော် အာနန္ဒာထေရ်ကလည်း ကူ၍ လျှောက်ပေးသည်။ ထိုအခါတွင်မှ ဘုရားရှင်က ဂရုဓမ္မ တရား ရှစ်ပါးကို မသေမတိမ်း စောင့်ထိန်း လိုက်နာ နိုင်ခဲ့လျှင် ရဟန်းပြုစေဟု ခွင့်ပြုသည်။ ထိုနောက် ဂေါတမီသည် ဂရုဓမ္မတရား ရှစ်ပါးကိုခံယူသဖြင့် ရဟန်း အဖြစ်သို့ ပဌမဦးစွာ ရောက်ရှိသည်။ ဤသို့အားဖြင့် ဘိက္ခုနီမ သာသနာ သည် မိထွေးတော် ဂေါတမီ ထေရီကိုအကြောင်းပြု၍ စတင် ပေါ်ပေါက်ခဲ့လေသည်။


သရုပ်မှန် ရုရှစာပေ၏ ဖခင်ကြီး ဂိုဂါး

ထိုနောက်၌ မြတ် စွာ ဘုရား ရှင်၏ တရားတော်ကို နာယူကာ ဝိပဿနာ ကမ္မဋ္ဌာန်းကို စီးဖြန်းသဖြင့် မကြာမီ အဘိညာဉ်ခြောက်ပါးနှင့်တကွရဟန္တာ အဖြစ်သို့ ရောက်သည်။ ထိုအခါမှ စ၍ ဂေါတမီ ထေရီ အဖြစ် ထင်ရှားသည်။ မြတ်စွာဘုရားက ရှေးဦးစွာ ရဟန်း အဖြစ်ကို ရရှိသော ဘိက္ခုနီမ ဖြစ်သဖြင့် ရတ္တညုတေဒဂ် ဘွဲ့ထူးဖြင့် ချီးကျူးတော်မူသည်။

**ဂေါမုတ္တ**။ ။ပါဠိအလိုအားဖြင့် ဂေါမုတ္တကိုနွားကျင်ငယ်ရည် အဆင်းရှိသော ကျောက်ဟု ဆိုသည်။ ဂေါမုတ္တကို ဂေါ်မုတ်ဟု ခေါ်သည် ။အင်္ဂလိပ်ဘာသာအားဖြင့် ဂါးနက်ဟုခေါ်၏။ ဘူမိဗေဒ အမည်မှာ ပိုင်ရုပ်ဖြစ်သည်။ အဆင်းမှာမူ အနီရင့်ဟု ဆိုသည်။ ယင်းကို မြန်မာနိုင်ငံ ကျောက်နီများထွက်သော မိုးကုပ်ကျပ်ပြင်ဒေသမှ ရရှိသည်။

မြန်မာလူမျိုးတို့အဖို့ ကျက်သရေ မင်္ဂလာနှင့် ပြည့်စုံ၍ ထူးခြားသော သတ္တိရှိသည်ဟု ယူဆသော နဝရတ် ၉ ပါးဟု ခေါ်သည့် ရတနာ ၉ ပါးတွင် ဂေါ်မုတ်ကျောက်ပါဝင်သည်။ နဝရတ် ၉ ပါး၏ ဇွမ်းရည်ကို ဖွဲ့ထားသော လင်္ကာအရ၊ ဂေါ်မုတ်ကျောက်သည် ခွန်အားကို တိုးတက်စေသောသတ္တိရှိသည်ဟူ၍ သိရသည်။ (ကျောက်မျက် — လည်းရှု။)

**ဂိုဂါး, အင်္ဂါ၊ဗ္ဗီ** (ခရစ် ၁၈၀၉–၁၈၅၂)။ ။ကမ္ဘာကျော် ရုရှစာရေးဆရာကြီး နီကိုလိုင် ဗာစီလီဗစ် ဂိုဂါးကို ယူကရိန်းနယ် ပိုလတာဗာမြို့၌ ခရစ်နှစ် ၁၈၀၉ ခုတွင် ဖွားမြင်သည်။ သူ၏ မိဖများသည် မြေပိုင်ရှင် ကလေးများ ဖြစ်သည်။

ဂိုဂါးသည် ၁၈၂၁ ခုနှစ်မှ ၁၈၂၈ ခုနှစ်အထိ နယေဇင်ဂျင်မနေဇီယမ် ကျောင်း၌ စာသင်ပြီးသော် စိန်ပီတာဗတ်မြို့သို့ သွားရောက် နေထိုင်လေသည်။ ထိုမြို့၌ နေထိုင်စဉ်၊ အစိုးရ ဌာနတခု၌ စာရေးအဖြစ် အလုပ် လုပ်ခဲ့သေး၏။ သို့သော် သူ၏စိတ်၌ ကိန်းအောင်း နေခဲ့သော စာပေအထုံကြောင့် မကြာမီပင် ထိုစာရေး အလုပ်ကို စွန့်လွှတ်ကာ ဝတ္ထုများ ရေးသား လေသည်။ ယင်းသို့ စာရေး ဆရာဘဝသို့ ကူး ပြောင်းရောက်ရှိလာသော အခါ၌ မိတ်ဆွေရင်းချာ ဖြစ်သော စာရေး ဆရာကြီး ပွတ်ရှကင်က သူ့အား များစွာ အကူအညီ ပေးခဲ့လေသည်။

ဂိုဂါး၏ ပဌမဆုံး ရေးသားသော ဝတ္ထုမှာ 'စိန်ဂျွန်အကြိုနေ့' ဖြစ်၍ ၁၈၃၀ ပြည့်နှစ် မဂ္ဂဇင်း တစောင်တွင် ထည့်သွင်း ခဲ့သည်။ ထိုနောက် ၁၈၃၁ ခုနှစ်၌ 'ဒီကန်ကာ အနီး လယ်ယာတွင်းမှ ညနေခင်း' အမည်ရှိ ဝတ္ထုတိုညွန့်ပေါင်းကိုငင်း၊ ၁၈၃၅ ခုနှစ်၌ 'မာဂိုရေ့' အမည်ရှိ ဝတ္ထုကိုငင်း ရေးသားထုတ်ဝေခဲ့သည်။ ယင်းစာအုပ် ၃ အုပ်စလုံးတွင် ဂိုဂါးသည် ယူကရိန်းနယ်နှင့် ယူကရိန်းကျေးတောနေများ၏ လောကကို ဖွဲ့နွဲ့ ရေးသားခဲ့လေသည်။ စာရေးဆရာ အဖြစ် အသိအမှတ် ပြုခြင်းခံရစအခါ၌ ဂိုဂါးသည် မိမိငယ်စဉ်ဘဝက မိဖများနှင့် အတူ နေထိုင်ခဲ့ရစဉ် မြင်သိကြားနာခဲ့ရသော ယူကရိန်းနယ်၏ သဘာဝ အလှအပများ၊ယူကရိန်း ကျေးတောနေများ၏ ရှေးဟောင်း အလေ့အထ ထုံးတမ်းစဉ်လာနှင့် ဒဏ္ဍာရီ ပုံပြင်များ၊ ကော့ဆက် လူမျိုးများ၏ ရဲစွမ်းသတ္တိ ရှိပုံ များကို စိတ်ကူး ယဉ်ယဉ်နှင့် ဖတ်ချင့်စဖွယ် ရေးသားခဲ့ပေသည်။ အထက်ပါဝတ္ထုများကို ရေးသားခဲ့သောကြောင့် အချို့က ဂိုဂါးအား စိတ်ကူးယဉ်စာရေး ဆရာဟုပင် ခေါ်ခဲ့ကြသည်။ သို့သော် ၁၈၄၂ ခုနှစ်၌ချဲ့ထွင်၍ အသစ်ပြန်လည်ရေးသားသော 'တာရစဗူလဗာ' ဝတ္ထုမှာ ဂိုဂါး၏ အကောင်းဆုံး ရာဇဝင်ဝတ္ထု တပုဒ် ဖြစ်သည်။ ယင်းဝတ္ထုတွင် ၁၆ ရာစုနှစ်က ပိုးလူမျိုးများနှင့် တာတာ လူမျိုးများကို ယှဉ်ပြိုင်တိုက်ခိုက် ခဲ့သော ကော့ဆက် လူမျိုးများ၏ ရဲစွမ်းသတ္တိကို ပြောင်မြောက်စွာ ရေးသား ဖော်ပြထားပေသည်။ နောက်ပိုင်း၌ ရေးသားလာသော ဂိုဂါး၏ စာများသည် စိတ်ကူးယဉ်ချက်များ လျော့ပါးလာ၍ အစစ်အမှန်ကို ဖော်သော

အရေးအသားများ အဖြစ် ပိုမို ထင်ရှား လာခဲ့သည်။ အထူးသဖြင့် ၁၈၄၂ ခုနှစ်၌ ရေးသားသော 'အပေါ်ဝတ်ကုတ် အင်္ကျီ' ဝတ္ထုတွင် စိန့်ပီတာဗတ်မြို့နေ အောက်ကျဆင်းရဲသား လူတန်းစားတို့၏ ဘဝကို သရုပ်ဖော်ခဲ့ပေသည်။ ယင်း ၁၈၄၂ ခု၌ပင် ဂိုဂါးသည် 'ဝိညာဉ်သေများ' ဝတ္ထုကြီးကို ရေးသား ခဲ့သည်။ ထိုဝတ္ထုကြီးတွင် ဂိုဂါးသည် ကြေးရည်တတ် မြေပိုင်ရှင်၊ မြို့ရှင်ကြီးများ၏ လက်အောက်တွင် ကျရောက်နေကုန်သော ငွေဝယ်ကျွန်များ၏ လွတ်မြောက်ရေးကို ရုရှ တောကျေးလက်လောက သဘာဝ အဖွဲ့အနွဲ့များနှင့် ပေါင်းစပ်၍ လှုံ့ဆော်ရေးသား ခဲ့ပေသည်။ ကျေးကျွန်စံနစ်ကို အပြီးအပိုင် ဖျက်သိမ်းပစ်ရန်နှင့် ကျေးကျွန်ဘဝမှ လွတ်မြောက်ရေးကို တိုက်ခိုက်ဖန်တီးရန် ကြွေးကြော် လှုံ့ဆော်ရေးသားသော ဝတ္ထုကြီးဖြစ်လေရကား ဒုတိယပိုင်းကို ဆက်လက်ရေးသားရန် စီစဉ်သော အခါ၌ အာဏာပိုင်များ၏ တားမြစ် ပိတ်ပင် ခြင်းကို ခံခဲ့ရလေသည်။ 'ဝိညာဉ်သေများ' ဝတ္ထုသည် ဂိုဂါး၏အကောင်းဆုံးလက်ရာဖြစ်လေသည်။

ဂိုဂါးသည် ဝတ္ထုရေးဆရာ အဖြစ်ကျော်ကြားသည်သာမက ပြဇာတ်ရေးဆရာ အဖြစ်ဖြင့်လည်း ထင်ရှားလေသည်။ ၁၈၃၆ ခုနှစ်၌ ရေးသားသော 'အင်စပက်တာဂျင်နရယ်' ပြဇာတ်သည် သူ၏ အကျော်ကြားဆုံးသော ပြဇာတ်ဖြစ်သည်။ယင်းပြဇာတ်၌ ဂိုဂါးသည် အရာရှိလူဆိုးလူညစ်များ၏ လောကကို ဟာသရသပေါ် လွင်စွာ ထိထိမိမိ သရော်လှောင်ပြောင်၍ ရေးသားခဲ့လေသည်။ ဇာတ်ကောင်များကို ရွေးချယ်ဖွဲ့နွဲ့ရာတွင်လည်း ပေါ်လွင်ပြောင်မြောက်လှပေသည်။

၁၈၄၃ ခုနှစ် နောက်ပိုင်း၌ ဂိုဂါးသည် စာများ ရေးသားခြင်း မပြုခဲ့တော့ပေ။ လူ့လောကနှင့် ကင်းကွာ၍ နေခဲ့သည်။ ၁၈၅၂ ခု မတ်လ ၄ ရက်နေ့၌ ဂိုဂါး ကွယ်လွန်လေသည်။ ယနေ့ ဂိုဂါးအား သရုပ်မှန် ရုရှစာပေ၏ ဖခင်ကြီးဟူ၍ လေးစားစွာ ခေါ်ဝေါ် လျက်ရှိကြသည်။

ဂိုဂါး အလေးစားဆုံး ခင်မင်အရင်းနှီးဆုံးသော ပုဂ္ဂိုလ်ကား ပွတ်ရှကင် ပင်ဖြစ်သည်။ ပွတ်ရှကင်၏ စာပေများကို ဂိုဂါးသည် များစွာ မြတ်နိုးဆည်းပူးခဲ့သည်။ ပွတ်ရှကင် ကွယ်လွန်ချိန်၌ ဂိုဂါးသည် ရောမမြို့၌ ရှိနေရာ ကွယ်လွန်သည့် သတင်းကို ကြားသော အခါ ပြင်းစွာ တုန်လှုပ်ချောက်ချားလျက် 'ပွတ်ရှကင်၏ သချိုင်း၌ ကျွန်ုပ်၏ သုခတို့ကို မြှုပ်နှံလိုက်ပြီ' ဟူ၍ ရေးသားခဲ့လေသည်။

**ဂိုးစမစ်, အိုလီဗာ** (ခရစ် ၁၇၃၀–၁၇၇၄)။ ။ကမ္ဘာကျော် အင်္ဂလိပ် စာရေးဆရာကြီးအော်လီဗာဂိုးစမစ်သည် အိုင်းရစ်လူမျိုးဖြစ်၍ ခရစ် ၁၇၃၀ ပြည့်နှစ်တွင် ဖွားမြင်သည်။ ဖခင်မှာ ခရစ်ယန် ဘုန်းတော်ကြီးဖြစ်သည်။ ဒဗ္ဗလင်မြို့ရှိ ထရင်နီတီ ကောလိပ်ကျောင်း၌ ပညာသင်ကြားနေစဉ် ကျောင်းစည်းကမ်းဥပဒေကို ချိုးဖောက် ဖျက်ဆီးသဖြင့် ၁၇၄၄ ခုနှစ်တွင် ပညာသင်ကြားမှု ရပ်ဆိုင်းခဲ့ရသည်။ ထိုသို့အဖြစ်ပေးခံရသော်လည်း ၁၇၄၉ ခုနှစ်၌ ဝိဇ္ဇာဘွဲ့ထူးကို အထက်ပါ ကောလိပ်ကပင် ရရှိခဲ့သည်။

ဝိဇ္ဇာဘွဲ့ရှိပြီးနောက်တွင် ခရစ်ယန် သာသနာ အမှုထမ်း အဖြစ်သို့ ရောက်အောင် ကြိုးစားခဲ့သော်လည်း မအောင်မြင်ခဲ့ပေ။ ထို့နောက် ဥပဒေပညာနှင့် ဆေးပညာရပ်များကို လေ့လာ လိုက်စားပြန်သည်။

၁၇၅၅ ခုနှစ်နှင့် ၁၇၅၆ ခုနှစ်အတွင်းက ဖလန်းဒါးနယ်၊ ပြင်သစ်၊ ဆွစ်ဇာလန်နှင့်ဣတလီစသော ဥရောပတိုက်ရှိနိုင်ငံများသို့ ခြေတစင်းကို အဖော်ပြုလျက် လှည့်လည် လေလွင့်ခဲ့သည်။ လန်ဒန်မြို့သို့ ပြန်ရောက်လာသောအခါ အလွန်ဆင်းရဲ ငြိုငြင်စွာ ရှိသည်။ အမည် ဖော်ပြခြင်းမပြုသော တက္ကသိုလ်တခုမှ ဆရာဝန်ဘွဲ့ထူး ရရှိခဲ့သည်ဟုဆိုကာ ဆရာဝန်ဘဝနှင့် သက်မွေးဝမ်းကျောင်း၍ နေထိုင်သော်လည်း စားလောက် နေလောက်ခြင်းမရှိသဖြင့် ယင်းအလုပ်ကို စွန့်လွှတ်လျက် အခကြေးငွေယူ၍ စာရွက်စာတမ်းတို့ကို ရေးပေးရသော အလုပ်ကို လုပ်ကိုင်ခဲ့သည်။



ကမ္ဘာကျော် အင်္ဂလိပ်စာရေးဆရာကြီးဂိုးစမစ်



အော်လီဗာဂိုးစမစ် ပြွေတစင်းနှင့် ဥရောပတခွင် လှည့်လည်စဉ်

၁၇၆၁ ခုနှစ်၌ ဂိုးစမစ်သည်စာရေးဆရာကြီး ဒေါက်တာဂျွန်ဆင်နှင့် သိကျွမ်းပြီးနောက် ဒေါက်တာဂျွန်ဆင် တည်ထောင်သော နာမည်ကျော် 'လွတ်လပ်ရေးကလပ်' တွင် အသင်းဝင် လူကြီးတဦးအဖြစ် ရွေးချယ်တင်မြှောက်ခြင်းခံရသည်။ (ဂျွန်ဆင်, ဆမ်မျူယယ်—လည်းရှု။) သို့သော် ဂိုးစမစ်သည် ဆင်းရဲငြိုငြင်၍ ကြွေးများ ပတ်ချာဝိုင်းလျက်ပင် ရှိသေးသည်။ ၁၇၆၂ ခုနှစ်၌ကား ကမ္ဘာကျော် 'ဝိတ်ဖီးသင်းအုပ်' ဝတ္ထုကြီးကို ရေးသား၍ ပေါင် ၆၀ နှင့် ရောင်းချလျက် ကြွေးများကို ပေးဆပ်လိုက်လေသည်။ သို့သော် အထက်ပါ ဝတ္ထုကြီးသည် ၁၇၆၆ ခုနှစ်ရောက်သော အခါမှ ပုံနှိပ် ထုတ်ဝေဖြစ်သည်။

ထိုနောက် ဂိုးစမစ်သည် ဥရောပတခွင် လှည့်လည်ခဲ့သော ခရီးစဉ်များကို ၁၇၆၄ ခုနှစ်၌ 'ခရီးသည်ကြီး' အမည်ရှိ ကဗျာရှည်ကြီးဖြင့် မှတ်တမ်းရေးသား စီကုံးလိုက်လေသည်။ ထိုနည်းတူကျော်ကြားခဲ့သော ဂိုးစမစ်၏ အခြားကဗျာရှည်ကြီးတပုဒ်မှာ ၁၇၇၀ ပြည့်နှစ်တွင် စီကုံးရေးသားသည့် 'ရွာဖုန်းဆိုး' ပင်ဖြစ်သည်။ ယင်းကဗျာရှည်ကြီး၌ စက်မှုအရေးပုံကြောင့် ကျေးတောနေ လူများသည် မိမိတို့ ကျေးရွာဒေသများကို စွန့်ပစ်လျက် စက်မှုထွန်းကားရာ မြို့ကြီးများသို့ ရွှေ့ပြောင်း နေထိုင်ကြပုံကို ရေးသား စီကုံးခဲ့သည်။ဩဗန်းခေါ် မွှေလျော်ဖွယ်ရာ ရွာကလေးကို ရွာသူရွာသားများက စွန့်ပစ် ထွက်ခွါသွားခဲ့ကြသည့် အကြောင်းကို ဂိုးစမစ်သည် ကရုဏာရသပေါ် လွင်အောင် ဖွဲ့ဆိုခဲ့လေသည်။

သို့သော် ဂိုးစမစ်၏ စာပေ အရေးအသားကို အဆုံးအဖြတ်ပေးလျက် ဂိုးစမစ်အား အထွတ်သို့ ပို့ဆောင် ပေးခဲ့သောစာပေကား ၁၇၇၃ ခုနှစ်၌ ရေးသားသော 'အောင်လို၍ အညံ့ခံသည်' ဟူသော ပြဇာတ်ရှည်ကြီးပင် ဖြစ်သည်။ ယင်းပြဇာတ်ရှည်ကြီးသည် သူ၏ အကောင်းဆုံးသော လက်ရာပင်ဖြစ်ပေသတည်း။

ဂိုးစမစ်သည် စိတ်ရင်း သဘောထား ကောင်းမြတ် ဖြူစင်၏။ လူမှုရေးရာများ၌ လက်တွေ့ဖြစ်မြောက်စွာ ဆောင်ရွက်ခြင်းမရှိ။ တာဝန်လည်း မဲ့သူဖြစ်၏။ သို့သော် မိတ်ဆွေသင်္ဂဟ အပေါင်းတို့သည် သူ့ကို ချစ်ခင်ကြင်နာကြသည်။ ၁၇၇၄ ခုနှစ်ဧပြီလ ၄ ရက်နေ့၌ ကွယ်လွန်၍သူ၏အလောင်းကို တင်ပယ် ဘုရားရှိခိုးကျောင်း၌ သင်္ဂြိုဟ် မြှုပ်နှံသည်။ သူ့အားချစ်ခင် သောလွတ်လပ်ရေးကလပ်အသင်းဝင် မိတ်ဆွေများက ဝက်စမင်စတာအက်ဗေး၌ သူ့အတွက် အထိမ်းအမှတ် ကျောက်တိုင်ကို စိုက်ထူပေးကြလေသည်။



စပိန်လူမျိုး တော်လှန်ရေးအနုပညာရှင် ဂိုးယာ

**ဂိုးယာ** (ခရစ် ၁၇၄၆–၁၈၂၈)။ ။ဂိုးယာသည် စပိန်အမျိုးသား နာမည်ကျော်ပန်းချီဆရာတဦးဖြစ်သည်။ သူ၏ နာမည် အပြည့်အစုံမှာ သေဂိုးယာ၊ အီ၊ လူသယိန်းတေးဖြစ်သည်။ အသက် ၁၆ နှစ်တွင် ဟိုစေးလူဇန်မာတင်နက်ထံတွင် တပည့်ခံ၍ ပန်းချီပညာ သင်ကြားသည်။ ဂိုးယာသည် အရပ်ထဲ၌ ကြီးပြင်းလာရသော ဆိုးပေ တေသည့် လူငယ်တဦး ဖြစ်၍ အခြားလူများနှင့် ရန်ဖြစ်ပြီးလျှင် မဒရစ်မြို့တော်သို့ ထွက်ပြေးရသည်။ ငယ်စဉ်ကတည်းက သတ္တိ ဗျတ္တိရှိ၍ ခရီးလှည့်လည် သွားခြင်းကို နှစ်သက်သည်။ ပန်းချီဆွဲခြင်း၊ ပန်းရေးခြင်း၌ နဂိုဗီဇ ပါလာသဖြင့် ငယ်စဉ်ကပင် ပန်းချီဖက်၌ ဉာဏ်ထက်မြက်ခဲ့၏။ ပန်းချီပညာ အပြင် အတီးအမှုတ် တူရိယာ ဂီတဖက်၌လည်း ထူးချွန်သေး၏။ ဂိုးယာသည် တီးတတ် မှုတ်တတ်သဖြင့် ပေါင်းသင်းဆက်ဆံမှု နယ်ပယ်သို့ ဝင်ရန်လွယ်ကူရကား မိတ်ဆွေ သူငယ်ချင်း အလွန်ပေါ၏။ ဆင်းရဲချမ်းသာ မရွေး သူ့ကို အလွန်ခင်မင်ကြ၏။ ဆင်းရဲသော သူများကို သူသည် များစွာ သနားတတ်၏။ သူသည် ဆင်းရဲသူ ဆင်းရဲသား တို့၏ နေမှု၊ ထိုင်မှု၊ အသက်မွေးမှု တို့ကို ဂရုစိုက်ကြည့်ကာ ပန်းချီအရုပ်ကားတို့ဖြင့် ဆင်းရဲသား လောကကို သရုပ်ဖော်ခဲ့၏။

ဂိုးယာသည် အနုပညာနှင့် အကျိုးပေးမည့်သူ ဖြစ်ရာ သူ ရေးဆွဲလိုက်သော ပန်းချီကား များမှာ သူမတူအောင် ကောင်းမွန်၍ အသက်ပါလှ၏။ မာတင်နက်ထံ၌ ပန်းချီပညာများ ဆည်းပူးပြီးနောက် မဒရစ်မြို့တော်ရှိ ဗေယူထံတွင် ဆက်လက် ပညာသင်ကြားယင်း ဗေယူ၏ သမီးနှင့် လက်ထပ် လိုက်လေသည်။ ထို့နောက် ပန်းချီဖက်၌ ဗဟုသုတပိုမိုရနိုင်ရန် ဣတလီနိုင်ငံသို့ ခရီးလှည့်လည် သွားပြီးလျှင် ရောမမြို့တွင် အတော်ကြာကြာ နေ၍ ရောမပန်းချီအမျိုးမျိုးကို လေ့လာလေ၏။ ထိုမြို့သူ မြို့သားတို့၏ နေမှု၊ ထိုင်မှု၊ အသက်မွေးမှု စသည်တို့ကိုလည်း ဆည်းပူးခဲ့၏။ ၁၇၇၂ ခုနှစ်တွင် ပါးမား အနုပညာတံခွန်ကျောင်းမှ ကျင်းပသော ပန်းချီပြိုင်ပွဲ၌ ဂိုးယာသည် ဒုတိယဆုကို ဆွတ်ခူးခဲ့လေသည်။ ဣတလီမှ ပညာများ ဆည်းပူးခဲ့ပြီးသော် စပိန်နိုင်ငံသို့ပင် ပြန်လာ၍ ပန်းချီဆရာ အဖြစ် အသက်မွေးလေသည်။ ၁၇၇၅ ခုနှစ်တွင် မဒရစ်မြို့ စပိန်အမျိုးသားပန်းချီပြတိုက်ထဲရှိ အမြိတ်ပန်းများ အတွက် ကာတွန်းရုပ်ပြောင်များရေးဆွဲ ပေးရသည်။ ၁၇၈၀ ပြည့်နှစ်တွင် ကာတွန်းရုပ် ၂၀ ခန့် ရေးဆွဲပြီးရာ ထိုကာတွန်းရုပ်များသည် ကာတွန်းပညာကို တမျိုးတဖုံ ပြောင်းလဲတိုးတက် စေခဲ့သည်။ ၁၇၈၅ ခုနှစ်တွင် အနုပညာတံခွန်ကျောင်း၌ ညွှန်ကြားရေးဝန် ဖြစ်လာ၍ နောက်တနှစ်တွင် နန်းတွင်းပန်းချီတော် အဖြစ် ခန့်ထားခြင်းခံရသည်။ သူသည် ဝယ်လင်တန်နယ်စားနှင့် အခြားနာမည်ကျော် ပုဂ္ဂိုလ်ကြီးများ၏ ပုံကို ရေးဆွဲရ၏။

ဂိုးယာသည် စားဆေးနှင့် ပုံရေးရာ၌လည်း ကျွမ်းကျင်သူဖြစ်သည်။ စားဆေးနှင့် ရေးဆွဲထားသော သူ၏ ပုံ ၃ ပုံမှာ ကျော်စောလှသည်။ ပဌမပုံမှာ သူ့ခေတ်က လူများ၏ မသမာမှုများကို ဖော်ပြထားသည်။ ဒုတိယ ပုံမှာ နွားတိုက်ပွဲပုံများ ဖြစ်သည်။ တတိယပုံကား စပိန်နိုင်ငံထဲသို့ ဝင်ရောက်တိုက်ခိုက်သော ပြင်သစ် စစ်သားများ၏ ကြမ်းကြုတ်ရက်စက်ပုံကို ဖော်ပြထားသည်။

ဂိုးယာသည် အနုပညာဖြင့် တော်လှန်ရေး ဝါဒကို လက်ကိုင်ထားသူ ဖြစ်၏။ စပိန်ပြည်တွင်းရေး မငြိမ် မသက်ဖြစ်သောအခါဂိုးယာ၏ လုပ်ငန်းကို များစွာ ထိခိုက်လာ၏။ စပိန်၏ ရန်သူ ဖြစ်သော ပြင်သစ်တို့ကို ဂိုးယာသည် အားပေး အားမြှောက် လုပ်၏။ ထို့ကြောင့် စပိန်တို့က သူ့အပေါ် ငြိုးထား၍ ရန်ရှာလေသည်။ နောက်ဆုံး၌ သူသည် စပိန်နိုင်ငံမှ ထွက်ခွါသွားရတော့၏။ သို့ရာတွင် သူ၏ပန်းချီကားများကမူ အတိဒုက္ခရောက်သော စပိန်တို့ကို သနားကြင်နာကြောင်း သက်သေခံလျက် ရှိသည်။ စပိန် အမျိုးသားပြတိုက်ရှိ အမြိတ်ပန်းများ အတွက် ခဝါသည် မိန်းမပုံ၊ သိုးစီးနေသော ကလေးပုံ စသည်များကို ရေးဆွဲ ထားခဲ့၏။ ထိုခေတ်က စပိန်နိုင်ငံ၏ တောင်ယာတောမှ ဆင်းရဲသား

များနှင့် လမ်းမပေါ်မှ လူထု၏ ဘဝကို ဂိုးယာက ပန်းချီဖြင့် ရုပ်လုံးဖော်ထားသည်။

၁၈၂၂ ခုနှစ်တွင် ဂိုးယာသည် စပိန်နိုင်ငံမှ ပြင်သစ်နိုင်ငံ ပါရစ်မြို့တော်သို့ ထွက်ခွာ ခဲ့၏။ ၅ နှစ် နေပြီးသော် မဒရစ်မြို့ သို့ ခေတ္တ ပြန်သွားကာ တဖန် ပြင်သစ်သို့ ပြန်လာခဲ့ပြီးလျှင် ဗော်ဒိုးမြို့၌ နေလေ၏။ ၁၈၂၈ ခုနှစ်ဧပြီလ ၂၆ ရက်နေ့တွင် ပြင်သစ်နိုင်ငံ ဗော်ဒိုးမြို့၌ပင် ကွယ်လွန် အနိစ္စရောက်လေသည်။ ဂိုးယာသည် သူ၏ အနုပညာမျက်စိဖြင့် မြင်သမျှကို မည်သူ့မျက်နှာကိုမျှ မထောက်ဘဲ ရေးဆွဲတတ်သည်။ သူရေးဆွဲထားသော ဘုရင်မိဖုရားနှင့် မှူးမတ်များ၏ ရုပ်ပုံများသည် တောက် ပြောင်သော ဆေး ရောင် များ ဖြင့် ထင်ထင် လင်းလင်း ရေးဆွဲထားသဖြင့် သူတို့၏ စိတ်ဓာတ်၊ စရိုက်နှင့် အရည်အသွေးကို ကောင်းစွာ သိရှိနားလည်ကြောင်း ထင် ရှားသည်။ သူသည် ပုံတူ တခုကို ၂ နာရီနှင့် အပြီး ရေးဆွဲ နိုင်သော ဟူ၏။

## ဂေါက်သီးကစားနည်း။

'ဂေါ့' ဟူသော အင်္ဂလိပ်စကားကို မြန်မာ ဆန်ဆန် ဂေါက်သီးဟု ခေါ်ကြသည်။ ထို အမည်ကို စတင် သုံးစွဲသူမှာ ခေတ်စမ်း စာပေသမား တဦးဖြစ်သူ သိပ္ပံ မောင်ဝ အမည်ခံ ဦးစိန်တင်ပင် တည်း။ (စိန်တင်၊ဦး—ရှု။) ဤသည်မှစ၍ ဂေါ့ရိုက်ခြင်းကို ဂေါက်သီး ကစားသည်ဟု ပြောဆိုလာကြ၏။ ဂေါက်သီး ကစားခြင်းမှာ ဂေါက်သီးကွင်း တလျှောက်တွင် ဂေါက်သီးရိုက်တံ အမျိုးမျိုး တို့ဖြင့် ဂေါက်သီးကို ရိုက်၍ သတ်မှတ် ထားသော ကျင်းအတွင်းသို့ ဝင်အောင် သွင်းခြင်းပင် ဖြစ်သည်။ စံနစ်တကျ ပြုလုပ်ထားသော ဂေါက်သီးကွင်းတွင် ကျင်းပေါင်း ၁၈ ကျင်းမျှ ရှိလေသည်။ စ၍ရိုက်ရသော တီးဓါ်နေရာနှင့် ကျင်းတို့၏ အကွာအဝေးမှာ တခု နှင့် တခု မတူညီ ကြချေ။ ကိုက် ၁၀၀ မှ ကိုက် ၅၀၀ အထိကွာတတ်သည်။

တီးမှာ ၁၂ ပေပတ်လည်ခန့် ကျယ်ပြန့်သော မြေကွက်ကလေးဖြစ်၏။ ထိုမြေကွက်မှဂေါက်သီးကို စတင်၍ရိုက်သောအခါ ဂေါက်သီးကို သစ်သားငုတ်ပေါ်၌ ဖြစ်စေ၊ သဲပုံပေါ်၌ ဖြစ်စေ စူ၍ထားရသည်။ ပဋ္ဌမအကြိမ် ရိုက်ရန် စူပေးရာ၌သာ ဂေါက်သီးကို ဂေါက်သီးရိုက်သူသည် လက်နှင့် ကိုင်ခွင့်ရှိ၏။ နောက်တွင် ကျင်းအတွင်းသို့ သွင်းလိုက်သည်အထိ သင့်တော်ရာ ဂေါက်သီးရိုက်တံတို့ကိုသာ အသီးသီး အသုံးပြုသွားရ၏။ အလျား၊ အနံ ပေ ၄၀ ခန့်စီရှိ၍ ညီညာသည့် မြက်ခင်းပြင်၏ အလယ်တွင် အချင်း ၄½ လက်မ ရှိသော ကျင်းရှိ၏။ ထိုမြက်ခင်းပြင်ကို ဂရင်း ဟုခေါ်သည်။ တီးနှင့်ဂရင်းအကြားတွင် ဂေါက်သီးရိုက်ရန် မြက်ပင်များကို အညီအညာ ရိတ်ဖြတ် ရှင်းလင်းထားသော ဖဲယားဝေးခေါ် ဂေါက်သီးလမ်းကြောင်း ရှိသည်။ ဂေါက်သီးလမ်းကြောင်းနှင့် တကွဂရင်း မြက်ခင်းပြင်တို့၏ ပတ်ဝန်းကျင်တွင် ရေအိုင်ငယ်၊ ချိုင့်ငယ်၊ တောင်ပူစာ ကလေး စသော အဆီးအတား များကို သင့်တော် သလို ပြုလုပ်ထားနိုင်လေသည်။ ထိုအဆီးအတား များကို ဂေါက် သီးရိုက်သူတို့က ဗန်ကာဟု ခေါ်ကြသည်။ အဆိုပါ ဗန်ကာခေါ် အဆီး အတား များသည် မူလကပင် သဘာဝအတိုင်း တည်ရှိ နေကြ သည် လည်းရှိ၏။ ထိုသို့မဟုတ်လျှင် ကစားသူများက ဖန်တီး ယူကြရသည် လည်း ရှိသည်။



ပုံတူရေးပန်းချီကျော် ဂိုးယာ၏ လက်ရာ

ဗန်ကာများမှာ ပေါ့ပေါ့ဆဆ သဘောထားပါက ကစားကြသူများအတွက် ထောင်ချောက်များပင် ဖြစ်တော့သည်။ အဆိုပါ ထောင်ချောက်များထဲသို့ ကျသွားသော ဂေါက်သီးကို အပြင်သို့ရိုက်ထုတ်ရန်မှာ မလွယ်ကူ လှပေ။ ကျွမ်းကျင်သော ကစားသူများသာလျှင် ဂေါက်သီးကို ထိုထောင်ချောက်များမှ လွတ်အောင် ရိုက်ထုတ်နိုင်ကြပေသည်။

ဂေါက်သီးကစားရာတွင် ဂေါက်သီးရိုက် သူတို့သည် ဂေါက်သီးကို ကျင်းအသီးသီးအတွင်းသို့ တကျင်းပြီးလျှင် နောက်ကျင်း၏တီးမှစ၍ ဆက်ကာဆက်ကာ အချက်အနည်းဆုံးနှင့် ရိုက်သွင်းနိုင်ရန် အားထုတ်ကြရသည်။ သာမန်အားဖြင့်



သာယာသည့်မြက်ခင်းပေါ်တွင်ဂေါက်သီးကစားနေကြပုံ

၄ ချက်ရိုက်လျှင် တကျင်းသွင်းနိုင်သည်ဖြစ်ရာ ၁၈ ကျင်း စလုံးအောင်၍ တပွဲရရန် ၇၂ ချက်မျှ ရိုက်ကြရလေသည်။ ခရစ် ၁၉၂၆ ခုနှစ် ၁၉၂၇ ခုနှစ်များတွင် ဗိုလ်စွဲခဲ့သော အမေရိကန်လူမျိုးဗော်ဗီဂျုန်းဆိုသူသည် ထိုထက်ပင်အချက်နည်း၍ရိုက်ကာ အောင်ပွဲယူခဲ့ဘူးလေသည်။

ဂေါက်သီးမှာ ကြက်ပေါင်စေး ဘောလုံးကလေး ဖြစ်၍ အချင်း ၁.၆၈ လက်မ အနည်းဆုံးရှိရပြီးလျှင် အလေးချိန် ၁.၆၂ အောင်စထက် မပိုရချေ။ အများသုံးဖြစ်သောဂေါက်သီးရိုက်တံမှာ အလျား ၄၂ လက်မမှ ၄၃ လက်မအထိရှိ၍ အလေးချိန် ၁၃ အောင်စနှင့်၁၄ အောင်စအကြားဌ်ရှိသည်။ ဂေါက်သီး ရိုက်တံခေါင်းများကို နေရာအမျိုးမျိုးတို့၌ ရိုက်နိုင်ရန် ရည်သန်လျက် ပုံမျိုးစုံပြုကာ သစ်သားဖြင့်ရင်း၊ သံဖြင့်ရင်း ပြုလုပ်ထားသည်။ ဂေါက်သီးရိုက်သူတဦးလျှင် ဂေါက်တံ ၆ မျိုးမျှ အနည်းဆုံးထား၍ ကစားလေ့ရှိ၏။ ထို့ကြောင့် ဂေါက်သီးကွင်းတွင် ဂေါက်တံအိတ်များကို လွယ်၍ ဂေါက်သီးရိုက်သူနောက်သို့ လိုက်နေကြသော ကယ်ဒီခေါ် သူငယ်ကလေးများကို တွေ့နိုင်လေသည်။

ဂေါက်သီးကို တယောက် တဖက် သို့မဟုတ် အဖော်များနှင့် ၂ စုခွဲကာ ကစားနိုင်သည်။ အများအားဖြင့်ကား တယောက်ချင်း သူနိုင်ကိုယ်နိုင် ကစားလေ့ရှိကြ၏။ တခါတရံလည်း တဖက် ၂ ယောက် နေ၍ အပြိုင်အဆိုင်ကစားတတ်ကြသည်။

ဂေါက်သီးရိုက်သူသည် ရှုခင်းသာယာ၍ ကြည်နူးဖွယ်ကောင်းသော မြက်ခင်းပေါ်တွင် လေကောင်း လေသန့်ကို ရှူရှိုက်ရသောကြောင့် စိတ်ကြည်လင်ရွှင်လန်းခြင်း၊ ကိုယ်လက်လှုပ်ရှားရ၍ အညောင်းအညာ ပြေပြီးလျှင် ကျန်းမာလာခြင်း၊ အကိုင်အတွယ် အချိန် အဆတို့၌ ကျွမ်းကျင်ခြင်း စသော အကျိုးထူးများအပြင် ယဉ်ကျေး မြင့်မြတ်သည့် စိတ်ထားများကိုလည်း မွေးမြူ ရရှိ လာနိုင်သော ကြောင့် ဂေါက်သီးကစားခြင်းသည် ကိုယ်လက် လှုပ်ရှားကစားနည်း အမျိုးမျိုးတို့တွင် နှစ်သက်ဖွယ်အကောင်းဆုံးကစားနည်းဟု ဆိုနိုင်ပေသည်။ သို့သော် ဂေါက်သီး အသင်း ဝင်ကြေး၊ ဂေါက်သီး ဂေါက်တံတို့၏ တန်ဖိုး စသော စရိတ်များမှာ အတော်ပင် ကြီးမားပေသည်။

ဂင့်မြို့။ ။ဗဲလဂျီယမ်နိုင်ငံ၊ဗရပ်ဆဲမြို့တော်၏ အနောက်မြောက် ၃၁ မိုင်ကွာ ဆက်နှင့် လီမြစ် ၂ သွယ်တို့ ပေါင်းဆုံရာဌ် ဂင့်မြို့တည်ရှိ၏။ မြစ်နှင့်တူးမြောင်းများကြောင့်မြို့သည် အစိတ်စိတ်အပိုင်းပိုင်း ဖြစ်နေ၍တန်တားပေါင်း ၂၀၀ ကျော် တို့ဖြင့် ဆက်သွယ်ထားရသည်။

ရှေးမြို့ဟောင်းကြီး ဖြစ်သောကြောင့် အဆောက်အအုံဟောင်းများရှိလေသည်။ သို့သော် ခေတ်မီသည့် နေရာဌ်များစွာပင်ခေတ်မီသည်။ ဖလန်းဒါးနယ်၏ အချက်အခြာမြို့လည်း ဖြစ်သည်။ ထူးခြားထင်ရှား၍ စိတ်ဝင်စားဖွယ်ကောင်းသော အဆောက်အအုံကြီးမှာ စိန်ဗဗွန်ကသီဒရယ် ဘုရားရှိခိုးကျောင်းကြီးဖြစ်၍ ၁၃ ရာစုနှစ်လောက်က တည်

ထားခဲ့သည့် ဘုန်းကြီး ကျောင်းများ၊ သီလရှင် ကျောင်းများလည်း ရှိ၏။ ဖလန်းဒါး နယ်စားကြီး ဆောက်လုပ်ထားခဲ့သည့် အလယ်ခေတ်မှ ခန်းနားလှသော ရဲတိုက်ဟောင်းကြီးမှာ မြို့၏ကျက်သရေဆောင် ရှေးဟောင်းအဆောက်အအုံကြီး ဖြစ်လေသည်။

• ဗဲလဂျီယမ်နိုင်ငံ၏ စက်မှုထွန်းကားရာ မြို့ကြီးဖြစ်သည့်အတိုင်း ခြည်ထည်၊ သက္ကလတ်ထည်၊ သိုးမွေးထည် ရက်လုပ်သော လုပ်ငန်းများရှိ၏။ ဆပ်ပြာချက်ခြင်း၊ သားရေနယ်ခြင်း၊ ဂုံလျှော်ထုတ်ခြင်း၊ စက္ကူလုပ်ခြင်း၊ ဆေးရွက်များ ပြင်ဆင်ခြင်း၊ စက်ပစ္စည်းများပြုလုပ်ခြင်း စသော လုပ်ငန်းများမှာလည်း အတော်ပင်ကြီးကျယ်သည်။

ဂင့်မြို့မှာ ၇ ရာစုနှစ်မှစ၍ ဥရောပသမိုင်းတွင် ထင်ရှားသော မြို့တမြို့ဖြစ်ခဲ့ရာ၊ ၁၈၁၄ ခုနှစ်တွင် နယ်သာလန် နိုင်ငံထဲသို့ ပါဝင်ခဲ့၍ ၁၈၃၀ ပြည့်နှစ်တွင်မှ ဗဲလဂျီယမ် မြို့တမြို့ဖြစ်လာ၏။ လူဦးရေ ၁၆၀,၀၀၀ ကျော်ရှိသည်။ ပဌမကမ္ဘာစစ်နှင့် ဒုတိယကမ္ဘာစစ်အတွင်းက ဂျာမန်တို့ သိမ်းပိုက်ထားခြင်း ခံခဲ့ရသဖြင့် အထူးပျက်စီးခဲ့၏။



ဂင့်မြို့၏ ကျက်သရေဆောင် ရဲတိုက်ဟောင်းကြီး

ပန်းများ စိုက်ပျိုးရောင်းချရာတွင် နာမည်ရသော မြို့ဖြစ်၍ ၅ နှစ်တကြိမ် တည်ခင်း ပြသသော ပန်းပြပွဲကြီးမှာ အထူးထင်ရှား ကျော်စောလေသည်။

အလွန် လှပ ကျယ်ပြန့်သော ပန်းဥယျာဉ်ကြီးများနှင့် လမ်းလျှောက်ရန် စကြံများ ရှိသဖြင့် ရှုခင်းသာယာသော မြို့ကြီးတမြို့ဖြစ်သည် ဟုဗဲလဂျီယမ်နိုင်ငံတဝှမ်းတွင် ကျော်စော၏။ ပန်းပင်များကိုလည်း ရောင်းချသဖြင့် တခါတရံ ‘ပန်းမြို့တော်ကြီး’ ဟု ခေါ်တွင်လေသည်။

ဂင်္ဂါမြစ်။ ။ဗုဒ္ဓဝင်နှင့် ရှေးဟောင်း နိပါတ် ပုံပြင်များ၌ ကျွန်ုပ်တို့ကြားဘူးနားဝရှိနေသော ဂင်္ဂါမြစ်သည် ပင်လယ်ရေမျက်နှာပြင်ထက် ပေပေါင်း ၁၀,၄၀၀ ကျော်မြင့်သော ဟိမဝန္တာတောင်တန်းများရှိ ရေခဲဂူကြီးတခုအတွင်းမှ စတင်မြစ်ဖျားခံသည်။ တောတောင်အထပ်ထပ်ကို ကျော်လွန်ခဲ့ပြီးသည့်နောက် အိန္ဒိယပြည်၏ ကျယ်ပြန့်သော လွင်ပြင်ကြီးများကို ဖြတ်သန်းစီးဆင်းခဲ့လေသည်။ မြစ်လက်တက်များ ပေါင်းစပ်စီးဝင်ခြင်းမပြုမီ ဂင်္ဂါမြစ်ကြောင်းမှာ ရေအလွန်တိမ်၍ သင်္ဘောကြီးများ ဆန်တက်သွားလာခြင်း မပြုနိုင်ချေ။ နုံးမြေလွင်ပြင်တလျှောက် စီးဆင်းခဲ့ရသဖြင့် မြစ်ကြောင်းမှာ အလွန်ကွေ့ကောက်ပြီး လျှင် မြစ်ရေမှာ ကြည်လင်ခြင်းမရှိ ရေစီးလည်းအလွန်နှေးသည်။

ဂင်္ဂါမြစ် လမ်းခရီးတဝက်၌ မြစ်အတွင်းသို့ ယမုံနာမြစ်လက်တက်ကြီး စီးဝင်သည်။ ထိုမြစ်နှစ်သွယ်အကြားရှိဒိုအပ်မြေခေါ် စပ်ကြားလွင်ပြင်သည် ကောက်ပဲသီးနှံစိုက်ရာတွင် မြေဩဇာ အကောင်းဆုံး ဖြစ်သဖြင့် လူဦးရေမှာလည်း ကမ္ဘာပေါ်တွင် အထူထပ်ဆုံး ဒေသတခု ဖြစ်လေသည်။

ဂင်္ဂါမြစ်ကမ်းတွင် ဗာရာဏသီမြို့၊ ပါတလိပုတ်ဟု တွင် ခဲ့ သော ပတ္တနာမြို့နှင့် ကွန်ပိုမြို့ကြီးများ ရှိသည်။ ဂင်္ဂါမြစ် အတွင်းသို့ ဂုမ္ဗတီ၊ ဂေါ့ဂရာ၊ ဂန်ဒတ် မြစ် လက် တက်များ စီးဝင်ကြ၏။

လွင်ပြင်ကြီး တလျှောက် အရှေ့တောင် ယွန်းယွန်းသို့ တဖြည်းဖြည်း စီးဆင်းခဲ့ရာ ကာလကတ္တားမြို့မှ အထက်မိုင် ၂၀၀ ခန့်ဝေးသည့်နေရာတွင်မြစ်ညာမှ နုံးမြေများစွာ သယ်ယူခဲ့သော ဗြဟ္မပုတ္တရမြစ်နှင့် ပေါင်းဆုံသည်။ ထိုအခါ ကျယ်ပြန့်သော မြစ်ဝကျွန်းပေါ် ဒေသများကို မြစ်ထွန်း စေလျက် ဗင်္ဂလားအော်ထဲသို့ မြစ်ကြောင်း များစွာ ခွဲပြီးလျှင် စီးဝင်လေသည်။ ဟူဂလီမြစ်မှာ ရေကြောင်း အလွန်နက်သဖြင့် ပင်လယ်မှ မိုင် ၈၀ ဝေးသောကာလကတ္တားမြို့တိုင်အောင် ပင်လယ်ကူးသင်္ဘောကြီးများ ဝင်ထွက်နိုင်၏။ မြစ်ဝကျွန်းပေါ် ဒေသများတွင် ရွှံ့ညွန် လတာပြင်ကြီးများနှင့် ကိုင်းတောကြီးများ ရှိခြင်းကြောင့် သားရဲတိရစ္ဆာန်များ၊ ကျားများနှင့် မိကျောင်းများ အထူး ပေါများလေသည်။

အယူဝါဒရေးအားဖြင့် ဂင်္ဂါမြစ်သည် ဟိန္ဒူလူမျိုးများ အထွတ် အမြတ်ထားအပ်သော မြစ်ဖြစ်၏။ ဂင်္ဂါမြစ်ရေကို

ချိုးခြင်းဖြင့် မကောင်းမှုမှ စင်ကြယ်စေသည်ဟူ၍ ယူဆကြသည့်ပြင် ဟိန္ဒူလူမျိုးများ ကွယ်လွန်လျှင် သူတို့၏အရိုးပြာကို ဤဂင်္ဂါမြစ်ထဲသို့ စွန့်ပစ်နိုင်ပါက ကောင်းရာမွန်ရာသို့ ရောက်နိုင်မည်ဟု ယုံကြည်ကြသည်။

ဂင်္ဂါမြစ်နှင့် လက်တက်များသည်မိုးတွင်း၌ ပတ်ဝန်းကျင်ဒေသများကို ရေလွှမ်းမိုးလျက် နုံးမြေများကို တင်စေသဖြင့် ထိုအရပ်များ၌ မြေဩဇာအလွန်ထက်သန် ကောင်းမွန်ပြီးလျှင် သန်းပေါင်းများစွာသော လူတို့၏ နေထိုင်စားသောက်မှုကို လွယ်ကူစေ၏။ ဆန်စပါး၊ ဂျုံ၊ ဝါဂွမ်း၊ ဟင်းခတ်အမွှေးအကြိုင်၊ ဂုံလျှော်များ ကောင်းစွာဖြစ်ထွန်းသည်။

ဂင်္ဂါမြစ်သည် မိုင်ပေါင်း ၁၅၅၇ မိုင်ရှည်လျား၍ မြစ်ဝမှ မိုင် ၇၀၀ ကျော်ဝေးသော ကွန်ပိုမြို့အထိသင်္ဘောများဆန်တက်သွားလာနိုင်ပြီးလျှင် အိန္ဒိယပြည် လွင်ပြင်ကြီး၏ ဗဟိုရေကြောင်းလမ်းမကြီးပင် ဖြစ်လေသည်။

**ဂစ်ဗန်, အက်ဒွပ်** (ခရစ် ၁၇၃၇–၁၇၉၄)။ ။ရောမနိုင်ငံကြီး ပျက်စီး ယိုယွင်းပုံသမိုင်းကို ရေးသား ပြုစုခဲ့သော နာမည်ကျော် စာရေးဆရာကြီး အက်ဒွပ်ဂစ်ဗန်သည် ခရစ် ၁၇၃၇ ခုနှစ် ဧပြီလ ၂၇ ရက်နေ့တွင် လန်ဒန်မြို့ အနီးရှိ ပတ္တနီမြို့၌ ဖွားမြင်သည်။ မိဘတို့မှာ ငွေကြေးတတ်နိုင်သူများဖြစ်၏။ဂစ်ဗန်သည် ငယ်စဉ်က ချူချာလှသဖြင့် ကျောင်းကိုပင် မှန်မှန်မတက်နိုင်ခဲ့ချေ။ သို့ရာတွင် စာများစွာ ဖတ်ခဲ့သူဖြစ်၍ ပညာဗဟုသုတ ပြည့်စုံပြီးလျှင် အသက် ၁၅ နှစ်တွင် အောက်စဖို့တက္ကသိုလ်၊ မောဒလင် ကောလိပ်ကျောင်းသို့ တက်ရောက်ခဲ့သည်။ သို့ရာတွင် မကြာမီ ဗရင်ဂျီဂိုဏ်းသို့ ကူးပြောင်းသွားသဖြင့် သူ၏ဖခင်က သူ့ကို အောက်စဖို့ တက္ကသိုလ်မှ ထုတ်လိုက်သည်။ ထိုနောက် ဂစ်ဗန်ကို ဆွစ်ဇာလန်နိုင်ငံ လိုဇန်းမြို့ရှိ ပရိုတက်စတန့် ဘုန်းကြီးတပါးထံတွင် အပ်နှံ၍ ပညာသင်ကြားစေ၏။ ထိုမြို့တွင် ဂစ်ဗန်သည် ၅ နှစ်ကြာခဲ့၏။ ဆွစ်ဇာလန်နိုင်ငံ၌ ပညာသင်ကြားရသည်မှာ ပြင်သစ်ဘာသာနှင့်ဖြစ်သဖြင့် ပဌမသော်အင်္ဂလိပ် ကျောင်းသားကလေး ဂစ်ဗန်အတွက် များစွာ ခက်ခဲနေလေသည်။ သို့သော်လည်း ဆရာဘုန်းကြီးက အစစအရာရာသွန်သင်ဆုံးမသဖြင့် ဂစ်ဗန်မှာ မကြာမီ ပြင်သစ်ဘာသာကို လေ့လာဆည်းပူးနိုင်၏။ ဂစ်ဗန်သည် နဂိုကပင် စာဖတ်ဝါသနာပါသူဖြစ်၍ ယခုကဲ့သို့ ဝေးလံသောအရပ်၌ တယောက်တည်းလာနေရစဉ် စာအုပ်ကိုသာအဖော်ပြု၍ မျက်နှာနှင့်စာ အမြဲတပ်လျက် ရှိခဲ့၏။ ထိုသို့ ပညာသင်ကြားယင်း ဆရာဘုန်းကြီးက အယူဝါဒတရားကို တစိမ့်စိမ့် နားဝင်အောင် ဟောပြလေရာ ဂစ်ဗန်မှာ ပရိုတက်စတန့်ဂိုဏ်းဝင်တဦး ပြန်ဖြစ်လာပြန်၏။ လိုဇန်း၌နေ၍ ၅ နှစ်မျှ ကြာသော် ပျင်းရိ ငြီးငွေ့လာသဖြင့် အင်္ဂလန်သို့ တဖန်ပြန်ခဲ့၏။ ၁၇၅၈ ခုနှစ်တွင် အင်္ဂလန်ပြည်သို့ ပြန်ရောက်သောအခါ ပြင်သစ်ဘာသာဖြင့် စာပေလေ့လာမှုအကြောင်း ကျမ်းတကျမ်းပြုစုလေသည်။



ဗာရာဏသီမြို့၏ တဖက်ကမ်းမှ တွေ့မြင်ရသော ဂင်္ဂါမြစ်



ရှမ်းပြည်နယ်မြောက်ပိုင်းရှိ ကမ္ဘာပေါ်တွင် ထင်ရှားသော ဂုတ်ထိပ်တံတား

ဂစ်ဗန်, အက်ဒွပ်

၁၇၇၄ ခုနှစ်တွင် အောက်လွှတ်တော် အမတ်ဖြစ်သည်။ ၁၇၇၆ ခုနှစ်တွင် 'ရောမနိုင်ငံတော်ကြီးပျက်စီးပုံ' ခေါ် နိုင်ငံသမိုင်းကျမ်းကြီးကို စတင်ထုတ်ဝေသည်။

နိုင်ငံသမိုင်း ကျမ်းကြီးမှာ အင်္ဂလိပ်ဂန္ထဝင်တွင် မှတ်တမ်းတင်လောက်သော ကျမ်းကြီး တစောင်ဖြစ်၍ အတွဲ ၆ တွဲရှိ၏။ ၁၇၇၆ ခုနှစ်မှ ၁၇၈၈ ခုနှစ်အတွင်း ၁၂ နှစ် ကာလပတ်လုံး ဂစ်ဗန်သည် ထိုကျမ်းကြီး ထွက်အောင် ကြိုးစားခဲ့ရ၏။ ကျမ်းကြီးကို ပြုစုနိုင်အောင် ရောမနိုင်ငံနှင့် သက်ဆိုင်သည့် အချက်အလက်တို့ကို ရှာဖွေရာ၌ ဂစ်ဗန်သည် စာတွေ့မဟုတ်ဘဲ ကိုယ်တွေ့ဖြစ်အောင် သူကိုယ်တိုင် ဣတလီမြေကို နင်းကာ ခရီးလှည့်လည်ခဲ့၏။ အကြောင်းအရာများကို သူ့စိတ်၌ သေချာတိကျမှ ရေးသားလေ့ရှိ၏။ သူ၏ နိုင်ငံသမိုင်းတွင် နိုင်ငံရေး၊ ဘာသာရေးနှင့် စစ်မက်ရေးများကို အသားပေးထား၍ စီးပွါးရေး၊ ဘဏ္ဍာရေး၊ ပေါင်းသင်းဆက်ဆံရေးများကို မြှုပ်ထား၏။ သို့သော်လည်း ဂစ်ဗန်၏ ရောမနိုင်ငံတော်ကြီး ပျက်စီးပုံ သမိုင်းကျမ်းကြီးကို သမိုင်းစာစောင် အဖြစ် ၎င်း၊ ဗဟုသုတ ဖြစ်ဖွယ် စာပေ တရပ်အဖြစ် ၎င်း လူတိုင်း လက်ခံ နှစ်သက်ကြပေသည်။ သူ၏စာ အရေးအသားမှာ ပြေပြစ် ချောမောပြီးလျှင် ဖတ်ရှု၍ မငြီး နိုင်အောင် ခန့်ညား ကောင်းမွန်လှ ပေသည်။ ထို့ကြောင့် ကျမ်းကြီးကိုပြုစုရသော အက်ဒွပ်ဂစ်ဗန်ကို နာမည်ကျော် စာရေး ဆရာ တယောက် အဖြစ်အသိအမှတ်ပြုလာကြသည်မှာ အံ့သြဖွယ်ရာ မဟုတ်ချေ။

သူ၏နိုင်ငံသမိုင်း ကျမ်းကြီးကို ၂ ပိုင်း ခွဲခြား၍ ဝေဖန်နိုင်သည်။ ပဌမပိုင်းမှာ အတော်ပင် စေ့စပ် သေချာစွာ ရေးထားသည်။ ဒုတိယပိုင်းမှာကား နှစ်ပေါင်း ၈၀၀ အတွင်း ဖြစ်ပျက်သော အကြောင်းအရာများဖြစ်၍ ပဌမပိုင်းမှာလောက် အချက်အလက် ပြည့်စုံမှန်ကန်ခြင်းမရှိ။ သို့ရာတွင် သူရေးသားခဲ့သော ကျမ်းကြီးတခုလုံးကို ခြုံ၍ကြည့်လျှင် ထိုကျမ်းကြီးသည် အင်္ဂလိပ်စာပေတွင်၎င်း၊ ကမ္ဘာ့စာပေတွင်၎င်း ထင်ရှားသော သမိုင်းမှတ်တမ်းကြီး တစောင် ဖြစ်ကြောင်းကို လူတိုင်း ဝန်ခံရမည်ဖြစ်ပေသတည်း။

ဂဇ္ဇာပါးချားမင်။ ။ကော်စေးပင် — ရှု။

ဂုတ်ထိပ်။ ။ရှမ်းပြည်နယ် မြောက်ပိုင်း သီပေါနယ်တွင် ရှမ်းဘာသာဖြင့် ဟိုကွတ်ဟု ခေါ်သော ရွာရှိသည်။ ဗြိတိသျှတို့က ရှမ်းပြည်နယ်၏ အုပ်ချုပ်ရေးကို စီမံခန့်ခွဲသော ခရစ် ၁၈၉၀ ခုနှစ်လောက်က ထိုရွာမှာ ရွာပေါင်း ၄၇ ရွာကို ကြီးမှူးရသည့် တိုက်နယ်ဗဟိုဌာနဖြစ်သည်။ ထိုရွာကို မြန်မာတို့က ဂုတ်ထိပ်ဟု ခေါ်ကြသည်။ ဟိုကွတ်နှင့် ဂုတ်ထိပ် ဟူသော အခေါ်မှာ ထိုနေရာဒေသတွင် မြစ်ချောင်းများ ငုပ်လျှိုးကွယ်ပျောက်၍ သွားသည်ကိုအစွဲပြု၍ ခေါ်ခြင်းဖြစ်သည်။ ထိုရွာနားတွင် နမ်းပဆေးမြစ်သည် မြေကြီးထဲသို့ ထိုးဝင်စီးဆင်းပြီးနောက် အခြားတနေရာတွင် မြစ်ကြောင်းပေါ်သည်။ ကာလရွေ့လျောလာသောအခါ ငုပ်ထိပ်ကို ဂုတ်ထိပ်ဟု အများက ခေါ်ဝေါ်လာကြသည်။

ဂုတ်ထိပ်သည် ထိုနမ်းပဆေးမြစ်ကြောင့်သာ ထင်ရှားခဲ့သည်မဟုတ်။ ကမ္ဘာပေါ်တွင် အမြင့်အားဖြင့် ဒုတိယဖြစ်သော တန်တားဟူ၍ ကျော်ကြားသော ဂုတ်ထိပ်တန်တားကြောင့်လည်း ပို၍ထင်ရှားသည်။ ခရစ် ၁၈၉၇ ခုနှစ်တွင် ဗြိတိသျှအစိုးရသည် မန္တလေးမှ ဗန်းမော်သို့ မီးရထားလမ်း ဖောက်လုပ်ရာ၊ မန္တလေးမှ ကွမ်းလုံသို့ မီးရထားလမ်း ဖောက်လုပ်ရန်လည်း လိုအပ်သည်ကို တွေ့ရှိလာကြသည်။ ထို့ကြောင့် ဂုတ်ထိပ် တန်တားကို စတင် ဆောက်လုပ်ရန် မြန်မာပြည်အစိုးရက စီမံလေသည်။

ဂုတ်ထိပ် တန်တားမှာ မန္တလေးမှ ကွမ်းလုံ မီးရထားလမ်းရှိ နောင်ချိုဘူတာ အလွန်တွင် မီးရထား မိုင်တိုင် အမှတ် ၄၆၃/၀-၉ ရှိသော ကျောက်ဂူကြီးအပေါ်သို့ ဖြတ်၍ တောင်ထိပ် ၂ ခုကို ဆက်သွယ်ထားသည်။ ဂုတ်ထိပ် တန်တားကို မြန်မာပြည်အစိုးရသည် အမေရိကန်နိုင်ငံ ပင်ဆီလဗေးနီးယားနှင့် မေရီလန် တန်တား ဆောက်လုပ်ရေး ကုမ္ပဏီအား ငှါးရမ်းကာ ဆောက်လုပ် စေသည်။ ဆောက်လုပ်၍ ကုန်ကျငွေမှာ ၁၆,၉၈,၂၀၀ ကျပ် ဖြစ်သည်။ ဂုတ်ထိပ် တန်တား၏ အလျားမှာ ပေပေါင်း ၂,၂၆၀ ဖြစ်၍၊



ကျမ်းပြုဆရာ အက်ဒွပ်ဂစ်ဗန်



ဂန့်ဂေါမြို့တွင် ထင်ရှားတည်ရှိသောစွယ်တော်ရှင် စေတီတော်

တန်တား သံခြေတိုင်အချို့မှာ အနိမ့်ဆုံး ချောင်းမြောင်း ချိုင့်ဝှမ်းမှ သည် မီးရထား သံလမ်းအထိ ပေ ၁,၁၀၀ အထိ မြင့်သည်ဟု ဆိုသည်။

ထိုတန်တားကို ဆောက်လုပ်ရာ၌ သံနှင့် သံမဏိတန်ချိန် ၄,၃၁၁ တန်နှင့် သံမှိုပေါင်း ၁,၀၀၀,၀၀၀ ကို သုံးစွဲရသည်။ ထိုတန်တားသည် နမ္မတူသတ္တုတွင်း တူးဖော်ရေးလုပ်ငန်း၏ သယ်ယူပို့ဆောင်ရေးတွင် အရေးပါလေသည်။ မြန်မာနိုင်ငံ စီးပွါးရေးကို လည်းများစွာအထောက်အပံ့ပြုသည်။ ထို အကြောင်းတို့ကြောင့် ဒုတိယကမ္ဘာစစ်ကြီးတွင် မဟာ မိတ်တို့၏ မြေလှန် စံနစ်အရ ဂုတ်ထိပ်တန်တားသည် ဖျက် ဆီးခြင်း ခံရသည်။ သို့သော် သံတိုင်အမှတ် ၂ နှင့် ၅ သာ ပျက်စီးခဲ့သည်။ ထိုနောက်တဖန် မြန်မာနိုင်ငံမှ ဆုတ်ခွါ ပေးရသော ဂျပန်တို့သည် တန်တား၏ အမြင့်ဆုံးတိုင်များ ဖြစ်သော သံတိုင်အမှတ် ၉၊ ၁၀၊ ၁၁ နှင့် ၁၂ တို့ကို အောက် ခြေမှစ၍ ဗုံးဖောက်ခွဲကာ ဖျက်ဆီးခဲ့ပြန်သည်။ ထိုကြောင့် သံတိုင်အမှတ် ၉ မှာ အနည်းငယ် ပျက်စီးသည်။ အမှတ် ၁၀ နှင့် ၁၂ တို့မှာ ပြို၍လဲလေသည်။ အမှတ် ၁၁ မှာမူ အောက် ခြေပြတ်သော်လည်း မလဲချေ။ ထိုတိုင်များ ပေါ်ရှိ ပေ ပေါင်း ၁၂၀ စီရှည်သော ပေါင်းကူး သံဘောင် ၄ ခုမှာ မူ မြေသို့ လျှောကျရလေသည်။

မြန်မာနိုင်ငံလွတ်လပ်ရေးရပြီးသည့်ခေတ်၌ ထိုတန်တား ကို နိုင်ငံခြား ကုမ္ပဏီ များငှါးရမ်း၍ ပြင်ရန် စီစဉ်ခဲ့သော် လည်း၊ ထိုကုမ္ပဏီများက တင်ဒါတင်သွင်းသော အဖိုးနှုန်းမှာ ကြီးလေးလှသဖြင့် မြန်မာနိုင်ငံ မီးရထားဌာနကပင် ဦးစီး၍ ပြင်ဆင်ခဲ့လေသည်။ ယင်းသို့ ပြင်ဆင်သော လုပ်ငန်းကို ၁၉၄၈ ခု မေလက စတင်ခဲ့သော်လည်း ပစ္စည်း ရှားပါး၍ လမ်းပန်းဆက်သွယ်ရေး ခက်ခဲသောကြောင့် ၁၉၅၁ ခု ဩဂုတ်လအတွင်း၌ သာ ပြီးစီးခဲ့လေသည်။ ပြန်လည်ပြုပြင် တည်ဆောက်ရသည့် စရိတ်မှာ ၃၂ သိန်းခန့်ဖြစ်သည်။

ဂန့်ဂေါမြို့။ ။ပခုက္ကူခရိုင် ဂန့်ဂေါနယ်နှင့် ဂန့်ဂေါမြို့နယ် တို့၏ ရုံးစိုက်ရာမြို့ဖြစ်သည်။ ဂန့်ဂေါနယ်မှာ ပခုက္ကူခရိုင်၏ အနောက်မြောက်ဖက်နယ်ဖြစ်၍ အရှေ့ဖက်၌ ပုံတောင်၊ အနောက်ဖက်၌ ချင်းတောင်တို့၏ စပ်ကြားတွင် တည်ရှိ သော ကျဉ်းမြောင်းရှည်လျားသည့် မြေနိမ့် ဒေသကလေး မျှသာ ဖြစ်သည်။ မြို့နယ်၏ အကျယ်အဝန်းမှာ ၆၉၈ စတု ရန်း မိုင်မျှ ဖြစ်လေသည်။ မြို့၏လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ ၃,၇၀၀ မျှရှိသည်။ မြို့နယ်အတွင်း ၌ ယောလူမျိုးအများ နေထိုင်သည်။

ဂန့်ဂေါမြို့သည် မြစ်သာမြစ်၏ လက်ျာဖက် ကမ်းတွင် တည်ရှိသည်။ထီးလင်းမြို့မှ ကလေးမြို့သို့သွားသော နွေရာသီ ကားလမ်းသည်ဂန့်ဂေါမြို့ကိုဖြတ်လျက်ရှိ၏။ စွယ်တော်ရှင် စေတီသည် ဂန့်ဂေါမြို့ရှိ တန်ခိုးကြီး စေတီတော်ဖြစ်သည်။

မြို့နယ်တခုလုံးသည် ရေအလို့ငှါ မြစ်သာမြစ်ကိုအားကိုး ရသည်။ဂန့်ဂေါမြို့တွင် ပိုးထည်လုပ်ငန်း အတော်အတန်ထွန်း ကားသည်။ လေကြောင်းခရီးလမ်း ဖွင့်လှစ်ထား၍ ပခုက္ကူမှ တဆင့် အပတ်စဉ် ရန်ကုန်နှင့် အဆက်အသွယ်ရှိသည်။

မြို့ပြအုပ်ချုပ်ရေးအတွက် ဂန့်ဂေါနယ်ကို ဂန့်ဂေါမြို့နယ် နှင့် ထီးလင်းမြို့နယ်ဟု ခွဲခြား အုပ်ချုပ်သည်။

ဂန္ထဗေဒ။ ။ဂန္ထဗေဒ၏ အဓိပ္ပါယ်မှာ စာပေကျမ်းဂန် သို့မဟုတ် စာအုပ်များ အကြောင်းကို ခွဲခြမ်းစိတ်ဖြာ၍

ပြသော ပညာရပ် ဖြစ်သည်။ ဂန္ထဗေဒကို အင်္ဂလိပ် ဘာသာအားဖြင့် ဗစ်ဗလီအိုဂရပ်ဖီဟု ခေါ်သည်။ ဂန္ထဗေဒ၏ မူလသဘောမှာ စာအုပ်စာတမ်းများ အကြောင်းကို ရေးသားပြုစု၍ စာပေလေ့လာ သူတိုင်းအား မိမိတို့ နှစ်သက်ရာ ဘာသာရပ် အသီးသီးကို နှိုက်နှိုက် ချွတ်ချွတ် စေ့စုံစွာ လေ့လာ စေနိုင်ရန် အတွက် ကူညီပေးသည့် သဘောပင် ဖြစ်သည်။ ဂန္ထဗေဒ သဘော သက်ဝင်သော လုပ်ငန်းများကို ကမ္ဘာပေါ်တွင် ခရစ်နှစ် ၁၈ ရာစုများ အတွင်းက စတင် လုပ်ဆောင် ခဲ့ကြသည်။ စာပေလောကတွင် တနေ့ တခြား တိုးတက်များပြားလာသော စာအုပ်စာတမ်းများကို စာရင်းပြုလုပ်ကာ စာဖတ်သူတို့အား အကျိုးပြုရန် လိုအပ်လာသည့် အတွက်ကြောင့် ဤဂန္ထဗေဒပညာရပ်မှာထူးထူးခြားခြားပင် အသုံးများလာခဲ့ပေသည်။ အင်္ဂလန်ပြည် လန်ဒန်မြို့တော်တွင် ခရစ် ၁၇၉၂ ခုနှစ်ကစတင်တည်ထောင် ခဲ့သော ဂန္ထဗေဒအသင်းကြီးရှိလေသည်။

ဤဂန္ထဗေဒ ပညာ ရပ်ကို ၁၈ ရာစုနှစ်များအတွင်းမှ ယနေ့ အထိ သုံးစွဲ လာခဲ့ရာ အများ သိရှိနေသော ဝေါဟာရ အဖြစ် ဤပညာ ရပ်တွင် လုပ်ကိုင်နည်း ၂ မျိုး သက်ဝင်လျက် ရှိသည်။



ဗုဒ္ဓဂယာရှိ မဟာဗောဓိစေတီ

ထိုစေတီကိုမူလက ဝဇီရာသန ဂန္ဓကုဋိတိုက်ဟု တွင်ကြောင်းဖြင့် အဆိုရှိသည်။ ခရစ်နှစ် ၁၁၀၅ နှင့် ၁၂၉၈ တို့တွင် မြန်မာ ဘုရင်တို့က ပြန်လည်မွမ်းမံ ပြင်ဆင်ခဲ့သည်။

ပဌမ အမျိုးကား စာအုပ်များကို စံနစ်တကျ အမည်စာရင်း တင်သွင်းနည်းဖြစ်သည်။ သို့ရာတွင် ဤလုပ်ငန်းနှင့် စာအုပ် ကတ်တလောက်ခေါ် စာအုပ်စာရင်းတို့မှာ ခြားနားလေသည်။ စာအုပ်ဆိုင်တွင် ရှိရှိသမျှ စာအုပ်များကို ဝယ်ယူသူ သိရှိနိုင်ရန် စုပေါင်း စာရင်း တင်ထားခြင်းမှာ ကြော်ငြာ သဘောသာဖြစ်၍ ဂန္ထဗေဒ လုပ်ငန်းနှင့် များးစွာကွာခြားလှပေသည်။

ဒုတိယ အမျိုးကား စာအုပ် စာတမ်း များ၏ အကြောင်းကို စုံလင်အောင် ဝေဖန် ဖော်ထုတ်၍ စာရင်း တင်ခြင်းဖြစ်သည်။ ပမာဆိုသော် စာအုပ် အမည်၊ စာရေး ဆရာ အမည်၊ ပုံနှိပ်ထုတ်ဝေသူအမည်၊ ရိုက်နှိပ်သည့် ခုနှစ် စသော ထည့်ရိုးထည့်စဉ် အချက်အလက်များအပြင် စာအုပ် အရွယ်အစား၊ စာအုပ်၏ တန်ဖိုး၊ မည်သည့် အကြိမ်မြောက် တည်းဖြတ်ခြင်း၊ သို့မဟုတ် ပုံနှိပ်ခြင်း၊ ပါဝင်သည့် ရုပ်ပုံ၊ ပုံကြမ်းနှင့် မြေပုံများ၊ စုစုပေါင်း စာမျက်နှာ စသည်တို့နှင့် တကွစာအုပ်ပါ အကြောင်း အချက်များကိုပါ စုံလင်နိုင်သရွေ့စုံလင်အောင် ဝေဖန် ထည့်သွင်း ဖော်ပြခြင်း ဖြစ်လေသည်။

ဂန္ထဗေဒဟူ၍ မြန်မာဂန္ထဝင်တွင် အထင်အရှား လိုက်စား ပြုစုခြင်း နည်းပါးလှငြားသော်လည်း ဂန္ထဗေဒ သဘော သက်ဝင်သော ပြုစုထားချက်များကို တွေ့ရသည်။ ပုံစံအားဖြင့် ကုန်းဘောင်ခေတ် မိုင်းခိုင်းမြို့စား အတွင်းဝန် မဟာသီရိဇေယျသူ၏ ပိဋကတ် သမိုင်းတွင် ရှေးခေတ်မှစ၍ ကျမ်းပြုဆရာပေါင်း ၃၃၇ ဦးတို့ပြုစုခဲ့သော ပျို့၊ ကဗျာ၊ လင်္ကာ၊ ဝတ္ထု၊ ဋီကာကျမ်း၊ ရာဇဝင်ကျမ်း၊ ဆန်းကျမ်း၊ တက်ကျမ်း၊ ပူရာဏ်ကျမ်း၊ ဆေးကျမ်း၊ ဗေဒင်ကျမ်း၊ ဓမ္မသတ်ကျမ်း စသည့် ကျမ်းမျိုးစုံကို ရေးသူ အမည်၊ ရေးသည့် ကာလနှင့် ကျမ်းလာအကြောင်း အရာအမြွက်နှင့် တကွ ဖော်ပြ ထားလေသည်။ ထိုပြင် မြောင်လှမြို့စား နိုင်ငံခြား ဝန်ထောက်တော်မင်း၊မင်းကြီးသီရိမဟာဇေယျသူ ရေးသားသော ကဝိလက္ခဏာဒီပနီ ကျမ်းတွင်လည်း ကျမ်းပြုရာတွင် မိမိ ကိုးကားထောက်ထား ခဲ့သော ၅၀၀ နီးပါးမျှ ကျမ်းတို့ကို ပါဠိ၊ အဋ္ဌကထာ၊ ဋီကာ၊ သုတ်၊ ဇာတ်၊ သဒ္ဒါ၊ ဝတ္ထု၊ ရာဇဝင်၊ သမိုင်း၊ မော်ကွန်း၊ ဧချင်း၊ မဟာဝင်၊ နီတိ၊ ဓမ္မသတ်၊လင်္ကာ၊ ကျောက်စာစသော ခေါင်းစဉ်များဖြင့် ခွဲခြား စာရင်းတင်ခဲ့လေသည်။

ယခုအခါ ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရတို့၏ သုံးလတကြိမ်ထုတ် မြန်မာနိုင်ငံတွင် ထုတ်ဝေသော စာအုပ်များ စာရင်းမှာ ဂန္ထဗေဒဝင်ကျမ်း ဖြစ်သည်ဟု ဆိုသော် ရသင့်လေသည်။

**ဂန္ဓကုဋိ။** မြတ်စွာဘုရား သီတင်းသုံးရာ ဇေတဝန် ကျောင်းတော်ရှိ မွှေးကြိုင်သော ရနံ့ရှိသည့် တိုက်ခန်းဖြစ်သည်။ ဂေါတမ ဘုရား လက်ထက်တော်တွင် အနာထပိဏ် သဌေးသည် သာဝတ္ထိ ပြည်၏ အနောက် တောင် မျက်နှာတွင် ဇေတမင်းသား ပိုက်လုပ်အပ် သော ၁၆ ပယ် ကျယ် သည့် ဥယျာဉ်ကို ငွေအသပြာ ၁၈ ကုဋေဖြင့် ဝယ်ယူ၍ ၁၈ ကုဋေသော ငွေကို စိုက်ထုတ်လျက် ဘုရားရှင်အတွက် ကျောင်းတော်ကို တည်ဆောက်၏။ ဇေတ မင်းသား၏ နေရာ ဖြစ်သောကြောင့် ဇေတဝန် ကျောင်းတော်ဟု တွင်၏။ ထိုဇေတဝန်ကျောင်းတော်ရာကား ရှေး ဘုရား အဆက်ဆက်တို့ သီတင်းသုံးရာ နေရာလည်း ဖြစ်သောကြောင့် အဝိဇဟိတဌာန မစွန့်အပ်သော အရပ် ဖြစ်လေသည်။ ထိုကျောင်းတော်သည် ဘုံအားဖြင့် ၃ ဆင့် ရှိ၏။ တထောင်မျှသော ပြာသာဒ် အရံ

ရှိ၏။ များစွာသော စင်္ကြံ၊ မဏ္ဍပ်၊ စရပ်၊ ဂူ၊ လိုဏ် တို့ခြံရံလျက် ရှိ၏။ ဂန္ဓကုဋိ၊ သလာဃရ ကုဋိ၊ ကောသမ္ဗလကုဋိ၊ ကရေရိကုဋိ ဟူသော ကုဋိလေးလုံးတို့ဖြင့် တင့်တယ်၏။

ယင်းသို့ တင့်တယ်သော ကုဋိ လေးလုံး အနက် ဂန္ဓကုဋိ သည်ကား၊ ဇေတဝန် ကျောင်းတော်ရှိ ဘုရားရှင် ကျိန်းဝပ်သီတင်းသုံးရာ အခန်းဖြစ်သည်။ ဂန္ဓကုဋိပရိဝေဏ ဟုလည်းခေါ်သည်။ ဘုရားရှင်သည် ဂန္ဓကုဋိအတွင်း၌ အမြဲတစေ သီတင်းသုံးကာ တပည့်သား သံဃာတို့ကို တရားဓမ္မ ဟောပြလေ့ရှိသည်။ ဂန္ဓကုဋိသည် ဘုရားရှင်ကိုယ်တော်မြတ် အတွက် သီးသန့် ထားသော မြင့်မြတ်သည့် နေရာ ဖြစ်၍ ဘုရားရှင်၏ အလုပ်အကျွေး ဖြစ်သော ရှင်အာနန္ဒာသည်ပင်လျှင် ဘုရားစံရာ ဂန္ဓကုဋိအတွင်း၌ ဘုရားရှင်နှင့် အတူမနေချေ။

အနာထပိဏ် သေဋ္ဌေး၏ ဇေတဝန် ကျောင်းတော်ရှိ ဘုရား စံတော်မူရာ ဂန္ဓကုဋိကို အစွဲပြု၍ နောင်တွင် ဘုရားရှင်အမြဲ ကျိန်းဝပ်တော်မူရာကို ဂန္ဓကုဋိဟုပင်ခေါ်သည်။ ကျောင်း အမကြီး ဝိသာခါသည် ပုဗ္ဗာရာမ ကျောင်းတော်၌ ဂန္ဓကုဋိ တခုကို ဆောက်လုပ်၍ ဘုရားရှင်အား လှူဒါန်းကြောင်း မှတ်သားရသည်။ ယခုအခါ ဗုဒ္ဓဂယာတွင် ဘုရားရှင်လက်ထက်တော်အခါက ဂန္ဓကုဋိတိုက်ကို အစွဲပြု၍ ဂန္ဓကုဋိတိုက် သစ်ကို ဆောက်လုပ်ထားလေသည်။



မိဂဒါဝုန်ဥယျာဉ်အနီးတွင် ဒုတိယကမ္ဘာစစ် မဖြစ်မီက ဆောက်လုပ်ပြီးစီးခဲ့သော မူလဂန္ဓကုဋိတိုက်

**ဂန္ဓာရုံ။** ဂန္ဓာရုံ ဟူသည်ကား အနံ့ပင် ဖြစ်၏။ အနံ့ကို တိရစ္ဆာန်များသည် လူတို့ထက် ပိုမိုထိရောက်စွာ ခံစားနိုင်ကြသည်။ ခွေးတကောင်ကို အဝတ်ဟောင်းတစ ပေးလိုက်လျှင် ထိုခွေးသည် အဝတ်စပိုင်ရှင်ကို ရှာပေးနိုင်သည်။ ယင်းသို့ သိမှုမှာ အနံ့ဖြင့် ခွဲခြား သိရှိခြင်းပင်ဖြစ်၏။ သူစိမ်း တယောက်အား သူ့သခင်၏ အဝတ်ကို ဆင်ပေးလိုက်ပါက တခဏမျှ ခွေးသည် သူစိမ်းအား သူ့သခင်အစစ်ဟု ထင်မှတ်လိမ့်မည်။ သို့ရာတွင် အနံ့ခံပြီးသည်နှင့် တပြိုင်နက် သခင်အစစ် မဟုတ်မှန်းသိ၍ ရန်မူလိမ့်မည်။ ခွေးသည် အမြင်ထက် အနံ့ကို အားကိုးသော တိရစ္ဆာန်မျိုး ဖြစ်သည်။ အနံ့သည် အရသာနှင့် များစွာ ဆက်သွယ်မှု ရှိသည်။ ကျွန်ုပ်တို့ ခံစားရသော အနံ့အသက် ဟူသည်မှာ အနံ့နှင့် ပတ်သက်သော နဗ်ကြောစွန်းများ ရှိသည့်နေရာတွင် အနံ့ဓာတ် ပစ္စည်းများ လာရောက် တွေ့ထိသောကြောင့် ဖြစ်ပေါ်သည်။ အနံ့အသက် တမျိုးသည် နဗ်ကြော တမျိုးစီနှင့် သက်ဆိုင်သည်။ ဆိုင်ရာနဗ်ကြောကို သွားရောက် တွေ့ထိသောအခါမှ ဆိုင်ရာ အနံ့အသက်ကို ရရှိနိုင်သည်။ ပစ္စည်းတခုသည် ဓာတ်ငွေ့ အဖြစ်ဖြင့် တည်ရှိမှသာလျှင် ထိုပစ္စည်း၏ အနံ့ကို ရရှိနိုင်၏။ ဓာတ်ငွေ့များသည် ပျံ့နှံ့တတ်သော သဘောရှိ၍ အဝေး၌ ရှိသော ပစ္စည်းများကို အနံ့ဖြင့် သိရှိကြရလေသည်။ တခါတရံ ကျွန်ုပ်တို့ အအေးမိ၍ နှာစေးနေသည့် အခါများတွင် အစာ စားသောက်ရာ၌ ခံတွင်းမတွေ့ဘဲ ဖြစ်တတ်ကြသည်။ အနံ့နှင့်အရသာသည် တခုနှင့်တခု များစွာဆက်စပ်နေသောကြောင့် အနံ့မရရှိသောအခါတွင် အရသာပျက်၍ သွားသည်ကိုတွေ့ရလေသည်။

**ဂန္ဓမာပန်း။** ။ဂန္ဓမာ ပန်းသည် ဒေဆီ၊ နေကြာ၊ ထပ်တရာ စသည်တို့နှင့် အတူ ကွန့်ပေါ်ဇီတီမျိုးစဉ်ကြီးတွင် ပါဝင် လေသည်။ နှစ်ကြာရှည်ခံ ပင်မျိုးဖြစ်သဖြင့် နှစ်စဉ်နှစ်ဆက် ပေါက်နေနိုင်ပေသည်။

ဂန္ဓမာပန်းပင် အမျိုးမျိုးကို ယခုအခါ မြောက်ဖက်ကမ္ဘာလုံးခြမ်းရှိ သမပိုင်းဒေသများ၌ အများအပြား တွေ့ရသည်။ သို့ရာတွင် ထိုအပင်မျိုး စတင်ပေါက်ရောက်ရာ ဇာတိဒေသမှာတရုပ်နိုင်ငံ ဖြစ်သည်ဟု သိရလေသည်။ တရုပ်နိုင်ငံမှနေ၍ ရှေးနှစ်ပေါင်း ၂,၀၀၀ ခန့်က ဂျပန်နိုင်ငံသို့ ထိုအပင်မျိုး ရောက်သွားသည်။ ထိုပန်းကို ၁၄ ရာစုနှစ်ကစ၍ ဂျပန်နိုင်ငံတွင် ထီးသုံးနန်းသုံး အမှတ်တံဆိပ်အဖြစ် သုံးစွဲခဲ့သည်။ ယခုအခါ ဂျပန်နိုင်ငံ၌ ချယ်ရီပန်းကဲ့သို့ပင် ထိုပန်းသည် ထင်ရှားလျက် ရှိသည်။ ထိုပန်းမျိုးသည် ဥရောပ တိုက်သို့ ၁၇၆၄ ခုနှစ်တွင် ရောက်သွားရာ ရောက်လျှင်ရောက်ခြင်းပင် ထိုပန်းမျိုးကို လူကြိုက်များလာလေသည်။

ဂန္ဓမာပန်းပင်တွင် မျိုးကွဲပေါင်း မြောက်မြားစွာ ပါဝင်



ရနံ့ကင်းသော်လည်း အဆင်းလှသည့် ဂန္ဓမာပန်းတမျိုး

သည်။ အလေ့ပေါက်များလည်းရှိ၍ စိုက်ပျိုးယူသော အပင်များလည်း ရှိသည်။ ပြုပြင်စိုက်ပျိုး ယူရသော ပန်းများမှာ အထူးပင် လှပကြ၏။ အပွင့်များတွင် အဖြူ အဝါ အနီ အပြောက် အစင်း စသည်ဖြင့် အရောင် အမျိုးမျိုး ရှိသည်။ ပုံသဏ္ဍာန်လည်း အမျိုးမျိုးရှိသည်။ အပွင့်မှာ အချင်း ၃ လက်မမှ ၈ လက်မခန့် ထိအောင် အရွယ် အမျိုးမျိုး ရှိ၏။ ပန်းပွင့်ချိန်မှာ ဆောင်းဦးပေါက်ချိန် ဖြစ်သည်။ ထိုပန်းမျိုးအားလုံး၌ အနံ့ကင်းတတ်သည်။အနံ့ရှိပါကလည်းစိမ်းရွှေရွှေ အနံ့မျိုးသက်သက်မျှသာ ရှိတတ်၏။ ဂန္ဓမာပန်းသည် ယခုအခါ ကမ္ဘာပေါ်၌ ကျော်ကြားဆုံးပန်းများတွင် အပါအဝင် ဖြစ်သည်။ ထိုအပင်မျိုးကိုစိုက်ပျိုးရန်လွယ်ကူသည့်အတိုင်း၊ အတိုင်းတိုင်းအပြည်ပြည်၌စီးပွားရေးအဖြစ် စိုက်ပျိုးရောင်းချသူများ ရှိကြသည်။

**ဂန္ဒီ၊မဟာတ္တမ** (ခရစ် ၁၈၆၉–၁၉၄၈)။ ။မြင့်မြတ်သော စိတ်ဓာတ်ကို အစွဲပြု၍၊ အိန္ဒိယနိုင်ငံ လူထု တရပ်လုံးက ‘မဟတ္တမ’ ဟု ဘွဲ့ထူး သညာအပ်နှင်းခြင်း ခံရသော မိုဟန်ဒတ် ကရမ်ချန်ဂန္ဒီသည် ခရစ် ၁၈၆၉ ခုနှစ် အောက်တိုဘာလ ၂ ရက်နေ့တွင် အိန္ဒိယပြည် အနောက်ပိုင်း ကားတိအာဝါး ကျွန်းဆွယ်၊ ပေါ်ဗန်ဒါ မြို့တွင် ဖွားမြင်လေသည်။ သူ၏ ဖခင်မှာ အိန္ဒိယ တိုင်းရင်းသားပြည်နယ်များ ဖြစ်သော ရာဂျကုတ်နှင့် ဗန်ကနာပြည်နယ်များတွင် ဒီဝန်ခေါ် အမတ်ချုပ်ကြီးဖြစ်သည်။ မိခင်ဖြစ်သူကား ဘုရားတရားကိုအလွန် ကိုင်းရှိုင်း ကြည်ညိုသူ ဖြစ်ရကား ဂန္ဒီသည် သူ၏ မိခင်ထံမှ ဘုရားတရား ကိုင်းရှိုင်းမှုကို အမွေခံခဲ့သည်ဟု ဆိုနိုင်သည်။

ဂန္ဒီသည် ငယ်စဉ်က ရာဂျကုတ်နှင့် ဘနဂါးမြို့များတွင် ပညာ သင်ကြားသည်။ ဂန္ဒီသည်မျိုးရိုးအလိုက် အသက် ငယ်ငယ်နှင့်ပင် အိမ်ထောင်ပြုရသည်။ သို့ဖြစ်၍ ၁၇ နှစ်သားအရွယ်တွင် အင်္ဂလန်ပြည် လန်ဒန်မြို့သို့ ဝတ်လုံအတတ်ကို သင်ကြားရန် အိန္ဒိယမှ ထွက်ခွာသွားသော အခါ သားသည် အဖေပင်ဖြစ်၍နေချေပြီ။ ဥပဒေပညာကို ၄ နှစ်ခန့်သင်ခဲ့ပြီးနောက် ၁၈၉၁ ခုနှစ်တွင် ဝတ်လုံ ဖြစ်၍ အိန္ဒိယပြည်သို့ ပြန်လာပြီးလျှင် ဘုံဘိုင်မြို့၌ စတင် ရှေ့နေ လိုက်လေသည်။ သို့သော် ကောင်းစွာ အကျိုးမပေးချေ။ ၁၈၉၃ ခုနှစ်၌ ကားတိအာဝါးရှိ ကုန်သည် တဦးက ငှါးရမ်းသဖြင့် တောင်အာဖရိကသို့သွားရောက်ကာ ထိုကုန်သည်၏ အမှု အတွက် ရှေ့နေလိုက်သည်။ ဂန္ဒီသည် တောင်အာဖရိက၌ ကြာကြာ နေရန် စိတ်မကူးခဲ့ချေ။ သို့သော် ကြာကြာ နေရန် အကြောင်း တရပ် ပေါ်ပေါက်လာခဲ့သည်။

ထိုအကြောင်းမှာ လူဖြူလူမဲ ခွဲခြားသော စံနစ်ကြောင့် တောင်အာဖရိက၌ ထာဝရ နေသောအိန္ဒိယ တိုင်းရင်းသားတို့သည် နိုင်ငံတော်သား အခွင့်အရေး နှင့် အခြားအခွင့်အရေးများ မရခြင်း ဖြစ်သည်။ ထိုကြောင့် ဂန္ဒီသည် နာတဲ



အိန္ဒိယအမျိုးသားခေါင်းဆောင်ကြီး မဟတ္တမဂန္ဒီ

ပြည်နယ်၌ အခြေစိုက်ကာ နာတဲ အိန္ဒိယ ကွန်ဂရက်ကို တည်ထောင်ပြီး အိန္ဒိယသား တို့၏ အခွင့်အရေးကို စတင် တိုက်ယူလေသည်။ ဂန္ဒီသည် တောင်အာဖရိကတိုက်၌ အိန္ဒိယပြည်သားတို့၏ နိုင်ငံရေးကိုကြိုးပမ်းယင်း၊ ဝတ်လုံအဖြစ်ဖြင့် ၁၇ နှစ်တိုင်လုပ်ကိုင်ခဲ့ရာမှ၊ ကမ္ဘာတွင် ဥဒါန်းတွင်ရစ်သော သူ၏နိုင်ငံ ရေးကြိုးပမ်းမှုဝါဒတို့ကို ကြံစည်တွေးတောကာ



ပြည်တွင်းလက်မှုလုပ်ငန်းကို အားပေးသည့်အနေဖြင့် မဟတ္တမဂန္ဒီကိုယ်တိုင်ချည်ငင်နေပုံ

လက် တွေ့ကျင့်သုံး ခဲ့လေသည်။ တောင်အာဖရိကတိုက်တွင် အိန္ဒိယတိုင်းရင်းသားတို့သည် တနယ်မှတနယ်သို့ ဖြတ်ကျော်ကူးပြောင်းခွင့် မရကြချေ။ ဂန္ဒီသည် ထိုအခွင့်အရေးကိုရရန် အိန္ဒိယတိုင်း ရင်းသား ၃,၀၀၀ တို့ကိုဦးစီး၍ပြည်နယ်၏နယ်နိမိတ်ကို ဖြတ်ကျော်လေသည်။ ရည်ရွယ်ချက်မှာ မတရား ချုပ်ချယ်သော ဥပဒေကို တိုက်ဖျက်ရာ၌တောင်အာဖရိကတိုက် အစိုးရက အိန္ဒိယတိုင်းရင်းသားအများကို ဖမ်းဆီးစေခြင်းအားဖြင့် အိန္ဒိယနိုင်ငံရှိ သူ၏အမျိုးသား အားလုံးတို့ နိုးကြားလာစေရန်ဖြစ်လေသည်။ ဤအာဏာဖီဆန်ရေးတိုက်ပွဲကို သစ္စာဂြဟဟူ၍ ဂန္ဒီကအမည်ပေးသည်။ သစ္စာဂြဟ၏နည်းပရိယာယ်မှာအကြမ်းမဖက်သော အနုနည်းသက်သက်ဖြင့် အာဏာဖီဆန်တော်လှန်ရန် အဓိဋ္ဌာန်တည်ဆောက်ခြင်းပင်ဖြစ်သည်။ ဤနည်းပရိယာယ်ကို အခြေခံသောဂန္ဒီ၏ ဝါဒမှာ အဟိံသဝါဒဖြစ်သည်။ အဟိံသဟူသည်ကား ပါဏာတိပါတကံကို ကြဉ်ရှောင်ခြင်းတည်း။ ဂန္ဒီသည် အဟိံသ၏သဘောတရားကို အကျယ်ချဲ့ကြည့် ပြီးလျှင်၊ ကိုယ်နှုတ်နှလုံးသုံးပါးစလုံးဖြင့်အကြမ်းမဖက်မှုကို သူ၏နိုင်ငံရေးဝါဒအနေနှင့်ပြဋ္ဌာန်းခဲ့လေသည်။

ဂန္ဒီသည် ၁၉၀၇ ခုနှစ်မှသည် သစ္စဂြဟတည်ဆောက်သော ၁၉၁၄ ခုနှစ်အထိ အလွန်ဝင်ငွေကောင်းသောရှေ့နေအလုပ်ကိုစွန့်၍ တောင်အာဖရိကအရေးကို ကြိုးပမ်းခဲ့သည်။ နောက်ဆုံး၌ တောင်အာဖရိကတိုက်ဘုရင်ခံ ဗိုလ်ချုပ်မှူးစမတ်သည် အိန္ဒိယသားတို့ကိုပညတ်သော ဥပဒေနှင့် စည်းကြပ်သောတနှစ်လျှင် ၃ ပေါင်ကျအခွန်တော်တို့ကို ပလပ်လိုက်ရလေတော့သည်။

၁၉၁၅ ခုနှစ်တွင် ဂန္ဒီသည်အိန္ဒိယပြည်သို့ပြန်လာခဲ့သည်။ ထိုအချိန်၌ ပဌမကမ္ဘာစစ်ဖြစ်၍နေပြီ။ ထိုစစ်ကိုမှီ၍ လက်အောက်ခံနိုင်ငံများသည် နိုးကြားလာခဲ့သည်။ သို့ဖြစ်ရာ အိန္ဒိယ၌ ဂန္ဒီသည်တောင်အာဖရိကအရေးထက်ကြီးကျယ်သော အိန္ဒိယနိုင်ငံရေးကြိုးပမ်းမှုကြီးကို စတင်ဆောင်ရွက်ရလေသည်။ အိန္ဒိယပြည်သို့ပြန်ရောက်လျှင်ပင် ဂန္ဒီသည် အိန္ဒိယအမျိုးသားကွန်ဂရက်၏ ဥက္ကဋ္ဌဖြစ်လာသည်။ အိန္ဒိယအမျိုးသားစိတ်ဓာတ်ကို လှုံ့ဆော်ပေးရာဖြစ်သောသတင်းစာတို့ကို လည်းတည်ထောင်ခဲ့သည်။ ဂန္ဒီ၏ 'ယန်းအိန္ဒိယသတင်းစာ' မှာအထူးကျော်ကြားခဲ့သည်။

ဂန္ဒီသည် ရုရှစာရေးဆရာကြီးတော်စတွိုင်အား အလွန်ကြည်ညိုသည်။ တော်စတွိုင်၏အတွေးအခေါ်တို့သည် ဂန္ဒီအားလွှမ်းမိုးခဲ့သည်။ ထိုကြောင့် တော်စတွိုင်၏ခြိုးခြံမှုကိုအတုယူကာ၊ တောင်အာဖရိကတိုက် ဒါဗန်မြို့၌ဖီးနစ်ဟုခေါ်သော ဓမ္မသာလာယံကျောင်း၊ ဂျိုဟန္နက်စဗတ် အနီး၌ 'တော်စတွိုင်ယာတော' ဟုခေါ်သော ဓမ္မသာလာယံကျောင်းတို့ကို တည်ထောင်သည်။ ခြိုးခြံမှု၊ စည်းကမ်းကြီးမှု၊ ကြောက်ရွံ့ခြင်းကင်းမှု စသောအကျင့်တို့ကို ထိုကျောင်းများမှ ပြုစုပေးခဲ့သည်။ စင်စစ်တော်စတွိုင်ယာတောကို တည်ထောင်သည်မှာ အိန္ဒိယနိုင်ငံရေးကြိုးပမ်းမှုကြီးအတွက် သစ္စာဂြဟတည်ဆောက်ရာတွင် အခြေခံစာရိတ္တဗလပြည့်စုံစေရန် ရည်ရွယ်ပေသည်။ ဤရည်ရွယ်ရင်းအတိုင်း ဆောင်ရွက်ရန်အခါအခွင့်မှာ အိန္ဒိယ၌ပေါ်လာခဲ့ပြန်သည်။ ဂန္ဒီသည် အိန္ဒိယပြည်အာမာဒဗတ်မြို့တွင်တော်စတွိုင်ယာတောနည်းတူကျောင်းသခ်မ်းတခုတည်ထောင်လေသည်။ ထိုကျောင်းသခ်မ်း၏ ပရိဝုဏ်မှနေ၍၊ ဇာတ်နိမ့်သူ လယ်သမား အလုပ်သမားတို့၏အရေးကို ဆောင်ရွက်ခဲ့သည်။ ဤသို့ဆောင်ရွက်ဆဲ၊ ၁၉၁၉ ခု ဧပြီလ ၁၃ ရက်နေ့တွင် ဗိုလ်မှူးချုပ်ဒိုင်ယာသည် သူ၏အာဏာကို ဖီဆန်သည်ဟုဆိုသော အိန္ဒိယတိုင်းရင်းသားလူထုအစည်းအဝေးတရပ်ကို အမ္ဗရစ်ဆာမြို့တွင် သေနတ်နှင့်ပစ်ဖေါက်၍ လူစုခွဲလိုက်သည်။ ဤအချိန်မှာ အိန္ဒိယနိုင်ငံအား ဗြိတိသျှအစိုးရက မွန်တေဂူနှင့် ချမ်းစဖို့တို့၏ အုပ်ချုပ်မှုပြုပြင်ပြောင်းလဲရေးစီမံကိန်းကို ပေးအပ်ဆဲအချိန်ဖြစ်သည်။ လူထုကို သေနတ်နှင့်ခွဲရာ၌

သေကြေဒဏ်နှိပ်ရသူ များပြားလေရာ၊ ဂန္ဒီ၌စိတ်အလွန်ထိခိုက်သွားလေရကား၊ ဗြိတိသျှအုပ်ချုပ်ရေးကို အပြင်းအထန်ဆန့်ကျင်ဖက်ပြုလုပ်သည့်လမ်းစဉ်ကို ချမှတ်လိုက်လေသည်။ ဂန္ဒီသည် မွန်တေဂူချမ်းစဖို့ပြုပြင်ရေးကို သပိတ်မှောက်သည့်ပြင် အိန္ဒိယတိုင်းရင်းသားအပေါင်းတို့သည် မိမိတို့ရရှိထားသောရာထူး၊ ဂုဏ်ထူးတို့ကိုစွန့်၍၊ ဗြိတိသျှအစိုးရတို့တည်ထောင်ထားသော ကျောင်းနှင့်အဖွဲ့အစည်းတို့မှ နုတ်ထွက်ကြပြီးလျှင်၊ အခွန်တော်ကိုပင် မပေးဆောင်ရန်ဆော်ဩလေသည်။ ဤလှုပ်ရှားမှုကြောင့် ဂန္ဒီ၏ခါဒါဝတ်ဆင်ရေးတည်းဟူသော ဝံသာနုရက်ကွက်တတရားသည် ပေါ်ပေါက်လာပြန်လေသည်။ ဂန္ဒီ၏နိုင်ငံရေးကြိုးပမ်းမှုခေတ်၌ မြန်မာပြည်တွင်လည်း ပင်နီအင်္ကျီကိုသာ ဝတ်ဆင်ရမည်ဟူသော ဝံသာနုအဖွဲ့အစည်းတို့ လှုပ်ရှားလာခဲ့လေသည်။

၁၉၂၀ ပြည့်နှစ်တွင် ဂန္ဒီသည် အစိုးရနှင့်မဆက်ဆံရေးနည်းပရိယာယ်ကို တနိုင်ငံလုံးပျံ့နှံ့အောင် ဆောင်ရွက်လေသည်။ ထိုမှစ၍ဂန္ဒီကို မဟတ္တမဂန္ဒီဟု အိန္ဒိယပြည်လူထုတရပ်လုံးက ခေါ်ဝေါ်ကြလေသည်။ ထိုအစိုးရနှင့်မဆက်ဆံရေးလုပ်ငန်းတွင်လည်း အခြေခံမှာ အနုနည်းသက်သက်



၁၉၃၁ ခုနှစ်တွင် အိန္ဒိယပြည်အတွက်အရေးဆိုရန်လန်ဒန်မြို့သို့မဟတ္တမဂန္ဒီရောက်ရှိနေစဉ်

ဖြစ်သော သစ္စာဂြဟပင်ဖြစ်၏။ သို့သော် ဗြိတိသျှဆန့်ကျင်ရေးစိတ်ဓာတ်တို့ပေါက်ကွဲသည့်အခါ အဓိကရုဏ်းများဖြစ်ပွားလာလေသည်။ ထိုကြောင့် ၁၉၂၄ ခုနှစ်တွင် ဂန္ဒီသည် ထောင်ခုနစ်နှစ် အပြစ်ပေးခြင်းခံရသည်။ သို့ပါသော်ငြားလည်း ပြည်သူ့လှုပ်ရှားမှုကြောင့် ခြောက်လအပြစ်ဒဏ်ကိုခံပြီးနောက်လွတ်လာလေသည်။

၁၉၃၀ ပြည့်နှစ်ဧပြီလတွင် ဂန္ဒီသည် အိန္ဒိယပြည်ဆားခွန်တော်ဥပဒေကိုဖေါက်ဖျက်ရန်၊ လူစုလူဝေးနှင့် ပင်လယ်ကမ်းခြေတွင် ဆားချက်လေသည်။ ဤကိစ္စကြောင့် ၁၉၃၀ ပြည့်နှစ် မေလ ၅ ရက်နေ့တွင် ဂန္ဒီသည်ထောင်ဒဏ်အပြစ်ပေးခြင်းခံရ၍၊ ၁၉၃၁ ခုနှစ်ဇန်နဝါရီလတွင်ထောင်မှလွတ်လာ၏။

ဤအချိန်၌အိန္ဒိယပြည်သည် လန်ဒန်မြို့တွင် ကျင်းပမည့်မျက်နှာစုံညီအစည်းအဝေး၌ ကိုယ်ပိုင်အုပ်ချုပ်ခွင့် အတွက်အရေးဆိုနေသောအချိန်အခါဖြစ်လေသည်။ အိန္ဒိယပြည်ဘုရင်ခံ လော့အာဝင်သည် ဂန္ဒီနှင့်စေ့စပ်ရာတွင် ဂန္ဒီသည်အာဏာဖီဆန်ရေးလုပ်ငန်းကို ခဏရပ်စဲထား၍၊ လန်ဒန်မြို့မျက်နှာစုံညီအစည်းအဝေးပွဲသို့ ကွန်ဂရက်၏ကိုယ်စားလှယ်အဖြစ်တက်ရောက်သည်။ လန်ဒန်မြို့မှပြန်လာသောအခါဂန္ဒီနှင့် အာဝင် တို့၏ စေ့စပ်ရေးမှာ ပျက်သွားပြီဖြစ်၍၊ ဂန္ဒီသည် အကျဉ်းချထားခြင်းကို ခံရပြန်သည်။ ဤတွင် ဂန္ဒီသည် အစာမစားဘဲအသေခံမည်ဟု အဓိဋ္ဌာန်ပြုသည်။ ထိုနောက်လူထု၏ ဆူပူအရေး ဆိုမှုများ ကြောင့် ဗြိတိသျှအစိုးရက သူ့အားထောင်မှလွှတ်ရပြန်သည်။

ဤအတွင်းဂန္ဒီသည်ဇာတ်နိမ့်သူများ၏အရေးကိုစွမ်းလွန်းတမံဆောင်ရွက်ရာ၊ ထောင်ကျခံရသေးသည်။ ဇာတ်နိမ့်သူတို့၏ အခွင့်အရေးကို ထောင်တွင်းမှပင်ဆက်၍ ဆောင်ရွက်ရာ၊ နောက်ဆုံး၌ဂန္ဒီကို ဗြိတိသျှအစိုးရက ထောင်မှလွှတ်လိုက်ရပြန်သည်။ ၁၉၃၄ ခုနှစ်ရောက်သော် အိန္ဒိယပြည်အုပ်ချုပ်ရေးအသစ်ပြုပြင်ပြောင်း လဲမှုများပေါ်ပေါက်သည်တွင်၊ ဂန္ဒီသည် အိန္ဒိယအမျိုးသားကွန်ဂရက်ကို ခေါင်းဆောင်ရာမှ အနားယူလိုက်သည်။ ကွန်ဂရက်ဝင်တို့အားအုပ်ချုပ်ရေးသစ်၌ ရာထူးယူ၍ဆောင်ရွက်ကြရန်ညွှန်ကြားသည်။ ထိုနောက် ကျေးလက်တောရွာပြုပြင်ရေးစခန်းဌာနချုပ်ဖြစ်သော ဆေးဗာဂရံ ရွာကလေးတွင်နေ၍ ကျေးလက်ပြုပြင်ရေးကိုဆောင်ရွက်သည်။

၁၉၃၉ ခုနှစ်၌ ဒုတိယကမ္ဘာစစ်ကြီးဖြစ်ပွားသောအခါ၊ ဂန္ဒီသည် အိန္ဒိယပြည်လွတ်လပ်မှသာလျှင် မဟာမိတ်တို့ကိုကူညီပူးပေါင်းနိုင်မည်ဟု ကျေညာခဲ့သည်။ မူလကဂန္ဒီသည်နတ်ဆီဝါဒနှင့်ဖက်ဆစ်ဝါဒကို ဆန့်ကျင်ဖက် ပြု၍ ဗြိတိသျှအစိုးရ အကျဉ်းအကျပ်တွေ့စေမည့်အလုပ်ကိုရှောင်ခဲ့သည်။ သို့သော်လွတ်လပ်ရေးအတွက် လူထုဆန္ဒပြင်းပြလာသောအခါ ဂန္ဒီသည်ဘုရင်ခံလော့လင်လစ်ဂိုက ပူးပေါင်းကူညီရန်

ဖိတ်ခေါ်သည်ကို လက်မခံခဲ့ချေ။ ကွန်ဂရက်၏သဘောထားမှာ လုံးဝလွတ်လပ်ရေးမရလျှင် မကူညီဟူသောသဘောထားဖြစ်သည်။ ထိုကြောင့် ဗြိတိသျှအစိုးရသည် ဆာစတက်ဖို့ကရစ်ကို ဂန္ဒီနှင့်စေ့စပ်ရန်စေလွှတ်သော်လည်း မအောင်မြင်ချေ။ ဂန္ဒီလည်း အာဏာဖီဆန်ရေးကိုစတင်လုပ်ဆောင်ပြန်သည်။ ထိုကြောင့် ဂန္ဒီနှင့်တကွ ကွန်ဂရက်ခေါင်းဆောင်တို့ကို စစ်အတွင်း၌ ဗြိတိသျှအစိုးရက ဖမ်းဆီးချုပ်နှောင်ထားပြန်လေသည်။ သို့သော်အစာငတ်ခံပြီးနောက် ဂန္ဒီသည် ၁၉၄၄ ခုနှစ်မေလတွင် ထောင်မှလွတ်လာပြန်သည်။ ထို့နောက် ၁၉၄၆ ခုနှစ် မေလ ၁၆ ရက်နေ့စွဲဖြင့် ထုတ်ဝေသောဗြိတိသျှ၏ စက္ကူဖြူစာတမ်းပါ အိန္ဒိယပြည်လွတ်လပ်ရေးစီမံကိန်းကို ဂန္ဒီသည်ပယ်ချခဲ့ပြန်သည်။

သို့သော်ဟိန္ဒူနှင့် မွတ်စလင်တို့သည် အိန္ဒိယနှင့်ပါကစ္စတန်ခွဲရေးတွဲရေးကိစ္စကြောင့် အကြီးအကျယ် အဓိကရုဏ်းဖြစ်နေကြသည်။ ထိုအဓိကရုဏ်းကိုပိတ်ပင်တားမြစ်ရန်ဂန္ဒီသည် ၁၉၄၇ ခုနှစ် ဇန္နဝါရီလတွင် ဗင်္ဂလားအရှေ့ပိုင်းနယ်များသို့ နယ်လှည့်တရားဟောထွက်ပြီးလျှင် ဟိန္ဒူနှင့် မွတ်စလင်တို့ သင့်တင့်ရေးအတွက် အစာငတ်ခံခဲ့သည်။ ဂန္ဒီသည် အိန္ဒိယနှင့်ပါကစ္စတန်ခွဲခြင်းကို အလိုမရှိ၊ မနှစ်သက်ချေ။ သို့သော် ရှေးအလားအလာ၌ ဟိန္ဒူမွတ်စလင်တို့စိတ်ဝမ်းကွဲမှုကိုသာ မြင်နေရ၍၊ ခွဲရေးကိုလက်ခံလိုက်ရ သည်။

ဤအတွင်း ၁၉၄၇ ခုစက်တင်ဘာလတွင် ကာလကတ္တားမြို့၌ ဟိန္ဒူ မွတ်စလင် အဓိကရုဏ်းဖြစ်ပြန်လေရာ၊ ဂန္ဒီသည် အစာငတ်ခံပြန်လေသည်။ အဓိကရုဏ်းနောက်ထပ်မဖြစ်ပွားစေရပါဟု ခေါင်းဆောင်တို့က အာမခံသောကြောင့် အစာကိုပြန်၍စားသည်။ သို့သော်လည်း ၁၉၄၈ ခုနှစ် ဇန္နဝါရီလတွင် ဟိန္ဒူမွတ်စလင်အဓိကရုဏ်းပြန်၍ဖြစ်ပြန်လေသည်။ ထိုကြောင့်ဇန္နဝါရီလ ၁၃ ရက်နေ့တွင် အစာငတ်ခံပြန်သည်။ ယင်းသို့အစာငတ်ခံ၍နာရီပေါင်း ၁၂၁ နာရီနှင့် ၄၅ မိနစ်စေ့သောအခါ၊ ဟိန္ဒူ၊ ဆစ်နှင့် မွတ်စလင်ခေါင်းဆောင်တို့သည် သင့်မြတ်ညီညွတ်ရေးကတိကိုဂန္ဒီအားပေးကြသဖြင့် ဂန္ဒီသည်အစာကို ပြန်၍စားပြန်သည်။ ဇန္နဝါရီလ ၂၀ ရက်နေ့တွင်ဟိန္ဒူလူငယ်တဦး သည် ဟိန္ဒူမွတ်စလင်ငြိမ်းချမ်းရေးကိုမလိုလားသောဆန္ဒကိုပြသည့်အနေနှင့် ဂန္ဒီ၏နေအိမ်အနီး၌ ဗုံးဖောက်ခဲ့သည်။ ဂန္ဒီသည် ထိုသူငယ်အား အပြစ်မှခွင့်လွှတ်ပါရန် မေတ္တာရပ်ခံလေသည်။

ဇန္နဝါရီလ ၃၀ ရက်နေ့ ညနေ ၅ နာရီ ၁၀ မိနစ်အချိန်တွင် ဂန္ဒီသည် ဒေလီမြို့ရှိ သူ၏ ဗိယာလာနေအိမ်၌ ဘုရားဝတ်ပြုရန် အလာတွင် ဟိန္ဒူလူငယ်တဦးဖြစ်သော ဂတ်ဆေးဆိုသူသည် ဂန္ဒီကိုခြောက်လုံးပူးနှင့်သုံးချက်ပစ်သည်။ ဂန္ဒီသည်နာရီဝက်ခန့်ကြာသောအခါ အနိစ္စရောက်လေသည်။ နောက်တနေ့၌ ဂန္ဒီ၏ရုပ်ကလာပ်ကို နေအိမ်မှယမုနာမြစ်ကမ်းခြေသို့ပို့ဆောင်ကြပြီးလျှင် မီးသင်္ဂြိုဟ်၍ ဂန္ဒီ၏ပြာကို ယမုနာရေအယဉ်၌ မျှောလိုက်ကြလေသည်။

**ဂန္နက်ငှက်။** ။ဂန္နက်ငှက်သည် သမပိုင်းပင်လယ်တွင်ကျက်စားသော စုလီဒေးမျိုးရင်းဝင် ငှက်ကြီးတမျိုးဖြစ်သည်။ တင်ကျီးနှင့်အတူ ပယ်လီကင်နီဖေါင်း မျိုးစဉ်တွင်ပါသော်လည်း အသွင်အပြင်အားဖြင့် တင်ကျီးနှင့်မတူချေ။ ဦးခေါင်းနှင့်လည်ပင်း အနည်းငယ်ဝါ၍၊ အတောင်ဖျားမည်းသည်မှတပါး တကိုယ်လုံးဆွတ်ဆွတ်ဖြူနေသည်။ ကိုယ်လုံးမှာ ၃ ပေခန့်ရှည်သည်။ ဝမ်းဘဲခြေမျိုးရှိသည်။ ချွန်ထက်သောနှုတ်သီးမှာ ရှည်၍ကောက်၏။

အခြားသောပင်လယ်ငှက်များနည်းတူ ဂန္နက်ငှက်တို့သည် ငါးဖမ်းရာ၌ အလွန်ကျင်လည်သည်။ ရေမျက်နှာပြင်၏အထက် ပေ ၁၀၀ ခန့်အမြင့်၌ ပျံဝဲနေပြီးလျှင် ရေထဲတွင်မြင်ရသောငါးကို ရုတ်တရက်ထိုးဆင်း၍ ဖမ်းယူနိုင်သည်။

ဂန္နက်ငှက်သည် ကျောက်ဆောင်များပေါ်၌ အသိုက်လုပ်တတ်သည်။ သာမန်အားဖြင့် တကြိမ်လျှင် ဥတလုံးသာအုလေ့ရှိသည်။ ဤငှက်မျိုးတွင်မျိုးကွဲများရှိသည်။ ဂန္နက်ငှက်အညိုမျိုးကို အပူပိုင်းဒေသပင်လယ်များ၌တွေ့ရသည်။ မြန်မာနိုင်ငံ တနင်္သာရီကမ်းခြေ၌ ရံဖန်ရံခါတွေ့ရှိရသည်။

ကျောက်ဆောင်ပေါ်တွင် အသိုက်လုပ်လေ့ရှိသည့်ဂန္နက်ငှက်



**ဂိန်းစဗားရား, တီ** (ခရစ် ၁၇၂၇–၁၇၈၈)။ ။ဗြိတိန်ပြည်၏ ပန်းချီအနုပညာကို ရှေ့တန်းသို့ပို့ဆောင်ခဲ့သောပုဂ္ဂိုလ်များအနက် တောမတ်ဂိန်းစဗားရားသည် တယောက်အပါအဝင်ဖြစ်သည်။ လူပုံတူနှင့် ရှုခင်းများ ရေးခြယ်ရာတွင် ကဝိမြောက်တဦးဖြစ်၏။ ဂိန်းစဗားရားသည် ခရစ် ၁၇၂၇ ခုနှစ်တွင် ဆပ်ဖတ်ခရိုင် ဆဒ်ဗာရီမြို့၌ မွေးဖွား၏။ မွေးချင်း ၉ ယောက်အနက်အငယ်ဆုံးဖြစ်၏။ အသက် ၁၄ နှစ်သား



ကိုယ်တိုင်ရေးဆွဲသော တောမတ်ဂိန်းစဗားရား၏ပုံတူပန်းချီကား



အင်္ဂလိပ်လူမျိုးပန်းချီကျော် ဂိန်းစဗားရား၏လက်ရာ

ကပင် တောမတ်သည် သူနေထိုင်သည့် အရပ်ပတ်ဝန်းကျင်ရှိ ရှုခင်းများကိုရေးခဲ့သည်။ ထိုနောက်သူ၏ဖခင်က ကလေး၏ ဝါသနာနှင့် အရည်အခြင်းကိုသိ၍ လန်ဒန်မြို့သို့ပို့ပြီးလျှင် ဟျူးဗတ်ဂရေ့ဗလောထံ၌ အက်ချင်းခေါ် စားဆေးဖြင့်ပုံဆွဲခြင်းအတတ်ကို သင်ယူစေသည်။ ၁၇၄၅ ခုနှစ်တွင် တောမတ်သည် အစ်ပစွစ်မြို့၌နေထိုင်ကာ ရှုခင်းပန်းချီကားများနှင့်ပုံတူကားများကိုရေးဆွဲလေသည်။ ၁၇၆၀ ပြည့်နှစ်တွင် ဗသမြို့သို့ပြောင်းရွှေ့၍ ပုဂ္ဂိုလ်ကျော်ကြီးများ၏ပုံတူပန်းချီကားများကိုရေးဆွဲလေရာ၊ သတင်းကြီးလာသည်။ ထိုနောက် လန်ဒန်မြို့တော်သို့ပြောင်းရွှေ့၍ တတိယဂျော့ဘုရင်နှင့် မိဖုရားတို့၏ ပုံတူကားများနှင့် အခြားထင်ရှားသော ယောကျ်ားမိန်းမကခြေသည်များကို ရေးဆွဲသည်။

ဂိန်းစဗားရားက ရှုမျှော်ခင်းကားများရေးဆွဲခြင်းကိုသာ စိတ်ပါသည်ဖြစ်သော်လည်း ထိုခေတ်ကလူများတို့သည် ထိုကားများကို တန်ဖိုးမထားတတ်ကြချေ။ ထိုကြောင့်လူပုံတူများကိုသာ တွင်ကျယ်စွာရေးဆွဲခဲ့ရသည်။ ၁၇၆၈ ခုနှစ်တွင် ဂိန်းစဗားရားသည်တော်ဝင်အနုပညာတံခွန်အသင်းကြီးသို့ဝင်ခွင့်ရခဲ့၏။ အသင်းကြီးသို့ သူရေးဆွဲသည့် ရှုမျှော်ခင်းနှင့် လူပုံတူကားများကိုပေးပို့ခဲ့ရာတွင် လူပုံတူကားသုံးခုအတွက် အသင်းကြီးနှင့် မကျေမနပ်ဖြစ်သောကြောင့် အသင်းဝင်အဖြစ်မှနုတ်ထွက်ပြီးလျှင်၊ သီးခြားပြခန်းတခုဖွင့်လှစ်လေသည်။ သို့သော်လည်းသူ၏ပြခန်းမှာ သူမြှော်မှန်းသလောက်မအောင်မြင်ခဲ့ချေ။

ဂိန်းစဗားရားသည် အလွန်ခေါင်းမာသူတယောက်ဖြစ်သည့်အလျောက် ဆာဂျော့ရှာရေးနော့နှင့်လည်း အတိုက်အခံဖြစ်ခဲ့သေး၏။ (ရေးနော့, ဆာဂျော့ရှာ—လည်းရှု။) သူ၏လက်ရာပြောင်လှသော ပန်းချီကားများကိုတွေ့ရှိရသဖြင့်လည်း ဂိန်းစဗားရားသည် ရေးနော့ထက်မသာသာအောင် ကြိုးစားခဲ့သည်ဟုယူဆရပေသည်။ သို့သော်၎င်းပုဂ္ဂိုလ် ၂ ဦးတွင် မည်သူကပို၍တော်သည်ဟုပြောနိုင်ရန်ခဲယဉ်းသည်။ ပညာတူသဖြင့် ရန်သူသဖွယ်ဖြစ်ကြသော်လည်း ဂိန်းစဗားရားသည် သူမသေမီကလေးတွင်ဆာရေးနော့ကိုခေါ်ယူပြီးလျှင် သူတို့၏ယခင်ကမကျေနပ်မှုများကို ခဝါချကာ မိတ်ကောင်းဆွေကောင်းကဲ့သို့ သဘောထားကြရန် ပြောကြားသွားလေသည်။ ဂိန်းစဗားရားသည် ၁၇၈၈ ခုနှစ်ဩဂုတ်လ ၂ ရက်နေ့တွင်ကွယ်လွန်လေသည်။

ဂုဏ် ၁၀ ပါး။ ။ဂုဏ်ဆိုသည်မှာ ဂုဏဟူသောပါဠိမှလာသောစကားဖြစ်သည်။ အဓိပ္ပါယ်ကား အထင်အရှားပြခြင်းဟူ၍ ဖြစ်လေသည်။ သို့ဖြစ်၍ အထည်ကိုယ်ဒြဗ်ကို ထူးခြားထင်ရှားအောင်ပြသောအခြင်းအရာကို ဂုဏ်ဟုခေါ်ဝေါ် သုံးနှုန်းကြလေသည်။

ဂုဏ်သည်သက်ရှိသက်မဲ့အရာအားလုံးနှင့်သက်ဆိုင်သည်။ စာပေ၌လည်း ဂုဏ်ဟုခေါ်သောထူးခြားသည့်အခြင်းအရာရှိသည်။ စာဆိုပုဂ္ဂိုလ်တို့သည်စာကိုပညာရှိများနှစ်သက်ကြစေရန် တန်ဆာဆင်၍ရေးသားဖွဲ့ဆိုလေ့ရှိကြရာ၊ ယင်းသို့ဖွဲ့ဆိုသဖြင့်ထင်ရှားစွာပေါ်ထွက်လာသည့်နှစ်သက်ဖွယ်အခြင်းအရာကိုပင် စာပေ၌ ဂုဏ်ဟုခေါ်ရသည်။ ယင်းကိုသဒ္ဒါလင်္ကာရ ဟူ၍လည်းခေါ်သည်။ သုဗောဓာလင်္ကာရကျမ်း၌ စာပေအရေးအသားနှင့်ဆိုင်သောဂုဏ် ၁၀ ပါးရှိကြောင်းပြထားလေသည်။ ယင်းတို့မှာအကျဉ်းအားဖြင့်အောက်ပါအတိုင်းဖြစ်လေသည်။

၁။ ပသာဒဂုဏ် ............ကြည်ညိုဖွယ်ရှိခြင်း
၂။ ဩဇဂုဏ် ................သိပ်သည်းလေးနက်ခြင်း
၃။ မဓုရတာဂုဏ် ........ချိုသာနာပျော်ဖွယ်ရှိခြင်း
၄။ သမတာဂုဏ် ............အသံညီမျှခြင်း
၅။ သုခုမာလတာဂုဏ်....သိမ်မွေ့နူးညံ့ခြင်း
၆။ သိလေသဂုဏ် ........ပြေပြစ်သောပုဒ်ရှိခြင်း
၇။ ဥဒါရတာဂုဏ် ........လွန်ကဲသောဂုဏ်ရှိခြင်း
၈။ ကန္တိဂုဏ် ................နှစ်သက်ဖွယ်ရှိခြင်း
၉။ အတ္တဗျတ္တိဂုဏ် ........အနက်ထင်ရှားခြင်း
၁၀။ သမာဓိဂုဏ် ............တင်စားခြင်း

အကျယ်အားဖြင့်ကား

၁။ စကားစပ်နီး၍ အနက်သိလွယ်သောပုဒ်များဖြင့်ရေးသားသော အဖွဲ့မျိုးကို ပသာဒဂုဏ်နှင့်ပြည့်စုံသည်ဟုဆိုရသည်။

ပုံစံ။ ။ပရိက္ခရာ၊ ဥစ္စာအိမ်ထောင်၊ ကုန်အောင်ခြွေရှေ၊ စွန့်ခဲ့ပေ၍၊ မနေလူ့ရပ်၊ တောသို့ကပ်လည်း။ (ပါရမီခန်း)။

၂။ စကားလုံးများကို သိပ်သည်းကျစ်လစ်အောင် ပေါင်းစပ်၍ ရေးသားသောအဖွဲ့၊ အကျဉ်းကို အကျယ်ချဲ့၍ အကျယ်ကို အကျဉ်းချုံး၍ ရေးသားသောအဖွဲ့မျိုးကို ဩဇဂုဏ်နှင့်ပြည့်စုံသည်ဟု ဆိုရသည်။

ပုံစံ။ ။သံဝိအစ၊ ဝန္နလေးလီ၊ ဌာယီနှစ်ပါး၊ ပျက်ပွားတည်မှု၊ ကမ္ဘာပြုကို၊ အနုသန္ဓေ၊ ရှန်းရှန်းဝေစိမ့်၊ (လောကဝိဒူမော်ကွန်း)။

၃။ အသံတူ ဌာန်တူအက္ခရာများပါသည့် ပုဒ်ကို များစွာ အသုံးပြု၍ ရေးသားသော အဖွဲ့၊ အက္ခရာတူပုဒ်တို့ကို ထပ်ကာထပ်ကာ အသုံးပြု၍ရေးသားသောအဖွဲ့မျိုးကို မဓုရတာဂုဏ်နှင့်ပြည့်စုံသည်ဟု ဆိုရသည်။

ပုံစံ။ ။နီလာပတ္တမြား၊ မျက်ကိုးပါးလည်း၊ ဘုရားမြတ်မွန်၊ လာမည်မှန်ဟု။ (ဂါထာခြောက်ဆယ်ပျို)။

၄။ ပဒတိုင်း၌ အသံနူးညံ့သော သိထိလအက္ခရာများများ အညီအမျှထား၍ဖြစ်စေ၊ အသံကြမ်းတမ်းသောဓနိတအက္ခရာများများအညီအမျှထား၍ဖြစ်စေ၊ သို့မဟုတ် နှစ်မျိုးအညီအမျှ စီထား၍ဖြစ်စေ ရေးသားသော အဖွဲ့မျိုးကို သမတာဂုဏ်နှင့်ပြည့်စုံသည်ဟုဆိုရသည်။

၅။ အသံနူးညံ့သော သိထိလအက္ခရာများများ သုံး၍ အရွတ်အဆိုခက်သောပုဒ်များမပါအောင် ရေးသားသောအဖွဲ့မျိုးကို သုခုမာလတာဂုဏ်နှင့်ပြည့်စုံသည်ဟု ဆိုရသည်။

၆။ ဌာန်ချင်းနီးသော အက္ခရာများ ပေါင်းစုထားဆည့် ပုဒ်မျိုးဖြင့် ရေးသားလျက် ဓနိတအက္ခရာလည်း အနည်းငယ်ပါသောအဖွဲ့မျိုးကို သိလေသဂုဏ်နှင့်ပြည့်စုံသည်ဟု ဆိုရသည်။

(အဆိုပါဂုဏ် ၃ မျိုးမှာပါဠိဘာသာအဖွဲ့များ၌သာ ထင်ရှားသည်။)

၇။ အလွန်အကျူးထူးခြားလွန်ကဲခြင်းကို ရေးသားသောအဖွဲ့ကို ဥဒါရတာဂုဏ်နှင့်ပြည့်စုံသည်ဟုဆိုရသည်။

ပုံစံ။ ။မုန်ညင်းစေ့တွင်း၊ ဝင်၍စကြႍ၊ သွားစံပပ၊ နေလကိုင်မှီ။ (မဃဒေဝလင်္ကာ)။

၈။ အလွန်အမင်းခြီးကျူးမှုကို လူအများနှစ်သက်အောင် လောကပြောရိုးပြောစဉ်ထက်မလွန်စေပဲ၊ ရေးသားသော အဖွဲ့ကိုကန္တိဂုဏ်နှင့်ပြည့်စုံသည်ဟုဆိုရသည်။

ပုံစံ။ ။တက်ဘိုဘဝဂ်၊ ကောင်းကင်ကက်ဖြင့်၊ ချင့်တွက်မနိုင်၊ ဉာဏ်မကျိုင်ကို၊ (ပါရမီတော်ခန်း)။

၉။ သဒ္ဒါအနက်အားဖြင့်ဖြည့်စွက်ရန်၊ ဆွဲယူရန်မလိုအောင် ပြည့်စုံထင်ရှားစွာရေးသားသော အဖွဲ့ကို အတ္တဗျတ္တိဂုဏ်နှင့်ပြည့်စုံသည်ဟု ဆိုရသည်။

ပုံစံ။ ။ပုဗ္ဗကမ္မ၊ ရှေးကပြုသား၊ ကောင်းမှုထဲနှီး၊ ဘုန်းတန်းကြီး၍၊ မင်းထီးဖြစ်လောက်၊ ဘွားလတ်မြောက်က၊ ထိတ်ကြောက်အန္တရာယ်၊ ရှင်းရှင်းပယ်၍၊ မခြယ်စိုးစိ၊ မမှေးငြိတည်း။ (ပါရမီတော်ခန်း)။

အဆွေ၌မှာ၊ သက်တရာလျှင်၊ မနာမဖျား၊ မြင်လိုငြား၏။ (မဟာသုတသောမပျို)။

၁၀။ လောကစည်းကမ်းနှင့်မဆန့်ကျင်အောင် တင်စား၍ ရေးသားသောအဖွဲ့ကို သမာဓိဂုဏ်နှင့် ပြည့်စုံသည်ဟုဆိုရသည်။

သုဗောဓာလင်္ကာရကျမ်း၌ သမာဓိဂုဏ်ကို တဖန် ၆ မျိုးခွဲခြား၍ ပြဆိုပြန်သည်။ ယင်း ၆ မျိုးကို

အောက်တွင်ပုံစံနှင့်တကွရေးသားဖော် ပြပါအံ့။

(က) သက်ရှိသတ္တဝါတို့၏သဘောကိုသက်မဲ့အရာဝတ္ထု၌ တင်စား၍ဖွဲ့ဆိုခြင်း

ပုံစံ။ ။ထားဝယ်မှိုင်းလည်း၊ ဆိုင်းဆိုင်းဝန်းကျင်၊ ဘုရားရှင်ကို၊ အကြင်လူနတ်၊ ပရိသတ်တို့၊ ရှိညွတ်နမော်၊ သာစုခေါ်လျက်၊ ပူဇော်ကြထွေ၊ ဆွတ်သာစေဟု၊ ပင်ခြေမကြွင်း၊ ညွတ်ကုန်လျှင်းသည်။ (ဂါထာခြောက်ဆယ်ပျို့)။

(ခ) ပုံသဏ္ဌာန်ရှိသော ဝတ္ထုတို့၏သဘောကို ပုံသဏ္ဌာန်မရှိသောအရာ၌တင်စားခြင်း

ပုံစံ။ ။ချမ်းသာဝင်းဝင်း၊ ပြည်မင်းဗိမာန်၊ မြိုက်နိဗ္ဗာန်နှင့်။ (ဆုတောင်းခန်း)။

(ဂ) အရသာရှိသော ဝတ္ထု၏သဘောကို အရသာမရှိသောဝတ္ထု၌တင်စားခြင်း

ပုံစံ။ ။ဓမ္မခန္ဓာ၊ ငါ့ပညာဟု၊ အင်္ဂါကိုးမည်၊ ရင်နို့ရည်ကို၊ ချမ်းကြည်သောက်များ။ တက်စီးပွား၍။ (ပါရမီတော်ခန်း)။

(ဃ) အရည်၏သဘောကို အရည်မဟုတ်ရာ၌တင်စား၍ဖွဲ့ဆိုရေးသားခြင်း

ပုံစံ။ ။ဆေးသေလေးကျောက်၊ မင်္ဂရည်သောက်က၊ ရှင်မြောက်လန်းလန်း။ (ဆုတောင်းခန်း)။

(င) ပြုလုပ်တတ်သူ၏သဘောကို မပြုလုပ်တတ်သောအရာ၌တင်စားခြင်း

ပုံစံ။ ။အကြံယုတ်မာ၊ မိစ္ဆာလည်းမည်၊ အုံစည်မှက်ရဲ၊ ကိုက်ဆွဲခဲ၍။ (ဆုတောင်းခန်း)။

(စ) အစိုင်အခဲဖြစ်သောဝတ္ထု၏ သဘောကို အစိုင်အခဲမဟုတ်သောဝတ္ထု၌တင်စားခြင်း

ပုံစံ။ ။အစောက်မတ်လတ်၊ မာန်တောင်ထွတ်ကို၊ တိမ်းညွတ်တောက်တို၊ မင်္ဂစွမ်းဖြို၍။ (ဆုတောင်းခန်း)။

ဤဂုဏ် ၁၀ ပါးအဓိပ္ပါယ်ကိုကျက်မှတ်ရလွယ်အောင်၊မန်လည်ဆရာတော်ဘုရားကြီးသည် မဃဒေဝလင်္ကာသစ်ဂိုဏ်း၌၊ အောက်ပါအတိုင်းဖွဲ့ဆိုထားသည်။

ပသာဒေါဇော၊ သဘောထင်စွာ၊ အလင်္ကာနှိုက်၊ ဂါထာယခင့်၊ ကျူးဆိုဖွင့်သား၊ စပ်သင့်ပုဒ်စဉ်၊ နီးယှဉ်တင့်တယ်၊ သိလွယ်အနက်၊ နှစ်ချက်စုံလှ၊ ပသာဒတည့်၊ ဩဇမှာကား၊ သမာသ်များနှင့်၊ စကားနာဖွယ်၊ ကျဉ်းကျယ်ချဲ့ ချုံ့၊ မှတ်ပုံလက္ခဏာ၊ စွဲသေချာရှင့်၊ တဖြာထိုမှ၊ ဒီဃပုဒ်ချင်း၊ ရဿချင်းနှင့်၊ ဌာန်ခြင်းတူဟုတ်၊ သံယုဂ်ပါယို၊ ခနိပါခြင်း၊ ပုဒ်ချင်းနီးစွာ၊ လွန်သာယာသည့်၊ ပဒါသတ္တိ၊ မည်ရှိခေါ်ပြု၊ မဓုရတာ၊ ခရာဝှုပုဒ်၊ ထပ်ထပ်ထုတ်လည်း၊ သမုတ်သညာ၊ အနုပ္ပါသ၊ မဓုရတည့်၊ ပဒလေးလီ၊ သိထိလချင်း၊ ညီစေခြင်းနှင့်၊ မယွင်းခနိ၊ ညီစွာချိက၊ မိဿရေရာ၊ သံးမျိုးပါလည်း၊ သမတာခေါ်ထုံး၊ လေးပုဒ်လုံးနှိုက်၊ စီကုံးသိထိ၊ များစေဘိလျက်၊ ခနိတက္ကရာ၊ နည်းမျှသာလျှင်၊ ပါသည်အချင်း၊ သိမ်မွေ့ခြင်းနှင့်၊ သေခြင်းဟူစွာ၊ လူ့ဝေါဟာကို၊ နတ်ရွာစံကြွ၊ ဆိုခြင်းစသား၊ ဂါမ္ပကင်းဝေး၊ ယဉ်ကျေးသမှု၊ ခေါ်ဝေါ်ပြုလည်း၊ သုခုမာလ၊ မည်ထတသီး၊ ဌာန်နီးစသည်။ ပေါင်းတည်ပုဒ်ချင်း၊ မကွာခြင်းနှင့်၊ မကင်းခနိ၊ ပါဘိနည်း၊ လှ၊ သိလေသတည့်။ ကဲဆလွန်ကျူး၊ ဂုဏ်ထူးအယို၊ ပြဆိုဘိနှင့်၊ ဝိသေသန၊ ပါသမျှကား၊ ဥဒါရတာ၊ မှတ်ကုန်ရာ၏၊ လူ့ရွာထုံးတမ်း၊ စည်းကမ်းမလွန်၊ ပညဝန်တို့၊ ကောင်းမွန်နှစ်လို့၊ ခြင်းရာတို့ကား၊ ရှင်ပျို့နာအီ၊ ဂုဏ်ကန္တိတည့်၊ ထို့ပြီအပ၊ နေယျပြစ်ကွာ၊ သဒ္ဒါအနက်၊ မထည့်စွက်ဘဲ၊ နှစ်ချက်အရ၊ ထင်စွာလှကား၊ အတ္ထဗျတ္တိ၊ သက်ယှိမှုရာ၊ သက်မဲ့မှာလျှင်၊ တင်ကာခေါ်ခြင်း၊ အဆင်းယှိမြော်၊ ဆင်းမဲ့ပေါ်တွင်၊ တင်ခေါ်သာညီ၊ ရသာယှိကို၊ မယှိနှိုက်တည်၊ အရည်မဟူ၊ အရည်မူငြား၊ ကတ္တားယှိတဲ့၊ ကတ္တုမဲ့နှိုက်၊ တင်ဖွဲ့တဖြာ၊ စိုင်ခဲမာကို၊ ခိုင်မာမဲ့ထက်၊ တင်လျက်ခေါ်ဘိ၊ သမာဓိဟု။ ကဝိလက္ခဏာ၊ ဂုဏ်ဆယ်ဖြာလည်း၊ အလင်္ကာကြီး၊ ပုဒ်တိုင်းပြီးသည်၊ မိုးလော့နောက်လူဥာဏ်ခိုးတည်း။ ဦးထွန်းမြင့်။

**ဂိုဏ်း**။ ။ဂိုဏ်းဆိုသည်မှာပါဠိစကားဂဏမှဖြစ်လာသောမြန်မာစကားဖြစ်သည်။ ဂဏသည် အစုကိုဟောသည်။ ဂိုဏ်းသည် ပါဠိဂါထာနှင့်မြန်မာကဗျာတို့ကိုဖွဲ့ရာတွင် အရေးတကြီး လိုက်နာရသောစည်းကမ်း တရပ်ဖြစ်ပေသည်။ ထို့ကြောင့်လည်း သျှင်ရဋ္ဌသာရသည် ကိုးခန်းပျို့၌ အောက်ပါအတိုင်း ဖွဲ့ဆိုခဲ့ခြင်းဖြစ်သည်။

ဆိုရေးတွက်က၊ ပဒက္ခရ၊ ဝဏ္ဏမတြာ၊ ဂါထာ
ဝန်းဂိုဏ်း၊ ကရိုက်းပယုတ်၊ ဌာန်မချွတ်တည့်၊
ဟောရွတ်ပီပြင်၊ မလျှင်မတုန်၊ နှုတ်အာဂုဏ်နှင့်၊
မမှုန်မမှိုင်၊ မယိုင်မယိမ်း၊ မတိမ်းမဆွံ့၊ မရွံ့မထိတ်၊
ခြသေ့စိတ်သို့၊ ဖိုလ်ဟိတ်သွယ်ခိုင်း၊ တခွန်းလှိုင်း
က၊ လူတိုင်းအံ့အဲနာမရဲတည့်။

ပါဠိဂါထာဖွဲ့ရာ၌ အက္ခရာအရေအတွက်ကို အခြေပြု၍ဂရုလဟုခွဲကာဖွဲ့နည်းနှင့်၊ ဂရုလဟုခွဲကာမတြာအရေအတွက်ကို အခြေပြု၍ဖွဲ့နည်းဟု နှစ်နည်းရှိသည်။ (ဂါထာ — ရှု။) အက္ခရာဖြင့်ဖွဲ့နည်းတွင် 'အက္ခရာသုံးခု၊ တဂိုဏ်းပြုလော့၊ စတုဠဝယ်၊ အဆုံးပယ်မှု၊ အစအဆုံး၊ မသုံးပဋ္ဌ၊ နှစ်ဂိုဏ်းဆတည့်။ သတ္တအဋ္ဌ၊ စသည်တို့မှာ၊ ရွေးနည်းသာလျှင်၊ စာနာထောက်ထား၊ ကြံစူးစား၍၊ မမှားယူသင့်သည်တကား' ဟူသော ဆရာတော်ဦးဗုဒ်၏ ဆန်းလင်္ကာအရ သုံးလုံးကို တဂိုဏ်းယူရသည်။ လေးလုံးရှိလျှင် အဆုံးလုံးကိုပယ်ရသည်။ ငါးလုံးရှိလျှင် အစလုံးနှင့်အဆုံးလုံးကိုပယ်ရသည်။ ခြောက်လုံးရှိလျှင် နှစ်ဂိုဏ်းယူရသည်။ ခုနစ်လုံးရှစ်လုံးရှိလျှင် ရွေးနည်းအတိုင်း ထောက်ဆ၍ယူရလေသည်။

ဤတွင်ဂရု လဟုခွဲနည်းကို ဤသို့သိရာ၏။ 'ရုံးစုပေါင်းစည်း၊ ဂိုဏ်းယူနည်းကို၊ ကမ္ပည်းတင်မှုနိဒါန်းပြုပိမ့်၊ ဗိန္ဒုဒီဃ၊ သံယောဂကို၊ မြင်ကဂရု၊ လဟုရဿ၊ မှတ်ကြပြီးခါ' ဟူသော ဆရာတော်ဦးဗုဓ်၏ ဆန်းလင်္ကာအရ ဗိန္ဒုခေါ် သေးသေးတင်ပါသော အက္ခရာကိုရင်း၊ ဒီဃခေါ် အသံရှည်အက္ခရာကိုရင်း၊ သံယုတ်ခေါ် အသတ်ရှိသောအက္ခရာကိုရင်း၊ ဂရုဟုယူရသည်။ (သို့သော်တခါတရံ ပါဒ၏အဆုံးလဟုအက္ခရာကိုလည်း ပါဒန္တဂရုဟု ယူရသေးသည်။) ရဿခေါ် အသံတိုအက္ခရာများကို လဟုယူရသည်။

ဂရုကိုဂငယ်အက္ခရာဖြင့်ရင်း၊ လဟုကိုလအက္ခရာဖြင့်ရင်း မှတ်၍ပြရသော် (၁) ဂဂဂ သည်မဂိုဏ်း (၂) လလလသည် နဂိုဏ်း (၃) ဂလလသည်ဘဂိုဏ်း (၄) လဂဂသည်ယဂိုဏ်း (၅) လဂလသည်ဇဂိုဏ်း (၆) လလဂသည်သဂိုဏ်း (၇) ဂလဂသည်ရဂိုဏ်း (၈) ဂဂလသည်တဂိုဏ်းဟူ၍ ဂိုဏ်းရှစ်ပါးရှိသည်ကိုတွေ့ရသည်။ ထိုရှစ်ပါးတွင် မ၊ န၊ ဘ၊ ယ၊ ဂိုဏ်းလေးပါးကို အလိုရှိအပ်သောဣဋ္ဌဂိုဏ်းများဟုခေါ် သည်။ ဇ၊ သ၊ ရ၊ တ၊ ဂိုဏ်းလေးပါးကို အလိုမရှိအပ်သောအနိဋ္ဌဂိုဏ်းများဟုခေါ် သည်။ ဤဂိုဏ်းတို့ကိုနတ်များစောင့်၍ ယင်းတို့နှင့် နက္ခတ်များ ယှဉ်သည်ဟူ၍ လည်းဆိုသည်။ ဤအချက်တို့ကိုအလွယ်တကူမှတ်နိုင်ရန် ပညာရှင်များသည် အောက်ပါသင်္ကေတ လင်္ကာကို ဖွဲ့ဆိုခဲ့ကြသည်။

| လင်္ကာ | ဂိုဏ်း | စောင့်နတ် | ယှဉ်နက္ခတ် | ဣဋ္ဌ၊ အနိဋ္ဌ |
|---|---|---|---|---|
| ၁။ ဘူလမိ ဂလလ | ဘ | လနတ် | မိဂသီ | ဣဋ္ဌ |
| ၂။ နသိဘ လလလ | န | သိကြား | ဘရဏီ | ။ |
| ၃။ ယတိ' သတ် လဂဂ | ယ | တိမ်နတ် | သတ္တဘိသျှ | ။ |
| ၄။ မတ်ဘုံဇေ ဂဂဂ | မ | ဘုမ္မစိုး | ဇေဋ္ဌ | ။ |
| ၅။ ဇနေပု လဂလ | ဇ | နေနတ် | ပုနဗ္ဗသျှု | အနိဋ္ဌ |
| ၆။ သုလိသွာ လလဂ | သ | လေနတ် | သွာတိ | ။ |
| ၇။ ရာမိကြတ် ဂလဂ | ရ | မီးနတ် | ကြတ္တိကာ | ။ |
| ၈။ တတ်အာသ ဂဂလ | တ | အာကာသစိုး | သရဝဏ် | ။ |

မတြာဖြင့်ဖွဲ့နည်းတွင် လေးမတြာကို တဂိုဏ်းယူရသည်။ ဂရုတလုံးကို နှစ်မတြာဖြင့်ရင်း၊ လဟုတလုံးကို တမတြာဖြင့်ရင်း မှတ်၍ပြရသော်—

(၁) ဂ + ဂ = ၂ + ၂ ကိုမဂိုဏ်း၊
(၂) လ + လ + လ + လ = ၁ + ၁ + ၁ + ၁ ကိုနဂိုဏ်း၊
(၃) ဂ + လ + လ = ၂ + ၁ + ၁ ကိုဘဂိုဏ်း၊
(၄) လ + ဂ + လ = ၁ + ၂ + ၁ ကိုဇဂိုဏ်း၊
(၅) လ + လ + ဂ = ၁ + ၁ + ၂ ကိုသဂိုဏ်း

ဟူ၍ဂိုဏ်းငါးပါးရှိသည်ကိုတွေ့ရသည်။

မြန်မာမှု၌ကဗျာဖွဲ့ရာတွင် အထက်ပါအက္ခရာဖြင့်ဖွဲ့နည်းကိုလိုက်နာကြ၏။ သို့သော်ကဝိကဏ္ဍပါသကျမ်းလာအောက်ပါလင်္ကာထွက် နည်းကိုလည်းအချို့လိုက်နာခဲ့ကြပုံရသည်။

သပြေဇမ္ဗူ၊ ကျွန်းလုံးသူဝယ်၊ မှန်ကူမှန်ကင်း၊ တို့ရာစင်း၏၊ တကွင်းစံတည်၊ ခေါင်ငုံရည်သား၊ မျိုးမည်ရွှေလှော်၊ ငါညီတော်။ ။ထွန်းပေါ် ရောင်ခြည်၊ သို့ချည်းတည်သား၊ ဤသည်ပုဒ်တွင်၊ ထွန်းကိုလျှင်တည့် ၊ မြဲပင်ပယ်သင့်၊ သိစေလင့်လော့။ ။နန်းနှင့်ရွှေပြည်၊ သို့ချည်းတည်သား၊ ဤသည်ပုဒ်တွင်၊ နှင့်ကိုလျှင်တည့်၊ ဆင်ခြင်ကြံထွေ၊ သိတတ်စေလော့။ ။မိုးစွေလတ်မည်၊ သို့ချည်းတည်သား၊ ဤသည်ပုဒ်တွင်၊ မည်ကိုပင်တည့်၊ ပယ်သင်ဖြတ်ဟန်၊ သိလင့်ထွန်လော့၊ ပယ်ချန်ဖြတ်သည်၊ သုံးမည်နာမ၊ ဤမျှပါဋ္ဌိ၊ ဂဏ္ဍာတိကို၊ ကျယ်သိလေသ၊ အင္ဂကထာ၊ ဋီကာတို့ဝယ်၊ ထွေထွေကယ်သား၊ မိပ္ပါယ်တို့ကို၊ သို့ချည်းလိုဟု၊ ဘုန်းပျိုညွန့်သစ်၊ ညီချစ်ဥာဏ်မွေ၊ သိတတ်စေ။

ဤနည်းအရဆိုသော် ပုဒ်တို့တွင်ကြိယာရှိလျှင် ကြိယာကိုပယ်ရသည်။ ကြိယာမရှိလျှင် အစလုံးကိုပယ်ရသည်။ ဤတွင်ကြိယာဆိုသည်မှာ ကြိယာခြောက်ဆယ်ကိုဆိုလိုသည်။

ဦးထွန်းမြင့်။

**ဂုန်ညင်းမင်။** ။ခုန်ညင်းပင် — ရှု။

**ဂပ်စတားဗပ်၊ဒုတိယ (ဆွီဒင်) (ခရစ် ၁၅၉၄–၁၆၃၂)။** ဒုတိယ ဂပ်စတားဗပ် ဟူသော ဘွဲ့အမည်ဖြင့် ဆွီဒင်ထီးနန်းကို ၁၆၁၁ ခုနှစ်တွင်ဆက်ခံသောဂပ်စတားဗပ်အဒေါဖပ်သည် ဆွီဒင်ပြည့်ရှင် နဝမချားဘုရင်၏ သားတော်ဖြစ်လေသည်။ ၁၅၉၄ ခုနှစ် ဒီဇင်ဘာလ ၉ ရက်နေ့တွင် စတော့ဟုမ်းမြို့ရဲတိုက်ကြီးတွင် ဖွားမြင်သည်။ အသက် ၁၂ နှစ်အရွယ်တွင် လက်တင်ဘာသာ၊ ဣတာလျံ၊ ဒပ်ချနှင့် ဂျာမန်ဘာသာစာပေများကို နိုင်နင်းစွာတတ်ကျွမ်းခဲ့သည်။

၁၆၁၁ ခုနှစ်တွင် နဝမချားဘုရင်နတ်ရွာစံသဖြင့် အသက် ၁၇ နှစ်သားမျှသာရောက်ရှိသေးသော ဂပ်စတားဗပ်သည် ဆွီဒင်ထီးနန်းကို ဆက်ခံစိုးစံရသည်။ ဂပ်စတားဗပ်ဘုရင်ထီးနန်းဆက်ခံပြီး၍ မကြာမီပင် သူ၏ခမည်းတော်လက်ထက်က ဒိန်းမတ်နိုင်ငံ၊ ပိုလန်နိုင်ငံ၊ ရုရှနိုင်ငံတို့နှင့် စတင်ဖြစ်ပွားခဲ့



လွတ်ဆင်မြို့တိုက်ပွဲတွင် ဂပ်စတားဗပ်ဘုရင်ကြီး ဆုမွန်တောင်းနေပုံ

သော စစ်ပွဲများကို ဆက်လက်တိုက်ခိုက်လေတော့သည်။ ဂပ်စတားဗပ်သည် စစ်ပွဲတိုင်း၌ပင် အောင်မြင်ခဲ့၏။ ၁၆၁၇ ခုနှစ် စစ်ပြေငြိမ်းရေးစာချုပ် ချုပ်ဆိုခဲ့ရာတွင်၊ ဗော့လတစ်ပင်လယ်၏ အရှေ့ဖက်ကမ်းရိုးတန်းတလျှောက်ရှိ ပြည်နယ်များသည် ဆွီဒင်ပိုင်ဖြစ်လာလေသည်။ ထိုနောက်ပိုလန်နိုင်ငံနှင့် ၈ နှစ်ကြာမျှတိုက်ခိုက်ခဲ့ရာတွင်လည်း အောင်ပွဲရသည်သာများလေသည်။ ထိုအတောအတွင်း သူ၏စစ်တပ်ကို ဥရောပတိုက်တွင် အကောင်းဆုံးဖြစ်အောင် ပြုပြင်ဖန်တီးခဲ့လေသည်။ ထိုသို့အောင်ပွဲများရပြီး နယ်မြေအများသိမ်းပိုက်ရရှိကာ စစ်ပရိယာယ်ကြွယ်ဝ၍ ရဲစွမ်းသတ္တိရှိလှသောကြောင့် သူ့အား မြောက်ပိုင်းကခြင်္သေ့ကြီးဟု ခေါ်ကြ၏။ အုပ်ချုပ်ရေးဖက်တွင်လည်း အစွမ်းအစရှိသူဖြစ်သည့်အတိုင်း ဆွီဒင်နိုင်ငံတွင်း၌ ရွာသစ်များချက်ခြင်း တည်ထောင်ပေးသည့်အပြင် ပညာတိုးတက်ပြန့်ပွားရေးအတွက် အပ်ဆားလာတက္ကသိုလ်ကြီးကို တိုးတက်ချဲ့ထွင်နိုင်ရန် မြေများပေးအပ်လေသည်။ ဘဏ္ဍာရေးအခြေအနေကို တောင့်တင်းအောင်စီမံခဲ့သည်။ ဥပဒေသစ်များကိုလည်း ရေးဆွဲပြဋ္ဌာန်းပေးခဲ့သည့်အပြင် ဆွီဒင်နိုင်ငံ အုပ်ချုပ်ရေးစက်ယန္တရားကြီး တခုလုံးကိုလည်း ပြုပြင်ပြောင်းလဲလိုက်လေသည်။

သို့ဖြစ်၍ သူ၏လက်ထက်တွင် စက်မှုလက်မှုလုပ်ငန်းနှင့် ကုန်သန်းရောင်းဝယ်ရေးလုပ်ငန်းများ တိုးတက်ဖွံ့ဖြိုးခဲ့လေသည်။ ဂပ်စတားဗပ်သည် ဥရောပ နှစ်သုံးဆယ်စစ်ပွဲကြီးတွင် ဝင်ရောက်တိုက်ခိုက်ခြင်းမှာ ကိုယ်တိုင်က ပရိုတက်စတန့်ဂိုဏ်းဝင်ဖြစ်၍ ပရိုတက်စတန့်ဂိုဏ်းသားများဖက်မှ ကူညီရန်အတွက်သာမဟုတ်ဘဲ သူ၏နိုင်ငံတော်ကို ဂျာမန်ပြည်နယ်ကမ်းခြေအထိ တိုးချဲ့ရန်အတွက်လည်းဖြစ်ပေသည်။ (နှစ်သုံးဆယ်စစ်ပွဲ — ရှု။)

၁၆၃၁ ခုနှစ်တွင် ဂပ်စတားဗပ်သည် ဆွီဒင်စစ်သည်တော်ပေါင်း ၃၀,၀၀၀ နှင့်အတူ ဂျာမနီပြည်မြောက်ပိုင်းတွင် တက်ရောက်တပ်စွဲ၍ တိုက်ပွဲတပွဲပြီးတပွဲ အောင်မြင်ခဲ့လေသည်။ လိုက်ပဆစ်မြို့အနီး ဗရိုက်တင်ဖဲ တိုက်ပွဲတွင် ဗရင်ဂျီဂိုဏ်းဝင်ဩစတြီးယန်းဗိုလ်ချုပ်တီးလီအား အောင်နိုင်လိုက်၏။ ဤတိုက်ပွဲမှာ နှစ်သုံးဆယ်စစ်ပွဲကြီးတွင် အကြီးကျယ်ဆုံးသောတိုက်ပွဲကြီးဖြစ်လေသည်။ ဩစတြီးယန်းကေရာဇ်ဘုရင်သည် တီးလီ၏နေရာတွင် ဗိုလ်ချုပ် ဗေါ်လင်းစတိုင်းအား ခန့်၍ ဂပ်စတားဗပ်ကိုတုံ့ပြန်တိုက်ခိုက်စေလေသည်။

ထိုနောက် ၁၆၃၂ ခုနှစ် နိုဝင်ဘာလ ၆ရက်နေ့တွင် လွတ်ဆင်မြို့၌ ဂပ်စတားဗပ်၏စစ်တပ်နှင့် ဗေါ်လင်းစတိုင်း၏ စစ်တပ်တို့ဆုံမိကြ၍ ပြင်းထန်လှသော တိုက်ပွဲကြီးဖြစ်ပွားခဲ့လေသည်။ ထိုတိုက်ပွဲတွင် ဗေါ်လင်းစတိုင်း၏စစ်တပ်ကြီးလည်း ဖရိုဖရဲပြိုကွဲပျက်စီးကာ ဆွီဒင်တို့ကအနိုင်ရလိုက်သော်လည်း သူတို့၏ရဲစွမ်းသတ္တိရှိလှသော ဂပ်စတားဗပ်ဘုရင်မှာ ကျည်ဆံထိကျဆုံးသွားသောကြောင့် ထိုဆုံးရှုံးမှုကြီးနှင့်စာသော် အောင်ပွဲမှာမပြောပလောက်ပေ။ သို့သော်လည်း ထိုသို့အောင်ပွဲရလိုက်သောကြောင့် ဂျာမနီပြည်တွင် ပရိုတက်စတန့်ဂိုဏ်း၏ အရေးမှာ စိတ်အေးသွားရပေတော့သည်။



ဆွီဒင်နိုင်ငံဘုရင် ဂပ်စတားဗပ်

ထိုပြင်ဂပ်စတားဗပ်၏ ကြိုးပမ်းချက်များကြောင့် မြောက်ပိုင်းနိုင်ငံများထဲတွင် ဆွီဒင်နိုင်ငံမှာ စက်မှုလက်မှုလုပ်ငန်းနှင့် ကုန်သွယ်ရောင်းဝယ်ရေးလုပ်ငန်းများ အတိုးတက်အဖွံ့ဖြိုးဆုံးနိုင်ငံဖြစ်၍ ထိပ်တန်းသို့ရောက်ခဲ့ရပေသည်။

ဂပ်စတားဗပ်အဒေါဖပ် နတ်ရွာစံပြီးသည့်နောက် ထီးနန်းကို သမီးတော်ခရစ္စတီနာ ဆက်လက်စိုးစံခဲ့လေသည်။

**ဂံဂျာ။** ။ဆေးခြောက်ပင် — ရှု။

**ဂုံလူမျိုး။** ။ဂုံလူမျိုးသည်ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ တိုင်းရင်းသားလူမျိုးတမျိုးဖြစ်လေသည်။ ဂုံလူမျိုးကိုခုံဟုလည်းရေးကြ၏။ ဂုံလူမျိုးတို့၏အနွယ်မှာ ယိုးဒယားတရုပ်ဖြစ်သည်။ ထိုယိုးဒယားတရုပ်လူမျိုးများသည် တရုပ်ပြည်မှ ရွှေလီမြစ်ကြောင်းဆင်းသက်၍ မြန်မာနိုင်ငံသို့ဝင်ရောက်လာခဲ့၏။ ထိုလူမျိုးများတွင် ထိုင်း (တနည်း) ရှမ်းနှင့် ကရင်လူမျိုးဟူ၍ လူမျိုး ၂ စုကွဲလေသည်။ ထိုပြင်တဖန် ဒေသကိုလိုက်၍ ထိုင်း (တနည်း) ရှမ်းတို့ကို သုံးမျိုးခွဲနိုင်သေးသည်။ ယင်းတို့မှာ မြောက်ပိုင်းရှမ်း၊ အလယ်ပိုင်းရှမ်းနှင့် တောင်ပိုင်းရှမ်းတို့ဖြစ်သည်။ ရှေးမြန်မာမင်းတို့အခေါ်အရ၊ အနောက်ရှမ်း၊ မြောက်ရှမ်းနှင့်အရှေ့ရှမ်းတို့ဖြစ်သည်။ ထိုရှမ်း ၃ မျိုးတွင် အလယ်ရှမ်းသို့မဟုတ် အရှေ့ရှမ်းလူမျိုးတွင် ဂုံနှင့်လူး လူမျိုးတို့ပါဝင်လေသည်။

ဂုံလူမျိုးတို့သည် ရှမ်းကိုးပြည်ဝင် ကျိုင်းတုံမြို့တွင် အများဆုံးနေထိုင်ကြသည်။ ကျိုင်းတုံနယ်၊ သံလွင်မြစ်အရှေ့ဖက်ကမ်းတွင် ဂုံလူမျိုးများနေထိုင်ကြလျက်၊အနောက်ဖက်ကမ်းတွင် လူးလူမျိုးတို့အနေများလေသည်။ ရှေးအခါ ကဂုံလူမျိုးတို့နေထိုင်ရာ ကျိုင်းတုံမြို့နယ်ကို ခေမာဝရတိုင်း၊ ဂုံပြည်ဟုလည်းရေးသားလေသည်။ ကဝိလက္ခဏာသတ်ပုံကျမ်းတွင် 'ကျိုင်းတောင်းကျိုင်းတုံမြို့မိုင်းလုံ၊ မော်တုံရှမ်းတို့ကျေး' ဟူ၍၎င်း 'ကချင်နှင့်ဂုံ၊ ပြူနှင့်မြုံ၊ သထုံသည်ကဝေး' ဟူ၍၎င်းကျိုင်းတုံနှင့်ဂုံတို့ကို ဖေါ်ပြထားသည်။

ဂုံလူမျိုးတို့၏ ဘာသာစကားမှာ တောင်ပိုင်းထိုင်းဘာသာစကားတွင် ပါဝင်သည်ဟုဆို၏။ သူတို့၏စာပေအရေးအသားကို မြန်မာတို့ထံမှ တဆင့်ရသည်ဟုသိရသည်။ ရှမ်း (တနည်း) ထိုင်းစာပေအက္ခရာအရေးအသား ၆ မျိုးရှိ၏။



ကျိုင်းတုံမြို့နယ်မှ ဂုံအမျိုးသမီး

ယင်းတို့တွင် လူးနှင့်ဂုံ (ခုံ) တို့၏ စာပေအရေးအသားကို ခွဲခြားထားလေသည်။ ထို့ကြောင့် စာပေအရေးအသားတွင် လူးနှင့်ဂုံ ကိုမတူဟု ဆိုနိုင်သော်လည်း မျိုးရိုးနှင့်ဓလေ့ထုံးစံများမှာ ခြားနားခြင်းများစွာမရှိလှဟုသိရသည်။

၁၉၂၁ ခုနှစ် သန်ကောင်စာရင်းအရ လူးနှင့်ဂုံလူမျိုးစုစုပေါင်း ၁၆,၂၂၇ ရှိသည်။ ၁၉၃၁ ခုနှစ် သန်ကောင်စာရင်း၌မူ ၂၂၅,၀၉၄ ရှိသည်ဟုဆိုသည်။

ဂုံလူမျိုးများသည် ဗုဒ္ဓဝါဒီများဖြစ်ကြ၏။ သူတို့၏ဝတ်စားပုံမှာ ရှမ်းလူမျိုးများ၏ အဆင်တန်ဆာများဖြစ်သော၊

အမည်းရောင်၊ ဝါကျို၊ ဗောင်းဗီနှင့် ခေါင်းပေါင်းကြီးများကို ယောကျ်ားများကဝတ်ဆင်ကြ၏။ မိန်းမများကမူ လက်ကောက်ဝတ်ကျပ်သော အင်္ကျီလက်ရှည်ကိုဝတ်၍၊ ခေါင်းပေါင်းပုဝါကြီးများကို ပေါင်းတတ်သည်။ ဂုံလူမျိုးတို့၏ နေအိမ်မှာ အထူးသဖြင့်အုတ်ကြွပ်မိုးနှင့်အုတ်အင်္ဂတေအကာအရံဖြင့် ဆောက်လုပ်သောအိမ်များဖြစ်သည်။

**ဂုံလျှော်ပင်။** ။ဂုံလျှော်ပင်ကို ပီလေသပင်ဟုလည်း ခေါ်ကြသည်။ ဂုံလျှော်ပင်သည် ပိုက်ဆံပင်နှင့် လုံးဝကွဲပြားခြားနားသည်။ သို့ရာတွင်အသုံးချရာ၌ ပိုက်ဆံပင်နှင့်အလားတူဖြစ်၍ ၂ ပင်စလုံးကိုလျှော်ထုတ်ယူရန် စိုက်ပျိုးကြသည်။ လျှော်ထုတ်ယူနိုင်သော ဂုံလျှော်ပင်မှာ ၂ မျိုးရှိလေသည်။ တမျိုးမှာ ကော်ခိုရပ်ကပ်စူလာရစ်မျိုးဖြစ်၍ အခြားတမျိုးမှာ ကော်ခိုရပ်အော်လီတိုရီယပ်မျိုးဖြစ်သည်။ ကော်ခိုရပ်အမျိုးမှ ပွားထွက်သော အခြားဂုံလျှော်ပင်များလည်းရှိ၏။ ဂုံလျှော်ပင်ကို ပူပြင်းစိုစွတ်သောတိုင်းပြည်များ၌ စိုက်ပျိုးနိုင်သည်။ ဂုံလျှော်သည် အိန္ဒိယနိုင်ငံမှ အများဆုံးထွက်သည်။ ဤအပင်ကို အိန္ဒိယနိုင်ငံ ဗင်္ဂလားပြည်နယ်၌ အမြောက်အမြားစိုက်ပျိုးသည်။ ယခင်အခါက စကော့တလန်ပြည်ရှိ ဒန်ဒီမြို့တွင် ဂုံလျှော်စက်ကြီးများရှိသဖြင့် ဂုံလျှော်ကြမ်းများကိုထိုမြို့သို့ တင်ပို့ခဲ့သည်။ ယခုအခါ ဗင်္ဂလားပြည်နယ် ကာလကတ္တားမြို့တွင် ဂုံလျှော်စက်ကြီးများဆောက်လုပ်ထားပြီးဖြစ်၍၊ ဂုံလျှော်ဖြင့်ပြုလုပ်ရသော အချောထည်များကို အိန္ဒိယနိုင်ငံ၌ပင် လုပ်ကိုင်လျက်ရှိသည်။ မြန်မာနိုင်ငံ၌လည်း ဂုံလျှော်ပင်များ စိုက်ပျိုးသော လုပ်ငန်းကို လုပ်ကိုင်လျက်ရှိပေပြီ။ နိုင်ငံတော်အစိုးရသည်အင်းစိန်ခရိုင်ကမာရွတ် လှိုင်မြစ်ကမ်းပါးတွင် ဂုံလျှော်စက်တည်ဆောက်ရန်စီမံလျက်ရှိလေပြီ။ ဂုံလျှော်နှင့်ပြုလုပ်သော ဂုံနီအိတ်များမှာအသားထူထဲသဖြင့် ဆန်စပါး၊ သကြားစသည်တို့ထည့်ရန်အတွက် ကောင်းသည်။ အာလူး၊ ကြက်သွန်ထည့်ရန်အတွက် အသားကျဲသောဂုံအိတ်များကို အသုံးပြုကြသည်။ ဂုံလျှော်ဖြင့်ရက်လုပ်သော ဂုံနီဖျင်ကို ဝါနှင့်အိမ်ထောင်ပရိဘောဂများကို ထုပ်ပိုးသယ်ယူရာ၌ အသုံးပြုကြသည်။ ဂုံလျှော်ကြိုးကြီး၊ ကြိုးကလေးနှင့်စက္ကူကြမ်းများကိုလည်း ဂုံလျှော်ဖြင့်လုပ်ကြသည်။ ဂုံလျှော်၏အမျှင်မှာနူး၍ ပိုးခြည်မျှင်ကဲ့သို့ ပျော့ပျောင်းသဖြင့် ဆံပင်တုလုပ်ရာ၌အသုံးဝင်သည်။ ဂုံလျှော်သည်ဆိုးဆေးတင်ရလွယ်ကူသည်။ ဈေးချိုချိုဖြင့် ရောင်းချနိုင်သော ကော်ဇောမျိုးကိုလည်း ဂုံလျှော်ဖြင့်ရက်လုပ်ရလေသည်။

ဂုံလျှော်ပင်ကို ရိတ်ဖြတ်ရန်သင့်လျော်သောအချိန်မှာသီးတံများ ထွက်ပြူစအခါဖြစ်သည်။ အချို့ဒေသများတွင် အပွင့်များပွင့်လာသည့်အခါမှ အပင်များကိုရိတ်သိမ်းကြ၏။ ဂုံလျှော်ကိုတံစဉ်ဖြင့် မြေကြီးနှင့်ကပ်လျက် အပင်ရင်းမှဖြတ်ယူရ၏။ ထိုနောက်လယ်ကွက်ထဲ၌ ၂ ရက်ခန့်ပုံထားရသည်။ အရွက်များကြွေပြီးနောက် အကိုင်းအခက်များပါဝင်သောအဖျားပိုင်းကိုဖြတ်ပစ်လျက် အပင်ရိုးများကို အစည်းငယ်ကလေးများဖွဲ့စည်းထားရ၏။ ထိုအစည်းများကိုကုန်းမြင့်တွင်ပုံလျက် သစ်ရွက်၊ ပေါင်းပင် မြေစိုင်ခဲ စသည်တို့ဖြင့် ဖုံးဖိထားရသည်။ ထိုသို့ ၃ ရက် ၄ ရက်ခန့် ထားပြီးနောက်၊ ကြွင်းကျန်နေသေး သမျှသော အရွက်တို့ကိုလှုပ်ခါချပြီး လျှင်အစည်းများကို ရေစိမ်ရန် ရေကန်သို့မဟုတ် ချောင်းသို့သယ်ယူရသည်။ ရေစိမ်သောအခါ အစည်းများကိုဝန်လေးများဖြင့် ဖိထားရ၏။ ထိုသို့အစည်းများကို ၁၀ ရက်ခန့်သို့မဟုတ် ထိုထက်ကြာအောင် ရေစိမ်ထားပြီးနောက်အမည်းရောင် သန်းလာသောအခါ ရေမှဆယ်ယူရ၏။ ရေစိမ်ထားစဉ် အစည်းများကို နေ့စဉ်စစ်ဆေးကြည့်ရှုရ၏။

လျှော်ရရှိစေရန် ရေစိမ်ထားပြီးသော အပင်ရိုးစည်းကိုလက်တဖက်နှင့်ကိုင်လျက်၊ လက်တဖက်ကလက်ရိုက်နှင့်ဖြစ်စေ၊ တုတ်ပြားနှင့်ဖြစ်စေ၊ အစည်း၏အောက်ပိုင်းကိုရိုက်ရ၏။ ရိုက်နေစဉ် တွင် အစည်းကို



စိုက်ခင်းမှရိပ်သိမ်းစုပုံထားသော ဂုံလျှော်ပင်များ

ရေ၌မြှုပ်ထားရ၏။ ထိုအခါ အပင်ရိုးသည် ကြေမွထွက်သွားပြီးလျှင် ဂုံလျှော်သာကျန်ရစ်ခဲ့ပေမည်။ ကျန်ရစ်ခဲ့သော လျှော်မျှင်ကိုပြောင်းပြန်လှန်၍ အထက်ပိုင်းကို ရေစိမ်ပြီးလျှင်လျှော်ချည်းသာကျန်သည့်တိုင်အောင် ထုလိမ်ချေမွရလေသည်။ နောက်ဆုံး၌ထုတ်ယူပြီးသောလျှော်ကို ရေမျက်နှာပြင် တွင်ရိုက်လျက်စင်ကြယ်အောင်ဖွပ်ရသည်။

ထိုသို့ဖွပ်ပြီးနောက် ရရှိသောလျှော်ကို ရေကုန်စင်အောင် ညှစ်၍ အစိုအတိုင်းတရက်ခန့် ပုံလျက်ထားရသည်။ ထိုနောက် လုံးလုံးလျားလျားခြောက်သွေ့သည့်တိုင်အောင် ၂ ရက် ၃ ရက်ခန့်နေလှန်းပေးရသည်။ ကောင်းစွာခြောက်သွေ့လာသောအခါ လျှော်များကိုကျစ်လစ်စွာစည်းရသည်။ လျှော်များကို စံနစ်တကျပြုပြင်၍ အဖြိုးအရှင်းကောင်းခဲ့လျှင်၊ ၅ ပေမှ ၈ ပေအထိရှည်သော လျှော်ပင်များကိုရနိုင်သည်။ တဧကလျှင်လျှော်အထွက်မှာ ပေါင် ၉၀၀ မှ ပေါင် ၁၆၀၀ လောက်အထိဖြစ်သည်။ အပွင့်ကြွေ၍ သီးတံများပြုစအချိန်၌ ရိတ်သိမ်းသောလျှော်တို့သည် အကောင်းဆုံးဖြစ်၏။ ထိုထက်စော၍ ရိတ်သိမ်းသောလျှော်တို့မှာ မခိုင်ခံ့ချေ။ ထိုထက်နောက်ကျ၍ အစေ့များရင့်မှည့်လာမှ ရိတ်သိမ်းသောလျှော်တို့မှာ ကြမ်းထော်သည့်အတွက်ညံ့ဖျင်းသည်။

# သဘာဝရှုခင်းသာယာသောနိုင်ငံ

**နှစ်ပေါင်း ၁၀၀ အတွင်း ဂျပန်နိုင်ငံသည် အခြားနိုင်ငံတို့နှင့် မဆက်ဆံဘဲ၊ တဦးတည်းသီးခြားတည်ရှိခဲ့ရာမှ နိုင်ငံတကာနှင့်ယှဉ်နိုင်သော ခေတ်မှီလက်နက်နိုင်ငံအဖြစ်သို့၊ တိုးတက်လာခဲ့သည်။ ဂျပန်နိုင်ငံ၏ပထဝီအနေအထား၊ နိုင်ငံသမိုင်းနှင့်ယဉ်ကျေးမှုထုံးစံဓလေ့များကို ဤအကြောင်းရပ်တွင် ဖတ်ရှုလေ့လာနိုင်ပေသည်။**

**ဂျပန်နိုင်ငံ။** ။ဂျပန်နိုင်ငံသည် အာရှတိုက်အရှေ့ပိုင်းပစိဖိတ်သမုဒ္ဒရာထဲတွင် တည်ရှိ၍ အရှေ့မြောက်မှအနောက်တောင်သို့ သွယ်တန်းနေသည့် ဟိုကိုင်းဒိုး၊ ဟွန်းရှူး၊ ရှီကိုးကူးနှင့်ကျူရှူးအမည်ရှိကျွန်းကြီး ၄ ကျွန်းနှင့် ကျွန်းငယ် ၄,၀၀၀ ခန့်ပါဝင်သည်။ ထိုကျွန်းငယ်များအနက် ကူးရိုးကျွန်းစုနှင့် ရိုယူးကျူးကျွန်းစုငယ်များမှာ ထိုကျွန်းကြီး ၄ ကျွန်း၏ မြောက်ဖက်နှင့် တောင်ဖက်ဖျားတို့၌ အသီးသီးတည်ရှိကြ၏။ ဂျပန်နိုင်ငံ၏အကျယ်အဝန်းမှာ ၁၄၁,၅၂၉ စတုရန်းမိုင်ရှိသည်။ ဂျပန်ကျွန်း၌ တောင်ကြားလမ်းများရှိသောတောင်ကုန်းတောင်တန်းများနှင့် သစ်ပင်ဝါးပင်များ အလွန်ထူထပ်သည်။ ကျွန်းများမှာကျဉ်းမြောင်းလှသဖြင့် ကြီးမားသောမြစ်များမရှိချေ။ တောင်ကျချောင်းကလေးများအဖြစ် အနှံ့အပြားရှိ၍ ရေအားဖြင့်လျှပ်စစ်ဓာတ်အားပေါပေါရယူနိုင်သည်။ မီးတောင်များပေါများသဖြင့် မြေငလျင်လှုပ်ခြင်း၊ မီးတောင်ပေါက်ကွဲခြင်း စသောဘေးအန္တရာယ်များ မကြာခဏပေါ်ပေါက်တတ်သည်။ ထို့ပြင် ရေလွှမ်းမိုးခြင်း၊ လေမုန်တိုင်းကျခြင်းအစရှိသည့် ဘေးအန္တရာယ်တို့လည်း ဖြစ်ပွားလေ့ရှိသည်။ ပျမ်းမျှခြင်းအားဖြင့် တနေ့လျှင်မြေငလျင် ၄ ကြိမ်မျှလှုပ်၍ ဂျပန်လူမျိုးတယောက်သည် တသက်တွင်တခါ မြေငလျင်အကြီးအကျယ်လှုပ်ရှားခြင်းနှင့် တွေ့ကြုံရစမြဲဟုဆိုလေသည်။ တိုကျိုမြို့နှင့် ယိုကိုဟားမားမြို့များကို အကြီးအကျယ်ဖျက်ဆီးလိုက်သော ၁၉၂၃ ခုနှစ် (စက်တင်ဘာလ ၁ ရက်နေ့) မြေငလျင်ကြီးမှာ လူပေါင်း ၉၀,၀၀၀ ကျော်ခန့် သေကြေပျက်စီးစေခဲ့သဖြင့် အဆိုးရွားဆုံးဖြစ်လေသည်။ နိုင်ငံ၏လူဦးရေမှာ ၁၉၅၄ ခုဖေဖွာရီလသန်ကောင်စာရင်းအရ ၈၇,၅၀၀,၀၀၀ ဖြစ်၏။

ရေတံခွန်များ၊ ထုံးအိုင်များ၊ ရေပူစမ်းများ၊ လှပသောတန်တားများ၊ ထင်းရှူးပင်များနှင့်ပန်းဥယျာဉ်များစသောရှုမျှော်ခင်းများကိုအနှံ့အပြားတွေ့မြင်နိုင်သဖြင့် ဂျပန်နိုင်ငံမှာသဘာဝအားဖြင့် သာယာလှပသောနိုင်ငံဖြစ်ပေသည်။ ချယ်ရီပန်းမှာ ဂျပန်နိုင်ငံ၏ ထင်ရှားသောပန်းဖြစ်၏။ ၁၂,၃၉၅ ပေမြင့်၍ တောင်ထွတ်၌ ဆီးနှင်းများအစဉ်ဖုံးလွှမ်းလျက်ရှိသော ဖူဂျီယာမာမီးတောင်မှာ ဂျပန်နိုင်ငံ၏ ကြည်နူးဖွယ်ကောင်းသော ရှုမျှော်ခင်းတရပ်ဖြစ်လေသည်။ ဂျပန်အနုပညာရှင်များသည် ထိုမီးတောင်ကိုပန်းချီရေးဆွဲ၍ရင်း၊ ကဗျာလင်္ကာများစပ်ဆို၍ရင်း အမှမ်းတင်ခဲ့ကြသည်။ ဂျပန်တို့သည် ဖူဂျီယာမာကို ဖူဂျီစံဟုအလေးအမြတ်ပြုကာ ခေါ်ဝေါ်၍အထွတ်အမြတ်ထားကြသည်။

ရာသီဥတုမှာ တောင်ဖက်ဖျားပိုင်း၌ အပူပိုင်းဒေသဆန်၍ မြောက်ဖက်သို့ကျလေ အအေးပိုင်းဒေသဆန်လေဖြစ်သည်။ မြောက်ဖက်ရှိဟိုကိုင်းဒိုးနှင့်ဟွန်းရှူးကျွန်းများတွင် ဆောင်းရာသီ၌ဆီးနှင်းများအလွန်ကျ၍ အေးမြသော်လည်း ဂျပန်နိုင်ငံအလယ်ပိုင်း၌မူ အရှေ့ဖက်ကမ်းခြေရှိ ပူနွေးလှသောကူရုရှီအိုရေစီးကြောင်းကြောင့်နွေး၏။ မိုးသည်းထန်စွာရွာသွန်းသော်လည်း နိုင်ငံတော်၏ဆယ့်ရှစ်ပုံတပုံသာလျှင်လယ်ယာစိုက်ပျိုးနိုင်သဖြင့် တောင်စောင်းများ၌ပါမကျန် နေရာလပ်မထားဘဲ စိုက်ပျိုးကြရသည်။ ဆန်စပါးရွားပါးသောကြောင့် ဂျုံ၊ လူး၊ ဆပ်၊ မုယောများကိုပါစိုက်ပျိုးရလေသည်။ လက်ဖက်ပင်ကိုမူ ဒေသများအပြားစိုက်ပျိုးကြလေသည်။ ဝါးရုံတောများပေါများသဖြင့် ဝါးကိုပစ္စည်းအမျိုးမျိုးပြုပြင်လုပ်ကိုင်၍ရောင်းချကြသည်။ ရွှေ၊ ကြေးနီ၊ ကျောက်မီးသွေး၊ သံ၊ ရေနံစသော တွင်းထွက်ပစ္စည်းများ

ထွက်သော်လည်း မလုံလောက်သဖြင့်လိုအပ်သည်တို့ကိုနိုင်ငံခြားမှတင်သွင်း ရ၏။ ကန့်ကိုမူမီးတောင်ဒေသများ၌များစွာတူးဖေါ် ရရှိနိုင်သည်။ စက်မှုလက်မှုထွန်းကားသောနိုင်ငံဖြစ်၍ သင်္ဘောတည်ဆောက်ခြင်း၊ အဝတ်အထည်နှင့်ကစားစရာများပြုလုပ်ခြင်း၊ လျှပ်စစ်နှင့်သံထည်ပစ္စည်းများပြုလုပ်ခြင်းစသော လုပ်ငန်းများရှိသည်။ ဒုတိယကမ္ဘာစစ်မဖြစ်မီက ပင်လယ်ရပ်ခြားသို့ ကုန်သင်္ဘောများဖြင့် ကူးသန်းရောင်းဝယ်ရေးတွင် ဂျပန်နိုင်ငံမှာပဥ္စမလိုက်ခဲ့သည်။

ဂျပန်နိုင်ငံ၏မြို့တော်မှာ တိုကျိုမြို့ဖြစ်သည်။ ၁၉၅၄ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၆,၇၇၇,၀၀၄ ရှိသည်။ တိုကျိုမြို့ကိုရှေးအခါက ယေဒိုမြို့ဟုခေါ် သည်။ စက်မှုလက်မှုလုပ်ငန်းများတည်ရှိသည့် အိုဆားကားမြို့၊ သင်္ဘောတည်ဆောက်ရာကိုဗီမြို့နှင့် ကူးသန်းရောင်းဝယ်မှု၌ဗဟိုအချက်အခြာဖြစ်သည့် ယိုကိုဟားမားမြို့များမှာလည်း အခြားထင်ရှားသောမြို့ကြီးများဖြစ်သည်။

ဂျပန်လူမျိုးများမှာ ဘုရှီဒိုးခေါ် သူရဲကောင်းစိတ်ဓာတ်ရှိမှု၌ များစွာဂုဏ်ယူ၍လုံ့လ၊ ဝီရိယ၊ ဇွဲဖြင့် ကြိုးပမ်းလာကြသူများဖြစ်သည်။ မြေငလျင်မကြာခဏလှုပ်သောကြောင့် သစ်ဝါးစက္ကူတို့ဖြင့်ပေါ့ပါးသော အိမ်ငယ်ကလေးများကိုဆောက်လုပ်နေထိုင်ကြ၏။ အိမ်ခန်းတွင်း၌အနောက်နိုင်ငံသုံး ခေတ်မှီအိမ်ထောင်ပရိဘောဂများအစား ဖျာများကိုအသုံးပြုလေ့ရှိသည်။ ပန်းပင်စိုက်ပျိုးမှု၌ များစွာဝါသနာထုံသောလူမျိုးဖြစ်သဖြင့် ရေကန်ငယ်ကလေးများဖြင့်ပြီးသော ပန်းဥယျာဉ်များကို အနှံ့အပြားတွေ့နိုင်သည်။ ဆင်းရဲသောသူများကပင် မိမိတို့၏ အိမ်ဝင်းများထဲ၌ ပန်းပင်များကို စိုက်ပျိုးထားလေ့ရှိကြပေသည်။

ပန်းဥယျာဉ်အတွင်း အထူးသတ်မှတ်ထားသောနေရာ၌ လက်ဖက်ရည်ပွဲကို အခါအားလျော်စွာ တည်ခင်းကျင်းပလေ့ရှိ၏။ ထိုလက်ဖက်ရည်ပွဲ၌ ဂျပန်တို့သည်လက်ဖက်ရည်ကိုအမြတ်တနိုးပြု၍ တခမ်းတနားသောက်လေ့ရှိသည်။မိတ်သင်္ဂဟများအား ဆာကေခေါ် ချက်အရက်ဝိုင်းဖြင့်တည်ခင်းခြင်းမှာ ဂျပန်ညှော်ခံပွဲများ၏အလေ့အထဖြစ်သည်။ ညှော်ဝတ်ကျေပြွန်စေရန်လည်း ဂေရှာခေါ် ဂျပန်ညှော်ခံအမျိုးသမီးများကိုငှားရမ်းရလေသည်။ ထို့ပြင်ဂျပန်ယောကျ်ားကလေးများ၏ ကစားစရာပွဲတော်၊ မိန်းကလေးများ၏ အရုပ်ပွဲတော် အစရှိသောပွဲတော် အများအပြားကို ဂျပန်နိုင်ငံ၌နှစ်စဉ်ကျင်းပကြသည်။ နပန်းလုံးခြင်းနှင့် သိုင်းကစားခြင်းများမှာ လူကြိုက်များသောပျော်ပွဲရွှင်ပွဲများဖြစ်သည်။ ကိုးကွယ်သောအယူဝါဒများမှာ ရှင်တိုအယူဝါဒ ၂၁ ရာခိုင်နှုန်း၊ ဗုဒ္ဓအယူဝါဒ ၆၀ ရာခိုင်နှုန်း၊ ကွန်ဖြူးရှပ်အယူဝါဒနှင့် ခရစ်ယန်အယူဝါဒများဖြစ်၍ ရှင်တိုအယူဝါဒမှာ ရှေးအကျဆုံးသောအယူဝါဒဖြစ်လေသည်။

ဂျပန်လူမျိုးများ၏ မူလဇာတိမှာ ဂျပန်ကျွန်းသို့တောင်ဖက်ဒေသများမှလာရောက်နေထိုင်ကြသည့်ပသျှူးအနွယ်ဝင်များဟုဆိုသော ယာမာတိုလူမျိုးစုဖြစ်သော်လည်း၊ ယခုခေတ်ဂျပန်လူမျိုးများမှာမူ ပသျှူး၊ မန်ချူး၊ ကိုရီးယား၊ မွန်ဂိုနှင့်အိုင်းနူးလူမျိုးများမှ ရောစပ်ပေါက်ဖွားလာသူများဖြစ်ဟန်တူသည်။ အိုင်းနူးလူမျိုးများကား မူလက ဂျပန်နိုင်ငံတောင်ပိုင်း၌နေထိုင်ကြသော အသားဖြူလူရိုင်းများဖြစ်၍ ဂျပန်




ဂျပန်နိုင်ငံတည်နေရာပြမြေပုံ

လူမျိုးများကမောင်းနှင်ထုတ်ကြသဖြင့် ယခုအခါမြောက်ဖက်ရှိ ဟိုကိုင်းဒိုးကျွန်း၌သာ ယင်းလူမျိုးအနည်းအကျဉ်းကိုတွေ့နိုင်ပေတော့သည်။

ဂျပန်နိုင်ငံကိုတခုတည်းသောမင်းဆက်မှ အနွယ်တော်မပျက် ဆက်ခံလာကြသော ဂျပန်ဧကရာဇ်များက အုပ်ချုပ်သည်။ ဂျပန်လူမျိုးများအလိုအားဖြင့် ဂျပန်ဧကရာဇ်များမှာ အမတေရစု အမည်ရှိနတ်သမီးမှ ဆင်းသက်လာကြသူများဖြစ်သည်။ ဘီစီ ၆၆၀ ပြည့်နှစ်ခန့်က နန်းတက်သောဂျင်မူတင်နော့မှာ ပဌမဂျပန်ဧကရာဇ်ဖြစ်၏ဟုဆိုကြသည်။ ဂျပန်ဧကရာဇ်မှာနိုင်ငံတော်၏ အကြီးအကဲဖြစ်သော်လည်း အေဒီ ၁၂ ရာစုနှစ်သို့ရောက်သောအခါ တိုင်းပြည်၏အုပ်ချုပ်မှုအာဏာအရပ်ရပ်တို့ကို ရှိုဂွန် ခေါ် စစ်သေနာပတိများကသိမ်းပိုက်ထားသဖြင့် ဧကရာဇ်များမှာ ပြရုပ်မျှသာဖြစ်နေခဲ့လေသည်။ ထိုအခိုက်ဂျပန်နိုင်ငံ၌ ကံကျေးချစ်နစ်ထွန်းကားလာသဖြင့် ဒိုင်မျိုခေါ် မှူးမတ်ကြီးများနှင့် ဆာမူရိုင်းခေါ် သူရဲကောင်းကြီးများမှာ လူတန်းစားအားဖြင့် အလွန်မြင့်သောအခြေသို့ ရောက်ရှိလာခဲ့ကြသည်။ ၁၆ ရာစုနှစ်သို့ရောက်သော် နိုင်ငံတဝှန်းလုံး၌မှူးမတ်များ၏ဆွေမျိုးများတို့သည် တစုနှင့်တစုတိုက်ခိုက်၍အာဏာလုခဲ့ကြသည်။ ၁၆ ရာစုနှစ်နှင့် ၁၇ ရာစုနှစ်ဦးပိုင်းတွင် နိုဗုနာဂါ၊ ဟိဒေယိုရှိနှင့် အီယေယာစုအမည်ရှိသော ခေါင်းဆောင် ၃ ဦးတို့သည် နိုင်ငံတော်၏စည်းရုံးရေးကို အားကြိုးမာန်တက် ဆောင်ရွက်ခဲ့ကြပြီးလျှင်၊ ဂျပန်နိုင်ငံတွင် ပြည်တွင်းအေးချမ်းသာယာသည့် တိုကူဂါးဝါးရှိုဂွန်ခေတ်ကို စတင်ခဲ့လေသည်။

ကမ္ဘာ့အရှေ့ဖျား၌ ဂျပန်နိုင်ငံရှိကြောင်း ဥရောပတိုက်သားများကြားသိလာကြခြင်းမှာ ၁၃ ရာစုခေတ်က တရုပ်ပြည်သို့ခရီးလှည့်လည်ခဲ့သော ဣတလီပြည်၊ ဗင်းနစ်မြို့သား မာကိုပိုလို၏ကျေးဇူးကြောင့်ပင်ဖြစ်၏။ (မာကိုပိုလို—ရှု။)' ခရစ် ၁၅၄၂ ခုနှစ်ကတရုပ်ကမ်းခြေတွင် လေမုန်တိုင်းမိကာပျက်စီးသွားခဲ့သော ပေါ်တူဂီသင်္ဘောသားများမှာဂျပန်နိုင်ငံသို့ ပဌမဦးစွာ ရောက်ရှိလာခဲ့ကြသော ဥရောပတိုက်သားများဖြစ်သည်။ ၁၅၄၉ ခုနှစ်မှစ၍ ဂျက်ဇူးအစ်သာသနာပြုဆရာ စိန်ဖရန်စစ် ဇေးဗီးယားနှင့် အင်္ဂလိပ်၊ ဒပ်ချစသောနိုင်ငံခြားသားကုန်သည်များသည် ဂျပန်နိုင်ငံသို့ ဆက်လက်ရောက်ရှိလာခဲ့ကြပြီးလျှင် ဂျပန်သင်္ဘောသားများကလည်းမက္ကာဆီကို၊ ဖိလစ်ပိုင်၊ တရုပ်နှင့် အိန္ဒိယစသောပင်လယ်ရပ်ခြားဒေသများသို့ သွားရောက်ကူးသန်းရောင်းဝယ်ကြသည်။ သို့ရာတွင်ခရစ် ၁၆၃၆ ခုနှစ်သို့ရောက်သော် တိုကူဂါးဝါးရှိုဂွန်ခေတ် မှူးမတ်တို့က နိုင်ငံခြားသာသနာပြုများသည် နိုင်ငံရေးလုပ်ကြံမှုများ၌ပါဝင်သည်ဟု ယူဆကာ နိုင်ငံခြားသားအားလုံးကို ဂျပန်နိုင်ငံမှ နှင်ထုတ်၍ တိုင်းရင်းသားများကိုလည်း နိုင်ငံတွင်းမှထွက်ခွင့်မပေးတော့ချေ။

သို့သော်ဒပ်ချလူမျိုးများကိုမူ တနှစ်လျှင်သင်္ဘောတစင်းကျဝင်စေ၍ နာဂါစာကီမြို့အနီးတဝိုက်၌ ရောင်းဝယ်ဖေါက်



တောင်ခြေရှိကျေးရွာစိုက်ပျိုးခင်းတွင် လှေကားထစ်ယာကွက်များကို ဤသို့တွေ့မြင်နိုင်သည်။



ဂျပန်လူမျိုးတို့အထွတ်အမြတ်ထားကြသည့် ဖူဂျီယာမာမီးတောင်

ကားခွင့်ပေးခဲ့လေသည်။ ဤသို့ဖြင့် ဂျပန်နိုင်ငံသည် နှစ်ပေါင်း ၂၀၀ ကျော်မျှအနောက်နိုင်ငံများနှင့် အဆက်ဖြတ်၍ အထီးကျန်နိုင်ငံအဖြစ်နေထိုင်ခဲ့၏။ ခရစ် ၁၈၅၃ ခုနှစ်တွင် တိုကျိုပင်လယ်အော်သို့ ရေတပ်အလုံးအရင်းဖြင့် ရောက်လာသော အမေရိကန်ရေတပ်ဗိုလ်မှူးချုပ် အမ်၊ ဂျီ၊ ပယ်ရီ၏ကြိုးပမ်းမှုကြောင့် ဂျပန်နိုင်ငံသည် အနောက်နိုင်ငံများနှင့် ပြန်လည်ဆက်ဆံလာခဲ့၏။ ထိုနောက်အမေရိကန်အပါအဝင် အင်္ဂလိပ်၊ ပြင်သစ်၊ ရုရှစသော နိုင်ငံများနှင့် ကူးသန်းရောင်းဝယ်ရေးစာချုပ်များ ချုပ်ကာ နိုင်ငံခြားသားများအား ယိုကိုဟားမား၊ နာဂါစာကီနှင့် ဟကိုဒေတီမြို့များတွင် နေထိုင်ခွင့် ပြုလာလေသည်။

၁၈၆၇ ခုနှစ်တွင်နန်းတက်သော မေဂျီဘုရင်လက်ထက်၌ ဂျပန်နိုင်ငံမှာ အဖက်ဖက်မှ များစွာတိုးတက် ပြောင်းလဲခဲ့လေသည်။ ရှိဂွန်အုပ်ချုပ်ရေးစနစ်နှင့် ဆာမူရိုင်းခေါ် စစ်မှုထမ်းမျိုးရိုးများကို ဖျက်သိမ်းပြီးလျှင် ၁၈၈၉ ခုနှစ်မှစ၍နိုင်ငံတော်ကို ပါလီမန်အုပ်ချုပ်ရေးစနစ်ဖြင့်အုပ်ချုပ်လေသည်။ နိုင်ငံခြားသို့ပညာတော်သင်များစေလွှတ်ကာ၊ ကြည်းတပ်၊ ရေတပ်နှင့်အုပ်ချုပ်ရေးပညာများကို ဂျာမနီနိုင်ငံမှရင်း၊ ဗိသုကာနှင့်အနုပညာများကို ပြင်သစ်နိုင်ငံနှင့် ဣတလီနိုင်ငံတို့မှရင်း၊ ပညာရေးနှင့် စက်မှုလက်မှုလုပ်ငန်းများကို အင်္ဂလန်နိုင်ငံနှင့် အမေရိကန်ပြည်ထောင်စု နိုင်ငံများမှရင်း ဆည်းပူးရယူစေခြင်းဖြင့် ဂျပန်နိုင်ငံသည်အာရှတိုက်၌ ခေတ်မှီစက်မှုလက်မှုနိုင်ငံကြီး ဖြစ်လာခဲ့လေသည်။ ထိုအချိန်အခါမှစ၍ ဂျပန်လက်နက်နိုင်ငံကို ချဲ့ထွင်တည်ထောင်လာခဲ့ကြလေသည်။

၁၈၉၄–၉၅ ခုနှစ်တွင်ဖြစ်ပွားသော တရုပ်ဂျပန်စစ်ပွဲ၌ရှေးကျသောတရုပ်တပ်များမှာ ခေတ်မှီသောဂျပန်ကြည်းတပ်၊ ရေတပ်များ၏ချေမှုန်းခြင်းကိုခံခဲ့ရ၍၊ စစ်အပြီးတွင်ဂျပန်နိုင်ငံက ပို့အာသာဆိပ်ကမ်းနှင့် အခြားတရုပ်နယ်များတို့ကို တောင်းဆိုခဲ့သော်လည်း ပြင်သစ်၊ ရုရှနှင့် ဂျာမနီတို့၏စွက်ဖက်မှုကြောင့် ဖော်မိုးဆား (တိုင်းဝမ်) ကျွန်းနှင့်သာ ကျေနပ်လိုက်ရသည်။ ပို့အာသာကိုမူ ရုရှကသိမ်း လိုက်၏။ ဤသည်ကားဂျပန်၏ ပဌမစစ်အင်အား စမ်းသပ်အောင်မြင်မှုပင်ဖြစ်၏။ ထိုနောက် ၁၉၀၅ ခုနှစ်တွင် ရုရှနှင့်စစ်ဖြစ်ပြန်ရာ ရုရှကြည်းတပ်၊ ရေတပ်တို့မှာမရှုမလှဆုံးရှုံး၍ စစ်အပြီးတွင်ဂျပန်နိုင်ငံသည် ရုရှထံမှဆက်ကလင်ကျွန်းတပိုင်းနှင့် ကိုရီးယားကို ရရှိလိုက်သည့်ပြင် ပို့အာသာဆိပ်ကမ်း၊ လီယိုတွန်ကျွန်းဆွယ်နှင့် မန်ချူးရီးယားတောင်ဖက်ပိုင်းတို့ကို သိမ်းပိုက်နိုင်ခဲ့ပြန်သည်။ ၁၉၁၄ ခုနှစ် ပဌမကမ္ဘာစစ်ဖြစ်ပွားသောအခါ ဂျပန်နိုင်ငံသည် ဗြိတိသျှတို့နှင့်မဟာမိတ်ပြု၍ ဂျာမန်ပိုင်တရုပ်နယ်ကလေးများကို တိုက်ခိုက်ခြင်းဖြင့် စစ်အပြီးတွင်ထိုနယ်များကိုရလိုက်ပြန်သည်။ ၁၉၂၁–၁၉၂၂ ခုနှစ်တွင်ချုပ်ဆိုခဲ့သော ဝါရှင်တန်စာချုပ်အရ ဂျပန်က တရုပ်နိုင်ငံ၏နယ်ပယ်များကို မထိပါးပါဟုဆိုကာအာမခံခဲ့



တိုင်းရင်းသားဝတ်စုံကိုဆင်ယင်ထားသော ဂျပန်အမျိုးသမီး ၂ ဦး

ဂျပန်မိသားတစု ဝိုင်းဖွဲ့၍စား သောက်နေကြပုံ

သော်လည်း ၁၉၃၂ ခုနှစ်တွင်တရုပ်နိုင်ငံရှိ မန်ချူးရီးယားနယ်ကိုတိုက်ခိုက်သိမ်းယူပြီးလျှင်မန်ချူကိုးဟုအမည်ပြောင်းကာ မိမိဩဇာခံလွတ်လပ်သောနိုင်ငံတရပ်အဖြစ်ကျေညာလိုက်လေသည်။ ယင်းကိစ္စကိုတုံ့ပြန်သောအားဖြင့် တရုပ်တို့က ဂျပန်ပစ္စည်းများကို သပိတ်မှောက်သည်တွင် ဂျပန်တို့ကရှန်ဟိုင်းမြို့ကိုတိုက်ခိုက်၍ခေတ္တသိမ်းပိုက်လိုက်ကြ၏။ ယင်းအပြုအမူအတွက် နိုင်ငံအသီးသီးကကန့်ကွက်ကြသောအခါ ဂျပန်နိုင်ငံသည် ၁၉၃၃ ခုနှစ်၌ နိုင်ငံပေါင်းချုပ်အသင်းကြီးမှနုတ်ထွက်လိုက်လေသည်။

၁၉၃၆ ခုနှစ်၌ စစ်ဝါဒီများဖြစ်သော အမျိုးသားရေးအဖွဲ့ဝင်တို့က စစ်တပ်ကိုကြိုးကိုင်နိုင်လာသောအခါ ကွန်မင်တန်ဆန့်ကျင်ရေးစာချုပ်ကို ဂျာမနီ၊ ဣတလီစသောဝင်ရိုးစွန်းနိုင်ငံများနှင့်ချုပ်ဆိုခဲ့၍ ၁၉၃၇ ခုနှစ်၌စစ်မကျေညာဘဲ တရုပ်နိုင်ငံအား ကျူးကျော်ဝင်ရောက်တိုက်ခိုက်ပြန်ခဲ့လေသည်။ ထိုနောက်တရုပ်နိုင်ငံရှိ ဗြိတိသျှကျေးတော်မျိုးကျွန်တော်မျိုးများအား ဂျပန်တို့ကနှိပ်စက်သည်ဆိုကာ ဂျပန်နှင့်အနောက်နိုင်ငံများဆက်ဆံရေး တင်းမာလာသည်တွင် ၁၉၄၁ ခုနှစ်၌အင်္ဂလိပ်၊ အမေရိကန်နှင့် ဒပ်ချတို့က ဂျပန်နှင့်ကူးသန်းရောင်းဝယ်မှုအဆက်ဖြတ်လိုက်လေသည်။ ဤကိစ္စအတွက်စေ့စပ်ရေးများမှာမအောင်မြင်ခဲ့ပေ။ ၁၉၄၁ ခုနှစ်ဒီဇင်ဘာလ ၈ ရက်နေ့တွင် ပစိဖိတ်သမုဒ္ဒရာအတွင်း ဟာဝိုင်းယန်ကျွန်းစုနှင့် ပါးဟာဗာရှိအမေရိကန်ရေတပ်စခန်းကြီးကို ဂျပန်တို့က စစ်မကျေညာဘဲ ဗုံးကြဲတိုက်ခိုက်လိုက်ခြင်းဖြင့် ဒုတိယကမ္ဘာစစ်ကြီးသည် အရှေ့ဖျားသို့ကူးစက်ခဲ့တော့လေသည်။ စစ်ဖြစ်စ၌ ဖိလစ်ပိုင်၊ ယိုးဒယား၊ မလေး၊ မြန်မာစသော အာရှတိုက်အရှေ့တောင်ဒေသများစွာတို့ကို ဂျပန်တို့ကလျင်မြန်စွာသိမ်းပိုက်နိုင်ခဲ့ကြသော်လည်း၊ ၁၉၄၂ ခုနှစ်ရာသီဦးတွင် ဩစတြေးလီးယားနိုင်ငံနှင့် ဟာဝိုင်းယန်ကျွန်းများကို သိမ်းရန် တောင်ဖက်သို့ထိုးဆင်းလာသောဂျပန်တပ်များမှာ ကော်ရယ်ပင်လယ်နှင့်မစ်ဒဝေးကျွန်းတိုက်ပွဲများ၌ မရှုမလှရှုံးနိမ့်သွားခဲ့ရသည်မှစ၍ စစ်ပြီးသည်အထိခံစစ်သာပြုနိုင်လေတော့သည်။ မဟာမိတ်တပ်သည် ဂျပန်နိုင်ငံကိုတဖြည်းဖြည်းကပ်လာသောအခါ ဂျပန်တို့သည်နိုင်ငံတောင်ဖက်ရှိ အီဝိုဂျီးမားနှင့် အိုကီးနားဝါးကျွန်းများမှအသေအလဲခုခံကြသဖြင့် ယင်းသည့်ကျွန်းများတွင်ဖြစ်ပွားခဲ့သောတိုက်ပွဲများကား ဂျပန်တို့၏ နောက်ဆုံးပိတ်အပြင်းအထန်ဆုံးသော တိုက်ပွဲများဖြစ်သည်။ ထိုအတွင်းရုရှကဂျပန်နိုင်ငံအားစစ်ကျေညာကာ မန်ချူးရီးယားကိုဝင်၍တိုက်ပြန်၏။ သို့သော်မဟာမိတ်တို့က ဂျပန်နိုင်ငံ၏ဟီရိုရှီးမားနှင့်နာဂါစာကီမြို့များကို အနုမြူဗုံးတလုံးစီကြဲချလိုက်မှသာ ၁၉၄၅ ခုစက်တင်ဘာလ ၂ ရက်နေ့၌ ဂျပန်တို့ခြွင်းချက်မရှိလက်နက်ချခဲ့ကြလေသည်။

၁၉၄၅ ခုနှစ်စက်တင်ဘာလ ၂ ရက်နေ့တွင် တိုကျိုပင်လယ်အော်အတွင်း ‘မိဇူးရီ’ စစ်သင်္ဘောပေါ်၌အခမ်းအနားဖြင့် ဂျပန်တို့လက်နက်ချခဲ့ရ၍ယခင်ကပိုင်ခဲ့ဘူးသောမန်ချူးရီးယားနှင့်ဖော်မိုဆာတို့ကို တရုပ်တို့အားပြန်ပေးရပြီးလျှင်



ဂျပန်နိုင်ငံ တိုကျိုမြို့တော်၏စည်ကားသောရပ်ကွက်တခု

ဆက်ကလင်ကျွန်းတောင်ပိုင်းနှင့် ကူးရိုးကျွန်းစုများကို ရုရှအားရင်း၊ ပစိဖိတ်သမုဒ္ဒရာအတွင်း ရှိကျွန်း ငယ်များ တို့ကို အမေရိကန်အားရင်း၊ အသီးသီးပေးအပ်လိုက်ရသည်။ စစ်အတွင်းညှဉ်းပန်း နှိပ်စက်မှုများ၌ အားပေးအားမြှောက်ပြုသည်ဟူသောစွဲချက်ဖြင့်ယာမာရှီတာနှင့်ဟုမ္မာအမည်ရှိဂျပန်စစ်ဗိုလ်ချုပ် ၂ ဦးအား မဟာမိတ် တို့ကစစ်ဆေးကွပ်မျက်၍ စစ်အတွင်းကနန်းရင်းဝန်ဖြစ် ခဲ့သော ဗိုလ်ချုပ်တိုဂျိုနှင့်အပေါင်းပါ ၂၇ ဦးတို့အားလည်း စစ်ရာဇဝတ်ကောင်များအဖြစ် ရုံးတင်စစ်ဆေး၍အပြစ်ပေးခဲ့လေသည်။ ရဲအဖွဲ့နှင့်လက်နက်ကိုင်တပ်များကို အထူးအရေးပေးခဲ့သော အခြေခံဥပဒေဟောင်းကိုပယ်ဖျက်၍ မဟာမိတ်များအလိုကျ ဒီမိုကရေစီသဘောသက်ဝင်သည့်အခြေခံဥပဒေသစ်ကို ရေးဆွဲခဲ့ကြသည်။ ဂျပန်နိုင်ငံတွင် နယ်သိမ်းတပ်ပေါင်းစု၏ သေနာပတိချုပ်အဖြစ် ဆောင်ရွက်ခဲ့ရသော ဗိုလ်ချုပ်မှူးမက်အာသာသည် ဂျပန်နိုင်ငံ၏စစ်ပြီးခေတ်နိုင်ငံရေးကိုပုံသွင်းပေးရာတွင် ခေါင်းဆောင်အဖြစ်ပါဝင်ခဲ့လေသည်။ စီးပွားရေးအားဖြင့်ဆိုလျှင် ယခုအခါဂျပန်နိုင်ငံဖြစ် အထည်အလိပ်၊ အစားအစာ၊ စက်ကရိယာနှင့်ဓာတ် ပုံပစ္စည်းများသည် ကမ္ဘာအရပ်ရပ်၌ပြန်လည်တွင် ကျယ်လာစပြုပြီဖြစ်၍ စစ်ကြောင့်ကျဆုံးခဲ့ရသော ဂျပန်နိုင်ငံ၏စီးပွားရေး အဆောက်အအုံကြီးမှာလည်း တစ တစပြန်လည် ကောင်းမွန်လာပြီဟု အမှန်ပင်ယူဆရမည်ဖြစ်ပေသတည်း။

# အလှအပကြိုက်သောနိုင်ငံမှအနုပညာစွမ်း

**ဂျပန်လူမျိုးတို့သည်၊ အနုပညာနှင့် လက်မှုပညာဖက်တွင် အထူးပင်စိတ်ဝင်စားသည်ဟု ဆိုရပေမည်။ ဂျပန်ဆင်းရဲသားတို့သည် မိမိတို့နေအိမ်များကိုပင်လျှင် အနုပညာမြောက်ပစ္စည်းများဖြင့် မွှမ်းမံပြုပြင် တန်ဆာဆင်ထားသည်။ ဤအကြောင်းရပ်တွင် ဂျပန်လူမျိုးတို့၏ အနုပညာဖက်၌ လက်စွမ်းထက်ပုံကို ဖတ်ရှုလေ့လာနိုင်မည်ဖြစ်ပေသည်။**

**ဂျပန်အနုပညာ။** ။ဂျပန်လူမျိုးများ အလှအပကြိုက်ကြသည်မှာ သန္ဓေကပင် ဝါသနာအထုံပါခဲ့၍ဟု ဆိုရမည်ဖြစ်သည်။ ထိုကြောင့် အလွန်ဆင်းရဲသောရပ်ကွက်များ၌ပင် ဆင်းရဲသူဆင်းရဲသားတို့၏ နေထိုင်ကြသောအိမ်များ၊ ပန်းဥယျာဉ်ကလေးများ၊ အိမ်တွင်းပစ္စည်း အသုံးအဆောင်များ၊ အိမ်ထောင်ပရိဘောဂများ၊ အလှထားသည့်ပစ္စည်းများ၊ ပန်းချီကားများ၊ ပန်းအိုးများနှင့် စားဖိုဆောင်မှအိုးခွက်များပါမကျန် အနုပညာမြောက်သော ပစ္စည်းများဖြစ်သည်ကို တွေ့ရလေသည်။ အိမ်တိုင်းအိမ်တိုင်း၌ပင် အိမ်အတွင်းအပြင် ဆင်ပြင်ထားပုံ၊ အိမ်ထောင်ပရိဘောဂများ စီစဉ်ပုံ၊ ပန်းချီကားများဆွဲချိတ်ပုံ၊ ဖျာ၊ ကော်ဇောများခင်းကျင်းထားပုံ၊ ပန်းအိုးများ ဆင်ပြင် ပုံတို့ကိုမြင် ရခြင်းဖြင့် လူမျိုး၏စိတ်ဓာတ်သည် အလှအပကိုမည်မျှနှစ်သက်၍ အနုပညာကိုမည်မျှလိုက်စားကြောင်း ကောင်းစွာအကဲခတ်နိုင်ပေသည်။ သို့ဖြစ်၍ အမေရိကန်၊ အင်္ဂလန်စသောအနောက်တိုင်းပြည်များကဲ့သို့ အဖိုးထိုက်တန်၍ ထူးထဲခိုင်မာသောပစ္စည်းများကို ခမ်းနားစွာမထားစေကာမူ၊ လက်မှုပညာပစ္စည်းများဖြင့် သပ်ရပ်စွာအလှပဆုံး မွှမ်းမံ ပြင်ဆင်နိုင်သူမှာ၊ ဂျပန်လူမျိုးများပင်ဖြစ်လေသည်။

ဂျပန်ပြည်၌ပေါက်ရောက်သော ဝါးနှင့်ထင်းရှူးပင်များ၊ တောင်စခန်းများတွင်တွေ့ရသော မြေစေး၊ ရွှံ့စေးအမျိုးမျိုးတို့ကလည်း ဂျပန်လူမျိုးတို့၏ သုခုမပညာရပ်များကို အဖက်ဖက်မှ ကူညီအားပေးလျက်ရှိလေသည်။

တိုင်းပြည်တပြည်၌ ပညာရပ်တခု တိုးတက်ဖွံ့ဖြိုးမှုသည် နိုင်ငံအုပ်ချုပ်သူများ၏ စိတ်ပါဝင်စားမှုပေါ်တွင် အမှီသဟဲပြုသည်။ အိုးခွက်လုပ်ငန်းကို ဂ ရာစုနှစ်လောက်က တရုပ်ပြည်မှ သင်ကြားမှတ်ယူကာ စတင်လုပ်ကိုင်ခဲ့လေသည်။ ခရစ် ၁၅၉၈ ခုနှစ်တွင် ဆတ်ဆူမာဆိုသူ ဂျပန်မင်းသားတပါးသည် ကိုရီးယားပြည်ကို တိုက်ခိုက်ခဲ့၍အပြန်တွင် အိုးအတတ်ကျွမ်းကျင်သူများကို ခေါ်၍လာခဲ့လေသည်။ ထိုသူများသည် ဂျပန်ပြည်တွင်တွေ့ရသော ရွှံ့မြေစေးတမျိုးကိုပြုပြင်ကာ အိုးခွက်မှစ၍ ထည့်စရာများစတင်ပြုလုပ်လေသည်။ ယင်းခွက်ယောက်များကို အပေါ်ယံ၌ ကြွေရောင်တင်ထားသည်။ ထိုကြွေရည်သုတ်ပစ္စည်းမျိုးကို မင်းသားအားဂုဏ်ပြုသောအားဖြင့် ဆတ်ဆူမာဟုအမည်ပေးရာ ယခုအခါ မြို့ကြီးတိုင်းလိုလို၌ ယင်းတို့ကိုပြုလုပ်၍ နိုင်ငံခြားသို့ပင် ထင်ရှားတွင်ကျယ်သော ကုန်ပစ္စည်းအနေဖြင့် တင်ပို့ရောင်းချလျက်ရှိနေလေပြီ။

ထို ၁၆ ရာစုနှစ်ကုန်ခါနီး၌ ဂျပန်ပြည် သို့လာရောက်အလုပ်လုပ်နေသော ကိုရီးယားနယ်သားအိုးသည်တဦးသည် အိဇုမီခေါ် တောင်ထိပ်မှ ရွှံ့စေးတမျိုးကိုတွေ့ရပြီးလျှင် ယင်းမှာတရုပ်ပြည်ထွက် ကြွေအဖြူနှင့် အပြာကဲ့သို့ ကောင်းမွန်ကြောင်းတွေ့ရသည်။ သို့နှင့်ထိုကြွေထည်လုပ်ငန်းကို ချဲ့ထွင်လုပ်ကိုင်ခဲ့ရာ ယခုအခါဂျပန်ကြွေထည်သည် အကောင်းဆုံးထုတ်ကုန်တရပ်အနေနှင့် ရှိခဲ့သည်။

သုခုမ အနုပညာသည်များ နေထိုင်သောတိုင်းပြည်ဖြစ်သည့်အတိုင်း ဂျပန်လူမျိုးများသည် ပန်းများကို အလွန်နှစ်သက်ကြ၍ ပန်းဥယျာဉ်လုပ်ငန်းကိုလည်း အများအပြားလုပ်ကိုင်ကြသည်။ နှစ်စဉ်နှစ်တိုင်း မြို့ကြီးများတွင် ပန်းပြပွဲ ပြိုင်ပွဲများကိုပြုလုပ်လေ့ရှိသည်။

ပန်းချီအတတ်နှင့်ဆိုင်လျှင် ရှေးဂျပန်ပန်းချီများမှာ တရုပ်တို့၏ဇာစ်မြစ်မှနွယ်လာသော အသွင်အပြင်ရှိသည်။ သို့သော်နှောင်းခေတ်သို့ရောက်သောအခါ အနောက်နိုင်ငံများမှအတုယူကာ လွန်စွာခေတ်ဆန်လေသည်။ သို့ပင်ဖြစ်စေကာမူ၊ ဂျပန်လူမျိုးတို့၏ အတွေးအခေါ် အယူအဆကို မပျောက်ပျက်စေဘဲ ခေတ်ဆန်ဆန်ရေးပုံရေးနည်းဖြင့် သရုပ်ဖော်ကာရေးခြယ်ကြလေသည်။

စာရေးပုံသားပုံ၌ တရုပ်တို့၏မူလဇာစ်မြစ်ပါရှိလေသည်။ ကဗျာလင်္ကာစပ်ဆိုပုံ၌ ဂျပန်ကဗျာများမှာ တရုပ်တို့၏ စပ်ဆိုဟန်ကို အတုယူထားကြောင်းတွေ့ရသည်။ ၂ ကြောင်းတွဲ ၄ ကြောင်းတွဲစသည်ဖြင့် အကြောင်းရေနှင့်တွဲထားသည့် ကဗျာလင်္ကာများမှာ ခေတ်အစားဆုံးဖြစ်၏။ ဂျပန်ပြည်ပြဇာတ်များနှင့် ပတ်သက်၍လည်း ဇာတ်ကွက်ဆင်ပုံ ဇာတ်လမ်းထွင်ပုံ၊ အခမ်းအနား ပြင်ဆင်ပုံ တို့မှာ တရုပ်ပြဇာတ်များနှင့် များစွာတူလေသည်။

အရှေ့တိုင်းသားများတို့၏ ပြောင်မြောက်သောလက်ရာတခုဖြစ်သည့် ပန်းပုပညာမှာလည်း ဂျပန်တို့အရေးတယူထားရှိသည့် သုခုမအနုပညာရပ်တခုဖြစ်၏။ ရှေးဟောင်းပန်းပုလက်ရာများကိုရှေးဘုရားကျောင်းကြီးများနှင့် အဆောက်အအုံဟောင်းကြီးများ၌သာတွေ့ရ၍၊ ၁၆ ရာစုနှစ်မှယခုအချိန်အထိ တိုးတက်ထွန်းကားလာလေသည်။ သစ်သားပေါ်တွင်ထုထွင်းအပ်သော ထိုသစ်သားပန်းပုများကို အများအားဖြင့် ဘုရားကျောင်းများတွင်တွေ့ရ၍ ဗုဒ္ဓဘာသာတို့၏ အကြိုက်နှင့်ဆီလျော်အောင် ဟင်းသပြဒါး၊ ရွှေစသည်တို့ဖြင့်ခြယ်ထားကြ၏။ ရုပ်လုံးအကောင်အထည်တို့မှာ များသောအားဖြင့်ပန်းအမျိုးမျိုးပုံများ၊ ငှက်ရုပ်များ၊ နတ်သမီး၊ ကိန္နရာရုပ်များ၊ နဂါးရုပ်များဖြစ်ပြီးလျှင်တံခါးမုတ်များ၊ တိုင်များ၊ မျက်နှာကြက်များနှင့် ပစ္စင်ရင်တားများပေါ်တွင် ထုလုပ်ထားရှိတတ်ကြလေသည်။

အချို့လက်ရာများမှာအလွန်ပင်အနုစိတ်၍၊အံ့မခန်းရှိသည်။ လက်မှုပညာနှင့်ဆိုင်သော အခြားပညာရပ်များမှာ ဆင်စွယ်ပန်းပုထုခြင်းနှင့် အဝတ်များပေါ်တွင် ရွှေခြည်ထိုးခြင်း၊ ဇာပန်းဖောက်ခြင်းများကဲ့သို့ သတ္တုအမျိုးမျိုးပေါ်တွင်ပန်းဖော်ခြင်း၊ ကျောက်စီခြင်း၊ ကျောက်မြှုပ်ခြင်းအတတ်များဖြစ်လေသည်။ ယင်းတို့မှာ ကျောက်ရုပ်တုငယ်၊ သံရုပ်တုငယ်ကလေးများထုခြင်း၊ ယပ်တောင်များ၊ ဖဲထီးလက်ကိုင်များထုခြင်း၊ ဇာအိမ်ဇာရိုးပြုလုပ်ခြင်းများ ပါဝင်လေသည်။ သံနှင့်သံမဏိများပေါ်တွင် မိလ္လာဖြင့်ပန်းဖော်ခြင်း၊ ရုပ်ပုံများဖော်ခြင်းအတတ်မှာလည်း ဂျပန်တို့၏ ရှေးဟောင်းသုခုမပညာရပ်တခုဖြစ်၍၊ ဂျပန်လူမျိုးများသည်ထိုအတတ်တွင် မြိုင်ဖက်ကင်းလောက်အောင်ကျွမ်းကျင်ကြသည်။

ကြေးညိုသတ္တုဖြင့် ရုပ်တုထုလုပ်ခြင်း၌လည်း၊ ဂျပန်တို့၏



ဂျပန်အနုပညာကိုသရုပ်ပေါ်စေသည့်
အိုဆာကာမြို့ရှိရဲတိုက်ကြီး



ဆတ်ဆူမာခေါ် ကြွေထည်ပေါ်တွင်စုတ်ရေးဆေးခြယ်နေပုံ

လက်ရာမှာ ခြိးကျူးလောက်ပေသည်။ ကမကုရမြို့ရှိ ဗုဒ္ဓရုပ်ပွားတော်ကြီးမှာ ဤကြေး သတ္တုဖြင့် ပြုလုပ်ထား၍၊ ပေ ၅၀ ခန့်အမြင့်ရှိ၏။ ပြုလုပ်ပုံမှာထိုကြေးသတ္တုများကိုအချပ်လိုက်စပ်ပြီးနောက် အဆုံးသတ်တွင် လက်ရိုက်တူကလေးဖြင့် ဆောက်ဖြတ်ကာ ပုံတော်ကိုဖော်ထားလေသည်။

ရောင်စုံပန်း ရိုက် ခြင်း အတတ်၌ လည်း ဂျပန်ကို မှီ သူရှားလေသည်။ ယင်းအတတ်မှာ ပန်းချီဆရာလက်ရာလည်းပါ၊ ပန်းပုဆရာ၏လက်ရာလည်းပါရ၍၊ ပန်းပုဆရာက ဆန်းပြားလှပစွာထွင်း ဖေါက် ထုလုပ်ထားသည့် ပန်းပုံများကို ပန်းချီဆရာက ပကတိသဘာဝ ပန်းဖူးပန်းနွယ်တို့နှင့် တူအောင် ဆေး ခြယ် ရလေ သည်။ ထိုနောက် ရောင် စုံ ရိုက် မည့် ဗလောက်ပုံစံများ အမျိုးမျိုးပြုလုပ်ပြီး လျှင် ဆေး ရောင် တရောင်လျှင် ဗလောက်တမျိုးကျစီထား၍ သူ့နေရာနှင့်သူ၊ သူ့ အထပ်နှင့် သူ အရောင် ထပ်၍ အံကိုက် အောင်ဒုက္ခခံကာ တထပ်ပြီးတထပ်ရိုက်ယူရလေသည်။ သို့ရိုက်ယူမှသာလျှင် အဖူးအပွင့် အခက်အလက်တို့မှာ ဆေးရောင်ချင်းရောယှက်ကာ သဘာဝ ပန်းခက်ပန်းနွယ်တို့နှင့် တထေရာတည်းတူညီလေသည်။ ၁၈ ရာစုနှစ်နှင့်၁၉ ရာစုနှစ်အတွင်းတွင် ထိုအတတ်၌ အထူးကျွမ်းကျင်ထင်ရှားသော ပုဂ္ဂိုလ်ကြီးများရှိခဲ့ကြ၍၊ ထိုအခါတွင်မှ ဂျပန်များသည် ရောင်စုံပန်းရိုက်ပညာတွင် တဖက်ကမ်းခပ်လေတော့သည်။

အဝတ်ပေါ်၌ဖြစ်စေ၊ စက္ကူပေါ်၌ဖြစ်စေ၊ ရုပ်ပုံများ၊ ပန်းပုံများ ရောင် စုံရိုက် နှိပ်ခြင်း အတတ် သည် ပြင်သစ်ပြည်မှစခဲ့ရာ၊ ထိုပညာကိုဂျပန်အနုပညာသည်များ စိတ်ဝင်စားကာ အတုယူခဲ့ဟန် တူသည်။ ဂျပန် ပြည် ၌ ကျောင်း များ ပင်ဖွင့်လှစ် သင် ကြား၍ ယခုအခါ ထိုအတတ်ပညာဖြင့် လူပေါင်းများစွာ အသက်မွေးမြူလျက်ရှိကြသည်။ သို့ပင်အနောက်နိုင်ငံမှ ယူခဲ့သည့်ပညာရပ်တရပ်ဖြစ်စေကာမူ ဂျပန်တို့သည်မိမိတို့၏ ရှေးခေတ်အနုပညာရပ်များကို ထိန်းသိမ်းစောင့်ရှောက်သည့်အနေဖြင့်ရှေးမူဟောင်းစံနစ်များကို ပြန်၍အသက်သွင်းနိုင်သမျှ သွင်းခဲ့ကြ၏။ သို့ဖြင့် အရှေ့တိုင်းသားဂျပန်တို့သည် သုခုမအနုပညာများနှင့်ဆိုင်သည့် ကိစ္စများ၌ပင် မိမိတို့တိုင်းရင်းဖြစ် ရှေးဟောင်းပညာရပ်များကို တိမ်ကောပပျောက်ခြင်းမရှိရလေအောင် ထိန်းသိမ်းစောင့်ရှောက်ထားလို၍ အနောက်တိုင်း၏ လွှမ်းမိုးခြင်းကို ခံယူလိုဟန်မရှိကြချေ။

ဂျပန်နိုင်ငံတွင် ယောကျ်ားမိန်းမ၊ မည်သူမဆိုပန်းများကို အလွန်နှစ်သက်တတ်သောဝါသနာရှိသည့်အတိုင်း၊ ဥယျာဉ်များဖြင့် အကြီးအကျယ်မစိုက်ပျိုးနိုင်စေကာမူ၊ မိမိတို့ရရှိသမျှမြေကွက်ကလေးများတွင် မြေပေါ်၌ရင်း၊ အိုးများဖြင့်ရင်း၊ ပန်းပင်များကို ယုယုယယ စိုက်ပျိုးကြသောအလေ့အထရှိ၏။ ထိုကြောင့်လည်း 'ပန်းကြိုက်သောဂျပန်ပြည်' ဟူ၍ ကမ္ဘာကပင် အသိအမှတ်ပြုခြင်း ခံရသည်။ သူတို့သည်မည်မျှလောက် အလှအပကြိုက်သည်ဆိုပါမူ အိမ်

တွင်းရှိပန်းအိုးများ၌ပန်းများ အလှထိုးရာ၌ပင်လျှင်၊ ‘ပန်းအလှထိုးနည်း’ ဟူ၍ ပန်းခိုင်များကိုလိမ်ခြင်း၊ ညွတ်၍ပေးခြင်း၊ ဖြတ်တောက်ခြင်း၊ ပြင်ဆင်ခြင်းများကို ပြုလုပ်ကာ၊ သဘာဝအတိုင်း ဖြစ်နေသည့်ဟန် ပြုလုပ်ပေးခြင်းကိုပညာရပ်တခုအနေနှင့် ထားရှိလေသည်။ တသီးတသန့်စာအုပ်များပင် ထုတ်ကာအမျိုးသမီးကလေးများ၊ ကျောင်းသူများ၊ အိမ်ရှင်မများအား သင်ကြားပေးလေသည်။

မြန်မာနိုင်ငံအထက်ပိုင်း ပုဂံနှင့်ညောင်ဦးမြို့များတွင် သစ်စေးသရိုးလုပ်ငန်းတွင်ကျယ်သကဲ့သို့ဂျပန်သရိုးကိုင်လုပ်ငန်းမှာလည်း ထင်ရှားပြီးလျှင် ဂျပန်များသည် ဤအတတ်၌ထူးချွန်သူများဖြစ်၏။ ထိုလုပ်ငန်းအတွက် ‘ရှူးမက်’ အမျိုးအနွယ်ဖြစ်သော အပင်တမျိုးမှရရှိသော အဆိပ်အတောက်ဖြစ်စေသည့် သစ်စေး မှချိပ်ကိုထုတ်ယူလေသည်။ ထိုချိပ်ရည်ကို အလိုရှိသောသစ်သားပေါ်၌ ပါးလွှာစွာသုတ်ပြီးသော် ရေနွေးငွေ့ပေးထားသော သေတ္တာထဲတွင် အခြောက်ခံပြီးနောက်၊ ကောင်းမွန်စွာပွတ်တိုက်၍ အရောင်တင်ပေးလေသည်။ ဤနည်းအတိုင်း တကြိမ်မက အကြိမ်ပေါင်းများစွာသည်းခံ၍ ထပ်တလဲလဲ ပြုလုပ်ပေးခြင်းဖြင့် မိမိအလိုရှိသည့်အတိုင်း အသားတက်ခြင်း၊ အသွေးအရောင်ထွက်လာခြင်းများကိုရရှိလေသည်။ ဤအတတ်ကိုပန်းယွန်းလုပ်ခြင်းအတတ်ဟု ခေါ်တွင်လေသည်။ ထိုယွန်းထည်များပေါ်တွင်ရင်း၊ ပန်းကန်ပြားများ၊ ဗျပ်များ၌ရင်း ရွှေမျှော်ခင်းများ၊ ရုပ်ပုံများနှင့် ပန်းနွယ်ပန်းခက်များဖြစ်အောင် သဲဖြူမှုန့်ကလေးများ၊ ကျောက်ခဲနုကလေးများဖြင့်ကပ်သော အတတ်ပညာရပ်တခုလည်းရှိသေးသည်။ ထိုအတတ်ကိုဂျပန်ကလေးသူငယ်တို့ များစွာနှစ်သက်ကြသည်။

ပျော်ရွှင်မှုနှင့်ဆိုင်လျှင်လည်း ဂျပန်တို့၏ရှေးအစဉ်အလာဂီတသံများမှာ တရုပ်နှင့်များစွာတူပြီးလျှင် အနောက်နိုင်ငံသားများ၏နားတွင် အသံအနိမ့်အမြင့်မရှိသလောက် ဖြစ်နေလေသည်။ အသုံးပြုသောတူရိယာများမှာ မောင်းများ၊ ဗုံကြီး၊ ဗုံတိုများနှင့် စောင်းအမျိုးမျိုးတို့ဖြစ်ကြသည်။ ယခုခေတ်၌မူ ယင်းတို့ကို ခေတ်သစ်နည်းစံနစ်ဖြင့်အနောက်တိုင်းဆန်အောင်စီမံပြုလုပ်လေပြီ။

ဂျပန်လူမျိုးများသည် ဆောက်လုပ်ခြင်း 'သုကာအတတ်၌လည်း လက်မြောက်သည်။ ဘုရားပုထိုးများ၊ ကျောင်းများ စသည်တို့တွင် ဘုံဆင့်များ အထပ်ထပ်ရှိပြီးလျှင် လှပစွာအကောက်အချိတ်တို့ဖြင့် တန်ဆာဆင်ထားသည်။ စေတီပုထိုးများမှာ ဘုံဆင့်များဖြင့် အထပ်ထပ်အရစ်ရစ်တည်ထား၏။ နန်းတော်များမှာ ကျောက်သားဖြင့်ပြုလုပ်သည့် ပစ္စင်ရင်တားတို့ဖြင့်မွမ်းမံထား၏။ အိမ်များကိုအုတ်ကြွပ်များ၊ တိုင်းရင်းဖြစ်သက်ငယ်များဖြင့် လှပစွာမိုးထားပြီးလျှင် အမိုးများသည် အစွန်းတွင်အပေါ်သို့ကော့ထောင်လျက်ရှိကြ၏။ ခေတ်မီအိမ်များကို အများအားဖြင့် သစ်သားဖြင့်ဆောက်လုပ်ကြ၍ ဥယျာဉ်နှင့်ရှုမျှော်



ဆင်စွယ်ပန်းပုအတတ်စွာလည်း ဂျပန်တို့၏လက်ရာမှာအံ့ချီးဖွယ်ရာဖြစ်ပေသည်။

ခင်းများကို အရေးတကြီးပမာနထားကြသည်။ အိမ်ကို တထပ်သော်၎င်း၊ နှစ်ထပ်သော်၎င်းဆောက်လုပ်၍ အညို ရောင်ပျဉ်အုတ်ကြွပ်များ မိုးထား၏။ တောနယ်များ၌မူ တိုင်းရင်းဖြစ်သက်ငယ်ကို မိုးကြ၏။ ကြမ်းပြင်တွင် ထူ ၂ လက်မထူသော ၃ X ၆ ပေရှိသည့်ဖျာများကို စေ့စပ်စွာ ခင်းထားပြီးလျှင် အခန်းများကိုလည်း ဖျာချပ်၏အရွယ် အစားနှင့်ကိုက်ညီအောင် ပြုလုပ်ကြ၏။ အခန်းများမှာ ဘခန်းနှင့်တခန်း လွယ်ကူစွာဖွင့်၍ ရနိုင်သော လိုက်ကာ အရှင်များဖြင့် အပိုင်းအခြားများပြုလုပ်ထား၏။ ထိုလိုက် ကာများရှိအဝတ်ပေါ်တွင် ရှုမျှော်ခင်းများ၊ ရုပ်ပုံများနှင့် ပန်းပွင့်ပန်းနွယ်များကို ရေးဆွဲ၍သော်၎င်း၊ ရက်လုပ်၍ သော်၎င်းတန်ဆာဆင်ထားကြလေသည်။ ယခုအခါစား ဖိုဆောင်များတွင်တာဝန်နည်း၍အလွယ်တကူသုံးစွဲနိုင်သည့် အနောက်တိုင်းဖြစ်ကရိယာများကိုတပ်ဆင်ထားလေသည်။ အလင်းရောင်ဝင်စေရန်အတွက် ဖွင့်ရပိတ်ရလွယ်သောပြ တင်းပေါက်များကို အရှင်တပ်ထားသည်။ အိမ်ပြင်တွင် ပန်းဥယျာဉ်ငယ်များဖြင့် လှပစွာပြင်ဆင်ထားသကဲ့သို့အိမ် တွင်း၌လည်း ရိုးရိုးရှင်းရှင်းနှင့် သပ်သပ်ရပ်ရပ် ပြုလုပ်ထား တတ်ကြသည်။

အိမ်ထောင်သိမ်းဆည်းသည့်ဖက်တွင် ဂျပန် မိန်းမများ သည် ကမ္ဘာပေါ်တွင်အလွန်လုံ့လဝီရိယရှိ၍၊ စေ့စပ်သေချာ သည်ဟုကျော်စောကြ၏။ ထိုနည်းတူဂျပန်ယောကျ်ားများ ကလည်း အိမ်သုံးကရိယာများ ပြုလုပ်ရာတွင် လက်မြောက် ကြ၏။ ဂျပန်ယောကျ်ား မိန်းမအားလုံးပင် တနည်းနည်း အားဖြင့် သူတို့ကိုယ်တိုင် တစိတ်တဒေသ အနုပညာသည် များဖြစ်ကြသည်။

**ဂျမေးကားကျွန်း**။ ။ဂျမေးကားဟူသောအမည်မှာ ရေ တံခွန်ရှိသောကျွန်းဟု အဓိပ္ပါယ်ရလေရာ၊ ထိုကျွန်း၌စိမ့်စမ်း ရေတံခွန်တို့သည် အပျော်ခရီးထွက်သူတို့၏စိတ်နှလုံးကို ချမ်း မြေ့အောင်ဖန်တီးပေသည်။ ထို့မှတပါးလည်း သစ်ခွပန်း၊ ဂမုန်းပန်း၊ ပေါ်ပီပန်းစသော ရောင်စုံပန်းအမျိုးမျိုးတို့ ကြောင့် ၁၄၉၄ ခုနှစ်တွင် ဂျမေးကားကျွန်းသို့အနောက် နိုင်ငံသားထဲမှ ရှေးဦးစွာရောက်ခဲ့သောကိုလံဗပ်က နတ် ဥယျာဉ်နှင့်တူသောကျွန်းဟုအမှတ်တရပြောခဲ့ဘူးသည်။

ဂျမေးကားကျွန်းသည် ဗြိတိသျှပိုင်အနောက်အိန္ဒိယ ကျွန်းစုတွင် အကြီးဆုံးနှင့် အထင်ရှားဆုံး ကျွန်းဖြစ်၍ အလျား ၁၄၄ မိုင်၊ အနံမိုင် ၄၀ ခန့်ရှိသည်။ ကျူးဗားကျွန်း ၏တောင်ဖက် မိုင် ၉၀ ခန့်အကွာတွင်တည်ရှိသည်။

ရှေးအခါကမူ ဤကျွန်းမှာ ရက်စက်ကြမ်းကြုတ်သောပင် လယ်ဓားပြများ၏ စခန်းချရာဌာနဖြစ်ခဲ့ဘူး၏။ ကိုလံဗပ် တွေ့ရှိပြီးသည့်နောက် ၁၅ နှစ်ခန့်အကြာတွင် စပိန်လူမျိုး တို့သွားရောက်ခဲ့ဘူးသည်။ ၁၆၆၅ ခုနှစ်တွင် အင်္ဂလိပ်ပိုင် ကိုလိုနီတခုအဖြစ်ဖြင့် ဗြိတိသျှတို့က သိမ်းယူလေသည်။ လူဦးရေ ၁,၂၀၀,၀၀၀ ကျော်ရှိသည့်အနက် ၁၀၀ လျှင် ၂ ယောက်သာမျက်နှာဖြူတို့ဖြစ်၍ ၇၇ ယောက်တို့မှာကပ္ပလီ လူမျိုးများ၊ ၂၀ ယောက်မှာကပြားများနှင့် ကျန်လူတို့မှာ ကူလီများ အိန္ဒိယလူမျိုးနှင့်တရုပ်များဖြစ်ကြသည်။ အုပ် ချုပ်ရေးတွင် ဂျမေးကားကျွန်းနှင့်အတူ တွဲဖက်ထားသော ကျွန်းငယ်များမှာ တာ့ကျွန်း၊ ကေးကပ်ကျွန်းနှင့်၊ ကေးမန်း ကျွန်းများဖြစ်ကြ၏။ ၁၉၅၂ ခုနှစ်လူဦးရေခန့်မှန်း ချက်မှာ ၁,၄၇၁,၆၀၂ ယောက်ဖြစ်သည်။

၁၉၃၈ ခုနှစ်တွင် သကြားဈေးကျဆင်းအဖြင့် အလုပ် သမားများသည် မိမိတို့ဝမ်းရေးအတွက်မကျေမနပ်ဖြစ်ကာ၊ ဆူပူမှုများဖြစ်ပွားခဲ့ရာ ထိုနှစ်ဇူလိုင်လ၌ စုံစမ်းရေးအဖွဲ့တ ခုကို စေလွှတ်၍စုံစမ်းစေခဲ့၏။ သို့ဖြင့် ၁၉၄၄ ခုနှစ်တွင် အုပ်ချုပ်ရေးဥပဒေအရ ဘုရင်ခံကဥပဒေပြုကောင်စီဖွဲ့စည်း ကာအုပ်ချုပ်လေသည်။ ဒုတိယကမ္ဘာစစ်ကြီးအတွင်း ၁၉၄၀ ပြည့်နှစ်တွင် ဗြိတိသျှအစိုးရသည် ရေတပ်စခန်းပြု လုပ်ရန်နေရာတခုကို အမေရိကန်ပြည်သို့ငှားရမ်းလိုက်ရ၏။

မြစ်များအတော်များများရှိသော်လည်း ဗလက်မြစ်တခု သာသွားလာဆန်တက်နိုင်၏။ ဗလူးမောင်းတိန်းခေါ် တောင်တန်းများမှာ ပေ ၇,၀၀၀ ကျော်မြင့်၍ တောင်စောင်း များတွင် မဟော်ဂနီ၊ ထင်းရှူးပင်တို့ဖြင့်ဖုံးအုပ်လျက်ရှိ၏။ သဘော်ဆိပ်ကောင်းများနှင့်ကားလမ်းများရှိ၏။ ထွက်ကုန် များမှာ သကြား၊ ငှက်ပျော၊ ကော်ဖီ၊ ချင်း (ဂျင်း)



ဂျမေးကားကျွန်း၏အရေးပါသောငှက်ပျောလုပ်ငန်း



ဂျမေးကားကျွန်း၊ ကင်းစတောင်းမြို့တော်၏ သာယာသောရှုခင်း

နှင့် အခြားအသီးအနှံများဖြစ်လေသည်။ 'ဂျမေးကားရမ်' ခေါ် ရမ်အရက်မှာ ထင်ရှားသောထွက်ကုန်တခုဖြစ်သည်။

သားရဲတိရစ္ဆာန်များနှင့် အဆိပ်ရှိသောမြွေများမရှိချေ။ ကျွန်းတွင် မကြာခဏမြေလျှင်လှုပ်၍ လေဆင်နှာမောင်းများတိုက်ခတ်ကျရောက်တတ်၏။ ၁၉ဝ၇ ခုနှစ်ကမြေလျှင်ပြင်းထန်စွာလှုပ်ခဲ့ဘူးရာ ကျွန်း၏မြို့တော်ဖြစ်သော ကင်းစတောင်းမြို့တွင် လူပေါင်းများစွာသေကြေခဲ့၏။ ၁၉၁၂ ခုနှစ်တွင်တိုက်ခတ်သော လေနီကြမ်းကလည်း ကျွန်းအနောက်ဖက်ကမ်းရှိသဘော်ဆိပ်တခုကို အတော်ပင်ပျက်စီးစေခဲ့၏။

ဂျူရူးဆလမ်းမြို့။ ။ဂျူရူးဆလမ်းမြို့သည် အဇ္ဇရီယယ်နိုင်ငံ၏ မြို့တော်ဖြစ်သည်။ ဂျက်ဖားသဘော်ဆိပ်မြို့၏ အနောက်တောင်ဖက် ၃၅ မိုင်အကွာ၌ရှိသော တောင်ကုန်းမြင့်တခုပေါ်တွင် တည်ရှိ၏။ ခရစ်ယန်နှင့် ယဟူဒီတို့ အထွတ်အမြတ်ထားသည့် အယူဝါဒဆိုင်ရာမြို့တော်ကြီးဖြစ်သည်။

'ဂျူရူးဆလမ်း' ၏အဓိပ္ပါယ်မှာ ငြိမ်းချမ်းရေးမြို့တော် ဖြစ်၏။ သို့သော်လည်း ဤမြို့၌မကြာခဏ စစ်ပွဲများဖြစ်ပွားသောကြောင့် မကြာခဏပြန်လည်ပြင်ဆင်တည်ဆောက်ခဲ့ရသဖြင့် ထိုမြို့သည် ကမ္ဘာပေါ်ရှိမြို့အပေါင်းတို့တွင် ငြိမ်းချမ်းမှုအနည်းဆုံးမြို့ ဖြစ်ပေသည်။ ယခုမြို့၏ မြေအောက်ပေ ၃ဝ ခန့်တွင် ရှေးခေတ်က ရောမလူမျိုးတို့ဖောက်လုပ်ထားခဲ့သည့် လမ်းမကြီးကိုတွေ့နိုင်လေသည်။ အမှန်စင်စစ် ဂျူရူးဆလမ်းမြို့သည် မြို့ ၃ မျက်နှာကို နက်ရှိုင်းသောချောက်ကြီး ၃ ခု ဝန်းရံနေသော ကြောင့် သဘာဝခံတပ်မြို့တမြို့ဖြစ်၏။

အရှေ့နှင့် အရှေ့မြောက်ဖက်တွင် ကစ်ဒရွန်ချောက်ကြီးသည် မြို့တော်ကို သံလွင်ပင်ကြီးများ ပေါက်ရောက်ရာ သံလွင်တောင်မှခြားထား၏။ အနောက်ဖက်တွင် တောင်ဖက်သို့တန်းသွားသော ဟင်နွန် (ဝါ) ဂီဟင်းနာချိုင့်ဝှမ်းကြီးရှိသည်။ ယင်းမှာ ရှေးကဖိနီရှန်လူမျိုးတို့ လူကိုသတ်ဖြတ်ယဇ်ပူဇော်ရာနေရာ ဖြစ်လေသည်။

ဂျူရူးဆလမ်းမြို့ရိုးမှာ ကြိမ်ဖန်များစွာပျက်ဆီးခြင်း ခံခဲ့ရသည့်ပြင် အဖန်ဖန်ပြန်လည်ပြင်ဆင်ဆောက်လုပ်ခဲ့ရသော မြို့ရိုးဖြစ်၍၊ ယခုမြို့တံခါး ၈ ပေါက်မှာ ၁၆ ရာစုနှစ်ကစူလတန်ဘုရင် ဆော်လီမန် တည်ဆောက်ထားခဲ့သောတံခါးများဖြစ်၏။ မြို့၏တောင်ဖက်တွင် ယဟူဒီလူမျိုးတို့ အထွတ်အမြတ်ထားရာ ဘုရားတန်ဆောင်းကြီးတခု၏ နံရံဟောင်းတခုရှိသည်။ ယင်းတန်ဆောင်းမှာ ယဟူဒီဘုရင်ကြီးဆော်လမွန်တည်ဆောက်ခဲ့သော အဆောက်အအုံကြီးတခုဟုယုံကြည်ကြလေသည်။ သောကြာနေ့တိုင်း ယဟူဒီဘုရားဖူးတို့သည်ဤနံရံဟောင်းကြီးကို နဖူးနှင့်ကပ်လျက် ငိုကြွေးမြည်တမ်းကာ ရှေးခေတ်ဟောင်းက ယဟူဒီတို့ ခမ်းနားကြီးကျယ်ခဲ့ပုံကို အောက်မေ့တမ်းတလေ့ရှိသဖြင့် ငိုကြွေးရာတံတိုင်းဟု အမည်တွင်လျက်ရှိသည်။ ယင်းသည့် ယဟူဒီတန်ဆောင်းကြီးနေရာတွင်မှတ်စလင်တို့၏ အိုမာပလီဝတ်ကျောင်းကြီးကို

ကျောက်သားဖြင့် လှပစွာ ဆောက်လုပ်ထားလေသည်။ ဂျရူးဆလမ်မြို့တွင် ခရစ်ယန်ဘုရားဖူးတို့ အထူးသွားရောက်ဖူးမျှော်တတ်သောနေရာကား ဟိုးလီးဆီးပါးလခါးဘုရားရှိခိုးကျောင်းဖြစ်၏။ ထိုကျောင်းတော်ရာမှာ ခရစ်တော်၏သင်္ချိုင်းရာဖြစ်သည်ဟု ယုံကြည်ကြ၏။ အမှန်စင်စစ် ခရစ်တော်အား ကားတင်သတ်သောလက်ဝါးကပ်တိုင်တည်ရာ၊ ခရစ်တော်အားမြှုပ်နှံရာနေရာတို့ကို မည်သူမျှ အတိအကျမပြနိုင်ကြချေ။ သို့ရာတွင် မြင့်မြတ်သောနေရာကို ရည်မှန်း၍သာလျှင်ဖူးမြော်နေကြရလေသည်။

မြို့တော်ဟောင်း၏ လမ်းများမှာ ကျဉ်းမြောင်းကောက်ကွေ၏။ မြို့ရိုးပြင်ဖက် ဆင်ခြေဖုံးများတွင် ကျယ်ပြန့်၍ ဘေးတဖက်တချက်တွင် သစ်ပင်စိုက်ထားသောလမ်းမကြီးများ၊ ဥယျာဉ်များနှင့် အဆောက်အအုံများရှိ၏။ မြို့တော်၏ အကြီးဆုံး ရပ်ကွက်သစ်မှာ ဂျက်ဖားတံခါးမကြီး၏ အနောက်ဖက်တွင်ရှိလေသည်။

ဘီစီ ၁၄၀၀ ပြည့်နှစ်ခန့်တွင် ဤမြို့တော်ကို အီဂျစ်လက်အောက်ခံ ဘုရင်တပါးက အုပ်ချုပ်ခဲ့၏။ ထိုနောက်၊ ဘီစီ ၁၀၀၀ ခန့်လောက်တွင် ဒေးဗစ်ဘုရင်သည် ဂျရူးဆလမ်းကို ယဟူဒီနိုင်ငံသစ်၏မြို့တော် ပြုလုပ်ခဲ့လေသည်။ ဘီစီ ၅၈၆ ခုနှစ်တွင် ဗက်ဗီလုံဘုရင်နက်ဗူခတ်နက်ဇာသည် ဂျရူးဆလမ်းမြို့ကို သိမ်းပိုက်၍ မြို့သူမြို့သားအမြောက်အမြားကို ဖမ်းဆီးခေါ်ဆောင်သွားလေသည်။ ပါးရှင်းဘုရင်ဆိုင်းရပ်လက်ထက်တွင် မြို့သစ်ပြန်တည်၍ ဘီစီ ၄၄၅ ခုနှစ်လောက်တွင် မြို့ရိုးများကို အသစ်ပြန်လည်၍ဆောက်လုပ်ခဲ့လေသည်။ ထိုမှတဖန် ဂျရူးဆလမ်မြို့သည် ဂရိဘုရင်အယ်လက်ဇန္ဒား–သ–ဂရိတ် လက်အောက်သို့ ကျရောက်ခဲ့ပြန်သည်။ နောင်အခါတွင် ဆီးရီးယန်းနှင့်အီဂျစ်ဘုရင်တို့ သူတပြန်ငါတပြန် တိုက်ခိုက်သိမ်းပိုက်ခြင်း ခံခဲ့ရပြန်၏။ ဘီစီ ၆၃ ခုနှစ်တွင် ရောမစစ်ဗိုလ်ကြီး ပွန်ပီ က သိမ်းပိုက်ခဲ့၏။ ရောမတို့လက်အောက်တွင် ယဟူဒီလူမျိုးများက ထကြွပုန်ကန်သဖြင့်၊ မြို့ကို ၂ ကြိမ်မျှ ဖျက်ဆီးပစ်လိုက်ခြင်းခံရ၏။ အေဒီ ၆၃၇ ခုနှစ်တွင် မွတ်စလင်တို့ကသိမ်းပိုက်လိုက်၏။ ဂျရူးဆလမ်းမြို့သည် တူရကီနှင့်အီဂျစ်လူမျိုးတို့လက်ထဲမှ ၁၀၉၉ ခုနှစ်တွင် ကရူးဆိတ်စစ်ဆင်သူ ဥရောပဘုရင်များ၏လက်သို့ ကျရောက်ခဲ့ရ၏။ ၁၁၈၇ ခုနှစ်တွင် အာရပ်မွတ်စလင်ဘုရင်ဆဲလဒင်းက ပြန်လည်သိမ်းပိုက်ခဲ့၍ ၁၅၁၇ ခုနှစ်တွင် တူရကီတို့လက်ထဲသို့ ရောက်သွား၏။ ၁၁၈၇ ခုနှစ်မှ ၁၉၁၇ ခုဗြိတိသျှစစ်တပ်များက သိမ်းပိုက်သည်အထိ၊ မွတ်စလင်တို့လက်ထဲ၌ ရှိခဲ့ပေသည်။ (ဗြိတိသျှတို့သိမ်းပိုက်ပြီးနောက် ဂျရူးဆလမ်း၏ သမိုင်းစဉ်အတွက် အစ္စရီယယ်နိုင်ငံ — ရှု။)

ဂျရူးဆလမ်းမြို့နှင့် ခရိုင်မှာ ယခုအခါ အစ္စရီယယ်နိုင်ငံအစိုးရနှင့် ဂျော်ဒန်နိုင်ငံအစိုးရတို့ ခွဲဝေအုပ်ချုပ်လျက်ရှိ၏။ မြို့ဟောင်းကို ဂျော်ဒန်ကပိုင်၍ မြို့သစ်ကို အစ္စရီယယ်ကပိုင်သည်။ မြို့ဟောင်းတွင် အထွတ်အမြတ် နေရာ ၃၄ ခုရှိသည်။ မြို့သစ်၌မူ အထွတ်အမြတ်ထားရာ နေရာ ၂ ခုသာရှိသည်။ ဂျရူးဆလမ်းမြို့သည် ၁၉၅၀ ပြည့်နှစ်ဇန်နဝါရီလ ၂၃ ရက်နေ့မှစ၍ အစ္စရီယယ်နိုင်ငံ၏ မြို့တော်ဖြစ်ခဲ့လေသည်။ လူဦးရေမှာ ၁၉၅၃ ခုနှစ်တွင် ကောက်ယူခဲ့သော သန်းခေါင်စာရင်းအရ ၁၄၃,၅၀၀ ယောက်ဖြစ်လေသည်။

ဂျရူးဆလမ်းမြို့ရှိ ကျောက်သားဖြင့်ဆောက်လုပ်ထားသောအိုမာပလီ ဝတ်ကျောင်းကြီး



# နယ်နိမိတ်အကြိမ်ကြိမ်ပြောင်းလဲခဲ့သောနိုင်ငံ

**ဂျာမနီနိုင်ငံသည် ၁၈၇၁ ခုနှစ်မတိုင်မီက နိုင်ငံငယ်ကလေးများဖြင့် အစိတ်စိတ်အပိုင်းပိုင်း ကွဲပြားလျက်ရှိ၏။ နိုင်ငံငယ်အချင်းချင်းလည်း စစ်ပြိုင်လျက်ရှိသည်။ ထိုကဲ့သို့သောအခြေအနေမှ နိုင်ငံတခုအဖြစ်စည်းလုံးမိသည်အထိ သမိုင်းစဉ်ကို ဤအကြောင်းရပ်တွင် ဖော်ပြထားပေသည်။**

**ဂျာမနီနိုင်ငံနှင့်သမိုင်း။** ။ဂျာမနီနိုင်ငံသည် ပဌမနှင့် ဒုတိယကမ္ဘာစစ်တို့ကို မီးမွေးခဲ့သော ဥရောပအလယ်ပိုင်းနိုင်ငံတခုဖြစ်၏။ (ကမ္ဘာစစ်၊ ပဌမ။ ကမ္ဘာစစ်၊ ဒုတိယ — ရှု။) အနောက်ဖက်တွင် ပြင်သစ်၊ ဗဲလဂျီယမ်နှင့် ဒပ်ချနိုင်ငံများ၊ အရှေ့ဖက်တွင် ပိုလန်နှင့် ချက်ကိုဆလိုဗားကီးယားနိုင်ငံများ၊ တောင်ဖက်တွင် ဆွစ်ဇာလန်နှင့် ဩစတြီးယားနိုင်ငံများ၊ မြောက်ဖက်တွင် ဒိန်းမတ်နိုင်ငံ၊ မြောက်ပင်လယ်နှင့်ဗောလတစ်ပင်လယ်တို့ ဝန်းရံလျက်ရှိသည်။ ဂျာမနီနိုင်ငံ၏နယ်နိမိတ်မှာ ၂၀ ရာစုနှစ်အတွင်း စစ်မက်ဖြစ်ပွားမှုများကြောင့် ကြိမ်ဖန်များစွာပြောင်းလဲခဲ့ရလေသည်။ ဒုတိယကမ္ဘာစစ်အပြီးတွင် နိုက်ဆဲနှင့် အိုဒါမြစ်များ အရှေ့ဖက်ရှိ ဂျာမန်နယ်များကို ပိုလန်နိုင်ငံသို့ရင်း၊ ကေးနစ္စဗတ်မြို့တော် (ယခုအခေါ် လီနင်ဂရက်မြို့) အပါအဝင် အရှေ့ပရပ်ရှားပြည်နယ်၏ မြောက်ဖက်ပိုင်းကို ရုရှနိုင်ငံသို့ရင်း၊ ပေးလိုက်ရသဖြင့် ယခုအခါနိုက်ဆဲနှင့် အိုဒါမြစ်များမှာ ဂျာမနီနိုင်ငံ၏ အရှေ့ဖက်နယ်နိမိတ်ဖြစ်နေလေပြီ။ သို့သော် အိုဒါမြစ်ဝရှိ ရှတက်တင်မြို့ကိုမူ နယ်နိမိတ်အတွင်းမသွင်းခဲ့ချေ။ တဖန် ဒုတိယကမ္ဘာစစ်အပြီး၌ ဂျာမနီနိုင်ငံ၏ အကျယ်အဝန်းမှာ စတုရန်းမိုင် ၁၃၈,၀၈၀ ဖြစ်သည်။ ၁၉၄၉ ခုနှစ် စက်တင်ဘာလ ၂၁ ရက်နေ့တွင် အင်္ဂလိပ်၊ အမေရိကန်နှင့်ပြင်သစ်တို့က မိမိတို့သိမ်းပိုက်ထားသောဂျာမန်နယ်များကို စုပေါင်း၍ ပြည်ထောင်စုသမတဂျာမန်နိုင်ငံခေါ် အနောက်ဂျာမနီနိုင်ငံအဖြစ် ကြေညာသောအခါ၊ ရုရှတို့ကလည်း ထိုနှစ်အောက်တိုဘာလ ၇ ရက်နေ့တွင် မိမိတို့သိမ်းပိုက်ထားသော ဂျာမန်နယ်များကို ဒီမိုကရက်တစ်သမတဂျာမန်နိုင်ငံခေါ် အရှေ့ဂျာမနီနိုင်ငံအဖြစ် ကြေညာလိုက်သည်။ အနောက်ဂျာမနီ၌ ဗာဗေးရီးယား၊ ဗားဒင်ဗာတင်ဗတ်၊ ဗရီးမင်း၊ ဟမ်းဗတ်၊ ဟက်ဆီ၊ ဆက္ကဆွန်နီအောက်ပိုင်း၊ ရိုင်းလန်၊ ဝက်စဖေးလီးယားရှလဲဇွစ်ဟိုလစတိုင် နယ်များပါဝင်၍ အရှေ့ဂျာမနီ၌ ဗရန်ဒင်ဗတ်၊ မက္ကလင်ဗတ်၊ ဆက္ကဆွန်နီ၊ ဆက္ကဆွန်နီအန်ဟော့၊ သူရင်းဂျီးယားနယ်များပါဝင်ကြသည်။ အနောက်နှင့် အရှေ့ဂျာမနီနိုင်ငံများ၏ အကျယ်အဝန်းမှာ စတုရန်းမိုင် ၉၆,၇၀၀ နှင့် ၄၁,၃၈၀ အသီးသီးတို့ဖြစ်ကြလေသည်။

ဂျာမန်လူမျိုးများသည် ရုရှနိုင်ငံတောင်ပိုင်းမြက်ခင်းပြင်ဒေသတွင် နေထိုင်ခဲ့ကြသူတို့၏ အဆက်အနွယ်များဖြစ်ဟန်တူသည်။ ဘီစီ ၁၁၃ ခုနှစ်လောက်က ဥရောပတခွင်တွင် လှည့်လည်သွားလာနေခိုက် ရောမလူမျိုးများနှင့် မကြာခဏ စစ်ပြိုင်တိုက်ခိုက်ခဲ့ကြရဘူးသည်။ ထိုနောက်နှစ်ပေါင်း ၂၀၀ အကြာတွင် ဂေါ့သ၊ ဖရန့်၊ ဖရီးရှန်း၊ ဆက္ကဆွန်၊ ဗင်းဒေါစသော ဂျာမန်အဆက်အနွယ်လူမျိုးစုများက ရောမနိုင်ငံတော်အတွင်းသို့ ဝင်ရောက်တိုက်ခိုက်၍ နေထိုင်ခဲ့ကြပြီးနောက် ဖရန့်လူမျိုးများမှာ ရှားလမိန်းဘုရင် လက်အောက်၌ နိုင်ငံထူထောင်၍ ကြီးပွားလာကြသည်။ (ရှားလမိန်းဘုရင် — ရှု။) အေဒီ ၈၄၃ ခုနှစ်တွင် ယင်းနိုင်ငံတော်ပျက်စီးသောအခါ၌ ပြင်သစ်နှင့်ဂျာမနီဟူ၍ သီးခြားနိုင်ငံ ၂ ခု ဖြစ်ပေါ်လာလေသည်။ ၈၄၃ ခုနှစ်နောက်တွင် နှစ်ပေါင်းရာပေါင်းများစွာ ဂျာမနီကို နယ်ပယ်များခွဲ၍ အုပ်ချုပ်ခဲ့၏။ ယင်းသည့်နယ်ပယ်များမှာ ဂျာမန်လူမျိုးတစုစီနေထိုင်ရာဖြစ်၍ ဗာဗေးရီးယား၊ ဆွေဗီးယား၊ ဖရန်ကိုးနီးယားနှင့်ဆက္ကဆွန်နီတို့သာ နယ်ပယ်ကြီးများဖြစ်လေသည်။

ဖရန့်နိုင်ငံပြည့်ရှင်ဘုရင်ရှားလမိန်း၏ အဆက်အနွယ်များပြတ်သွားသောအခါ ဂျာမနီနိုင်ငံကို ဂျာမန်နယ်စားပယ်စားများအထဲမှ ရွေးကောက်တင်မြှောက်ထားသော ဘုရင်များကအုပ်စိုးခဲ့သော်လည်း တန်ခိုးမကြီးသောမင်းများလက်ထက်၌ နယ်စားပယ်စားများမှာ မိမိတို့နယ်ကလေးများကို လွတ်လပ်စွာအုပ်ချုပ်နိုင်သောအခွင့်အရေးများ ရှိကြလေသည်။ ဂျာမန်ဘုရင်ပဌမအော့တို (ခရစ် ၉၁၂–၉၇၃)၊ ပဌမဖရက်ဒရစ် (၁၁၂၄–၉၀) နှင့် ဒုတိယဖရက်ဒရစ် (၁၁၉၄–၁၂၅၀) နှင့် ပဌမမက္ကဆီမီလျံဘုရင် (၁၄၉၃–၁၅၁၉) တို့မှာ တန်ခိုးကြီးသောမင်းများဖြစ်သည်။ သို့သော်ဂျာမနီနိုင်ငံအပြင် ဟော်လန်၊ စပိန်၊ ဩစတြီးယား၊ နေပယ်၊ စစ္စလီနှင့် အမေရိကတိုက်ရှိနယ်ပယ်အများအပြားကိုပါ အုပ်ချုပ်ခဲ့ရသည့်ပဉ္စမချားဘုရင် (၁၅၀၀–၅၈) ပင်လျှင်၊ မာတင်လူသာစတင်ခဲ့သော ခရစ်ယန်သာသနာ့အရေးပုံကိုမနှိမ်နင်းနိုင်ခဲ့ပေ။ ယင်းအရေးပုံကြောင့် အနှစ်သုံးဆယ်စစ်ပွဲ (၁၆၁၈–၄၈) ဖြစ်ပွားခဲ့သဖြင့် ဘုရင်၏ အာဏာကျဆုံးကာ မြို့စားများ တွင်ကျယ်လာပြန်သည်။ နပိုလီယန်စစ်ပွဲများအပြီးတွင် ကျင်းပခဲ့သော ဗီယင်းနားညီလာခံ (၁၈၁၄–၁၅) က ဂျာမန်နယ်များကို စုရုံးစေ၍ နယ်အကြီးအကဲများ၏ကိုယ်စားလှယ်များ ပါဝင်သောလွှတ်တော်ဖြင့်အုပ်ချုပ်သည့် ဂျာမန်ပြည်ထောင်စုတခုကို တည်ထောင်ခဲ့ကြလေသည်။ ၁၈၄၈ ခုနှစ်တွင် လစ်ဗရယ်အဖွဲ့ဝင်များက အင်အားတောင့်တင်းသည့် တခုတည်းသော-

ဂျာမနီနိုင်ငံနှင့် ဒီမိုကရေစီအစိုးရ ဖြစ်မြောက်ရေးအတွက် တော်လှန်ထကြွခဲ့ကြ၏။ သို့သော်ယင်းတို့က ပရပ်ရှားဘုရင် စတုတ္ထဖရက်ဒရစ်ဝီလျံ (၁၈၄၀-၁၈၆၁) အားဂျာမန်ကေရာဇ်အဖြစ်ခံယူရန် အပ်နှင်းခဲ့ရာတွင် ငြင်းပယ်ခဲ့သဖြင့် မအောင်မြင်ခဲ့ချေ။

ဂျာမနီနိုင်ငံတော်ဟူ၍ မယ်မယ်ရရဖြစ်ပေါ် လာခြင်းမှာ ပရပ်ရှားနိုင်ငံ ခေါင်းဆောင်ကြီး ဗစ်ဇမတ်၏ ကြိုးပမ်းမှုကြောင့်ပင်ဖြစ်သည်။ (ဗစ်ဇမတ် — ရှု။) ဗစ်ဇမတ်သည် ၁၈၆၆ ခုနှစ်တွင် ဩစတြီးယားကိုနှိမ်နင်းပြီးလျှင် ဩစတြီးယား အပေါင်းပါနိုင်ငံ ငယ်များ ဖြစ်သော ဟန်နိုဗာ၊ ဟက်ဆီကက်ဆယ်၊ နက်ဆောတို့ကို ပရပ်ရှားနိုင်ငံတွင်းသို့ သွတ်သွင်းခဲ့၏။ ထိုနောက်မိန်းမြစ်မြောက်ဖက်ရှိ အခြားဂျာမန်နိုင်ငံငယ်ကလေးများသည် ပရပ်ရှားနှင့်အတူပူးပေါင်းကာ မြောက်ဂျာမန်ပြည်ထောင်စု (၁၈၆၇) ကို ဖွဲ့စည်း၏။ လေးနှစ်အကြာတွင် ဗစ်ဇမတ်၏ပရိယာယ်ကြောင့် ပြင်သစ်နှင့်စစ်ဖြစ်ခဲ့လေရာ အယ်လဆက်နှင့်လိုရိန်းနယ်များကို ရလိုက်ပြီးလျှင် တောင်ပိုင်းဂျာမန်နိုင်ငံငယ်များလည်း ပရပ်ရှားနှင့် ပူးပေါင်းလာကြသည်။ ဤသို့ဖြင့် ၁၈၇၁ ခု ဇန္နဝါရီလ ၁၈ ရက်နေ့မှစ၍ ဂျာမနီနိုင်ငံတော်ကြီးစတင်ဖြစ်ပေါ် လာပြီးလျှင် ပရပ်ရှားဘုရင်လည်း ဂျာမန်ကေရာဇ်ဖြစ်လာခဲ့လေ၏။ နိုင်ငံတွင်း၌ ပြည်သူတို့ရွေးကောက်တင်မြှောက်ရသည့် ရိုက်စတက်ခေါ် ပြည်သူ့လွှတ်တော်တည်ထောင်ထားရှိသော်လည်း တကယ့်အာဏာမှာနန်းရင်းဝန်၌သာရှိလေသည်။ ပဌမဝီလျံ (၁၈၇၁-၈၈) နှင့်တတိယဖရက်ဒရစ် (၁၈၈၈) ကေရာဇ်ဘုရင်များ၏လက်ထက်များတွင် နန်းရင်းဝန်ကြီး ဗစ်ဇမတ်၏ ခေါင်းဆောင်မှုဖြင့်ဂျာမနီနိုင်ငံမှာ လျင်မြန်စွာအင်အားကြီးမားလာကာ စက်မှုလက်မှုဖက်တွင်လည်း များစွာ တိုးတက်ထွန်းကားလာသည်သာမက အာဖရိကတိုက်၊ တရုပ်နိုင်ငံနှင့်ပစိဖိတ်သမုဒ္ဒရာများ၌ နယ်ပယ်အများအပြားပိုင်ဆိုင်ခဲ့လေသည်။ ဂျာမန်ကေရာဇ် ဒုတိယကိုင်ဇာဝီလျံ (၁၈၅၉-၁၉၁၄) ၏ လက်ထက်တွင် ဗစ်ဇမတ်မှာ ရာထူးမှထုတ်ပယ်ခြင်းခံရ၍ ထိုမင်း၏လောဘတကြီးနယ်ချဲ့လိုမှုတို့ကြောင့် အင်္ဂလိပ်၊ အမေရိကန်၊ ပြင်သစ်၊ ဂျပန်တို့နှင့် ပဌမကမ္ဘာစစ် (၁၉၁၄-၁၈) ဖြစ်ပွားခဲ့ရလေတော့သည်။ ဤစစ်ကိုရှုံးခဲ့သော ဂျာမနီနိုင်ငံသည် ၁၉၁၉ ခုနှစ်စစ်ပြေငြိမ်းစာချုပ်အရ စစ်အင်အားကိုလျှော့ပေါ့ရကာ စစ်လျော်ကြေးများ အဆမတန်ပေးခဲ့ရသည့်ပြင် ယခင်ကမိမိပိုင်ခဲ့သောနယ်ပယ်အားလုံးကိုလည်း စွန့်လွှတ်လိုက်ရ၏။ ဂျာမန်ကေရာဇ်ဒုတိယကိုင်ဇာဝီလျံလည်း ဟော်လန်နိုင်ငံသို့ ထွက်ပြေးတိမ်းရှောင်ခဲ့ရလေသည်။

၁၉၁၉ ခုနှစ်မှစ၍ ဂျာမနီနိုင်ငံသည် အခြေခံဥပဒေသစ်ဖြင့် သမတနိုင်ငံဖြစ်လာခဲ့သည်။ စစ်ပြီးဂျာမန်အစိုးရမှာ ရင်ဆိုင်လာသောပြဿနာအရပ်ရပ်ကို မဖြေရှင်းနိုင်သဖြင့် လူထုအယုံအကြည်နည်းလာသည်တွင် အဲဒေါ့ဟစ်တလာခေါင်းဆောင်သော နာဇီ (နတ်ဆီ) ပါတီခေါ် အမျိုးသားဆိုရှယ်လစ်ဂျာမန်အလုပ်သမားပါတီက ပြည်သူ့လွှတ်တော်တွင် တဖြည်းဖြည်းတန်ခိုးအာဏာကြီးမားလာခဲ့လေသည်။ ၁၉၃၃ ခုနှစ်တွင် ဟစ်တလာသည် ဂျာမနီနိုင်ငံ၏ သမတနှင့်ဝန်ကြီးချုပ်ရာထူးများကို ပူးတွဲလက်ခံ၍ ဖျူရာခေါ် ခေါင်းဆောင်ဘွဲ့ကို ခံယူလိုက်ခြင်းဖြင့် အာဏာရှင်ဖြစ်လာခဲ့လေ၏။ (ဟစ်တလာ၊ အဲဒေါ့ — ရှု။) ဟစ်တလာသည် ပဌမကမ္ဘာစစ်ရှုံးခဲ့သော ဂျာမနီနိုင်ငံအား နိုင်ငံကြီးအဖြစ်မှရင်းအခြေသို့ပြန်ရောက်စေလိုသည်သာမက ဂျာမန်စကားပြောသောလူအားလုံးကိုသိမ်းသွင်း၍ မဟာဂျာမနီနိုင်ငံကြီးတည်ထောင်လိုသောဆန္ဒလည်း ရှိသည်။ နိုင်ငံအားအာဏာရှင်စံနစ်ဖြင့် အုပ်ချုပ်ရာ၌ ဂျာမနီရှိလူထုအဖွဲ့အစည်းအားလုံးမှာ နာဇီပါတီ၏အလံတော်အောက်သို့ စည်းရုံးခဲ့လေသည်။ နာဇီပါတီအား ဆန့်ကျင်သောအတိုက်အခံများမှာ ကွပ်မျက်ခြင်း၊ အကျဉ်းချခြင်းခံရလေသည်။ အထူးသဖြင့်




ဂျာမနီနိုင်ငံတည်နေရာပြမြေပုံ

ယဟူဒီလူမျိုးများသည် နာဇီပါတီ၏ လုပ်ငန်းစဉ်များကို အားပေးကူညီခြင်းမပြုသဖြင့်၎င်း၊ ဟစ်တလာကိုယ်တိုင်က လည်း ပဌမကမ္ဘာစစ်မှဖြစ်ပေါ်ခဲ့သော ဂျာမနီရှိဘေးဒုက္ခများမှာ ယဟူဒီတို့၏ပယောဂနှင့်မကင်းဟုယူဆထားသဖြင့်၎င်း များစွာနှိပ်စက်ညှဉ်းပန်းခြင်းခံရလေ၏။

ဟစ်တလာခေါင်းဆောင်သော ဂျာမန်အစိုးရသည် ၁၉၃၅ ခုနှစ်၌ နိုင်ငံပေါင်းချုပ်အသင်းကြီးမှနုတ်ထွက်ကာ ၁၉၁၉ ခုနှစ် စစ်ပြေငြိမ်းစာချုပ်ကို ဖောက်ဖျက်၍ ဂျာမနီစစ်အင်အားကို ပြန်လည်ထူထောင်လေ၏။ ၁၉၃၈ ခုနှစ် မတ်လတွင် ဩစတြီးယားနိုင်ငံအားသိမ်းယူကာ ဂျာမန်နယ်တနယ်အဖြစ်ကျေညာ၏။ စက်တင်ဘာလတွင် ချက်ကိုဆလိုဗား


ဗာဗေးရီးယားနယ်ရှိထင်ရှားသောရဲတိုက်ကြီး


ဟမ်းဗတ်မြို့ရှိမြို့တော်ခန်းမအဆောက်အအုံ

ကီးယားနိုင်ငံပိုင် ဆူဒေတင်နယ်များကိုလည်း သိမ်းယူလိုက်ပြန်လေသည်။ ၁၉၃၉ ခုနှစ် စက်တင်ဘာလ ၁၁ ရက်နေ့၌ ပိုလန်နိုင်ငံအား ဂျာမန်တို့ဝင်ရောက်တိုက်ခိုက်ကြသည်တွင် အင်္ဂလိပ်၊ ပြင်သစ်တို့နှင့် ဒုတိယကမ္ဘာစစ် စတင်ဖြစ်ပွားခဲ့လေရာ ဣတလီနှင့်ဂျပန်တို့က ဂျာမန်ဖက်မှ ပါဝင်တိုက်ခိုက်ခဲ့ကြသည်။ ၁၉၄၁ ခုနှစ် ဒီဇင်ဘာလတွင် အမေရိကန်ပြည်ထောင်စုသည် အင်္ဂလိပ်၊ ပြင်သစ်တို့နှင့်ပူးပေါင်း၍ စစ်ထဲဝင်လေသည်။ စစ်ဖြစ်စ၌ ဂျာမန်တပ်များမှာ အောင်ပွဲများရ၍ ၁၉၄၂ ခုနှစ်တွင် ဗြိတိသျှကျွန်းစု၊ စပိန်၊ ပေါ်တူဂီ၊ ဆွစ်ဇာလန်၊ ဆွီဒင်နှင့်ရုရှနယ်များမှတပါး ကျန်ဥရောပတိုက်လုံးမှာ ဂျာမန်တို့လက်အောက်သို့ ကျရောက်ခဲ့လေသည်။ သို့သော် ရုရှနိုင်ငံသို့ချီတက်ခဲ့သော ဂျာမန်တပ်များနှင့် အာဖရိကစစ်မျက်နှာ အယ်အားလမိန်းအရပ်ရှိ နာမည်ကျော်ဂျာမန်စစ်သေနာပတိချုပ် ရွှမ်းမဲ၏တပ်များ မရှုမလှဆုံးရှုံးခဲ့ရသဖြင့် ၁၉၄၂ ခုနှစ် နိုဝင်ဘာလမှစ၍ ဂျာမန်တို့တဖြည်းဖြည်းစစ်ရေးနိမ့်လာခဲ့သည်မှာ မိမိတို့နိုင်ငံကို အသေအလဲကာကွယ်ရသည့်အခြေသို့ပင် ဆိုက်ရောက်ခဲ့လေ၏။ ၁၉၄၄ ခုနှစ်ဦးကစ၍ အင်္ဂလိပ်၊ အမေရိကန်နှင့်ပြင်သစ်တပ်များက အနောက်ဖက်မှ၎င်း၊ ရုရှတပ်များကအရှေ့ဖက်မှ၎င်း၊ ဂျာမနီနိုင်ငံအား ဝင်ရောက်တိုက်ခိုက်ကြသည်တွင် ၁၉၄၅ ခုနှစ် မေလ ၈ ရက်နေ့၌ ဂျာမန်တို့ခြွင်းချက်မရှိ လက်နက်ချလိုက်ရလေသည်။ စစ်ပြီးသောအခါ အင်္ဂလိပ်၊ အမေရိကန်၊ ပြင်သစ်နှင့် ရုရှတို့က ဂျာမနီနိုင်ငံကို ခွဲဝေအုပ်ချုပ်ခဲ့ကြလေ၏။

ဂျာမနီနိုင်ငံသည် လတ္တီတွဒ် ၅၅° မြောက်မှ ၄၇° မြောက်နှင့် လောင်ဂျီတွဒ် ၆° အရှေ့မှ ၁၅° အရှေ့တို့အတွင်း၌တည်ရှိ၍ စတုရန်းမိုင် ၁၃၈,၀၀၀ ကျယ်ဝန်းလေသည်။ မြောက်ဖက်ပိုင်းတွင် ရုရှနိုင်ငံမှ အင်္ဂလိပ်ရေလက်ကြားကြီးအထိမျှ ကျယ်ဝန်းသောမြေနိမ့်လွင်ပြင်ရှိပြီးလျှင် အမ်း၊ ဗေဇာ၊ အဲလဗ၊ အိုဒါနှင့်ဗစ္စတျူလာစသော မြစ်များဖြတ်သန်းစီးဆင်းကြ၍ မြောက်ဖက်ကမ်းရိုးတလျှောက်၌ ကီး၊ ဗရီးမင်း၊ ဟမ်းဗတ် စသောဆိပ်ကမ်းမြို့ကြီးများရှိလေသည်။ ဤလွင်ပြင်၏အရှေ့ဖက်ဒေသတွင်သင်းဝင်ပင်၊ စပရုနှင့်ပိုင်းထင်းရှူးပင်များပေါက်၍ အင်းအိုင်အများအပြားရှိ၏။ သဲဆန်

သောမြေကြီးနှင့် ပြင်းထန်သောရာသီဥတုတို့ကြောင့် သိပ္ပံပညာ၏အကူအညီဖြင့်သာ ရိုင်းစပါး၊ မုယောစပါး၊ အာလူးနှင့်မြင်းစားဂျုံများကို စိုက်ပျိုးနိုင်သည်။ မြင်း၊ သိုး၊ဝက်နှင့် ကျွဲနွားတိရစ္ဆာန်များကိုလည်း မွေးမြူကြသည်။

တောင်ပိုင်းဒေသ၌ မြေဩဇာကောင်းသောတောင်ကြားများ၊ သစ်တောထူထပ်သောတောင်ကုန်းများနှင့် တောင်များရှိသည်။ သင်းဝင်ပင်၊ ဝက်သစ်ချပင်၊ ဘုဇပတ်ပင်၊ ပိုင်းနှင့် စပရုစသောထင်းရှူးပင်မျိုးများ ပေါက်ရောက်ပြီး လျှင် ဂျုံ၊ ဂုံလျှော်နှင့်ဆေးတို့ကိုစိုက်ပျိုး၍ စပျစ်ခြံများကိုလည်း အနှံ့အပြားတွေ့ရ၏။ သစ်တောများမှရသော သစ်များကို ဖောင်ဖွဲ့၍ သစ်လုပ်ငန်းရှိရာမြို့များသို့ ရိုင်းမြစ်ကြောင်းမှမျှောချကြသည်။ ရှုမျှော်ခင်းကောင်းများနှင့် သမိုင်းဝင်ထင်ရှားသောရှေးဟောင်းအဆောက်အအုံများကို ဤဒေသ၌အများအပြားတွေ့နိုင်လေသည်။ ဤတောင်ပိုင်းနှင့် မြောက်ပိုင်းအကြား ရိုင်းနယ်၊ ဝတ်စဖေးလီးယားနယ်၊ ဆီလီးရှားနယ်၊ ဆက္ကဆွန်ခရိုင်များ အစရှိသည်တို့ပါဝင်သော အလယ်ပိုင်းဒေသတို့တွင် ကျောက်မီးသွေးပေါများသဖြင့် စက်မှုလက်မှုလုပ်ငန်းများ အလွန်ထွန်းကားသည်။

ရာသီဥတုမှာမြောက်ပင်လယ်ကမ်းရိုးတန်းမှအရှေ့တောင်အရပ်သို့တိုင်အောင် ဒေသအလိုက် တဖြည်းဖြည်းပြောင်းလဲလျက်ရှိလေသည်။ ဆောင်းရာသီတွင် အရှေ့ဖက်မှ အလွန်အေးမြသောလေတိုက်ခတ်သဖြင့် ရေခဲသည်။ နွေရာသီတွင် မြောက်ပိုင်းထက် တောင်ပိုင်းနှင့်အရှေ့ဖက်ပိုင်းတို့က ပိုပူ၍၊ အပူရှိန်အများဆုံးမှာ ၈၀ ဒီဂရီဖရင်ဟိုက်ဖြစ်သည်။ မိုးမှာ တနှစ်ပတ်လုံး သင့်တင့်စွာရွာသော်လည်း နွေရာသီ၌သာ အများအပြားရွာလေ့ရှိပြီး လျှင် မြောက်ပိုင်းထက်တောင်ပိုင်းတွင် ပို၍ မိုးကောင်းသည်။ မြောက်ပိုင်းလွင်ပြင်ဒေသများ၌ မိုးရေချိန် ၂၅ လက်မရှိ၍ တောင်ပိုင်း၌ လက်မ ၄၀ မှ ၅၀ အထိရှိလေသည်။

ဂျာမနီနိုင်ငံ၏ ၅ ပုံ ၃ ပုံမှာ စိုက်ပျိုးနိုင်သောဧရိယာဖြစ်၍ ၄ ပုံ၁ပုံမှာသစ်တောများဖြစ်သည်။ သစ်များအထွက်စုစုပေါင်းမှာ ၅၈,၀၀၀,၀၀၀,၀၀၀ ကုဗပေဖြစ်သည်။ ကျောက်မီးသွေးများစွာထွက်သည့်မှတပါး သံ၊ ဓာတ်ဆီ၊ ကြေးနီစသောတွင်းထွက်ပစ္စည်းများချို့တဲ့သည်။ သိပ္ပံပညာ ထွန်းကားသော နိုင်ငံဖြစ်သည့်အလျောက် ဂျာမနီနိုင်ငံ၏ အလယ်ပိုင်းဒေသနှင့် မြောက်ဖက်လွင်ပြင်ဒေသတို့ဆုံစည်းရာနယ်စပ်မှာ စက်မှုလက်မှုလုပ်ငန်းများ အကြီးအကျယ်ထွန်းကားသည်။ လျှပ်စစ်ဓာတ်အားကို အဖိုးနှုန်းချိုသာစွာဖြင့် သုံးစွဲနိုင်သောအခါ စက်မှုလက်မှုလုပ်ငန်းများမှာလည်း နိုင်ငံအတွင်းပျံ့နှံ့ခဲ့သည်။ ဆက္ကဆွန်နီနှင့် သူရင်ဂျီးယားနယ်များမှာ ဂျာမနီအလယ်ပိုင်းရှိ စက်မှုလက်မှုထွန်းကားရာနယ်ကြီးများဖြစ်၍ အထည်အလိပ်ရက်လုပ်သောစက်ရုံများလည်းရှိသည်။ ရှူးဝါးဒေသ၊ ရိုင်းမြစ်ညာဒေသနှင့် နက္ကာမြစ်ဝှမ်းဒေသများမှာ ရိုင်းဒေသ၏စက်မှုလက်မှုနယ်ဖြစ်လေသည်။ ထိုဒေသတွင် ကျောက်မီးသွေးများစွာထွက်သည့်အပြင်ဓာတုဗေဒလုပ်ငန်းများ၊ အထည်အလိပ်နှင့် သံထည်များထုတ်လုပ်သည့် စက်ရုံများကိုလည်း အမြောက်အများတွေ့ရှိရလေသည်။

ဒုတိယကမ္ဘာစစ် (၁၉၃၉–၄၅) အပြီးဂျာမနီနိုင်ငံအား နှစ်ခြမ်းခွဲလိုက်သောအခါ၌ ၁၉၅၄ ခုနှစ်သန်ကောင်စာရင်းအရအရှေ့နှင့်အနောက်ဂျာမနီနိုင်ငံများတွင် လူဦးရေ ၁၇,၆၀၀,၀၀၀ နှင့် ၄၉,၆၅၂,၀၀၀ အသီးသီးရှိကြ၍ လူများစုမှာ ခရစ်ယန်များဖြစ်ဧသည်။ ဘာလင်မြို့တော်ကိုလည်း အရှေ့အနောက်ခွဲထားပြန်ရာ အရှေ့ဘာလင်၌လူဦးရေ (၁၉၅၄ ခုနှစ်) ၁,၁၇၅,၀၀၀ ရှိ၍ အနောက်ဘာလင်၌ ၂,၁၉၄,၆၀၀ ရှိသည်။ ၁၉၅၅ ခုနှစ်ဦးတွင် အနောက်ဂျာမနီသည် အချုပ်အချာအာဏာကိုပြန်လည်ရရှိကာ မြောက်အတ္တလန္တိတ်စာချုပ်ဝင်နိုင်ငံဖြစ်နေလေပြီ။


၁၈၇၁ ခုနှစ်က ဂျာမန်ကေရာဇ်ဘုရင်ပဌမဝီလျံ ဘာလင်မြို့ထဲသို့ချီတက်လာပုံ

# ဂျာမန်စာပေသမိုင်း

**အင်ဒိုယူရိုပီယန် ဘာသာမျိုးရင်း (ဝါ) အာရိယန် ဘာသာမျိုးရင်းမှ ပေါက်ပွားလာခဲ့သော ဂျာမန်ဘာသာ စာပေတွင် 'ဟစ်လဒဗရန်း' လက်ာကြီးခေတ်မှစ၍ အဆင့်ဆင့်တိုးတက်လာပုံကို ဤအကြောင်းရပ်၌ ဖော်ပြထားသည်။ လူသာ၊ ဂါတာ၊ ရှီးလား၊ လုဒဗစ် စသောပုဂ္ဂိုလ်များမှာ ဂျာမန်စာပေသမိုင်းတွင် ထင်ရှားသူများဖြစ်ပေသည်။**

**ဂျာမန်စာပေ။** ။ဘာသာစကားရပ်ပညာအလိုအားဖြင့်၊ ဂျာမန်ဘာသာသည်အင်္ဂလိပ်ဘာသာ၊ စကန်ဒီနေးဗီးယန်းဘာသာ၊ ဂရိဘာသာ၊ အိုင်ရေးနီယန်ဘာသာ၊ သက္ကဋဘာသာစသည်တို့၏ အရင်းခံဖြစ်သော အင်ဒိုယူရိုပီယန်ဘာသာမျိုးရင်းတွင် အပါအဝင်ဖြစ်သည်။ အချို့ဘာသာစကားရပ်ပညာရှင်တို့က အင်ဒိုယူရိုပီယန် ဘာသာမျိုးရင်းကိုပင် အာရိယန်ဘာသာမျိုးရင်းဟု ယနေ့တိုင်ခေါ် ဆိုလျက်ရှိကြသည်။ ထိုဘာသာမျိုးရင်းမှခွဲလာသော ရှေးဟောင်းဂျာမန်ဘာသာကို လွန်ခဲ့သောနှစ်ပေါင်း ၂၀၀၀ ခန့်ကစကန်ဒီနေးဗီးယားတောင်ပိုင်းနှင့် ဒိန်းမတ်နယ်တို့တွင် ပြောဆိုကြသည်။ ထိုနောက်၌ကား ယင်းရှေးဟောင်းဂျာမန်ဘာသာသည် ဒေသအလိုက်ကွဲပြားပြန်ရာ၊ အထက်ပိုင်းဂျာမန်ဘာသာနှင့် အောက်ပိုင်းဂျာမန်ဘာသာဟူ၍ဖြစ်လာပြန်သည်။ အထက်ပိုင်းဂျာမန်ဘာသာကို ဂျာမနီအလယ်ပိုင်းနှင့်တောင်ပိုင်းကုန်းမြင့်ဒေသများ၌ပြောဆိုကြသည်။ အောက်ပိုင်းဂျာမန်ဘာသာကိုမူ ဂျာမနီမြောက်ပိုင်းအနိမ့်ဒေသများ၌ ပြောဆိုကြသည်။ ယခုခေတ် ဂျာမနီနိုင်ငံအနှံ့အပြား၌ အထက်ပိုင်းဂျာမန်ဘာသာသာလျှင် လွှမ်းမိုး၍နေလေသည်။



နိုင်ငံရေးဝါဒကို ကဗျာဖြင့်ထုတ်ဖော်သူ ဟိုင်းနရစ်ဟိုင်းန

လူမျိုးတမျိုး၏စာပေကို မူလမှစ၍စစ်ဆေးသုံးသပ်ကြည့်လျှင်၊ မူလတွင် ပါးစပ်မှရွတ်ဖတ်သီဆိုသော ရာဇဝင်သမိုင်းမော်ကွန်းတို့မှ အစပြုသည်ကို တွေ့ကြရသည်။ ဤဓမ္မတာအတိုင်း၊ ခရစ်ယန်အယူဝါဒထွန်းကားလာသော ရှားလမိန်းကေရာင်ဘုရင်လက်ထက်မတိုင်မီက ဂျာမနစ် (ဝါ) ဂျာမန်နွယ်လူမျိုးစုတို့၏ စာပေမှာ နှုတ်ဖြင့်သီဆိုသောစာပေဖြစ်သည်။ ယင်းတို့သီဆိုကြသော သမိုင်း၊ လက်ာ၊ မော်ကွန်းစသည်တို့မှာ နတ်များ၊ အာဇာနည်ပုဂ္ဂိုလ်များက ဘီလူးကုမ္ဘဏ်၊ ရက္ခိုက်တို့ကို မည်သို့နှိမ်နင်းကြောင်းကိုဖွဲ့နွဲ့၏။

ဤသို့နှုတ်ဖြင့်သီဆိုကြသော လက်ာမော်ကွန်းတို့သည် သားစဉ်မြေးဆက်အထိ ဆက်လက်တည်ရှိခဲ့ရာမှ အက္ခရာဖြင့်ရေးသားသောခေတ်ရောက်သော်၊ ရေးသောစာပေအနေဖြင့် ထွန်းကား၍လာပြန်သည်။ ယင်းကဲ့သို့နှုတ်ဖြင့်သီဆိုခဲ့သည်ကို စာဖြင့်မှတ်တမ်းတင်သော သာဓကတရပ်မှာ၊ ခရစ်နှစ် ၈၀၀ လောက်ကရေးသားသည်ဟု ယူဆရသည့် 'ဟစ်လဒဗရန်း' လက်ာကြီးဖြစ်သည်။ ထိုလက်ာတွင် သားအဖနှစ်ဦးတို့စစ်ထိုး၍၊ ကြေကွဲဖွယ်ဖြစ်ရသည်ကို ဖွဲ့နွဲ့ထား၏။

အက္ခရာပေါ်ပြီဟု ယူဆရသော ခရစ် ၇၅၀ ခုနှစ်မှသည် ၁၀၅၀ ပြည့်နှစ်အထိခေတ်မှာ ရှေးဟောင်းအထက်ပိုင်းဂျာမန်စာပေခေတ်ဖြစ်လေသည်။ ထိုခေတ်အတွင်းတွင် ဘာသာရေးဆိုင်ရာစာပေများ ထွန်းကားခဲ့သည်။ နှိုင်းယှဉ်ပြရသော် မြန်မာစာပေသမိုင်းတွင် ဘုရားဟောသုတ္တန်ဒေသနာတို့ကို ပါဠိမှမြန်မာသို့အနက်ပြန်၍ ပျို့အစောင်စောင်ဖွဲ့ဆိုသီကုံးကြသကဲ့သို့ဖြစ်သည်။ ထိုခေတ်၌ သမ္မာကျမ်းစာတို့ကို လတ်တင်ဘာသာမှ ဂျာမန်ဘာသာသို့ပြန်ဆိုကြသည်။ ခရစ် ၈၃၀ ပြည့်နှစ်တွင် ဓမ္မသစ်ကျမ်းကို အလင်္ကာဖြင့်သီကုံးရေးဖွဲ့သည်။

ခရစ် ၁၁၀၀ နှင့် ၁၂၀၀ ခုနှစ်အတွင်းတွင် ဂျာမန်သူရဲကောင်းတို့ထွန်းကား၍၊ တန်ခိုးရှိန်ဝါကြီးလာကြသည်။ထိုသူရဲကောင်းတို့သည် ကရူးဆိတ်ခေါ် အယူဝါဒနှင့်စပ်လျဉ်းသောစစ်ပွဲများ ဖြစ်ပေါ်လာသောအခါ၊ ဒေသအနှံ့အပြားသို့ရောက်ပေါက်လာကြသည်။ ဤသို့မိမိနိုင်ငံ၏ပြင်ဖက်၌ရှိသော အခြားနိုင်ငံသားသူရဲကောင်းများနှင့် တွေ့ဆုံ၍နှီးနှောခွင့်ရလေသော်၊ ဂျာမန်သူရဲကောင်းတို့သည် ပြင်သစ်၊ ရောမ၊ ဂရိစာပေအရသာတို့ကို မိမိနိုင်ငံတွင်း၌ ဖြန့်ချလာကြသည်။ ထိုကြောင့် ထရိုဂျန်စစ်ပွဲအကြောင်း၊ အယ်လက်ဇန္ဒာဘုရင်၏ စွန့်စားခြင်းအကြောင်း၊ အီးနီးယပ်၏ ခရီး

လှည့်ခြင်းအကြောင်း စသည်တို့သည် ဂျာမန်စာပေ၌လည်း တွေ့ရှိလာရသည်။ အထူးသဖြင့်၊ ထိုခေတ်က ပြင်သစ်နိုင်ငံတွင် အလင်္ကာနည်းသစ်တခုသည် ခေတ်စားခဲ့သည်။ ထိုအလင်္ကာနည်းသစ်သည် ဩကာသလောကအဝန်းနှင့် အ



သမ္မာကျမ်းစာကိုဘာသာပြန်ဆိုခဲ့သောမာတင်လူသာ

ချစ်ကိုဦးစားပြုကာဖွဲ့နွဲ့သောသဘောရှိသည်။ ဤသည်ကို အတုယူ၍၊ ဂျာမန်စာပေလောကတွင် အချစ်ကိုဖွဲ့နွဲ့သော မှာတမ်းရတုမျိုးထွန်းကားလာခဲ့သည်။

ခရစ် ၁၁၈၀ ပြည့်နှစ်တဝိုက်၌ ကျွန်ုပ်တို့၏ နန်းတွင်းဇာတ်တော်ကြီးများကဲ့သို့သောနန်းတွင်းအက်ပစ်ကဗျာများထွန်းကားလာပြန်လေသည်။ ဤခေတ်၌လည်း ပြင်သစ်စာပေအရှိန်ဩဇာသည် လွှမ်းမိုးလျက်ပင်ရှိခဲ့သည်။ ထိုနန်းတွင်းကဗျာတို့တွင် သူရဲကောင်းတို့မြင်းစီးချင်းစစ်ထိုးသည့်ပွဲများအကြောင်း၊ အချစ်အကြောင်း၊ မှော်ဝိဇ္ဇာအကြောင်း စသည်တို့ကိုဖွဲ့နွဲ့ကြသည်။ ဂျာမန်စာပေတွင် ထင်ရှားခဲ့သည့် ဆီးဖရစ် သူရဲကောင်း အကြောင်း ကဗျာတို့မှာလည်း ခရစ် ၁၂၀၀ ပြည့်နှစ်လောက်တွင် ခေတ်စားခဲ့သည်။

ဤခေတ်တွင် မှာတမ်းစပ်ဆိုနည်းများတိုး တက် လာလေသည်။ စည်းကမ်းလည်းကြီးလာသည်။ မှာတမ်းနှင့်နန်းတွင်းဇာတ်တော်များပေါ် ပေါက်နေသည့်အထဲဝယ်၊ သာမန်အရပ်သူ အရပ်သားတို့၏ ရှေးရိုး သီချင်း များ သည် လည်း တွင်ကျယ်လျက်ရှိပေသည်။

ခရစ်ယန်သာသနာ့အရေးပုံကြီးကို ဂျာမနီနိုင်ငံ၌ မာတင်လူသာကစတင် လုပ် ဆောင် သော အခါ၊ သမ္မာကျမ်းစာကို မာတင်လူသာ ကိုယ် တိုင်ပင် ဂျာမန် ဘာသာပြန် ဆို သည်။ သူ့ လက်ထက်မတိုင်မီက၊ ဂျာမန်စာပေမှာ ဘာသန္တရအားဖြင့် အမျိုးမျိုးကွဲပြားခြားနားနေခဲ့ရာ၊ သမ္မာကျမ်းစာကို ဘာသာပြန်ပြီးသည့်နောက်၌ကား ဂျာမန်စာပေသည် မူ တမျိုးတည်းဖြစ်လာသည်။ ဆိုလိုရင်းကား ဂျာမန်စကား၌ ဒေသန္တရမူအမျိုးမျိုး ကွဲပြားခြားနားနေရာမှ၊ မာတင်လူသာ၏ သမ္မာကျမ်းစာကြောင့်၊ ဂျာမန်ဘာသာစကားရပ် အမျိုး မျိုး တို့ သည် တမျိုး တည်း ဖြစ် လာ သော ဟူ၏။ (ခရစ်ယန်သာသနာ့အရေးပုံ။ လူသာ, မာတင်–လည်းရှု။)

ယခုဖော်ပြခဲ့သောခေတ်ကို အလယ်ခေတ်ဟုခွဲ၍ခေါ်၏။ အလယ် ခေတ်၏ နောက် ပိုင်း ၌ နှစ် သုံး ဆယ် စစ် ပွဲ ကြီးသည် ဥရောပတတိုက်လုံးကို တုန်လှုပ်ချောက်ချားစေခဲ့ရာ၊ ဂျာမနီ နိုင်ငံ သည် များစွာပျက်စီးခဲ့သည်။ သို့ရာတွင် ထိုပျက်စီးမှုများအကြားမှ ဂျာမန်တို့၏အလယ်ခေတ်ဝတ္ထုများ ပေါ် ပေါက်လာသည်။ ထိုခေတ်၏ကြေးမုံပြင်နှင့်တူသော ဂရင်မဲရှောဆင် (ခရစ် ၁၆၂၅–၇၆) ရေးခဲ့သော 'ဆင်ပလစ္စစ္စီမပ်' ဝတ္ထုမှာ နှစ်သုံးဆယ်စစ်ပွဲကြီး၏ အဖျက်သဘောကိုမှတ်တမ်းတင်ခဲ့သည်။ ထိုဝတ္ထုကြီးပေါ် ပေါက်ပြီး မျှားမကြာမီတွင် အင်္ဂလန်ပြည်၌ ယင်းနှင့်အလား တူ 'ရော်ဗင်ဆန်ကရူးဆိုး' ဝတ္ထု ပေါ် ပေါက်လာသည်။

အလယ်ခေတ်၏ နောက်ပိုင်းမှာကား ဂျာမန် စာ ပေ၏ ရီနေဆွန်းခေါ် ဉာဏ်သစ်အရေးပုံခေတ်ဖြစ်လေသည်။

၁၈ ရာစုနှစ်တွင် အင်္ဂလိပ်ကဗျာဆရာမီလတန်၏ 'ဆုံးခဲ့ပေါ့ပြည်နတ်ရွာ' ဟူသောကဗျာကို အတုယူ၍ 'မက်ဆီအတ်' ခေါ် ကဗျာကို ကလော့စတော့ (ခရစ် ၁၇၂၄–၁၈၀၃) ကရေးခဲ့သည်။ ဤကဗျာ၏အရေးပါပုံကားဂျာမန်စာပေတွင် ပြင်သစ်နှင့် လက်တင်စာပေတို့၏ဩဇာကို တွန်းလှန်ပယ်ဖျက်သည့်သဘော ပါသည့်အတွက်ဖြစ်သည်။

ကလော့စတော့သည် ခေတ်သစ်ဂျာမန်စာပေကို ပဌမဦးစွာပြုစုခဲ့သည်။ သို့ရာတွင် ဂျာမန်စာပေ၌ ခေတ်နှင့်မညီသောစာ ပေနည်း နိဿယတို့ကို ခေါင်းဆောင်ပြုကာတော်လှန် သူကား ယိုဟန်း ဟာ ဒါ (ခရစ် ၁၇၄၄–၁၈၀၃) ဖြစ်သည်။ ဟာဒါ၏စာပေမှာ လူ့ သမိုင်းဖြစ်စဉ်သင်္ခါရကို သုံးသပ်လိုသောသဘောပါသည်ဖြစ်ရကား၊ ထိုခေတ်လူငယ်အများ၏ စိတ် နှလုံး ကို သိမ်း ကျုံး ဆွဲဆောင် နိုင် ခဲ့သည်။ ဟာဒါအား ဆရာအမှတ်ဖြင့်ဆည်းကပ်သူမှာ ကမ္ဘာကျော် 'ဖော့' လင်္ကာကြီးကိုရေးသားသူ ယိုဟန်းဂါတာ (ခရစ် ၁၇၄၉–၁၈၃၂) ဖြစ် သည်။ (ဂါတာ, ဖွန်၊ ယိုဟန်း၊ ဝုဖဂန် — ရှု။) ဂါတာ၏သူငယ်ချင်းဖြစ်သူမှာ ပြဇာတ်ဆရာယိုဟန်း ဖရီးဒရစ် ရှီးလား *(ခရစ် ၁၇၅၉–၉၃) ဖြစ် သည်။ (ရှီးလား, ဂျေ၊ အက် (ဗ) — ရှု။) သူတို့နှစ်ဦးနှင့် ဟာဒါသည်ဂျာမန်စာပေ၌ ပြင်သစ်ဩဇာလွှမ်းမိုးခြင်းအားတော်လှန်သော ခေတ်တခေတ်ကိုထူထောင်ခဲ့ကြလေသည်။

ခရစ် ၁၇၀၀ ပြည့်နှစ်မှလွန်လေသော် ဂျာမန်စာပေခေတ်မှာစိတ်ကူးယဉ်ခေတ် ဖြစ်လေသည်။ ထိုစိတ်ကူးယဉ်ခေတ်အတွင်း၌ ဂရင်းညီနောင်တို့၏ ဒဏ္ဍာရီများထွန်းကားလာသည်။ ထိုခေတ်ထဲတွင် ရှူးဗတ်၊ ရှူးမန်း၊ မင်ဒယ်ဇုန်၊ ဗရမ်း၊ ဝု နှင့် စထရောက်တည်းဟူသော ဂီတအနုပညာရှင်များ၏ တေးဂီတတို့မှာ အထက်ဖော်ပြပါစိတ်ကူးယဉ်ခေတ်ကဗျာများကို မှီ၍စပ်ဆိုခြင်းဖြစ်သည်။ ထိုပြင်ထိုခေတ်အတွင်း၌ ကမ္ဘာကျော်ဗတ်ဂနာ၊ ရှိုပင်ဟော စသောဂီတဆရာများအပြင်၊ နာဇီခေါ် နတ်ဆိုဝါဒ၏ရှေ့ဆောင်ရှေ့ပြေးဖြစ်သူ နီးချယ်တို့လည်း ထွန်းကားလာခဲ့သည်။

၁၉ ရာစုနှစ်၏ အလယ်ပိုင်းခေတ်ကတွင်းတွင် နိုင်ငံရေးလှုပ်ရှားမှုများရှိခဲ့သည်။ နိုင်ငံရေးအရ တော်လှန်ရေးများပေါ်ပေါက်နေစဉ်၊ ထိုတော်လှန်ရေးတို့သည် စာပေ၌လာ၍အရောင်ဟပ်လေသည်။ ထိုအခါ စာပေသမားတို့သည် သတင်းစာ၊ ဆောင်းပါး၊ ဝတ္ထုအစရှိသည်တို့၌ စိုးမိုးသူတို့ကိုဝေဖန်ကြသည်။ ယင်းတို့အထဲတွင် ဟိုင်းနရစ်ဟိုင်းန (ခရစ် ၁၇၉၇–၁၈၅၆) သည် ရတုဆန်သောလစ်ရစ်ကဗျာများ၌ သူ၏ပြင်းပြသောနိုင်ငံရေးဝါဒစွဲတို့ကို ထည့်သွင်းစပ်ဆိုသည်။ ဟိုင်းနသည် နှောင်းခေတ်ကို အတော်အတန်လွှမ်းမိုးနိုင်ခဲ့လေသည်။

၁၉ ရာစုနှစ်အတွင်း၌ ပေါ်ပေါက်လာသောဂျာမန်ဝတ္ထုနှင့် ပြဇာတ်တို့သည် ဖြေဖျော်မှုကိုအရေးထားသည်ထက်



ဂျာမန်စာပေစွှင်ထင်ရှားသည့်ပြဇာတ်ဆရာကြီးရှီးလား

လူ့စရိုက်နှင့်လူ့ဘောင်အဖွဲ့အစည်းတို့မှ ပေါ်ပေါက်လာသောပြဿနာရပ်တို့ကိုပိုမို၍အရေးထားကြလေသည်။ ရာဇဝင်ဝတ္ထုဟုခေါ်လေ့ရှိသော လူ့သမိုင်းနှင့်ဆိုင်သည့်ဝတ္ထုများလည်း ထွန်းကားခဲ့သည်။ ထိုအပြင်ဝတ္ထုများတွင် ယထာဘူတ ပညာသဘောတို့ကို သွတ်သွင်းလာကြသည်။ ပြဇာတ်တို့တွင် ဘဝဒုက္ခသစ္စာနှင့် ထိုဒုက္ခမှလွတ်မြောက်စေရန် ဖြေရှင်းဘို့ရာပြဿနာများကို ဖော်ပြကြလေသည်။

ပဌမကမ္ဘာစစ်အပြီးတွင် စစ်ဒဏ်ကြောင့်ပျက်စီးနေသော ဂျာမနီ၏သဘာဝကို အဖက်ဖက်မှနေ၍ သရုပ်ဖော်ပြကြသည်။ ဇနပ္ပုတ္တိခေါ် ပုဂ္ဂိုလ်ကျော်တို့၏အတ္ထုပ္ပတ္တိကို ရေးသားရာ၌ ကမ္ဘာကျော်ခဲ့သော အေမီးလုဒဗစ်သည်လည်း ထိုခေတ်၏စာပေခေါင်းဆောင်ကြီးတဦးပင်ဖြစ်လေသည်။ ထိုပြင်ခေတ်ဝတ္ထုလောက၌လည်း တောမတ်မန်းသည် လောကသဘာဝ၊ လူ့သဘာဝအဖွဲ့အနွဲ့တို့၌ကောင်းသည်ဟု ထင်ရှားကျော်စောခဲ့လေသည်။

ထိုနောက်စာပေလောကကို ပါတီရေးဝါဒများ တဖြည်းဖြည်းလွှမ်းမိုးခဲ့လေသည်။ ဂျာမနီနိုင်ငံတွင် အမျိုးသားဆိုရှယ်လစ်ပါတီ (နတ်ဆိ) တန်ခိုးတက်လာရာ သူတို့ပါတီ၏ဝါဒနှင့်ကိုက်ညီသော စာရေးဆရာများကိုသာ မြှောက်စား၍ သူတို့ဝါဒနှင့်ဆန့်ကျင်သူများအား တရားမဲ့နှိမ်လျက်ရှိလေရာ၊ အထူးသဖြင့် ယဟူဒီလူမျိုးစာရေးဆရာများနှင့် နိုင်ငံရေးမျှတမှုကိုလိုလားသော လက်ဝဲစာရေးဆရာကြီးများသည် အခြားနိုင်ငံသို့ တိမ်းရှောင်၍နေကြရလေသည်။ ဂျာမန်ဝတ္ထုရေးဆရာကြီး နာမည်ကျော် တောမတ် မန်းမှုကား ဂျာမနီနိုင်ငံကိုပင်စိတ်နာကာ ဂျာမနီနိုင်ငံမှထွက်ခွာ၍ ဂျာမန်နိုင်ငံသားအဖြစ်စွန့်လွှတ်ပြီးလျှင် အမေရိကန်နိုင်ငံသားအဖြစ် ခံယူလိုက်လေသည်။ ယခုအခါ ကာလီဖိုးနီးယားနယ်တွင်နေထိုင်၍ အမေရိကန်စာရေးဆရာအဖြစ် စာပေများရေးသားလျက်ရှိလေသည်။

**ဂျာမန်အနုပညာ။** ။ဂျာမန်ပန်းချီဆေးရေးပညာသည် ၁၅ ရာစုနှစ်အစလောက်ဆီက စတင်ပေါ်ပေါက်ခဲ့သည်ဟုဆိုကြသည်။ သို့သော် ထိုခေတ်ကမှတ်သားလောက်သောပုဂ္ဂိုလ်ကြီးများ မပေါ်ပေါက်သေးချေ။ ဖလန်းဒါးနယ်တွင် ဟူးဗတ်ဗန်အိုက်အမည်ရှိ ပန်းချီဆရာကြီးသည် သူ၏စိတ်ကူးတွင်ထင်မြင်သော နတ်ပြည်၏ပုံသဏ္ဍာန်ကိုရေးဆွဲနေသည့်အချိန်တွင်၊ ဂျာမန်တို့ကလည်း သူတို့၏စိတ်ကူးတွင်ထင်မြင်နေသောနတ်ပြည်ကို မှန်းဆကာရေးခြယ်လျက်ရှိကြသည်။ သူတို့၏အမြင်တွင် နတ်ပြည်ဆိုသည်မှာ ပန်းမျိုးစုံပွင့်သောနတ်ဥယျာဉ်ကြီးတခုဖြစ်၍ ထိုဥယျာဉ်ကြီးထဲတွင် သူတော်သူမြတ်များစံပျော်နေထိုင်ကြသည်ဟု အယူရှိကြသည်။ ၁၅ ရာစုနှစ်ဒုတိယပိုင်းသို့ရောက်သောအခါဂျာမန်



ဂျာမန်အနုပညာစစ်စစ်အဖြစ်ထင်ရှားသောပန်းပုထုလုပ်ငန်း

တို့သည် ဖလန်းဒါးအနုပညာရပ်များကို အထူးပင်လေးစားလာကြသဖြင့်၊ ဂျာမန်ပန်းချီဆရာတို့သည် ဖလန်းဒါးနယ်သို့သွားရောက်၍ ပန်းချီပညာကိုလေ့လာကြလေသည်။ သို့ဖြစ်ရကား ထိုခေတ်က ဂျာမန်အနုပညာမှာ ဖလန်းဒါးအနုပညာဖြစ်သည်ဟု ဆိုနိုင်ပေသည်။

ဂျာမန်ပန်းချီပညာသည် နိုင်ငံခြားမှနှယ်လာခဲ့သည် ဖြစ်စေကာမူ ပန်းပုထုလုပ်ခြင်းပညာမှာ ဂျာမန်အနုပညာစစ်စစ်ဖြစ်သည်။ ထိုပညာမှာဂျာမနီနိုင်ငံတွင် ရှေးနှစ်ပေါင်းများစွာကပင် ပေါ်ပေါက်ခဲ့၍၊ ဂျာမန်တို့၏ ရှေးအကျဆုံးအနုပညာတရပ်ဖြစ်သည်။ ပန်းနွယ်ပန်းခက်ပုံသဏ္ဍာန်များနှင့် လုပသောရုပ်လုံးများကို သစ်သားပေါ်၌ ပန်းပုထုလုပ်သောအတတ်တွင် ဂျာမန်တို့သည်ထူးကဲလှပေသည်။

ဂျာမန်တို့၏ အကောင်းဆုံးအနုပညာတရပ်မှာကားပန်းပုပညာပင်ဖြစ်ချေသည်။ ဂျာမန်အနုပညာသည်များသည် သစ်သားဖြင့်ရုပ်လုံးထုရာ၌ ကျွမ်းကျင်ကြ၏။ လက်ရာလည်းကောင်းမွန်၏။ ခရစ်ယန်ဘုရားရှိခိုးကျောင်းများအတွင်း တွေ့ရှိရသောပလ္လင်နောက်ခံ တံကဲများ၌ ထုလုပ်သောရုပ်တုရုပ်လုံးများက ဂျာမန်တို့၏အနုပညာလက်ရာကို ပြောင်မြောက်ကြောင်းသက်သေခံလျက်ရှိ၏။ ဂျာမန်အနုပညာသမားမှန်လျှင် ထိုအတတ်ပညာတွင် ကျွမ်းကျင်ကြသည်ချည်းဖြစ်ကြ၏။ ထိုသူများအနက် မာတင်ရှုန်ဂေါင်ဝါသည် အလွန်ထင်ရှားသည်။ သူသည်ကြေးပြားပေါ်တွင်ပုံထွင်းသောအတတ်၌လည်း အလွန်ကျွမ်းကျင်ပေသည်။ အလိုရှိသောပုံပေါ်လာအောင် ကြေးပြားပေါ်တွင် ချွန်ထက်သောကရိယာတခုဖြင့် သေးငယ်သောမျဉ်းများကို ရေးဆွဲပြီးလျှင်၊ ထိုမျဉ်းငယ်များတွင် မင်ကိုလောင်းထည့်သည်။ ထိုနောက်စက္ကူချပ်ကိုဖိနှိပ်ကူးယူလိုက်လျှင် ရုပ်ပုံပေါ်လာလေသည်။ ဤနည်းဖြင့်ရုပ်ပုံအများရနိုင်သည်။ နောင်အခါ၌ ကြေးနီပြားပေါ်တွင် ထွင်းသောနည်းကိုယူ၍ သစ်သားပေါ်တွင် ပုံထွင်းသောအတတ်ပညာသည်တွင်ကျယ်၍လာလေသည်။

ထိုအချိန်အခါတွင် ဣတလီနိုင်ငံ ဗင်းနစ်မြို့၌ အနုပညာသည် ထိပ်တန်းသို့ရောက်ရှိနေပြီဖြစ်ရာ ဗင်းနစ်မြို့နှင့် နီးစပ်သောဂျာမနီတောင်ပိုင်းသည်လည်း ဂျာမန်အနုပညာရပ်များကို ဖွံ့ဖြိုးတိုးတက်လာစေရန် ကြိုးစားလျက်ရှိသည်။ ဤသို့ကြိုးစားအားထုတ်မှုကြောင့် ဖြစ်ထွန်းသောအကျိုးမှာ ကမ္ဘာ့အနုပညာသမိုင်းတွင် မှတ်တမ်းတင်ထားရမည့် သုခုမပညာသည်ကြီး အာလဗရက်ဒျူရာ (ခရစ် ၁၄၇၁–၁၅၂၈) ပေါ်လာခြင်းဖြစ်ပေသည်။ (ဒျူရာ, အေ–ရှု။) အားလဗရက်ဒျူရာမှာ နျူးရမ်းဗပ်မြို့နေ ရွှေပန်းထိမ်ဆရာတဦး၏သားဖြစ်၍ ဥရောပတိုက်ရှိနိုင်ငံအသီးသီးတွင် ကျော်ကြားလျက်ရှိသော မိုက်ကယ်အန်ဂျီလို၊ ရက်ဖီအယ်၊ဂျီဗန်နီးဗဲလီနီ၊ တစ်ရှန်အစရှိသူတို့နှင့်လည်း ခင်မင်သူဖြစ်၏။ နိုင်ငံအရပ်ရပ်သို့လှည့်လည်ကာ လေ့လာကြည့်ရှုခဲ့သူဖြစ်သဖြင့်

ဗဟုသုတနှင့်လည်းပြည့်စုံပေသည်။ ဒျူရာသည် ဂျာမန်အနုပညာသမိုင်းပဌမပိုင်းကိုရေးသားပြုစုခဲ့၏။ ကျန်တပိုင်းကိုမူ ပန်းချီနှင့်ပုံထွင်းအနုပညာဆရာကြီးများဖြစ်ကြသော လူးကတ်ကရားနတ်နှင့် ဟောလဗိုင်းတို့က ရေးသားခဲ့လေသည်။ (ဟောလဗိုင်း,ဟန်းဇ — ရှု။)

အထူးအားဖြင့် ကျော်ကြားသလောက် လက်ရာပြောင်မြောက်ခဲ့သူများမှာ ဒျူရာနှင့် ဟောလဗိုင်းတို့ဖြစ်ကြ၍၊ ထိုပုဂ္ဂိုလ်ကြီးများကွယ်လွန်သောအခါတွင် သူတို့၏ခြေရာကိုနင်းနိုင်မည့်သူများ မပေါ်ပေါက်တော့ချေ။ ဂျာမန်အနုပညာရပ်များသည်လည်း ထိုအခါမှစ၍မှေးမှိန်ခဲ့ပြန်၏။

နှစ်ပေါင်း ၂၀၀ ခန့်မှေးမှိန်ခဲ့သော ဂျာမန်အနုပညာရပ်များသည် ၁၈ ရာစုနှစ်အတွင်းသို့ရောက်ရှိလာသောအခါ



ပန်းချီကျော် ဟောလဗိုင်း ရေးဆွဲခဲ့ သောအင်္ဂလန်ဘုရင်ဟင်နရီ၏ပုံတူ

ဒန်းဇစ်မြို့သားပန်းချီဆရာ ကိုးဒိုဗျက်စကီ ပေါ်ပေါက်လာသဖြင့် ပြန်လည်ထွန်းကားလာသည်။ ထိုပုဂ္ဂိုလ်မှာလူရုပ်ပုံပန်းချီနှင့် ပုံထွင်းပညာတို့တွင် လက်ရာပြောင်မြောက်လှသူဖြစ်၏။ ထိုနောက်တွင် ရောမအနုပညာကိုလိုက်စားသူ အန်တွန်ရက်ဖီအယ်မင်းနှင့် အင်္ဂလိပ်အနုပညာကိုလိုက်စားသူ အန်ဂေလီကာကောက်ဖမန်ဆိုသူ အမျိုးသမီးတို့သည် ဂျာမန်အနုပညာလောကထဲသို့ ဆန်းသစ်သောအနုပညာရပ်များကိုသွတ်သွင်းလာခဲ့ကြသည်။

**ဂျာဗိုးအာကောင်။** ။ဂျာဗိုးအာကောင်သည် အာရေဗျနိုင်ငံနှင့်မြောက်အာဖရိကတိုက်တို့တွင် များသောအားဖြင့်တွေ့ရသော နို့တိုက်သတ္တဝါတမျိုးဖြစ်၏။ ‘ဒစ်ပိုဒီဒီး’ မျိုးရင်းတွင်ပါဝင်၏။ ယင်း၌ကြွက်သွားကဲ့သို့သေးငယ်၍ချွန်ထက်သောသွားမျိုးရှိသည်။

အီဂျစ်နိုင်ငံရှိ ဂျာဗိုးအာကောင်မှာ ကိုယ်အရှည် ၈ လက်မခန့်ရှိသည်။ အမြီးမှာလုံး၍ ၁၀ လက်မခန့်ရှည်ပြီး အမွေးတိုကလေးများဖြင့်ဖုံးလွှမ်းနေသည်။ အဖျား၌ အမွေးစုလျက်ရှိ၏။ ခြေသည်း ၅ ခုရှိသောရှေ့ခြေတို့မှာ အလွန်တို၏။ နောက်ခြေတို့မှာ ရှေ့ခြေတို့ထက် ၆ ဆခန့်ရှည်သည်။ ခုန်ရန်ကြံရွယ်သောအခါ နောက်ခြေတို့ကိုရင်း၊ အမြီးကိုရင်း ထောက်၍ထားသည်။ ရှေ့ခြေတို့ကိုမူရင်ပတ်တွင်ကပ်၍ထားလေသည်။ ထိုနောက်ခုန်လိုက်သောအခါ နောက်ခြေတို့ဖြင့် သာထောက်၍ ကျသည်။ ဤသို့လျင်မြန်စွာခုန်ပေါက်ကာ တနေရာမှတနေရာသို့သွားလာလှည့်လည်ကျက်စားတတ်ကြလေသည်။

ဂျာဗိုးအာကောင်သည် ခြေသည်းများဖြင့်မြေကြီးတွင်တွင်းတူး၍ တနေ့လုံးနေသည်။ ညဉ့်အခါတွင်သာထွက်၍ လျင်မြန်ဖျတ်လတ်သောကြောင့် ဖမ်းမိရန်ခဲယဉ်းပေသည်။ အသင်းအဖွဲ့နှင့်နေလေ့ရှိသည်။

ပါရှားနိုင်ငံရှိ ‘အဲလက်တဂအင်ဒီးက’ ခေါ် ဂျာဗိုးအာကောင်သည်လည်း တွင်းထဲတွင်နေသော ညဉ့်သတ္တဝါမျိုးဖြစ်၏။ ကောက်ပဲသီးနှံများကိုရှာဖွေစားသောက်သည်။



နောက် ခြေနှင့်အမြီးကို ထောက်၍ခုန် ပေါက်သွားလာတတ်သော ဂျာဗိုးအာကောင်

# အာရှတိုက်အရှေ့တောင်ပိုင်းရှိရတနာဒီပကျွန်း

**ဂျားဗားကျွန်းသည် အရှေ့အိန္ဒိယကျွန်း စုတွင် သဘာဝပစ္စည်းကြွယ်ဝသဖြင့် ထင်ရှားသည်။ ကြက်ပေါင်စေး၊ ကြံ၊ ကွီနိုင်ဆေး အများဆုံးထွက်သောဒေသဖြစ်၏။ ဂျားဗားကျွန်းတွင် ဗုဒ္ဓအယူဝါဒဆိုင်ရာအဆောက်အအုံကြီးများရှိသည်။**

**ဂျားဗားကျွန်း**။ ။ဂျားဗားကျွန်းသည် အရှေ့အိန္ဒိယကျွန်းစုတွင် အရေးပါအရာရောက်ဆုံးကျွန်းဖြစ်၏။ ဆူမတြားနှင့် ဗာလီကျွန်း ၂ ကျွန်းအကြားတွင်တည်ရှိ၍၊ သဘာဝပစ္စည်းများကြောင့် ကမ္ဘာကျော်ကြားခဲ့လေသည်။ ဂျားဗားကျွန်းသည်အလျားမိုင် ၆၆၀၊ အနံမိုင် ၄၀ မှ ၁၂၅ မိုင် အထိရှိ၏။ အကျယ်အဝန်းမှာ မဒူရကျွန်းအပါအဝင် စတုရန်းမိုင်ပေါင်း ၅၁,၀၃၂ မိုင်ဖြစ်လေသည်။

ဂျားဗားကျွန်း၏အလယ်တွင် တောင်စဉ်တောင်တန်းများရှိ၏။ ထိုတောင်တန်းတွင် မီးတောင်များလည်းပါဝင်၍ အမြင့်ဆုံးတောင်ထွတ်မှာ ပေပေါင်း ၁၀,၀၀၀ အထိရှိ၏။ မြစ်များသည် အများအားဖြင့် မြောက်ဖက်သို့စီးဆင်းကြသည်။ ဆိုလိုမြစ်နှင့် ဗရန်တတ်စ မြစ်တို့မှာ အကြီးဆုံးမြစ်နှစ်သွယ်ဖြစ်၏။ ဂျားဗားကျွန်းမှမြစ်များတွင် မိုးအခါ၌သာလှေသင်္ဘောငယ်များ သွားလာနိုင်သည်။ သို့သော် ရေသွင်းစိုက်ပျိုးရေးအတွက် ထိုမြစ်များကို အများဆုံးအားထားရလေသည်။ ကျွန်း၏ တဝက်ကျော်ကျော်မှာ စိုက်ပျိုးနိုင်သောမြေများဖြစ်၍ ကျန်တဝက်မှာ တောကြီးမျက်မည်းများဖြစ်သည်။ ထိုတောကြီးများမှကျွန်းသစ်နှင့် အခြားအဖိုးတန်ပစ္စည်းများထွက်၏။ ဂျားဗားကျွန်းတွင် တနှစ်ပတ်လုံးအပူရှိန်ပြင်းထန်၍ မိုးအမြဲရွာသွန်းလေသည်။ သို့အတွက်ဆန်စပါး၊ ကာဖီ၊ သကြား၊ ပြောင်းဖူး၊ မြေပဲ၊ ပဲဗိစပ်၊ ဆေးရွက်၊ စင်ကိုးနားပင်၊ ကြက်ပေါင်စေးပင်များကို စိုက်ပျိုးလုပ်ကိုင်ကြလေသည်။ ယင်းတို့တွင် ဆန်စပါးမှာ တိုင်းရင်းသားတို့၏ အရေးအကြီးဆုံးကောက်ပဲသီးနှံဖြစ်၏။ ကမ္ဘာသုံးကွီနိုင်ခေါ် အဖျားဖြတ်ဆေးကို ဤကျွန်းမှအများဆုံးရရှိလေသည်။

ဂျားဗားကျွန်းတွင် တိုင်းရင်းသားတို့၏စက်မှုလက်မှုလုပ်ငန်းများသည် ရှေးအခါကပင်ရှိခဲ့သော်လည်း၊ ခေတ်မီစက်မှုလက်မှုလုပ်ငန်းများကိုမူ ပဌမကမ္ဘာစစ်အတွင်းနှင့် စစ်ပြီးကာလတွင်မှ စတင်လုပ်ကိုင်ခဲ့၏။ ဂျားဗားကျွန်း၏ စက်မှုလက်မှုလုပ်ငန်းသည် သုံးမျိုးသုံးစားကွဲပြားသည်။ ယင်းတို့မှာ အိမ်တွင်းစက်မှုလက်မှုလုပ်ငန်း၊ စက်မှုလက်မှုလုပ်ငန်းကလေးများနှင့် စက်မှုလက်မှုလုပ်ငန်းကြီးများဖြစ်ကြ၏။ ထို ၃ မျိုးလုံးကို အစိုးရကထောက်ပံ့အားပေးလေသည်။ ခေတ်သတ္တုတူးဖော်ရေးလုပ်ငန်းမှာ အနည်းငယ်အရေးပါသောလုပ်ငန်းတရပ်ဖြစ်၏။ ရေနံ၊ ရွှေ၊ ငွေများကိုတူးဖော်ရရှိ၍ ရေနံတူးဖော်ရေးလုပ်ငန်းသည် အတော်အတန်တိုးတက်လာခဲ့လေသည်။




ဂျားဗားကျွန်းတည်နေရာပြမြေပုံ

ဂျားဗားကျွန်း၏လူဦးရေမှာ ၁၉၅၁ ခုနှစ်သန်းကောင်စာရင်းအရမဒူရာကျွန်းအပါအဝင် ၅၁,၀၀၀,၀၀၀ ခန့်ဖြစ်လေသည်။ ကျွန်း၏အကျယ်အဝန်းနှင့်တွက်သော် စတုရန်းတမိုင်လျှင်လူဦးရေ ၁၀၀၀ ခန့်မျှနေထိုင်ကြသဖြင့် ကမ္ဘာပေါ်တွင်လူနေအထူထပ်ဆုံးသောအရပ်တခုဖြစ်၏။ တိုင်းရင်းသားလူမျိုးများမှာ မလေးအနွယ်များဖြစ်၍ လူမျိုးစုကြီး ၂ စုကွဲနေသည်။ ယင်းတို့မှာ ဂျားဗားလူမျိုးနှင့် ဆွန်ဒန်လူမျိုးများဖြစ်၏။ ထိုလူမျိုးစု တစုစီ၌ လူမျိုးအလိုက် သီးခြားဘာသာစကားရှိလေသည်။ တိုင်းရင်းသားများမှာ၊ ရိုးသား၍ဝီရိယရှိပြီးလျှင် အေးချမ်းစွာလုပ်ကိုင်စားသောက်ကြသည်။ ကြက်တိုက်ပွဲနှင့်ရုပ်သေးပွဲများ

သည် တိုင်းရင်းသားတို့၏ ပျော်ပွဲရွှင်ပွဲများဖြစ်သည်။ မြန်မာလူမျိုးတို့ကဲ့သို့ သစ်ဝါးများဖြင့်အိမ်များကို ဆောက်လုပ်နေထိုင်တတ်ကြ၏။ တိုင်းရင်းသားတို့၏အိမ်များမှာအများအားဖြင့် ခြေတံရှည်အိမ်များဖြစ်သည်။ ပျက်စီးနေသော ဟိန္ဒူဘုရားရှိခိုးကျောင်း မြောက်မြားစွာ တို့ကို တွေ့ရခြင်းဖြင့် တိုင်းရင်းသားများသည် ရှေးအခါက ဟိန္ဒူအယူဝါဒီများဖြစ်ကြမည်ဟု ခန့်မှန်းရသည်။ ဂျာဗားကျွန်း၏ အလယ်ပိုင်းတွင် ပျက်စီးနေသောဗုဒ္ဓသာသနာအဆောက်အအုံများကို တွေ့ရ၏။ ထိုအထဲတွင်အကြီးဆုံးမှာ ဗောရောဗုဓော ခေါ် အဆောက်အအုံကြီးဖြစ်၏။ ယင်းသည် ကမ္ဘာပေါ်ရှိဗုဒ္ဓအယူဝါဒဆိုင်ရာအဆောက်အအုံများထဲတွင် အကြီးဆုံးအဆောက်အအုံကြီးတခုဖြစ်ပေသည်။ ယင်းကိုဆောက်လုပ်ထားပုံနှင့် ဖော်ထားသောရုပ်လုံးများမှာလည်း အံ့ဩဖွယ်ရာ ထူးဆန်းလှသည်။ ဂျာဗားကျွန်းကို အာရပ်လူမျိုးတို့သိမ်းပိုက်သည့် ၁၅ ရာစုနှစ်လောက်ကစ၍ ကျွန်းသူကျွန်းသားများမှာ မွတ်စလင်များဖြစ်လာကြ၏။

ဂျာဗားကျွန်း၏မြို့တော်မှာ ရှေးက ဗတေးဗီးယား ဟုခေါ်၍ ယခု ယာကားတား ဟုခေါ်သောမြို့ဖြစ်၏။ ထိုမြို့တွင်လူဦးရေ ၂,၀၀၀,၀၀၀ ခန့်ရှိသည်။ အရေးပါသော သင်္ဘောဆိပ်မြို့ကြီးများမှာ ဆူးရဗားယနှင့် ဆမားရန်းမြို့များဖြစ်သည်။ ဂျာဗားကျွန်းတခုလုံးတွင်လမ်းမကြီးများ၊ မီးရထားလမ်းများ အနှံ့အပြားဖောက်လုပ်ထား၏။ ယာကားတားမြို့တော်နှင့် ဆူးရဗားယမြို့ကို မီးရထားလမ်းဖြင့် ဆက်သွယ်ထားလေသည်။

ခရစ် ၁ ရာစုနှစ်လောက်တွင် ဂျာဗားသို့ဟိန္ဒူလူမျိုးတို့ ရောက်ရှိလာခဲ့၍ တဖြည်းဖြည်း တန်ခိုးကြီးလာလေသည်။ ၁၅၂၀ ပြည့်နှစ်ခန့်တွင် ဟိန္ဒူနောက်ဆုံးမင်း မဂျပဟစ် ပျက်စီးသည်တွင် ဂျာဗားကျွန်းအုပ်ချုပ်ရေးမှာ အကွဲကွဲအပြားပြားဖြစ်ခဲ့၍၊ တိုင်းရင်းသားမင်းငယ်များက အုပ်ချုပ်လေသည်။ ၁၅၉၉ ခုနှစ်တွင် တည်ထောင်ခဲ့သောဒပ်ချ အရှေ့အိန္ဒိယကုမ္ပဏီသည် ဂျာဗားကျွန်းကိုဝင်ရောက်၍ တိုက်ခိုက်ရာမှ ၁၆၁၀ ပြည့်နှစ်တွင် ဒပ်ချဘုရင်ခံချုပ်ကိုခန့်ထားခဲ့၍ ၁၆၁၉ ခုနှစ်တွင် ဗတေးဗီးယားမြို့ကိုတည်ထောင်ခဲ့၏။ နပိုလီယန်စစ်ပွဲများအတွင်း ဂျာဗားကျွန်းကို ဗြိတိသျှတို့ကသိမ်းပိုက်ခဲ့သော်လည်း ၁၈၁၆ ခုနှစ်တွင် ဒပ်ချတို့ လက်သို့ပြန်၍အပ်ခဲ့လေသည်။ ဒုတိယကမ္ဘာစစ်အတွင်း ၁၉၄၂ ခုနှစ်မှ ၁၉၄၅ ခုနှစ်တိုင်အောင် ဂျပန်တို့ကဂျာဗားကျွန်းကိုသိမ်းပိုက်ထား၏။ စစ်ပြီးကာလတွင် ဒပ်ချတို့ကပြန်လည်ရရှိပြန်သည်။ သို့ရာတွင် ၁၉၄၆ ခုနှစ် တွင် လင်ဂဂျာတီ သဘောတူညီချက်စာချုပ်အရ၊ ဂျာဗားကျွန်းသည် ဆူမတြား၊ မဒူရာကျွန်းတို့နှင့်အတူ ၁၉၄၉ ခုနှစ်၌ အင်ဒိုနီးရှားသမတနိုင်ငံတော်တွင် ပါဝင်ခဲ့လေသည်။ ယာကားတားမြို့သည် သမတနိုင်ငံ၏ မြို့တော် ဖြစ်လေသည်။ ဂျာဗားကျွန်း၏မြို့ကြီးတမြို့ဖြစ်သော ဗန်ဒုန်းမြို့တွင် ၁၉၅၅ ခုနှစ်ဧပြီလ ၁၈ ရက်နေ့မှ ၂၄ ရက်နေ့အထိ အာရှ၊ အာဖရိက ၂၉ နိုင်ငံညီလာခံကြီးကို ကျင်းပခဲ့သည်။ ထိုညီလာခံတွင် ကမ္ဘာ့ပြဿနာအရပ်ရပ်ကိုဆွေးနွေးခဲ့သဖြင့် ကမ္ဘာ့လူထု၏ အာရုံပြုရာဒေသအဖြစ် ရောက်ခဲ့လေသည်။

ဂျာဗားကျွန်းရှိ ဗောရောဗုဓောခေါ် ဗုဒ္ဓအယူဝါဒဆိုင်ရာ အဆောက်အအုံကြီး





လန်ဒန်မြို့၊ စိန်ဂျိမ်းနန်းတော်တွင် ဂျီ၊ စီ၊ ဘီ၊ အေ ကိုယ်စားလှယ်များအပါအဝင်မြန်မာပြည်မှခေါင်းဆောင်များနှင့်ဗြိတိသျှအစိုးရကိုယ်စားလှယ်

ဂျီ၊ စီ၊ ဘီ၊ အေ။ ။မြန်မာအသင်းချုပ်ကြီး၏ အမည်ကို အင်္ဂလိပ်ဘာသာဖြင့် 'ဂျင်နရယ်ကောင်စီအော့ ဗားမိအက်စိုစီအေရှန်း' ဟုခေါ်သည်။ ထိုအင်္ဂလိပ်စကားကို အတိုချုံး၍ 'ဂျီ၊ စီ၊ ဘီ၊ အေ' ဟုခေါ်ကြပြန်သည်။ မြန်မာအသင်းချုပ်ကြီးသည်၊ ထိုအတိုချုံးထားသောအင်္ဂလိပ်စကားအတိုင်း နိုင်ငံအဝှန်း၌အမည်တွင်လေသည်။

## ပေါ်ပေါက်လာပုံ

မြန်မာအသင်းချုပ်ကြီးမှာ မြန်မာနိုင်ငံကို ဗြိတိသျှတို့သိမ်းပိုက်ပြီးသည့်နောက် လူထုစည်းရုံးမှုဖြင့်ရှေးဦးစွာတည်တည့်တံ့ဖွဲ့စည်းခဲ့သောနိုင်ငံရေးအဖွဲ့အစည်းကြီးဖြစ်သည်။ ထိုအသင်းကြီးပေါ်ပေါက်လာပုံဇာစ်မြစ်ကိုရှာဖွေလျှင်၊ 'ဝိုင်၊ အမ်၊ ဘီ၊ အေ' ဟုအင်္ဂလိပ်ဘာသာစကားဖြင့် အတိုကောက်ခေါ်ဝေါ်အပ်သော ဗုဒ္ဓဘာသာကလျာဏယုဝအသင်း၌တွေ့ရသည်။ (ဗုဒ္ဓဘာသာကလျာဏယုဝအသင်း—ရှု။) ဝိုင်၊ အမ်၊ ဘီ၊ အေဟူသောစကား၏အရှည်ကောက်မှာ 'ယန်းမင်းဗုဒ္ဓစ်အက်စိုစီအေရှန်း' ဖြစ်သည်။ ထိုအသင်းကိုသက္ကရာဇ် ၁၂၆၈ ခုနှစ် (ခရစ် ၁၉၀၆ ခုနှစ်) တွင်တည်ထောင်သည်။ အသင်း၏ရည်ရွယ်ချက်မှာ အမျိုး၊ ဘာသာ၊ သာသနာ၊ ပညာဟူသောအကြောင်းလေးပါးကို လူမှုဝန်ထမ်းလုပ်ငန်းတို့ဖြင့် ဖွံ့ဖြိုးအောင်ဆောင်ရွက်ရန်ဖြစ်သည်။ အနယ်နယ်၌အသင်းခွဲများရှိသည်။ မြန်မာနိုင်ငံရေးလှုပ်ရှားလာသော ခရစ် ၁၉၁၇ ခုနှစ်မှ ၁၉၁၉ ခုနှစ်အတွင်း၌ ဝိုင်၊ အမ်၊ ဘီ၊ အေအသင်းပေါင်း ၂၀၀ ကျော်မျှ တိုးပွားလာခဲ့လေသည်။

၁၉၁၇ ခုနှစ်ဩဂုတ်လ ၂၁ ရက်နေ့တွင် ဗြိတိသျှပါလီမန်အောက်လွှတ်တော်၌ အိန္ဒိယပြည်ဆိုင်ရာဝန်ကြီး မွန်တေဂူသည် ဗြိတိသျှအင်ပိုင်ယာနှင့်တပေါင်းတည်းဖြစ်သောအိန္ဒိယပြည်ကို ကိုယ်ပိုင်အုပ်ချုပ်ခွင့် တစတစပေးအပ်ရမည်ဟူသော ပြဋ္ဌာန်းချက်ကိုကြေညာလိုက်လေသည်။

ဝိုင်၊ အမ်၊ ဘီ၊ အေအသင်းသည် ထိုကြေညာချက်ကို စိတ်မဝင်စားဘဲမနေနိုင်ချေ။ အသင်း၏ရည်ရွယ်ချက်မှာ အမျိုး၊ ဘာသာ၊ သာသနာ၊ ပညာဟုသတ်မှတ်ထားသဖြင့်၊ လွန်စွာမှနယ်ကျယ်ဝန်းလေရကား၊ ဝိုင်၊ အမ်၊ ဘီ၊ အေသည် နိုင်ငံရေးနယ်ထဲသို့ ဝင်ရောက်လာခဲ့လေသည်။ ထို့ကြောင့် အသင်းကြီးသည် အိန္ဒိယပြည်ဆိုင်ရာဝန်ကြီး မွန်တေဂူနှင့် အိန္ဒိယပြည်ဘုရင်ခံချုပ် လော့ချမ်းစဖို့တို့ မြန်မာပြည်သို့ လာလျှင် မြန်မာတို့၏လိုလားချက်များကိုပြောဆိုရန်စောင့်မျှော်နေလေသည်။ သို့သော်ထိုပုဂ္ဂိုလ် ၂ ဦးသည် အုပ်ချုပ်ရေးပြုပြင်ပြောင်းလဲရန်ကိစ္စကို အိန္ဒိယပြည်၌လှည့်လည်၍ စုံစမ်းခဲ့သော်လည်း၊ မြန်မာပြည်သို့လုံးဝမလာရောက်ခဲ့ပေ။ ထိုအခါ ၁၉၁၈ ခုနှစ်ဒီဇင်ဘာလတွင်မြန်မာပြည်ဥပဒေပြုကောင်စီအဖွဲ့ဝင် မင်းတိုင်ပင်အမတ်ဦးဖေ၊ ဦးမေအောင်၊ ဦးဘဖေနှင့် ဝတ်လုံတော်ရဦးစုတို့ပါဝင်သော မြန်မာကိုယ်



ျက် နှာစုံညီ အစည်း အဝေး ကျင်း ပနေကြစဉ်

စားလှယ်အဖွဲ့သည် ကာလကတ္တားမြို့သို့သွားရောက်၍ မြန်မာတို့၏အခွင့်အရေးများကိုတောင်းဆိုခဲ့လေသည်။ သို့ရာတွင် ၁၉၁၈ ခုနှစ်ဇွန်လ၌ ထွက်ပေါ်လာသောမွန်တေဂူနှင့်ချမ်းစဖို့အစီရင်ခံစာတွင် မြန်မာပြည်အတွက် အုပ်ချုပ်မှုပြုပြင်ပြောင်းလဲရေး ထောက်ခံချက်များမပါရှိခဲ့ချေ။ ထို့ကြောင့်ဝိုင်၊ အမ်၊ ဘီ၊ အေအသင်းသည် ထိုကိစ္စကိုဆက်လက်ကြိုးပမ်းရလေသည်။ သို့သော်ထိုအချိန်၌ဝိုင်၊ အမ်၊ ဘီ၊ အေအသင်းတွင် နိုင်ငံရေးဆောင်ရွက်လိုသူတို့ကတဖက်၊ မဆောင်ရွက်လိုသူတို့ကတဖက်ရှိနေပေသည်။ ၁၉၁၈ ခုနှစ်ဩဂုတ်လ ၁၈ ရက်နေ့တွင်ကျင်းပသောအစည်း အဝေး၌ နိုင်ငံရေးကိုကိုယ်ထိလက်ရောက်ပါဝင် ဆောင် ရွက်လိုသူတို့ဖက်မှအနိုင်ရခဲ့သည်။ ထိုနောက်အိန္ဒိယပြည်အားပြုပြင်ပြောင်းလဲအုပ်ချုပ်မှုစံနစ်ပေးအပ်ရန် ဗြိတိသျှပါလီမန်ကဥပဒေကြမ်းတင်သွင်းရာတွင်၊ မြန်မာပြည်အတွက်ဘာမျှမပါရှိသည်နှင့် ၁၉၁၉ ခုနှစ်မေလ ၁၈ ရက်နေ့တွင်ဝိုင်၊ အမ်၊ ဘီ၊ အေကအင်္ဂလန်သို့ ဦးဘဖေ၊ ဦးပု၊ ဦးထွန်းရှိန်တည်းဟူသောကိုယ်စားလှယ်တို့ကိုစေလွှတ်လေသည်။ သို့ပါလျက်နှင့်လည်းအိန္ဒိယပြည်အုပ်ချုပ်ရေးဥပဒေကြမ်းကိုစဉ်းစားကြသော ဗြိတိသျှအထက်နှင့်အောက်ပါလီမန် ၂ ရပ်တွဲဖက်ကော်မတီသည် မြန်မာပြည်အတွက် အုပ်ချုပ်မှုပြုပြင်ပြောင်းလဲရေးများကို ဥပဒေကြမ်းတွင် ထည့်သွင်းပေးရန် မထောက်ခံခဲ့ချေ။

ဤသို့မြန်မာ့ဆန္ဒကို ဗြိတိသျှပါလီမန်က လျစ်လျူပြုနေသောအချိန်မှာ မြန်မာနိုင်ငံ၌အမျိုးသားစိတ်ဓာတ် ပြန်လည်ထွန်းကားနေသောအချိန်ဖြစ်လေသည်။ ဤအတွင်း ၁၉၂၀ ပြည့်နှစ်တွင် ရန်ကုန်တက္ကသိုလ်ဟုသီးခြားတက္ကသိုလ်စတင်တည်ထောင်ရန် ရန်ကုန်တက္ကသိုလ် အက်ဥပဒေကို မြန်မာပြည်အစိုးရကအတည်ပြုလိုက်ရာ၊တက္ကသိုလ်ကျောင်းသားတို့၏ပဋ္ဌမသပိတ်ကြီး ပေါ်ပေါက်လာပြီးလျှင်၊ မှုလကထကြွနေသောအမျိုးသားစိတ်ဓာတ်မှာ တရှိန်ထိုးလျှမ်းလျှမ်းတောက်၍လာလေတော့သည်။

၁၉၂၀ ပြည့်နှစ်ပြည်မြို့တွင်ကျင်းပသော ဝိုင်၊ အမ်၊ ဘီ၊ အေ နှစ်ပတ်လည်အစည်းအဝေး၌ နိုင်ငံရေးစည်းရုံးမှုအရှိန်တက်ကြွနေသည်ကိုထောက်ရှု၍ ဦးဘလှိုင်နှင့်ဦးကွန်းတို့က ဝိုင်၊ အမ်၊ ဘီ၊ အေအစား ပိုမိုကျယ်ပြန့်သောမြန်မာအသင်းချုပ်ကြီးတည်ထောင်ရန်အဆိုသွင်းသည်။ ယင်းအဆိုကို အတည်ပြုလိုက်ကြသဖြင့်၊ ဝိုင်၊ အမ်၊ ဘီ၊ အေ၏အမည်သည် ဂျီ၊ စီ၊ ဘီ၊ အေမြန်မာအသင်းချုပ်ကြီးဟူသောအမည်သို့ ပြောင်းလဲလာခဲ့လေသည်။ ထိုအချိန်၌ရဟန်းတော်အချို့တို့သည် ဝံသာနုနှင့်နိုင်ငံရေးစိတ်ဝင်စားလာကြသောကြောင့် အထက်မြန်မာပြည်၊ အောက်မြန်မာပြည် သံဃသာမဂ္ဂီအသင်းများကို အင်တိုက်အားတိုက်ဖွဲ့စည်းတည်ထောင်ကြလေသည်။ ထိုသို့ဖွဲ့စည်းသည့် သံဃသာမဂ္ဂီတို့သည် ဂျီ၊ စီ၊ ဘီ၊ အေ ကိုတက်ကြွစွာထောက်ခံအားပေးလာကြလေသည်။

### အသင်းချုပ်၏တိုးတက်မှု

၁၉၂၁ ခုနှစ်တွင်ဂျီ၊ စီ၊ ဘီ၊ အေအသင်းချုပ်၏လက်အောက်၌ ဝိုင်၊ အမ်၊ ဘီ၊ အေအသင်းအပြင် ဝိုင်၊ ဒဗျူ၊ဘီ၊ အေခေါ် ဗုဒ္ဓဘာသာကလျာဏယုဝတ္တမှာရီအသင်းလည်းရှိလေသည်။ (ဗုဒ္ဓဘာသာကလျာဏယုဝတ္တမှာရီအသင်း — ရှု။) ဝိုင်၊ ဒဗျူ၊ ဘီ၊ အေဟူသောဝေါဟာရမှာ 'ယန်းဝင်းမင်းဗုဒ္ဓစ်အက်စိုစီအေရှန်း' ဟူသော အင်္ဂလိပ်အမည်အတိုကောက်ဖြစ်သည်။ ထိုအသင်း ၂ သင်းနှင့်အလားတူအမျိုးသမီးအမျိုးသားအသင်းပေါင်း ၂၀၀၀ ကျော်မျှရှိခဲ့သည်။ ဂျီ၊ စီ၊ ဘီ၊ အေအသင်းဝင်များသည် မြန်မာပြည်ဖြစ်အထည်များကိုဝတ်ဆင်ကြရန်၊ မြန်မာအချင်းချင်းချစ်ခင်ညီညွတ်စွာယိုင်းပင်းကူညီကြရန် စသည်တို့ကိုလှုံ့ဆော်ပေးကြသည်။ ထိုကြောင့်မြန်မာတောင်သူလယ်သမားအပေါင်းတို့က ဂျီ၊ စီ၊ ဘီ၊ အေကိုဝံသာနုအသင်းဟုခေါ်လာကြ၍ ထိုဝံသာနုအသင်းတို့မှာ ၁,၀၀၀ ကျော်မျှမွှားများလာသည်။ ဝံသာနုအသင်းတသင်းလျှင်လူပေါင်း ၂၀ ကျော်မှသည် ၅၀၀ ကျော်အထိရှိလေသည်။ အသင်း၏တည်ရာဌာနမှာရန်ကုန်မြို့လှစ္စလမ်း၌ဖြစ်သည်။

## နိုင်ငံရေးဆောင်ရွက်ချက်များ

၁၉၂၁ ခုနှစ်တွင်အိန္ဒိယပြည်ဆိုင်ရာဝန်ကြီးက ပါလီမန်သို့ ထောက်ခံချက်တခုတင်သွင်းလိုက်လေသည်။ ထိုထောက်ခံချက်အရမှာ အုပ်ချုပ်မှုပြုပြင်ပြောင်းလဲရေးများကို မြန်မာပြည်အားပေးအပ်ရန်ဖြစ်သည်။ ထိုပြုပြင်ရေးစီမံချက်များအရ ဆာ အေ၊ အက် (ဗ) ဝှိုက်ခေါင်းဆောင်၍ ဝှိုက်ကော်မတီဟု တွင်သော မြန်မာပြည် ပြုပြင်ပြောင်းလဲရေးကော်မတီ သည် မြန်မာပြည် သို့ပေးအပ်ရမည့် မဲဆန္ဒအခွင့်အရေး၊ ဗဟိုအစိုးရကသီးသန့်ယူထားမည့်အုပ်ချုပ်ရေးဌာန၊ လွှဲပြောင်းပေးမည့် အုပ်ချုပ်ရေးဌာနတို့ကို မြန်မာပြည်သို့ လာရောက်စုံစမ်းရာတွင် ဂျီ၊ စီ၊ ဘီ၊ အေသည်ဝှိုက်ကော်မတီကိုသပိတ်မှောက်ခဲ့သည်။ ၁၉၂၂ ခုနှစ်တွင်ဗြိတိသျှပါလီမန်က မြန်မာပြည်အားပေးအပ်ရန် ဒိုင်အာခီအုပ်ချုပ်ရေးစံနစ်ကို ဥပဒေဖြင့်အတည်ပြုလိုက်လေသည်။ ထိုအခါ ၁၂၈၄ ခုနှစ်တန်ဆောင်မုန်းလဆုပ် ၆ ရက် (ခရစ် ၁၉၂၂ ခုနှစ်) တွင် သရက်မြို့၌ကျင်းပသော ဂျီ၊ စီ၊ ဘီ၊ အေအထူးကွန်ဖရင့်အစည်းအဝေးကြီးက 'ဒိုင်အာခီသည် လုံးဝကိုယ်ပိုင်အုပ်ချုပ်ရေးမဟုတ်၊ လမ်းခုလတ်သာဖြစ်၍၊ ဝီလဆန်၏ ၁၄ ချက်နှင့်မညီ' ဟု ယူဆပြီးလျှင်၊ ဟုမ်ရူးခေါ် ကိုယ်ပိုင်အုပ်ချုပ်ရေးရမှသာ တင်းတိမ်နိုင်မည်ဟုဆိုကာ မြန်မာပြည်ဥပဒေပြုကောင်စီကိုသပိတ်မှောက်လိုက်သည်။

## နှစ်စုကွဲခြင်း

သို့သော်ခရစ် ၁၉၂၃ ခုနှစ်ဇန္နဝါရီလ ၁ ရက်နေ့တွင် မြန်မာပြည်အတွက်ဒိုင်အာခီအုပ်ချုပ်ရေးစံနစ်သည် စတင်အာဏာတည်လေသည်။ ထိုအုပ်ချုပ်ရေးစံနစ်အရ မြန်မာပြည်ဥပဒေပြုကောင်စီရွေးကောက်ပွဲတို့ကို ၁၉၂၂ ခုနိုဝင်ဘာလကစ၍ ကြိုတင်ကျင်းပခဲ့သည်။ ထိုရွေးကောက်ပွဲကျင်းပရန်အချိန်ရောက်လာသည်တွင် ဥပဒေပြုကောင်စီကို သပိတ်မှောက်လိုသူကတစု၊ မမှောက်လိုသူကတစု နှစ်စုကွဲကာ ဝိဝါဒဖြစ်ကြလေသည်။ ဦးဘဖေ၊ ဦးဘလှိုင်၊ ဦးပု၊ မန္တလေးဦး ဘဦး အမှူးရှိသောပုဂ္ဂိုလ် ၂၁ ဦးက ဒိုင်အာခီစံနစ်ကိုလက်ခံ၍ ဥပဒေပြုကောင်စီထဲမှနေ၍အုပ်ချုပ်ရေးပြုပြင်ပြောင်းလဲမှုတို့ကို အရေးဆိုမည်ဟုကြေညာခဲ့သည်။ ထိုပုဂ္ဂိုလ် ၂၁ ဦးသည်လည်း၊ မူရင်းဂျီ၊စီ၊ ဘီ၊ အေမှခွဲထွက်၍ မိမိတို့အသင်းကိုအမည်မပေးဘဲ ဂျီ၊ စီ၊ ဘီ၊ အေဟူ၍ပင်မှည့်ခေါ်လေသည်။ သို့သော်ခွဲထွက်သွားသောခေါင်းဆောင်ဦးရေ ၂၁ ဦးကိုအစွဲပြု၍ ၂၁ ဦးပါတီဟုအများကခေါ်ကြလေသည်။ မူရင်းဂျီ၊စီ၊ ဘီ၊ အေတွင် ဦးချစ်လှိုင်၊ သာယာဝတီဦးပုနှင့်ဦးထွန်းအောင်ကျော်တို့ကျန်ရစ်ခဲ့၍ ယင်းဂျီ၊စီ၊ဘီ၊အေကို လှိုင်၊ ပု၊ ကျော်၊ ပါတီဟူ၍ခေါ်ကြသေးသည်။ ဒိုင်အာခီအုပ်ချုပ်ရေးစံနစ်အရပေါ်ပေါက်လာသော မြန်မာပြည်ဥပဒေပြုကောင်စီတွင် အမတ်ပေါင်း ၁၀၃ ဦးရှိသည့်အနက် ၇၄ ဦးသည်အများပြည်သူတို့ကရွေးကောက်တင်မြှောက်ခြင်းခံရသူများဖြစ်သည်။ ထို ၇၄ ဦးအနက် ၂၁ ဦးပါတီဝင် ၂၈ ဦးသာလျှင်အမတ်အဖြစ်အရွေးခံခဲ့ရလေသည်။ ၁၉၂၃ ခုနှင့် ၁၉၂၄ ခုနှစ်တွင် အိန္ဒိယဥပဒေပြုအောက်လွှတ်တော်အတွက် မြန်မာပြည်မှကိုယ်စားလှယ်များအသစ်ရွေးချယ်ရာ၌မူကား၊ မူလ ဂျီ၊ စီ၊ ဘီ၊ အေအသင်းကြီးသည် သပိတ်မှောက်ခြင်းမပြုဘဲ၊ ဝင်ရောက်အရွေးခံရာ ထိုအသင်းဝင်ချည်းသာအရွေးခံရသည်။

## ဝံသာနုအသင်း

မူလမြန်မာအသင်းချုပ်ကြီးသည် ဦးချစ်လှိုင် ဂျီ၊ စီ၊ ဘီ၊ အေဟူ၍သာမက ဝံသာနု ဂျီ၊ စီ၊ ဘီ၊ အေဟူ၍လည်း တွင်လာသည်။ ၂၁ ဦး ဂျီ၊ စီ၊ ဘီ၊ အေနှင့် အပြိုင်ဖြစ်သော်လည်း အင်အားဆုတ်ယုတ်ခြင်းမရှိပေ။ ၁၉၂၃ နှင့် ၁၉၂၄ ခုနှစ်များတွင် တိုင်းပြည်လူထုနိုးကြားမှုကိုမနားမနေဆောင်ရွက်ရာတိုင်းသူပြည်သားတို့၏ထောက်ခံမှုကိုများစွာရခဲ့လေသည်။ ၁၉၂၃ ခုနှစ်တွင်အစိုးရနှင့်မဆက်ဆံရေးဟူသောကြွေးကြော်သံဖြင့် 'ဘူး' အသင်းများသည် ဟသ်ာတနယ်၌ပေါ်ပေါက်လာခဲ့ဘူးသည်။ ထိုအသင်းများသည်ဝံသာနုဂျီ၊ စီ၊ ဘီ၊ အေက လှုံ့ဆော်ပေးသောစိတ်ဓာတ်တို့ဖြင့် တည်ထောင်ကြသည်ဟု ယူဆရန်အကြောင်းရှိလေသည်။ သို့သော်များမကြာမီ ထိုအသင်း များ ကို အစိုးရကမတရားအသင်းဟုကြေညာလိုက်လေသည်။

## သမတဦးချစ်လှိုင်

၁၂၈၆ ခုနှစ်ကဆုန်လ (ခရစ် ၁၉၂၄ ခုနှစ်မေလ) တွင် ၁၁ ကြိမ်မြောက် ဂျီ၊ စီ၊ ဘီ၊ အေကွန်ဖရင့်ကိုပေါင်းတည်မြို့၌ကျင်းပရာ၊ နယ်မှကိုယ်စားလှယ်ပေါင်း ၁၀,၀၀၀ ကျော်တက်ရောက်ကြသည်။ ထိုအစည်းအဝေးကဦးချစ်လှိုင်ကိုပင်ဥက္ကဋ္ဌတင်မြှောက်လိုက်သည်။ ယခင်ကသရက်မြို့တွင်ကျင်းပခဲ့သော ကွန် ဖရင့်မှ အစပြု၍ ဦးချစ်လှိုင် အားသမတတင်မြှောက်ခဲ့သည်ကို ပေါင်းတည်ကွန်ဖရင့်ကထပ်မံအတည်ပြုလိုက်သည်။ ဤသည်တွင်ဂျီ၊ စီ၊ ဘီ၊ အေ ဥက္ကဋ္ဌများကို သမတဟုချီးကျူးခေါ်ဝေါ်သော အလေ့အထတရပ် ပေါ်လာခဲ့လေသည်။ (ချစ်လှိုင်၊ဦး — ရှု။)

## ဖိနိုပ်ခြင်း

၁၂၈၆ ခုနှစ် (ခရစ် ၁၉၂၄ ခုနှစ်) တွင် မန္တလေးမြို့၌ ဆရာတော်ဦးဥတ္တမအားကြိုဆိုရန် ဝံသာနုများစီတန်းလှည့်လည်စဉ် ပုလိပ်တို့ကတားဆီးရိုက်နှက်ကြရာ၊ ရဟန်းရှင်လူ



၁၉၃၁ ခုနှစ်နိုဝင်ဘာလ ၂၇ ရက်နေ့တွင်ဗြိတိသျှအစိုးရ အထက်လွှတ်တော်၌အိန္ဒိယပြည် နှင့်မြန်မာပြည် တွဲရေး၊ ခွဲရေးပြဿနာကို ဆွေးနွေးရန်အတွက်ကျင်းပသော မျက်နှာစုံညီအစည်း အဝေးဖွင့်ပွဲတွင် မြန်မာကိုယ်စားလှယ်များကို ဤသို့တွေ့မြင်နိုင်သည်။

တို့ဒဏ်ရာရကြသည်။ ဆရာတော်ဦးစန္ဒိမာမှာ သေနတ်ဒဏ်ရာနှင့် ပျံလွန်တော်မူခဲ့လေသည်။ ထိုနှစ်အတွင်း၌ပင်လျှင်၊ ဆရာတော်ဦးဥတ္တမအား ရာဇသတ်ပုဒ်မ ၁၂၄ (က) နှင့် ထောင်ဒဏ် ၃ နှစ်အပြစ်ပေးလိုက်သည်ကိုအကြောင်းပြု၍ ရန်ကုန်မြို့၊ ဆူးလေဘုရားအနီးရှိ၊ ဖိုက်စကွဲယား (ယခုဗန္ဓုလ) ပန်းခြံ၌ သံဃာတော်များ၊ အမျိုးသားနှင့် အမျိုးသမီးများပါဝင်သော ဆန္ဒပြအစည်းအဝေးကြီးကို မြင်းစီးပုလိပ်တို့က မြင်းနှင့်တိုက်၊ တုတ်နှင့်ရိုက်၍ဖျက်ဆီးလေသည်။ ဤသို့ဖိနှိပ်သောအခြင်းအရာတို့ အရှိန်ပြင်း၍လာလေလေ ဂျီ၊ စီ၊ ဘီ၊ အေ၏အင်အားမှာညီညွတ်တောင့်တင်းလာလေလေဖြစ်တော့သတည်း။

### ဒုတိယအကြိမ်နှစ်စုကွဲခြင်း

သို့ရာတွင်ပုဂ္ဂိုလ်စွဲသဘောကွဲလွဲမှုတို့ကြောင့်၊ တမျိုးသားလုံးညီညွတ်ရေးမှာ အစဉ်အလာကြီးတရပ်ဖြစ်လာလောက်အောင်ကြာရှည်စွာမခံခဲ့ချေ။ ၁၂၈၆ ခုနှစ်တွင် ပုသိမ်ခရိုင်ဝန်ရေကာတာကျိုးသဖြင့် ကယ်ဆယ်ရေးရံပုံငွေကောက်ခံသောကိစ္စနှင့်စပ်လျဉ်း၍ အချင်းချင်းသဘောကွဲလွဲလာကြသည်။ ဦးချစ်လှိုင်ကို သံဃာ့ဩဝါဒမခံဟုစွပ်စွဲလာကြသည်။ ထိုကြောင့် ၁၂၈၇ ခုနှစ် (ခရစ် ၁၉၂၅ ခုနှစ်) တွင် ရွှေဘို၌ကျင်းပသော ၁၂ ကြိမ်မြောက်ကွန်ဖရင့်သည် ဦးချစ်လှိုင်အားဥက္ကဋ္ဌအဖြစ် ပြန်လည်မရွေးကောက်တော့ဘဲ၊ ဦးစိုးသိမ်းကိုဥက္ကဋ္ဌတင်မြှောက်လိုက်လေသည်။ ဤတွင်ဦးချစ်လှိုင်သည် အညမညသမ္ဗန္ဓအဖွဲ့ဟူသောအမည်ဖြင့် သီးခြားဂျီ၊ စီ၊ ဘီ၊ အေအသင်းကိုတည်ထောင်ပြန်လေသည်။

### ဒုတိယအကြိမ်ဒိုင်အာခီရွေးကောက်ပွဲ

ဒိုင်အာခီစံနစ်အရ ဒုတိယအကြိမ်ရွေးကောက်ပွဲကျင်းပရန်အချိန်သည် နီးကပ်လာပြန်လေသည်။ ထိုအခါသပိတ်မှောက်ဝံသာနုဂျီ၊ စီ၊ ဘီ၊ အေမှခေါင်းဆောင်အချို့တို့သည် သပိတ်လှန်၍ ရွေးကောက်ပွဲဝင်ကြသည်။ ယင်းအချိန်၌ သာယာဝတီဦးပုခေါင်းဆောင်သော ဟုမ်ရူးပါတီ၊ ဦးတုတ်ကြီးခေါင်းဆောင်သော သရာဇပါတီတို့လည်း ပေါ်ပေါက်လာခဲ့ပြီ။ ရွေးကောက်ပွဲပြီးသောအခါ ၂၁ ဦးဂိုဏ်း၊ ဟုမ်ရူးဂိုဏ်းနှင့် သရာဇဂိုဏ်းတို့သည် ရည်ရွယ်ချက်ချင်း တူရာတို့၌ ပူးပေါင်းဆောင်ရွက်ခဲ့ကြသည်။ ဤသို့လျှင်ဒိုင်အာခီအုပ်ချုပ်ရေးကို အထောက်အပံ့ပြုသည့်အင်အားစုတို့မှာ လွှတ်တော်၌များပြားလာသည်နှင့်အမျှ ဂျီ၊ စီ၊ ဘီ၊ အေလည်း အင်အားဆုတ်ယုတ်လာခဲ့လေသည်။

### ဂျီ၊ စီ၊ ဘီ၊ အေကွန်ဖရင့်များ

ဂျီ၊ စီ၊ ဘီ၊ အေသည်နှစ်လည်အစည်းအဝေးများကို တနှစ်လျှင်တမြို့ကျစည်းဝေးလေ့ရှိသည်။ ဂျီ၊ စီ၊ ဘီ၊ အေ ခေတ်မမှိန်မီကျင်းပကြသော နှစ်လည်အစည်းအဝေးတို့မှာ တိုင်းသူပြည်သားတို့၏ ညီညွတ်သောအင်အားစုကို ပြခဲ့ပေသည်။ ဂျီ၊ စီ၊ ဘီ၊ အေ၏သမိုင်း၌ထင်ရှားသော နှစ်လည်

အစည်းအဝေးတို့၏ ကျင်းပသော နေရာနှင့် နေ့ရက်ကို ဖော်ပြရလျှင် အောက်ပါအတိုင်းဖြစ်သည်။

ဝိုင်၊ အမ်၊ ဘီ၊ အေအသင်းချုပ်အနေနှင့် သတ္တမမြောက်နှစ်လည်အစည်းအဝေးကို ၁၉၁၉ ခုနှစ်အောက်တိုဘာလတွင် ပုသိမ်မြို့၌ကျင်းပခဲ့သည်။ အဋ္ဌမမြောက်အစည်းအဝေးကို ပြည်မြို့၌ကျင်းပသည်။ ၁၂၈၃ခုနှစ် (ခရစ် ၁၉၂၁ ခုနှစ်) သီတင်းကျွတ်လဆုတ် ၅ ရက်နေ့တွင် မန္တလေးမြို့၌ နဝမကွန်ဖရင့်ခေါ် ၉ ကြိမ်မြောက် နှစ်ပတ်လည်အစည်းအဝေးကိုကျင်းပခဲ့ရာ ထိုကွန်ဖရင့်မှာ ဂျီ၊ စီ၊ ဘီ၊ အေ၏ သမိုင်းတွင် အထင်ရှားဆုံးဖြစ်သည်။ ဤအစည်းအဝေး သို့လူပေါင်း ၁၀၀,၀၀၀ ကျော် တက်ရောက်ခဲ့လေသည်။ ထိုအစည်းအဝေးကြီးက အမျိုးသားအောင်ပွဲနေ့ကို တန်ဆောင်မုန်းလဆုတ် ၁၀ ရက်နေ့တိုင်းတွင် ကျင်းပရန်ဆုံးဖြတ်ချက်ချခဲ့ရာ၊ ယနေ့တိုင်အောင်အမျိုးသားနေ့ဟူ၍ မြန်မာပြည်ထောင်စုကနှစ်စဉ်ကျင်းပလျက်ရှိသည်။ (အမျိုးသားအောင်ပွဲနေ့ — ရှု။) ဟုမ္မရူးခေါ် ကိုယ်ပိုင်အုပ်ချုပ်ရေးကိုတောင်းဆိုလာသော သရက်မြို့ကွန်ဖရင့်ကြီးမှာ ၁၀ ကြိမ်မြောက်နှစ်ပတ်လည်အစည်းအဝေးဖြစ်၍ ၁၂၈၄ ခုနှစ် (ခရစ် ၁၉၂၂ ခုနှစ်) တန်ဆောင်မုန်းလဆုတ် ၆ ရက်နေ့တွင် ကျင်းပခဲ့သည်။ ၁၉၂၃ ခုနှစ်တွင် ပျဉ်းမနား၌ ဦးချစ်လှိုင်ဂျီ၊ စီ၊ ဘီ၊ အေကွန်ဖရင့် ပြုလုပ်ခဲ့သည်။ ၁၉၂၄ ခုနှစ်၌ ဦးချစ်လှိုင်ဂျီ၊ စီ၊ ဘီ၊ အေသည် ပေါင်းတည်ကွန်ဖရင့်ကျင်းပစဉ်၊ ဟင်္သာတ၌ညီညွတ်ရေးကွန်ဖရင့်ကျင်းပ၍ ဂျီ၊ စီ၊ ဘီ၊ အေ ကွဲနေသည်ကို ရင်ကြားစေ့အောင် တိုက်တွန်းခဲ့၏။ သို့သော်မအောင်မြင်ခဲ့ချေ။ ၁၉၂၅ ခုနှစ်တွင်ဦးချစ်လှိုင်ဂျီ၊ စီ၊ ဘီ၊ အေသည် မင်းဘူး၌စည်းဝေးခဲ့ပြီးနောက် စင်ပြိုင်ကွန်ဖရင့်များပေါ်လာခဲ့လေသည်။

## စင်ပြိုင်ဂျီ၊ စီ၊ ဘီ၊ အေ များ

၁၉၂၆ ခုနှစ်တွင် ဦးချစ်လှိုင်၏ ဂျီ၊ စီ၊ ဘီ၊ အေ သည် မကွေးမြို့၌နှစ်လည်အစည်းအဝေးကျင်းပစဉ်၊ သရက်မြို့၌ဦးစိုးသိမ်းဂျီ၊စီ၊ဘီ၊ အေကလည်း နှစ်လည်အစည်းအဝေးကျင်းပခဲ့၏။ ဦးစိုးသိမ်းသည် မူရင်းဝံသာနု ဂျီ၊ စီ၊ ဘီ၊ အေတွင် ၁၂ ကြိမ်မြောက်နှစ်လည်အစည်းအဝေးမှသည် ၁၅ ကြိမ်မြောက်အထိဥက္ကဋ္ဌဖြစ်ခဲ့သည်။ ဦးစိုးသိမ်း၏နိုင်ငံရေးအယူအဆမှာ အစိုးရနှင့်လုံးဝမဆက်ဆံရေး၊ အာဏာဖီဆန်ရေး၊ အခွန်တော်မပေးရေး ဟူသောအယူအဆဖြစ်သည်။ ၁၂၉၀ ခုနှစ် (ခရစ် ၁၉၂၈ ခုနှစ်) တန်ခူးလတွင် တောင်ငူမြို့၌ကျင်းပသောကွန်ဖရင့်တွင် မြန်မာပြည်ကို အိန္ဒိယမှခွဲထုတ်ပါက အထက်ပါလမ်းစဉ်အတိုင်းဆောင်ရွက်မည်ဟု ဆုံးဖြတ်ချက်ချမှတ်ခဲ့သည်။ ထိုပြင်အပျော်တမ်းတပ်များဖွဲ့စည်းရန်ကိုလည်း ဆုံးဖြတ်ကြသည်။ ထိုဆုံးဖြတ်ချက်တို့ကိုနိုင်ငံရေး၌ အကြမ်းဖက်၍ဆောင်ရွက်သည်ဟု ရဟန်းရှင်လူတို့ကယူဆကာ ထိုကွန်ဖရင့်ကို သပိတ်မှောက်ခဲ့ကြလေသည်။ သပိတ်မှောက်သူတို့သည် ဗဟို ဂျီ၊ စီ၊ ဘီ၊ အေ အမည်ဖြင့်ဂိုဏ်းခွဲ၍ စင်ပြိုင်အဖွဲ့တည်ထောင်ကြလေသည်။ တောင်ငူကွန်ဖရင့်တွင် နောင်သောအခါ သာယာဝတီ ဂဠုန်ပုန်ကန်မှုကြီးကို ခေါင်းဆောင်မည့် ဆရာစံမှာ ဦးစိုးသိမ်းအဖွဲ့၌ အရေးပါသူတဦးပင်ဖြစ်၏။ အပျော်တမ်းတပ်များဖွဲ့စည်း ရန် တိုက်တွန်းသူလည်းဖြစ်၏။ ထိုဗဟို ဂျီ၊ စီ၊ ဘီ၊ အေ ၌ ဦးစုသည် ဥက္ကဋ္ဌဖြစ်လာသည်။

## ဂျီ၊ စီ၊ ဘီ၊ အေ၊ နှင့် ခွဲရေးတွဲရေး

၁၉၃၀ ပြည့်နှစ်၌ မြန်မာပြည်တွင် ဒိုင်အာခီအုပ်ချုပ်ရေးကိုဖျက်သိမ်း၍ ကိုယ်ပိုင်အုပ်ချုပ်ရေးကိုပေးအပ်ရန်ဟူသော နိုင်ငံရေးလှုပ်ရှားမှုကြီးပေါ်လာခဲ့သည်။ ထိုအခါ ဆာဂျွန် ဆိုင်မွန် အမှူးပြုသဖြင့် ဆိုင်မွန်ကော်မရှင်ဟုတွင်သောအိန္ဒိယစတက်တျူထရီကော်မရှင်သည် မြန်မာပြည်ကို အိန္ဒိယပြည်မှခွဲထုတ်သင့်သည်ဟု အစီရင်ခံစာတင်သွင်းလေသည်။ ဤတွင်အိန္ဒိယနှင့်မြန်မာတွဲရေးခွဲရေးပြဿနာသည် ပေါ်ပေါက်လာခဲ့လေသည်။ ထိုပြဿနာသည် ၁၉၃၂ ခုနှစ် အထွေထွေရွေးကောက်ပွဲတွင် အခြေခံဝိဝါဒတရပ်ဖြစ်လာခဲ့ရာ၊ ဦးချစ်လှိုင်ဂျီ၊ စီ၊ ဘီ၊ အေ၊ ဦးစိုးသိမ်းဂျီ၊စီ၊ဘီ၊ အေနှင့် ဦးစုဂျီ၊စီ၊ဘီ၊ အေတို့သည် တွဲရေးဖက်မှအတိအလင်းဆောင်ရွက်ခဲ့သည်။ ၂၁ ဦးအဖွဲ့ကား ခွဲရေး အတွက် ဆောင်ရွက်သည်။ တွဲရေးအတွက်ဆောင်ရွက်ရန် အဖွဲ့အစည်းတခုလိုအပ်သည်ဟုသဘောရရှိကြသောအခါ၊ တွဲရေးသမားတို့သည်၊ ဒေါက်တာဘမော်အား၊ ခေါင်းဆောင်အဖြစ်ဖြင့် ရွေးကောက်တင်မြှောက်ကြလေသည်။ မျှားမကြာမီ ဦးစိုးသိမ်း ဂျီ၊ စီ၊ ဘီ၊ အေ ၏ ဩဝါဒစရိယဆရာတော်ဖြစ်သော သက်ပန်းဆရာတော်နှင့်ဒေါက်တာဘမော်တို့သဘောကွဲလွဲကြသည့်အခါ၊ မြေစိုဆရာတော်အား ဩဝါဒစရိယအရာ၌တင်မြှောက်ကြလေသည်။ ထိုမြေစိုဆရာတော်၏ ဂျီ၊ စီ၊ ဘီ၊ အေတွင် ဗန္ဓုလဦးစိန်သည်ဥက္ကဋ္ဌဖြစ်လာသည်။ မြေစိုဆရာတော်ပျံလွန်တော်မူသောအခါ ထိုဂျီ၊ စီ၊ ဘီ၊ အေအသင်းကို မဂ်လွန်းဆရာတော်က ဩဝါဒစရိယအနေဖြင့် ဆောင်ရွက်လေရာ၊ မဂ်လွန်းဂျီ၊ စီ၊ ဘီ၊ အေဟုခေါ်ကြပြန်သည်။ ထိုနောက်၌ကား မဂ်လွန်းဂျီ၊ စီ၊ ဘီ၊ အေသည် ဆင်းရဲသားဝံသာနုအဖွဲ့ချုပ်ဟူ၍ ပြောင်းလဲလာခဲ့ပြန်လေသည်။ မြန်မာပြည်အက်ဥပဒေ (၁၉၃၅) အရ မြန်မာပြည်ကို အိန္ဒိယပြည်မှခွဲထုတ်၍ အုပ်ချုပ်ရေးပုံပြင်ပြောင်းလဲခြင်းကိုပေးအပ်လိုက်သဖြင့် ၁၉၃၆ ခုနှစ်နိုဝင်ဘာလတွင် ရွေးကောက်ပွဲကျင်းပသည့်အခါ၊ ဂျီ၊ စီ၊ ဘီ၊ အေဟူသော အမည်သည်လုံးဝကွယ်ပျောက်သွားလေသည်။

**ဂျီနီးဗားမြို့။** ။ဂျီနီးဗားမြို့သည် ဆွစ်ဇာလန်နိုင်ငံဂျီနီးဗားရေအိုင်၏ အနောက်တောင်ထောင့် ရုန်းမြစ်ပေါ်၌ တည်ရှိ၍ နှစ်လိုဖွယ်တင့်တယ်စိုပြည်သောမြို့ဖြစ်၏။ ဥရောပတိုက်အလယ်၌တည်ရှိပြီးလျှင် လှပသောရှုမျှော်ခင်းများနှင့် အေးချမ်းသာယာသောမြို့တမြို့ဖြစ်သည့်အတိုင်း နိုင်ငံခြားသားများသွားရောက်လည်ပတ်လေ့ရှိကြ၏။ ရုန်းမြစ်သည် ဂျီနီးဗားမြို့လယ်ကို ဖြတ်သန်းကာ စီးဆင်းသွား၏။ မြို့သည်လှပတင့်တယ်၍ သန့်ရှင်း၏။ ဂျီနီးဗားအိုင်ကြီး၏ ကမ်းပါးတလျှောက်တွင် ကျယ်ပြန့်သော လမ်းမကြီးများသည်၎င်း၊ လမ်းနံဘေးတွင် လှပဖြူဖွေးသောကျောက်အိမ်များသည်၎င်း လှပစွာတည်ရှိကုန်၏။ နေဝင်ချိန်များ၌ အရှေ့တောင်ဖက်မိုင် ၄၀ ကွာတွင်ရှိသည့် ဆီးနှင်းများဖုံးအုပ်နေသော ဗလန်းတောင်ထိပ်သည် ဝင်လုဆဲသောနေရောင်တွင် ရှုမငြီးဖွယ်တင့်တယ်လှပလေသည်။ ဂျီနီးဗားရေအိုင်ကြီးမှာ ၄၅ မိုင်အလျားရှိ၍၊ ဆွစ်ဇာလန်နိုင်ငံတွင် အကြီးဆုံးနှင့်အလှပဆုံးဖြစ်လေသည်။

ရောမအာဏာရှင် ဂျူးလီယပ်ဆီဇာ လက်ထက်မှစ၍၊ ဤမြို့တည်ထောင်ခဲ့ရာ၊ ဥရောပအလယ်ခေတ်ကုန်လုနီးနီးလောက်တွင် ဂျီနီးဗားမြို့သားများသည်သူတို့ကိုအုပ်စိုးနေသောခရစ်ယန်ဘုန်းကြီးနှင့် ဆဗွိုင်းဘုရင်ကိုတော်လှန်လိုက်ကြပြီးနောက် သမတနိုင်ငံတည်ထောင်ကြသည်။

၁၆၀၂ ခုနှစ်တွင်လည်း အလစ်ဝင်၍တိုက်သောဆဗွိုင်းမင်းဆက်တပ်များကို တွန်းလှန်ပစ်လိုက်သည်။ ဘာသာရေးအပြောင်းအလဲခေတ်၌ ဂျီနီးဗားမြို့သည်ပရိုတက်စတန့်ဂိုဏ်းကိုထောက်ခံသောမြို့ဖြစ်၍၊ ပရိုတက်စတန့်ခေါင်းဆောင်ကြီးကယ်လဗင်၏ ဌာနချုပ်ရှိသောနေရာဖြစ်၏။ နပိုလီယန်ဘုရင်စစ်ရှုံးပြီးနောက် ဂျီနီးဗားမြို့သည် ၁၈၁၅ ခုနှစ်တွင် ဆွစ်ပြည်ထောင်စုနှင့်ပူးပေါင်းလိုက်လေသည်။

ပြင်သစ်တော်လှန်ရေးစာရေးဆရာကြီး ရူးဆိုးမွေးဖွားရာဒေသ ဖြစ်သည့်ပြင်၊ ပြင်သစ်ပညာရှိ ကြီးဗော်လတဲယားလည်း ဤမြို့တွင်အတော်ကြာနေထိုင်ခဲ့ဘူး၏။ ဒုတိယကမ္ဘာစစ်ကြီးမဖြစ်မီက နိုင်ငံပေါင်းချုပ်အသင်းကြီး၏ဗဟိုဌာနချုပ်တည်ရှိရာဖြစ်၍၊ အခြားကမ္ဘာလုံးဆိုင်ရာတိုင်းပြည်အချင်းချင်းဖွဲ့စည်းထားသော အစည်းအရုံးများ၏ ဌာနချုပ်များလည်းရှိ၏။ ကမ္ဘာလုံးဆိုင်ရာကွန်ဖရင့်ကြီးများကိုလည်း ဂျီနီးဗားမြို့တွင်မကြာခဏကျင်းပခဲ့ကြလေသည်။

လူဦးရေမှာ ၁၉၅၀ ပြည့်နှစ်ဒီဇင်ဘာလ ၁ ရက်သန်ကောင်စာရင်းအရ ၂၀၂,၉၁၈ ရှိ၏။ ပြင်သစ်နှင့်နီးစပ်သဖြင့်ဘာသာစကားနှင့်ဓလေ့ထုံးစံမှာ ပြင်သစ်နိုင်ငံနှင့်ထပ်တူထပ်မျှဖြစ်လေသည်။ တိုင်းပြည်ထွက်ကုန်ပစ္စည်းမှာ နာရီများ၊ လောကဓာတ်ပညာဖက်ဆိုင်ရာ ကရိယာများ၊ ခွဲစိတ်သည့်ကရိယာတန်ဆာပလာ၊ အပေါ်စားစက်ကလေးများနှင့် အစားအစာများဖြစ်လေသည်။

**ဂျီနိုးအာမြို့။** ။ဂျီနိုးအာမြို့သည် ဣတလီနိုင်ငံ၏အနောက်မြောက်ပိုင်း ဂျီနိုးအာပင်လယ်ကွေ့၏ကမ်းခြေအလယ်ဗဟိုတွင်တည်ရှိ၏။ မြေထဲပင်လယ်ကမ်းခြေပေါ်၌ အကြီးဆုံးဆိပ်ကမ်းမြို့ကြီးတမြို့ဖြစ်သည်။ ဣတလီနိုင်ငံမြောက်ပိုင်း



သပ်ရပ်တင့်တယ်သောဂျီနီးဗားမြို့၏ရှုခင်း



ဣတလီနိုင်ငံကူးသန်းရောင်းဝယ်ရေးတွင်အချက်အခြာဖြစ်သောဂျီနိုးအာမြို့၏သင်္ဘောဆိပ်

သို့သွားရာ တံခါးမကြီးလည်းဖြစ်၏။ ဣတလီနိုင်ငံလုံးမှ ထွက်သော ကုန်ပစ္စည်းတို့၏ ငါးပုံတပုံခန့်မျှကို ထိုသင်္ဘောဆိပ်မြို့ကြီးမှတဆင့် တင်ပို့ရလေသည်။ အနီးဆုံးဖြစ်သော မာဆေး မြို့ကြီး လောက် သင်္ဘော အဝင်အထွက် မများလှသော်လည်း ထိုမာဆေးဆိပ်ကမ်းမြို့ကြီးထက်ပင်၊ ကုန်တင်ကုန်ချပိုမို၍ များပြား၏။ သင်္ဘောကျင်းကြီးများနှင့်ကုန်ပစ္စည်းသိုလှောင်ရန် ကုန်ရုံကြီးများကိုလည်းတနေ့ထက်တနေ့တိုးချဲ့ဆောက်လုပ်ထား၏။ ထိုဆိပ်ကမ်းမှဣတလီနိုင်ငံသို့ ဝင်ကုန်များမှာ၊ ဂျုံ၊ ပြောင်း၊ ဝါဂွမ်း၊ ဓာတ်ဆီ၊ ကျောက်မီးသွေး၊ ဖော့စဖိတ်၊ သံနှင့် သံမဏိတို့ဖြစ်သည်။ ထွက်ကုန်များမှာမူကား ပိုးထည်၊ သံလွင်ဆီ၊ ဆပ်ပြာ၊ စက္ကူ၊ ဝိုင်အရက်နှင့် စကျင်ကျောက်များပင်တည်း။

ဤမြို့ကြီးသည် ဣတလီနိုင်ငံ၏လေကြောင်းနှင့်မီးရထားလမ်းဗဟိုဌာနဖြစ်သည်။ ရှေးအခါကဂျီနိုးအာမြို့သူမြို့သားများသည် ပင်လယ်၌စွန့်စားသွားလာကြ၍ ဂျီနိုးအာမြို့မှပင်နာမည်ကျော် သင်္ဘောသားကြီး ခရစ္စတိုဖာကိုလံဗပ် ထွန်းကားခဲ့လေသည်။ (ကိုလံဗပ်, စီ — ရှု။)

ဂျီနိုးအာမြို့သည် ရှေးအခါက လောင်းဗတ်နှင့် ဖရန့်တို့လက်ထဲသို့ကျရောက်၍၊ ရှားလမိန်းဘုရင်ကြီး၏နိုင်ငံတော်ကြီးပျက်စီးသွားသောအခါ၊ လွတ်လပ်သောမြို့တမြို့ဖြစ်လာသည်။ မှူးမတ် သေနာပတိ လူနည်းစုတို့နှင့်၊ ဒီမိုကရေစီဝါဒသမားများသည်၊ အမြဲပဋိပက္ခဖြစ်ခဲ့ရာ တလှည့်စီအုပ်စိုးခဲ့ကြ၍ ၁၆ ရာစု၌လူနည်းစုဝါဒလွှမ်းမိုးသွားသည်။ ထိုနောက်၌ကား ကိုယ်ပိုင်အုပ်ချုပ်ရေး ရရှိခဲ့ရာမှ ဆာဒင်းနီးယားနှင့် ဗီးဒမွန့်နယ် ဘုရင်များ၏ လက်အောက် သို့ရောက်သွားပြီးနောက် ၁၈၆၁ ခုနှစ်တွင်ဣတလီပိုင် ဖြစ် သွား သည်။ ထိုမြို့ ၏ လူဦး ရေမှာ ၆၇၈,၇၄၀ (၁၉၄၇ ခု)ဖြစ်သည်။ သင်္ဘောလုပ်ငန်း၊ အင်ဂျင်နီယာလုပ်ငန်းနှင့် အထည် လုပ်ငန်း များ ရှိ၏။

**ဂျီဗရော်တာ**။ ။ဂျီဗရော်တာမှာ မြေထဲပင်လယ်အနောက်ဖက်ဝ၌ရှိသော ဗြိတိသျှ ကရောင်းကိုလိုနီ တခုဖြစ်၏။ စပိန်ပြည်တောင်ဖက်မြေထဲပင်လယ်ထဲသို့ထိုးထွက်လျက်ရှိသော သန်လျက်စွန်း အငူပေါ်တွင်တည်ရှိလျက် ၃½ မိုင်ခန့်ရှည်ပြီး လျှင် ၁ မိုင်ခန့်ကျယ်ပြန့်၍ ပေပေါင်း ၁၄၀၀ မြင့်လေသည်။ ဂျီဗ ရော တား မြို့ ကား ခံတပ် မြို့ဖြစ် သည်။ အာဖရိကတိုက်၏မြောက်ဖက်ဖျားနှင့် ဥရောပတိုက်ရှိစပိန်နိုင်ငံတောင်ဖျားမှာ ၁၂ မိုင်ခန့်သာကွာဝေးလျက် ဂျီဗရော်တာကျောက်စွန်းကြီးသည် မြေထဲပင်လယ်ရေပြင်ထဲသို့မြင့်မြင့်မားမားထိုးထွက်လျက်ရှိရာ မြေထဲပင်လယ်နှင့်တကွဆူအက်တူးမြောင်းကိုဖြတ်၍ အရှေ့ဖျားသို့သွားရာရေလမ်းကြောင်းကို စောင့်ရှောက်ကာကွယ်သောခံတပ်ဖြစ်သည်။

ဂျီဗရော်တာမြို့မှာ အနောက်မြောက် ထောင့်တွင် တည်ရှိ၍ စစ်တပ်အပြင် လူဦးရေအရပ်သား ၁၇,၀၀၀ ခန့်ရှိ၏။ ကျောက်ဆောင်၏မြောက်ဖက်ဆုံးတွင် ဗြိတိသျှနယ်နှင့်စပိန်နယ်ကိုခြားထားသော ကြားနယ်မြေလွတ်ရှိလေသည်။

ခရစ် ၇၁၁ ခုနှစ်က မွတ်စလင်စစ်ဗိုလ်ချုပ် တဦးသည် ရေလက်ကြားကိုဖြတ်၍၊ ဂျီဗရော်တာကို သိမ်းယူခဲ့ရာ ထိုကျောက်တောင်ကုန်းကို 'ဂျဗယ်အယ်တာရစ်' ၏ကျောက်တောင် ကုန်းဟု စစ်ဗိုလ်၏အမည်ကိုအစွဲပြု၍ ပေးခဲ့ရာမှ ဂျီဗရော်တာဟုခေါ်တွင်လာသည်။ ထိုသူသည်ထိုနေရာ၌ပင် ခံတပ်တည်ဆောက်ခဲ့၏။ ၁၇၀၄ ခုနှစ်တွင် ဂျီဗရော်တာကိုဗြိတိသျှတို့က စပိန်တို့ထံမှသိမ်းယူပြီး ခံတပ်အခိုင်အခံ့ပြုလုပ်ထားသည်။ သို့ဖြစ်၍ ၁၇၇၉–၁၇၈၃ ခုနှစ်များအတွင်း ပြင်သစ်နှင့် စပိန်တို့ ပူးပေါင်းလုပ်ကြံသော်လည်း မရခဲ့ချေ။ ခံတပ်မှပစ်ခတ်သော အမြောက်ကြီးများကြောင့် ရန်သူသင်္ဘောများသင်္ဘောမီးလောင်ပျက်စီးသွားကြရလေသည်။ ခံတပ်မှာဖောက်ခွဲ၍မရသောကျောက်သားပကတိဖြစ်၍ အထူးခိုင်ခံ့ပြီးလျှင်ဖို့ခွင်းရန်ခဲယဉ်းလှလေသည်။ သင်္ဘောဆိပ်မှာ သင်္ဘောကြီးများပင် ဆိုက်ကပ်နိုင်၍ ကုန်

သဘော်ာများကိုကျောက်မီးသွေးဖြည့် တင်းရာစခန်း လည်းဖြစ်၏။ မြေထဲပင်လယ်၏တံခါးဝတွင် ခန့်ညားထည်ဝါစွာတည်ရှိသဖြင့် ဗြိတိသျှတို့အတွက်အရေးကြီးသော ချက်ကောင်းရေတပ်စခန်းတခုဖြစ်လေသည်။ ဒုတိယကမ္ဘာစစ်အတွင်းက ရန်သူဂျာမန်ဘြဇာခံ ဗီရှီ ပြင်သစ် အစိုးရနှင့် ဣတလီတို့ကတိုက်ခိုက်သော်လည်းမအောင်မြင်ခဲ့ချေ။

ဂရိတို့သည် ထိုဂျီဗရော်တားကျောက်တောင်စွန်းနှင့်အာဖရိကတိုက်ဖက်ရှိအင်ပူစွန်းတို့ကို ကမ္ဘာကြီး၏အနောက်ဖက်တံခါးဝများဟုပင် ရှေးအခါကမှတ်ယူခဲ့ကြဘူးသည်။



ဗြိတိသျှတို့၏ရေတပ်စခန်းနှင့်ခံတပ်မြို့ဖြစ်သောဂျီဗရော်တား

**ဂျီရေးနီးယမ်း**။ ။ဂျီရေးနီးယမ်းခေါ် ကျောက်ပန်းပင်မှာ ဒန်းပင်အပါအဝင်ဖြစ်သော ဂျီရေးနီးယေးစီးမျိုးရင်းတွင်ပါဝင်၏။ သို့သော်ကျောက်ပန်းပင်တွင် အတုနှင့်အစစ်ဟူ၍ ၂ မျိုးရှိပြန်သည်။ ကျောက်ပန်းပင်ဟုခေါ် ဆိုနေကြသည့် အနီ၊အဖြူနှင့်ပန်းရောင် အရောင် ၃ မျိုးရှိသော ခြံစိုက်ပန်းမွှေးပင်များမှာ အမှန်အားဖြင့် ကျောက်ပန်းပင်အတုမျှသာဖြစ်လေသည်။

ကျောက်ပန်းပင် အစစ်မှာ အပင်ရိုင်းသာဖြစ်၍ မရန်းရောင်သို့မဟုတ် ပန်းရောင်ပွင့်များ ပွင့်လေ့ရှိ၏။ ထိုအပင်၏သီးတောင့်ပုံကိုကြည့်၍ အင်္ဂလန်ပြည်တွင်ထိုအပင်ကိုကရိန်းဗိ (ကြိုးကြာနှုတ်သီး) ပင်ဟူ၍ခေါ်ကြသည်။ ယင်းတို့မှာ အထူးသဖြင့် လောင်းရိပ်ရသောနေရာများတွင်ပေါက်လေ့ရှိသည်။ သီးတောင့်များတွင် မွှေးနုကလေးများကိုတွေ့နိုင်သည်။ အလှအပဆုံးအမျိုးမှာ ပန်းပြာပွင့်သောအမျိုးဖြစ်၍ လမ်းဘေးများတွင်ပေါက်လေ့ရှိသည်။ အခြားတမျိုးမှာစိုစွတ်သောသစ်တောများနှင့် အုတ်တံတိုင်းပျက်ကြီးများပေါ်တွင်ပေါက်ကြ၍၊ ယင်းတို့၏အပွင့်ကလေးများမှာ မရန်းပြာနုရောင်ပေါ်တွင် အနီစင်းများရောလျက်ရှိ၏။ ခြောက်သွေ့သော သဲမြေများ တွင် ပေါက်လေ့ရှိ၍ ကျောက်ပန်းပင် အနွယ်ဝင် အခြားပန်းပင်တမျိုးလည်း ရှိသေးသည်။ ယင်းကိုစတော့ဗိ (ငှက်ကျားနှုတ်သီး) ပင်ဟုခေါ်သည်။

ညှော်ခန်းများတွင် ပန်းအိုးများ၌အလှစိုက်ပျိုးထားလေ့ရှိသော ကျောက်ပန်းပင်မျိုးမှာ ကျောက်ပန်းပင် ဟူ၍ခေါ်ရပြားသော်လည်း အထက်တွင်ရေးခဲ့သည့်အတိုင်း အတုမျှသာဖြစ်သည်။ ထိုအပင်သည် အမှန်အားဖြင့် ပယ်လာဂိုးနီးယမ်းဟုခေါ် သောပန်းပင်တမျိုးဖြစ်သည်။ သို့ရာတွင်ဂျီရေးနီးယေးစီး မျိုးရင်းမှာပင် ပါဝင်လျက် ကျောက်ပန်းပင်နှင့် အသွင်ချင်းသာကွာခြားသည်။ ပန်း၏အရောင်မှာဆွတ်ဆွတ်ဖြူမှ ပန်းရောင်နှင့်ကြက်သွေးရောင်အထိ အရောင်မျိုးစုံသည်။ အရွက်များမှာလည်းအဝါရောင် အဖြူရောင်စသည်ဖြင့်ကွဲပြားကြသည်။ ထိုပန်းပင်မျိုးကိုအထူးသဖြင့် အိမ်ပြတင်းပေါက်ဝများတွင်အလှစိုက်ပျိုးကြ၍၊ စားပွဲတင်ပန်း အိုး စသည် များ ဖြင့် လည်း အလှ အပစိုက် ပျိုးလေ့ရှိကြသည်ကို တွေ့ရှိရလေသည်။



ဂျီရေးနီးယမ်းခေါ် ကျောက်ပန်းပင်

# ရှေးဂရိတို့၏မြေကိုတိုင်းတာသောပညာ

**ဂျီသြမေတြီပညာကို ကျောင်းသားအများပင် လေ့လာသင်ကြားကြရပေသည်။ သင်္ချာဘာသာတွင် အလွန်အရေးပါသော ပညာတရပ်ဖြစ်၏။ မြေတိုင်းရာမှစ၍ ဤပညာမှာ တဆင့်တဆင့်ဖွံ့ဖြိုးလာခဲ့သည်။ ထိုပညာကိုစံနစ်တကျဖြစ်အောင်လေ့လာ စီစဉ်ခဲ့သူ ရှေးဂရိပညာရှိကြီး ယူကလစ်ကိုအစွဲပြု၍၊ ရှေးကထိုပညာကို ယူကလစ်ဟူ၍ပင် ကျွန်ုပ်တို့ခေါ်ဝေါ်ခဲ့ကြသေးသည်။**

**ဂျီသြမေတြီ။** ။ဂျီသြမေတြီဟူသောဝေါဟာရသည် ဂရိဘာသာစကားမှ ဆင်းသက်လာ၍ မြေကိုတိုင်းသည်ဟု အဓိပ္ပါယ်ရ၏။ ဂျီသြမေတြီသည်ရှေးဂရိလူမျိုးတို့အဖို့ မြေကြီးတိုင်းတာသောပညာရပ် ဖြစ်ခဲ့သော်လည်း ယခုအခါ ဂျီသြမေတြီ၏အဓိပ္ပါယ်မှာပိုမိုကျယ်ပြန့်၍လာသည်။

ဂျီသြမေတြီသည် အလွန်ရှေးကျသောကာလမှစ၍ တည်မြဲလာသည့်ပညာရပ်တခုဖြစ်သည်။ ထိုပညာကိုရှေးခေတ် အီဂျစ်လူမျိုးတို့ စတင်အသုံးပြုခဲ့ကြဟန် တူသည်။ အီဂျစ်ပြည်တွင်နိုင်းမြစ်ရေလျှံမှုကြောင့် မြေယာနယ်နိမိတ်များကို မကြာခဏပြန်လည်တိုင်းတာခဲ့ကြရသည်။ ထိုသို့တိုင်းတာရာတွင်ထောင့်များကိုရေးဆွဲ၍ တိုင်းတာခဲ့ကြသည်။ ဧရိယာများကိုတွက်ချက်၍လည်း၊ တိုင်းတာခဲ့ကြသည်။ ပိရမစ်ခေါ် ကမ္ဘာကျော် အဆောက်အအုံကြီးများကို ဆောက်လုပ်ရာတွင်၊ အီဂျစ်လူမျိုးတို့သည် ဂျီသြမေတြီ၌ထင်ရှားသောစည်းမျဉ်းများကို ထိရောက်စွာအသုံးပြုခဲ့ကြသည်။

အီဂျစ်လူမျိုးတို့ အသုံးပြုခဲ့သောဂျီသြမေတြီ၌ စည်းမျဉ်းဥပဒေအနည်းငယ်မျှပါရှိသည်။ ထိုစည်းမျဉ်းများဖြင့်သူတို့သည်ဂျီသြမေတြီပုံအမျိုးမျိုးတို့၏ဧရိယာများကိုတိုင်း တာခဲ့ကြသည်။ အထူးသဖြင့်ထောင့်မှန်များကို စံနစ်တကျတိုင်းတာဆောက်လုပ်ခဲ့ကြသည်။ ဂရိလူမျိုးတို့သည်ဂျီသြမေတြီတိုင်းတာနည်းများကို သိပ္ပံပညာရပ်အခြေသို့ရောက်အောင် ပြုစုပျိုးထောင်ပေးခဲ့ကြသည်။

ရှေးဂရိပညာရှိတို့တွင်ယူကလစ်သည်ဂျီသြမေတြီပညာကို စံနစ်တကျဖြစ်အောင် လေ့လာစီစဉ်ခဲ့သောသူ ဖြစ်သည်။ ယူကလစ်ရေးသားခဲ့သောစာအုပ် ၁၃ အုပ်အနက် ပဉ္စမ ၆ အုပ်နှင့်နောက်ဆုံး ၃ အုပ်တွင် ပလိန်း ဂျီသြမေတြီနှင့် ဆောလစ်ဂျီသြမေတြီ အကြောင်းအရာများပါရှိလေသည်။ ပလိန်းဂျီသြမေတြီဆိုသည်မှာ မျက်နှာပြင်ညီတခုတည်း၌ရှိသော ပုံများနှင့်စပ်လျဉ်း၍ လေ့လာရသောဂျီသြမေတြီကို ဆိုသည်။ ထိုပုံများသည်စတုရန်း၊ တြိဂံ၊ စက်ဝိုင်း၊ အနားပြိုင်စတုဂံစသည့် အလျားနှင့်အနံသာရှိသောပုံများဖြစ်ကြသည်။ ဆောလစ်ဂျီသြမေတြီဆိုသည်မှာ ထုပုံများနှင့်စပ်လျဉ်း၍ လေ့လာရသောဂျီသြမေတြီကိုဆိုသည်။ ထုပုံများသည် ကုဗတုံး၊ ဆလင်ဒါ၊ စက်ဝိုင်းလုံး၊ အဝိုင်းထုချွန်စသည့် အလျား၊ အနံ၊ အမြင့်ရှိသော ထုပုံများဖြစ်ကြသည်။ ယခုအခါ ယူကလစ် ဂျီသြမေတြီပညာရပ်များကို ခေတ်နှင့် လျော်အောင်ပြုပြင်၍ ကျောင်းများ၌သင်ကြားကြ၏။

ဂျီသြမေတြီသင်ကြားရာတွင် ထောင့်များကိုနားလည်ရန်မှာ များစွာပင်အရေးကြီးပေသည်။ အကြောင်းမှာ မှု ကျွန်ုပ်တို့သည်ထောင့်များကို နေရာတကာတွင်တွေ့ရသောကြောင့်ဖြစ်ပေသည်။ စာအုပ်၌ရှင်း၊ အရုပ်ကား၌ရှင်း၊ အခန်း၌ရှင်း၊ လမ်းဆုံများ၌ရှင်း ထောင့်များရှိကြသည်။ ထောင့်မှန်သည် ကျွန်ုပ်တို့အတွေ့အကြုံအများဆုံးသောထောင့်မျိုးဖြစ်၏။ မျဉ်းဖြောင့်နှစ်ကြောင်းသည် အမှတ်တခုတွင် တွေ့ဆုံဖြတ်သန်းကြသောအခါ ထောင့်များဖြစ်ပေါ်လာသည်။ ထောင့်မှန်အပြင်အခြားထောင့်များလည်းရှိသေးသည်။ မြို့တမြို့၏မြေပုံကိုကြည့်လျှင်၊လမ်းများသည်ထောင့်အမျိုးမျိုးဖြစ်အောင် တခုနှင့်တခုဖြတ်နေကြသည်ကိုတွေ့ရပေလိမ့်မည်။




ထောင့်ဆောင် မျဉ်းဖြောင့်များကိုထောင့်လက်တံများဟုခေါ်သည်။ မျဉ်း ၂ ကြောင်းတွေ့ဆုံသောနေရာသည်ထောင့်၏ထိပ်ဖြစ်သည်။ ပုံတွင် ကဝ နှင့် ခ ဝ တို့သည် ဝ ၌ တွေ့ဆုံကြသဖြင့် က ဝ နှင့် ခ ဝ တို့သည် လက်တံများဖြစ်ကြ၍၊ ဝ သည်ထိပ်ဖြစ်သည်။ ထောင့်တခုကို ဖော်ပြလိုသောအခါ က ဝ ခ ထောင့်ဟူ၍ အက္ခရာသုံးလုံးဖြင့်ဖော်ပြလေ့ရှိသည်။ ထောင့်ကိုတဖန် ∠ ဟူသောအမှတ်အသားဖြင့်ဖော်ပြလေ့ရှိရာ ပုံတွင်ပြထားသောထောင့်ကို၊ ∠ကဝခ (ကဝ̂ခ) သို့မဟုတ်အက္ခရာတလုံးတည်းဖြင့် ∠ဝ (ဝ̂) ဟုရေးသားဖော်ပြလေ့ရှိကြသည်။ သိပ္ပံအလိုအားဖြင့်မျက်နှာပြင်တခုပေါ်တွင် မျဉ်းတကြောင်းသည် အခြားတည်မြဲသောမျဉ်းတကြောင်းမှ တည်မြဲသောအမှတ်တခုကိုအစွဲပြု၍ လှည့်ပတ်သွားသောအခါထောင့်များဖြစ်လာကြသည်။ အောက်ပါစက်ဝိုင်းပုံတွင် ပြထားသောလက်တံသည် မျက်နှာပြင်ပေါ်ရှိတည်မြဲသောမျဉ်းမှစ၍ တည်မြဲသောအမှတ်ကို လှည့်ပတ်သွားနေသည်။ လက်တံရပ်သောအခါလက်တံနှင့်မျဉ်းတို့သည် ပုံတွင်ပြထားသည့်အတိုင်းထောင့်မှန်ကျလျက်ရှိသည်။ ထောင့်


















မှန်စတုဂံပုံတွင် ဤထောင့်မျိုးရှိသည်။ ထောင့်များတွင်လက်ကျာလှည့်ထောင့်နှင့် လက်ဝဲလှည့်ထောင့်ဟု ၂ မျိုးရှိသည်။ သို့ရာတွင်ဤနေရာ၌ လက်ဝဲလှည့်ထောင့်များကိုသာစဉ်းစားမည်။

ထောင့်များကိုကြည့်ရှုစစ်ဆေးသောအခါ ကျွန်ုပ်တို့သည် ပဌမပုံတွင် လက်တံနှင့် မျဉ်းမြဲတို့ ဆောင်သော ထောင့်ငယ်တမျိုးကိုတွေ့ကြရ၏။ ဤထောင့်မျိုးကို ထောင့်မှန်ထက်ငယ်သောကြောင့် ထောင့်ကျဉ်းဟုခေါ်သည်။ ဒုတိယပုံတွင် မျဉ်းမြဲနှင့် လက်တံတို့၏ အကြားရှိထောင့်သည် ထောင့်မှန်တခုထက်ကြီးသော်လည်း ထောင့်မှန် ၂ ခုထက်ငယ်သည်၊ ဤထောင့်မျိုးကို ထောင့်ကျယ်ဟုခေါ်သည်။ မျဉ်းမြဲနှင့်လက်တံတို့သည် တတိယပုံတွင် ဖြောင့်တန်းလျက်ရှိကြလေသည်။ လက်တံ ၂ ခုတို့တဖြောင့်တည်းနေသောကြောင့် ဤထောင့်မျိုးကို ထောင့်ဖြောင့်ဟုခေါ်သည်။ စတုတ္ထပုံတွင် လက်တံသည် မူလနေရာဖက်သို့ပြန်သွားသဖြင့် ဤထောင့်မျိုးကို ထောင့်ပြန်ဟုခေါ်သည်။ ဤထောင့်မျိုးသည် ထောင့်မှန် ၂ ခုထက်ကြီး၏။ သို့သော်ထောင့်မှန် ၄ ခုထက်ငယ်သည်။ ပဥ္စမပုံတွင်လက်တံသည် တပတ်တိတိလည်ပြီးဖြစ်သည်။ ဤသို့တပတ်လည်၍ ဖြစ်လာသောထောင့်ကို တပတ်လည်ထောင့်ဟုခေါ်သည်။။

ရှေးခေတ်လူတို့သည် နက္ခတ်တာရာများလှည့်ပတ်ခြင်းကို လေ့လာခဲ့စဉ်က တပတ်လည်ထောင့်၌ ၃၆၀° ဒီဂရီရှိသည်ဟုတန်ဖိုးထားခဲ့ကြသည်။ ထိုအခါမှ အစပြု၍ ယခုတိုင်အောင် ဤတန်ဖိုးသည်တည်မြဲလျက်ရှိသည်။ တပတ်လည်ထောင့်တွင်ဒီဂရီ ၃၆၀° ရှိသောကြောင့် တပတ်ဝက် ရှိသော ထောင့် သို့မဟုတ် ထောင့်ဖြောင့်တွင်ဒီဂရီ ၁၈၀° ရှိ၍၊ တပတ်၏လေးစိတ်တစိတ်သို့မဟုတ်ထောင့်မှန်တွင် ဒီဂရီ ၉၀° ရှိသည်။ တဖန် ၁ ဒီဂရီ ကိုမိနစ် ၆၀၊ ၁ မိနစ်ကိုစက္ကန့် ၆၀ ဟူ၍ ခွဲစိတ်ထားကြပြန်သဖြင့် ကျွန်ုပ်တို့သည် မည်သည့်ထောင့်မျိုးကိုမဆို အလွယ်တကူတိကျမှန်ကန်စွာတိုင်းတာနိုင်ပေသည်။

### ထောင့်တိုင်းနည်း

ထောင့်များကိုတိုင်းရာ၌ ထောင့်တိုင်းကရိယာ (အင်္ဂလိပ်လိုပရိုထရက်တာ) ကို အသုံးပြုကြရသည်။ ပုံတွင်ပါသည့် ကဝခ ကိုတိုင်းလိုလျှင် ကဝခ တွင် ဝက လက်တံသည်နေရာမြဲသော ဝအ မျဉ်းမှတည်မြဲသော ဝ အမှတ်ကို ပတ်၍လှည့်သွားရာ ဝခ နေရာသို့ရောက်သွားသည်ဟုယူဆပါ။ ဤသို့ယူဆလျှင် ဝက ကိုအစမျဉ်းဟုခေါ်၍ ဝခ ကိုအဆုံးမျဉ်းဟုခေါ်ပါ။ အထက်ပါထောင့်ကိုတိုင်းလိုသောအခါ ကဝ ကို ဂ အထိဆက်ဆွဲ၍ပရိုထရက်တာ၏ ဗဟိုကို ထောင့်ထိပ်ပေါ်တွင် တည့်တည့်ကျနေအောင် တင်ထားပါ။ ထိုနောက်ပရိုထရက်တာ၏အနားကို ကဂ မျဉ်းနှင့်တထပ်တည်းဖြစ်နေအောင်ရွှေ့ပေးပါ။ ထိုအခါအဆုံးမျဉ်းသည်ပရိုထရက်တာ၏စက်ဝန်းကို မည်သည့်နေရာ၌ဖြတ်သန်းသည်ကိုကြည့်ပါ။ ဖြတ်သန်းသောနေရာတွင်ရေးမှတ်ထားသောဒီဂရီသည် ကဝခ ထောင့် မည်မျှကျယ်သည်ကို ပြပေလိမ့်မည်။ ကဝဂ ထောင့်သည် ၁၈၀° ဒီဂရီ ကျယ်သည်။ အကယ်၍ ကဝခ ထောင့်သည် ၄၀° ဒီဂရီ ဖြစ်လျှင်



ထောင့်တိုင်းကရိယာ၊ ပရိုထရက်တာ

$\angle$ ခဝဂ = $\angle$ ကဝဂ − $\angle$ ကဝခ = ၁၈၀° − ၄၀° = ၁၄၀° ဖြစ်၏။ ထိုကြောင့်ပရိုထရက်တာတွင် ၄၀° မှတ်ထားသောနေရာ၌ ၁၄၀° မှတ်ထားသည်ကိုလည်းတွေ့ရပေမည်။

တြိဂံဆိုသည်မှာ မျဉ်းဖြောင့်သုံးကြောင်းတို့က လုံခြုံအောင်ဝန်းရံထားသောမျက်နှာပြင်ညီပုံဖြစ်သည်။ မျဉ်းတံ၊ ကွန်ပါ၊ ပရိုထရက်တာခေါ် ထောင့်တိုင်းကရိယာကို အသုံးပြု၍ ကျွန်ုပ်တို့သည်အောက်ပါတြိဂံများကိုရေးဆွဲနိုင်သည်။




တြိဂံများကိုအမျိုးအစားခွဲခြားရာ၌အနားကိုအကြောင်းပြု၍ သုံးနားညီတြိဂံ (တြိရန်း)၊ နှစ်နားညီတြိဂံ၊ အနားမညီတြိဂံ ဟုခေါ်ဝေါ်ကြသည်။ အနားမညီသောတြိဂံကို အင်္ဂလိပ်လို စကေလင်းတြိဂံ ဟုခေါ်သည်။ ထောင့်တခုကို အကြောင်းပြု၍လည်း ထောင့်မှန်တြိဂံ၊ ထောင့်ကျဉ်းတြိဂံ၊ ထောင့်ကျယ်တြိဂံဟုခေါ်ကြ၏။ အကယ်၍ ဝက မျဉ်းကို ဝ အမှတ်တွင် စွဲမြဲစွာထား၍ တပတ် အပြည့်လှည့်ပေးလျှင် ဝက တွင်သတ်မှတ်ထားသည့် ပ အမှတ်တခုသည် မျဉ်းကောက်တခုကို ထင်ပေါ်လာစေလိမ့်မည်။ ထိုမျဉ်းကောက်ကိုစက်ဝိုင်းဟုခေါ်သည်။




ထို့ကြောင့်စက်ဝိုင်းသည် ပိတ်နေသောမျဉ်းကောက်၏ပုံဖြစ်၍ ထိုမျဉ်းကောက်ပေါ်ရှိအမှတ်အားလုံးတို့သည် မျက်နှာပြင် တခုတည်းပေါ်၌တည်ရှိလျက် မျဉ်းကောက်အတွင်းရှိတည် မြဲသောအမှတ် တခုမှ အကွာအဝေးတူညီကြ၏။

စက်ဝိုင်းဆွဲရန်ကွန်ပါခေါ် ကရိယာကိုအသုံးပြုကြရသည်။ ကွန်ပါ၏ခြေ ၂ ချောင်းကိုအနည်းငယ်ကားထား၍ စက္ကူတရွက်ပေါ်ရှိ ဝ အမှတ်တွင်ခြေတချောင်းကိုတည်မြဲအောင် (ရွေ့မသွားအောင်) ထောက်ထားပါ။ ထိုနောက်ခဲတံပါသောခြေကို လှည့်လိုက်လျှင် စက်ဝိုင်းတခု ရရှိလာမည်။ ဤစက်ဝိုင်းတွင် ဝ အမှတ်ကို ဗဟိုဟုခေါ်၍ စက်ဝိုင်း၏နယ်နိမိတ်ဖြစ်သောမျဉ်းကောက်ကိုစက်ဝန်းဟုခေါ်သည်။




ဗဟိုနှင့် စက်ဝန်းပေါ်ရှိ အမှတ်တခုခုကို ဆက်ထားသည့် ဝက ခေါ် မျဉ်းကိုချင်းဝက်ဟုခေါ်သည်။ ခဝဂ မျဉ်းကဲ့သို့ဗဟိုချက်ကိုဖြတ်၍စက်ဝန်းပေါ်တွင် အဆုံးသတ်သော မျဉ်းကိုအချင်းဟုခေါ်သည်။ အချင်းသည်စက်ဝိုင်းကိုနှစ်ခြမ်းအညီအမျှပိုင်းသည်။ စက်ဝိုင်းတခြမ်းစီကို စက်ဝိုင်းခြမ်းဟုခေါ်သည်။ စက်ဝန်းပိုင်းသည်စက်ဝန်း၏အစိတ်အပိုင်းတခုဖြစ်သည်။ ချင်းဝက်နှစ်ခုကြားရှိ စက်ဝိုင်း၏ အစိတ်အပိုင်းကို စက်ဝိုင်းစိတ်ဟုခေါ်သည်။ စက်ဝန်းပိုင်းကိုဂျီဩမေတြီတွင် အတိုကောက်နည်းဖြင့် ⌒ ဟူ၍ ရေးသားလေ့ရှိကြသည်။ ⌒ ကခ ၏ အဓိပ္ပါယ်မှာစက်ဝန်းပိုင်း ကခ ဖြစ်၏။ စက်ဝိုင်းတိုင်း၌စက်ဝိုင်းနှင့်အချင်း၏အချိုးသည် တသမတ်တည်းရှိ၍ထိုအချိုးကို ပိုင် (π) ဟူသော ဂရိ အမှတ်အသားဖြင့် ရေးသားဖော်ပြလေ့ရှိသည်။ π ၏တန်ဖိုးမှာ ၃.၁၄၁၆ ခန့်ဖြစ်သည်။ စက်ဝိုင်းတခုတွင်စက်ဝန်း၏အရှည်သည် 2πr နှင့်ညီမျှသည် ဟူသောပုံသေတွက် နည်းဖြင့်၎င်း၊ ဧရိယာသည် $\pi r^2$ နှင့်ညီမျှသည် ဟူသောပုံသေတွက်နည်းဖြင့်၎င်း၊ တွက်ချက်သိရှိနိုင်သည်။ (r သည်စက်ပိုင်း၏ ချင်းဝက်ဖြစ်၏။)

ဖြတ်မျဉ်းကြောင့်ဖြစ်ပေါ်လာသောထောင့်များ။ မျဉ်း ၂ ကြောင်းကိုဖြစ်စေ၊ ထိုထက်များသော မျဉ်းတို့ကိုဖြစ်စေ၊ ဖြတ်သွားသောမျဉ်းဖြောင့်ကို ဖြတ်မျဉ်းဟုခေါ်သည်။ ပုံတွင် လအ သည် ပဖ နှင့် ဗမ မျဉ်းနှစ်ကြောင်းကိုဖြတ်သွားသည့်




ဖြတ်မျဉ်းတကြောင်းဖြစ်သည်။ ပဖ နှင့် ဗမ တို့အပြင်ဖက်တွင် ကျရောက်နေသည့်ကာ၊ ကဲ၊ ခိ၊ ခု ထောင့်များကိုအပြင်ထောင့်များဟုခေါ်၍ အတွင်းဖက်တွင်ကျရောက်နေသည့် ကိ၊ ကု၊ ခါ၊ ခဲ ထောင့်များကို အတွင်းထောင့်များဟုခေါ်သည်။ ဖြတ်မျဉ်း၏တဖက်တည်းရှိအပြင်ထောင့် ကဲ နှင့်အတွင်းထောင့် ခဲ ကိုသက်ဆိုင်ရာထောင့်များဟုခေါ်သည်။ အခြားသက်ဆိုင်ရာထောင့်များမှာ ကာ နှင့် ခါ၊ ခိ နှင့် ကိ၊ ခု နှင့် ကု တို့ဖြစ်ကြသည်။ ကိ နှင့် ခဲ၊ ကု နှင့် ခါ ထောင့်များကိုမူကား ဝိသမသတ်ထောင့်များဟုခေါ်သည်။ အကယ်၍ ပဖ နှင့် ဗမ သည်မျဉ်းပြိုင်များဖြစ်လျှင် အောက်ပါအချက်များကိုသိရမည်ဖြစ်သည်။



(၁) သက်ဆိုင်ရာထောင့်ချင်းညီသည်။
(၂) ဝိသမသတ်ထောင့်ချင်းညီသည်။
(၃) ဖြတ်မျဉ်းတဖက်တည်းရှိအတွင်းထောင့် ၂ ခုတို့၏ ပေါင်းရကိန်းသည်ထောင့်မှန် ၂ ခုနှင့်ညီသည်။ အပြန်အလှန်ကိုဆိုသော် ပဖ နှင့် ဗမ တို့ကိုဖြတ်မျဉ်းတခုဖြတ်၍ သက်ဆိုင်ရာထောင့်များညီလျှင်ဖြစ်စေ၊ ဝိသမသတ်ထောင့်များညီလျှင်ဖြစ်စေ၊ သို့မဟုတ်ဖြတ်မျဉ်းတဖက်တည်းရှိအတွင်းထောင့် ၂ ခုတို့၏ပေါင်းရကိန်းသည်ထောင့်မှန်နှစ်ခုနှင့်ညီလျှင်ဖြစ်စေ၊ ပဖ နှင့် ဗမ တို့သည်မျဉ်းပြိုင်များဖြစ်ကြသည်ဟုဆိုရပေမည်။

**စတုဂံများ။** စတုဂံဆိုသည်မှာအနား ၄ ခုရှိသောပုံဖြစ်သည်။ အကယ်၍မျက်နှာချင်းဆိုင်အနားချင်းပြိုင်နေကြလျှင် ထိုပုံကိုအနားပြိုင်စတုဂံဟုခေါ်သည်။ အနားပြိုင်စတုဂံနှင့်စပ်လျဉ်း၍ မှတ်သားရန်အချက်တခုမှာမျဉ်းပြိုင်နှစ်စုံသည်တစုံနှင့်တစုံဖြတ်သောအခါ အနားပြိုင်စတုဂံတခုကိုဖြစ်ပေါ်လာစေသည်ဟူသောအချက်ပင်ဖြစ်သည်။ အနားပြိုင်စတုဂံတွင် ထောင့်တခုသည်ထောင့်မှန်ဖြစ်လျှင်ထိုပုံကိုထောင့်မှန်စတုဂံဟုခေါ်သည်။စတုရန်းသည်အနားညီထောင့်မှန်စတုဂံဖြစ်သည်။ ရွှံးဗတ်သည် ၄ နားညီအနားပြိုင်စတုဂံဖြစ်၏။


အနားပြိုင်စတုဂံ


ထောင့်မှန်စတုဂံ


စတုရန်း


ရွှံးဗတ်

ဂျီသြမေတြီတွင်အောက်ပါဝေါဟာရများကိုအမြဲလိုပင်တွေ့ကြရသဖြင့် ယင်းတို့၏ အဓိပ္ပါယ်ကို သေချာစွာသိထားရပေလိမ့်မည်။

**အဆို။** အဆိုတွင်အဓိပ္ပါယ်နှစ်မျိုးရှိသည်။ သီအိုရမ်ကိုသော်၎င်း၊ ပရော်ဗလမ် (ပြဿနာ) ကို သော်၎င်း အဆိုဟုခေါ်သည်။

**သီအိုရမ်။** သီအိုရမ်သည် သက်သေပြရန်လိုသောသစ္စာ (မှန်ကန်ချက်) တရပ်ဖြစ်၍ ဂျီသြမေတြီတွင် ဤကဲ့သို့သောသစ္စာအသီးသီး မှန်ကန်ကြောင်းကို သက်သေပြထားသည်။

**ပရော်ဗလမ်။** ပရော်ဗလမ်သည် တစုံတရာဆောက်လုပ်ရန်သို့မဟုတ်ရေးဆွဲရန်လိုသောပြဿနာဖြစ်သည်။ ပမာအားဖြင့် ပေးထားသောမျဉ်းရှိ အမှတ်တခု၌ ပေးထားသောထောင့်နှင့်ညီသည့်ထောင့်တခုကို ရေးဆွဲရန်မှာ ပြဿနာတရပ်ဖြစ်သည်။

**ကော်ရော်လာရီ။** အဆိုတခု၏မှန်ကန်ချက်မှပေါ်ပေါက်လာသောအခြားမှန်ကန်ချက်သည် ကော်ရော်လာရီဖြစ်သည်။ ပမာအားဖြင့် တြိဂံတခု၏ထောင့်တခုသည်ထောင့်မှန်ဖြစ်လျှင် ကျန်ထောင့် ၂ ခုတို့၏ပေါင်းရကိန်းသည် ထောင့်မှန်တခုဖြစ်၏ ဟူသောမှန်ကန်ချက်မှာ ကော်ရော်လာရီဖြစ်၏။

အဘယ်ကြောင့်ဆိုသော် ထိုမှန်ကန်ချက်ကား တြိဂံတခုရှိထောင့် ၃ ခုတို့၏ပေါင်းရကိန်းသည် ထောင့်မှန် ၂ ခုနှင့်ညီသည်ဟူသောအဆိုပေါ်တွင်အမှီပြုသောကြောင့် ပေတည်း။

**ပေးထားချက်။** သီအိုရမ်တွင် မှန်ကန်သည်ဟုယူဆထားသောအချက်များနှင့် ကြိုတင် တိုင်းတာထားသော အရာများကို ပေးထားချက်များဟုခေါ်သည်။

**သက်သေပြရန်အချက်။** သက်သေပြရန်အချက်ဆိုသည်ကား သက်သေပြရန်လိုသောအချက်ဖြစ်သည်။

**အပြန်အလှန်သီအိုရမ်။** သီအိုရမ်တခု၏ပေးထားချက်နှင့်သက်သေပြရန်အချက်တို့သည် အခြားသီအိုရမ်တခု၏သက်သေပြရန်အချက်နှင့် ပေးထားချက်အသီးသီးတို့နှင့် အပြန်အလှန်တူညီနေလျှင် ထိုသီအိုရမ် ၂ ခုကို အပြန်အလှန်သီအိုရမ်ဟုခေါ်သည်။ ပမာအားဖြင့် တြိဂံတခု၏အနား ၂ ဖက်သည် တခုနှင့်တခုညီကြလျှင် ထိုအနား ၂ ဖက်နှင့် မျက်နှာချင်းဆိုင်သောထောင့်များသည် တခုနှင့်တခုညီကြသည်ဟူသော သီအိုရမ်နှင့် တြိဂံထောင့် ၂ ခုတို့သည် တခုနှင့်တခုညီမျှကြလျှင် ထိုထောင့်များနှင့် မျက်နှာချင်းဆိုင်နေသောအနားများသည် တခုနှင့်တခု တူညီကြသည်ဟူသော သီအိုရမ်တို့သည် အပြန်အလှန်ဖြစ်ကြသည်။

သီအိုရမ်များကို သက်သေပြသော နည်းအမျိုးမျိုးရှိသည်။ ထိုနည်းများကား တိုက်ရိုက်နည်းဖြင့်သက်သေပြနည်း၊ ပုံထပ်သက်သေပြနည်း၊ ထပ်တူညီမျှသောတြိဂံများဖြင့် သက်သေပြနည်း၊ ပယ်နည်းဖြင့် သက်သေပြနည်း၊ သွယ်ဝိုက်နည်းဖြင့် သက်သေပြနည်း နှင့်ပရိစ္ဆေဒနည်း(ဝါ) အနာလစ်စစ် နည်းတို့ဖြစ်ကြသည်။

ဂျီသြမေတြီပရော်ဗလမ်များကိုဖြေရှင်းရာ၌အရေးအကြီးဆုံးအချက်များမှာ အောက်ပါအတိုင်းဖြစ်သည်။ အဆိုများကိုရှေးဦးစွာနားလည်အောင်၊ မှတ်မိအောင် ဖတ်ထားကျက်ထားရန်ဖြစ်သည်။ ထို့နောက် ပရော်ဗလမ်၏သဘောကို နားလည်အောင် ၂ ကြိမ် ၃ ကြိမ်ဖတ်ပါ။ နားလည်သောအခါ ပြတ်သားသောပုံကိုရေးဆွဲပါ။ အကယ်၍ ရေးဆွဲရမည့်ပုံသည် တြိဂံဖြစ်လျှင် ပေးထားချက်မရှိပါက



ကုဗတုံး



အပြိုင်စတုဂံတုံးမှန်



အပြိုင်စတုဂံတုံးယိုင်

နှစ်နားညီသို့မဟုတ် သုံးနားညီတြိဂံမျိုးကိုမဆွဲဘဲ၊ စဓောလင်းခေါ် အနားမညီတြိဂံမျိုးကိုသာရေးဆွဲရမည်။ ပရော်ဗလမ်ကိုမတွက်ချက် မဖြေရှင်းမီ ပေးထားချက်နှင့်သက်သေပြရန်အချက်ကို သီးသန့်ရေးသားဖော်ပြရမည်။ တခါ တရံသက်သေပြရာ၌ ဆောက်လုပ်ချက်များကိုပြုလုပ်ရန်လိုသည်။ ပုံများကိုရေးဆွဲ၍ လိုအပ်သည့်ဆောက်လုပ်ချက်များကိုပြုလုပ်ပြီးစီးသောအခါ မိမိသင်ကြားမှတ်သားထားသောအဆိုစသည့် အချက်အလက်များကို အကိုးအကားပြုကာသာဓကပြရသည်။

ဂျီဩမေတြီ ၂ မျိုးရှိသည်။ အထက်တွင်ရေးသားခဲ့သည်များမှာ ပလိန်းဂျီဩမေတြီနှင့် သာသက်ဆိုင်သည်။ အခြားတမျိုးမှာဆောလစ်ဂျီဩမေတြီဖြစ်၏။

ဂျီဩမေတြီသဘောအရ အစိုင်အခဲသာလျှင် ထုပုံဖြစ်သည်မဟုတ်။ ကလေးများကစားသော ဆပ်ပြာပူဖောင်းသည်လည်းထုပုံဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ဟင်းလင်းပြင် (လဟာပြင်) တွင်နေရာယူသောမည်သည့် အရာဝတ္ထုကိုမဆို ထုပုံဟုခေါ်သောကြောင့်တည်း။ ထုပုံတခု၏မျက်နှာပြင်သည် ထုပုံနှင့်ပတ်ဝန်းကျင်လဟာပြင်တို့ကိုခြားနားထားသည်။ ထုပုံတခု၏အရောင်အဆင်း အလေးချိန်ကိုစစ်ဆေးခြင်းသည် ဂျီဩမေတြီ၏အလုပ်မဟုတ်ချေ။ ဂျီဩမေတြီ၏အလုပ်ကား ထုပုံတခု၏သဏ္ဍာန်နှင့် ပမာန (ထုထယ်) တို့ကို ကြည့်ရှုနှိုင်းယှဉ်သော အလုပ်သာဖြစ်သည်။ ပေးထားသည့်ထုပုံ၏အရွယ်သည် ကုဗလက်မကဲ့သို့သောပုံစံအတိုင်းအတာ၏ အဆပေါင်းမည်မျှရှိသည်ကို ရှာဖွေလျှင် ပေးထားသောထုပုံနှင့်ကုဗလက်မတို့ကိုနှိုင်းယှဉ်ရာရောက်ပေသည်။ ထို့ကြောင့်ပမာဏကိုနှိုင်းယှဉ်ခြင်းသည် ပမာဏကို တိုင်းတာခြင်းနှင့်လည်း အဓိပ္ပါယ်တူပေသည်။ မျက်နှာပြင်ကိုတိုင်းတာရာတွင် အလျားအနံကိုသာတိုင်းတာရန်လိုသည်။ ထုပုံတိုင်းတာရာ၌မူကား အလျားအနံအပြင်အမြင့်ကိုလည်းတိုင်းတာရန်လိုပေသည်။ ဤတိုင်းတာမှုကြောင့် ဆောလစ်ဂျီဩမေတြီသည် မင်ဆူရေးရှင်းခေါ် ပမာဏသင်္ချာနှင့် နီးကပ်စွာဆက်သွယ်လျက်ရှိသည်။



ဆလင်ဒါ



အဝိုင်းထုချွန်



ပိရမစ်



စက်ဝိုင်းလုံး

မကြာမကြာတွေ့မြင်ရသောထုပုံတို့ကို အထက်တွင်ရေးဆွဲထားသည်။ ဤထုပုံအသီးသီး၏အဓိပ္ပါယ် သို့မဟုတ် ဂုဏ်ထူးဝိသေသကိုလည်းရေးသားဖော်ပြထားသည်။

ကုဗတုံး၏မျက်နှာ ၆ ခုလုံးသည် စတုရန်းများဖြစ်ကြသည်။ မျက်နှာတခုနှင့်တခုဖြတ်သောနေရာသည် ကုဗတုံး၏အနားတခုဖြစ်သည်။ အနား ၃ ခုဆုံရာအမှတ်သည် ထောင့်စွန်းဖြစ်သည်။

အပြိုင်စတုဂံတုံးမှန်၏ မျက်နှာ ၆ ခုလုံးသည် ထောင့်မှန်စတုဂံများဖြစ်ကြသည်။ ထို့ကြောင့်ဤထုပုံ၏အလျားအနံအမြင့်တို့သည် တခုနှင့်တခုမတူကြချေ။ (ကုဗတုံးနှင့်နှိုင်းယှဉ်ပါ)။

အပြိုင်စတုဂံတုံးယိုင်၏ မျက်နှာများသည် အနားပြိုင်စတုဂံများဖြစ်ကြသည်။ ထိုကြောင့်ယင်းကို အရှယ်တူ ထောင့်မှန် စတုဂံတုံး နှင့် ဂျီဩမေတြီနည်း အရ နှိုင်းယှဉ်ပြီး မှသာလျှင် ယင်း၏ပမာဏကိုတိုင်းတာနိုင်သည်။
ဆလင်ဒါ (ဒလိမ့်)။ ထောင့်မှန်စတုဂံ ပုံရှိစက္ကူတချပ်ကို ကွေးလိုက်လျှင် ဆလင်ဒါတခုဖြစ်လာသည်။
အဝိုင်းထုချွန်။ စက်ဝိုင်းစိတ်တခုကိုကွေးလိုက်လျှင် အဝိုင်းထုချွန်တခုဖြစ်လာသည်။
ပိရမစ် (ထုချွန်)။ စက္ကူတချပ်ကိုကြယ်ပုံညှပ်ပြီးနောက် အစွန်းထွက်နေသော တြိဂံပုံများကို အောက်ခံအနားတလျှောက်ချိုးကာ ယင်းတို့၏ထိပ်များကိုစုလိုက်သောအခါ ပိရမစ်ပုံဖြစ်လာသည်။
စက်ဝိုင်းလုံးကိုလုပ်ပြရန်ခဲယဉ်းသည်။ သို့သော်စက်ပိုင်းခြမ်းတခုကို အချင်းမဏ္ဍိုင်ပြုကာလှည့်လိုက်လျှင် စက်ဝိုင်းလုံးပုံတခုထွက်ပေါ်လာသည်။

**ဂျီအင်း, ဆာဂျေးအိပ် (ခရစ် ၁၈၇၇–၁၉၄၆)။** ။သိပ္ပံပညာရှင်ဆာဂျိမ်းဟော့ဝုဂျီအင်းသည် ခရစ် ၁၈၇၇ ခုနှစ် စက်တင်ဘာလ ၁၁ ရက်နေ့တွင် လန်ဒန်မြို့၌ဖွားမြင်သည်။ ဂျီအင်းသည် အထူးသဖြင့်နက္ခတ္တဗေဒနှင့် သင်္ချာပညာရပ်တို့တွင်ထူးချွန်၏။ ကိမ်းဗရစ်တက္ကသိုလ်တွင်ပညာသင်ကြားနေစဉ် ပညာရည်ထက်မြက်သဖြင့်၊ ၁၉၀၀ ပြည့်နှစ်၌စမစ်ဆုကိုဆွတ်ခူးခဲ့၏။ နောက် ၄ နှစ်အကြာတွင် ထရင်နီတီ ကောလိပ်ကျောင်း၌သင်္ချာကထိကဖြစ်၏။ ၁၉၀၅ ခုနှစ်မှ ၁၉၀၉ ခုနှစ်အထိ အမေရိကန်ပြည်ထောင်စုနိုင်ငံပရင့်စတန်တက္ကသိုလ်၌ သင်္ချာပါမောက္ခအဖြစ်ဆောင်ရွက်၏။ အင်္ဂလန်နိုင်ငံသို့ပြန်ရောက်သည့်အခါ ကိမ်းဗရစ်တက္ကသိုလ်တွင် ၁၉၁၀ ခုမှ ၁၉၁၂ ခုနှစ်အတွင်း သင်္ချာပါမောက္ခအဖြစ်ဆက်လက်ဆောင်ရွက်၏။ ၁၉၁၉ ခုမှ ၁၉၂၉ ခုနှစ်အထိ တော်ဝင်အသင်း၌အတွင်းရေးမှူးဖြစ်လာ၏။ ၁၉၂၃ ခုနှစ်တွင် အမေရိကန်နိုင်ငံ ကာလီဖိုးနီးယားပြည်နယ်ရှိ မောင့်ဝီလဆန် နက္ခတ်မျှော်စင်၌ နက္ခတ္တသုတေသီတဦးအဖြစ် ခန့်အပ်ခြင်းခံခဲ့ရလေသည်။

ဂျီအင်းသည်ရူပဗေဒနှင့်နက္ခတ္တဗေဒကို သင်္ချာပညာဖြင့်ဖြေရှင်းနိုင်စွမ်းရှိသည်။ နက္ခတ္တဗေဒတွင်သင်္ချာကိုအသုံးပြုခြင်းဖြင့် နက္ခတ်တာရာတို့နှင့်စပ်လျဉ်းသော ဗဟုသုတအသစ်အဆန်းများကို ထုတ်ဖော်ရေးသားနိုင်ခဲ့သည်။ ရှေးအခါက သင်္ချာပညာကိုအထူးတတ်မြောက်သူများသာလျှင် ကောင်းကင်ရှိ နက္ခတ်တာရာများအကြောင်းကို သဘောပေါက်အောင်နားလည်နိုင်ကြ၏။ သာမန်လူတို့သည် ဂြိုဟ်နက္ခတ်စသည်တို့၏ အမည်များလောက်ကိုသာ သိနိုင်ကြပြီး ထိုထက် တိုး၍ နားလည် နိုင် ဖွယ်ရာမရှိပေ။ သို့သော်ဆာဂျိမ်းဂျီအင်း၏ ကြိုးပမ်းမှုကြောင့် ယခုအခါ၌ ကျောင်းသူကျောင်းသားများနှင့် ပညာအရည်အချင်းအသင့်အတင့်ရှိသူများပင်လျှင်၊ စကြာဝဠာ၏နက်နဲခက်ခဲသောအကြောင်းအရာတို့ကို သဘောပေါက်နားလည်နိုင်ကြပြီဖြစ်သည်။

သင်္ချာကိုထူးချွန်အောင်တတ်မြောက်ပြီးနောက် ဂျီအင်းသည် ထိုပညာကို နက္ခတ္တ – ရူပဗေဒ တွင် အသုံးပြုလျက် စကြာဝဠာ၏ နက်နဲမှု များ ကို ထုတ်ဖော်ရှင်းပြလေသည်။ ဆာဂျိမ်းဂျီအင်းသည် နောက်လာနောက်သားတို့ သိပ္ပံပညာရပ်များကို လေ့လာရ လွယ်ကူအောင် စာအုပ်များစွာရေးသားခဲ့သည်။ ကမ္ဘာပေါ်တွင်အကောင်းဆုံးစာအုပ်ပေါင်း ၁၀၀ ရွေးချယ်ရာတွင် ဂျီအင်းရေးသားသော 'နက်နဲလှစွာ – စကြာဝဠာ' စာအုပ်သည် အပါအဝင်ဖြစ်သည်။ ဂျီအင်းရေးသားခဲ့သော အခြားစာအုပ်များမှာ နက္ခတ္တဗေဒပညာလိုက်စားသူပညာရှင်တို့နှင့်သာ သင့်တော်မည့်စာအုပ်များဖြစ်၏။ ဆာဂျိမ်းဂျီအင်းသည် ၁၉၄၆ ခုစက်တင်ဘာလ ၁၇ ရက်နေ့၌ အင်္ဂလန်နိုင်ငံတွင်အနိစ္စရောက်သည်။



နက္ခတ်ကြည့်မှန်ပြောင်းကြီးကို ဆာဂျိမ်းဂျီအင်းစစ်ဆေးနေပုံ

ဂျူနိုအာတာတ်။ ။ဂျူးဂျစ်ဆူအတတ် — ရှု။

ဂျူနို။ ။ဂရိနတ်များ — ရှု။

ဂျူပီတာ။ ။ဂရိနတ်များ — ရှု။

**ဂျူနီးပါးပင်**။ ။ဂျူနီးပါးပင်သည် ထင်ရှူးပင်တမျိုးဖြစ်သည်။ မြောက်ဖက် ကမ္ဘာလုံးခြမ်းရှိ အေးသောဒေသများတွင်ပေါက်သည်။ ဂျူနီးပါး အမျိုးများစွာရှိသည်။ ဥရောပတိုက်တွင် ပေါက်သောဂျူနီးပါးကွန်မျူနီ အပင်မျိုးမှာ ရိုးရိုးဂျူနီးပါးမျိုးဖြစ်၏။ ထိုအပင်မျိုးသည် အထူးသဖြင့်ထုံးကျောက်တောင်များ၌ပေါက်ကြသည်။ များသောအားဖြင့် ချုံဖုတ်ကလေးလောက်သာ မြင့်ကြသော်လည်း ပေ ၂၀၊ ၂၅ ပေအထိ မြင့်သော အပင်များ လည်းရှိသည်။ ဂျူနီးပါးပင်၏အသားမှာနီ၏။ တပင်လုံးမှ တာပင်တိုင် အနံ့ထွက်သည်။ ဂျူနီးပါးအသားကိုအိမ်ထောင်ပရိဘောဂနှင့် ခဲတံပြုလုပ်ရာတွင် အသုံးပြုကြသည်။ ထိုပြင် ဝင်းခြံတိုင်များအဖြစ်ဖြင့်လည်းအသုံးပြုကြသည်။

ရုတ်တရက်သော်ဂျူနီးပါးကိုမည်သူမျှ ထင်းရှူးပင်ဟူ၍ ထင်မည်မဟုတ်ချေ။ အကြောင်းမှာ ဂျူနီးပါးအသီးတို့သည် သာမန်ထင်းရှူးသီးတို့ကဲ့သို့ ကတော့ပုံမရှိဘဲ ဗယ်ရီသီး ကလေး များ ကဲ့ သို့ လုံး နေကြ သော ကြောင့် ဖြစ် ၏။ အသီး၏အရောင်မှာနက်ပြာရောင်ဖြစ်သည်။ အစိမ်းပုပ်ရောင်အရွက်များသည် အပ်ပုံသဏ္ဌာန်ရှိကြသည်။ ဂျူနီးပါးသီးကို ဘယဆေးများဖော်စပ်ရာတွင် အသုံးပြုရသည်။ အရက်များတွင် အထူးသဖြင့်ဂျင်အရက်တွင် အနံ့အရသာရစေရန်အတွက်လည်းအသုံးပြုကြသည်။



ဂျူနီးပါးပင်၏အကိုင်းနှင့်အသီးအပွင့်များ

**ဂျူရီ**။ ။အင်္ဂလန်နိုင်ငံနှင့်တကွ အင်္ဂလန်နိုင်ငံ၏တရားစီရင်ရေးစနစ်ကို လိုက်နာကြသည့်နိုင်ငံတို့တွင် အမှုအခင်းမှပေါ် ပေါက် လာ သော အကြောင်း ချင်းတ တို့ကို အဆုံးအဖြတ်ပေးရသောအဖွဲ့ဟူ၍ တရားစီရင်သောတရားသူကြီးတို့နှင့် ဆက်စပ်တည်ရှိသည်။ ထိုအဖွဲ့ကိုဂျူရီအဖွဲ့ငယ်ဟုခေါ် တွင်လေသည်။

ဤသို့ဆုံးဖြတ်ပေးရသောဂျူရီအဖွဲ့ငယ်အပြင် ဂျူရီအဖွဲ့ကြီးဟူ၍လည်းရှိသေးသည်။ ၁၉၃၃ ခုနှစ်မတိုင်မီက ဂျူရီအဖွဲ့ကြီးတို့သည် ရာဇဝတ်မှုကြီးတို့၌ ရုံးတော်ရှေ့မှောက်သို့ တရားခံအားမသွင်းရသေးမီ မှုခင်းဖြစ်ပွားသည့်အခြင်းအရာတို့ကို ရှေးဦးစစ်ဆေးရသည်။

ဦးစွာပဌမ ပေါ် ပေါက်လာသောသာဓကများအရ၊တရားလို၏ ထွက် ချက် တို့ သည် ယုတ္တိတန် သည် ဟူ၍ ကျေနပ်လောက် အောင်ထင်မြင်ယူဆရသည့် အခါ၊ ဂျူရီအဖွဲ့ကြီးက အမှုကိုစွဲချက်နှင့်တကွ ရုံးတော်သို့တင်သွင်းရသည်။ ဤသို့ ရုံးတော်သို့အမှုတင်သည့်အခါ တရားခံအားတရားသူကြီးနှင့် ဂျူရီ လူကြီး များ ၏ ရှေ့မှောက် တွင် စစ် ဆေး လေ သည်။ ၁၉၃၃ ခုနှစ်သို့ရောက်သောအခါ ဂျူရီအဖွဲ့အပေါ်၌ ချမှတ်ထားသော တာဝန် ဝတ္တရား တို့ သည် ယုတ် လျော့ သွားခဲ့သည်။ လန်ဒန်မြို့တော်နှင့် မစ်ဒဲဆက်ခရိုင်မှတပါး၊ အခြားသောနယ်ပယ်အားလုံးတို့၌ ရှေးဦးစစ်ဆေးခြင်းတာဝန်တို့ကို ဂျူရီအဖွဲ့ကြီး ထံမှနုတ် သိမ်းလိုက် လေသည်။ အဆိုပါ လန်ဒန်မြို့တော်နှင့် မစ်ဒဲဆက်ခရိုင်တို့တွင်လည်း အင်္ဂလန်ပြင်ပတွင်ရှိ သော ဗြိတိသျှ နိုင်ငံ သား တို့က နိုင်ငံ တော် သစ္စာဖောက်မှုကို ကျူးလွန်သည့်အခါ၌ရင်း၊ ကိုလိုနီအစိုးရ ဘုရင်ခံနှင့် အခြားရာထူးဌာနန္တရကြီးသောပုဂ္ဂိုလ်တို့က ပြစ်မှုကျူးလွန်သည့်အခါ၌ရင်း၊ မှုထမ်းရာထမ်းတို့၏ လျှို့ဝှက်ချက်အက်ဥပဒေအရ ပြစ်မှုတို့ကိုကျူးလွန်သည့်အခါ၌ရင်း၊ ပါလီမန် ရွေး ကောက် ပွဲဆိုင်ရာ ပြစ်မှုတို့ကို ကျူးလွန်သည့်အခါ၌ရင်း၊ ထိုအခါမျိုး၌သာလျှင် ဂျူရီအဖွဲ့ကြီးသည် ရှေးဦးစွာစစ်ဆေးခြင်းကို ပြုလုပ်နိုင်သည်။

အထက်ပါဂျူရီနှစ်မျိုးအပြင်၊ အခြားဂျူရီတမျိုးရှိသေးသည်။ ထိုဂျူရီအဖွဲ့၏တာဝန်မှာ သေဆုံးခြင်း၏အကြောင်းရင်းတို့၌ သင်္ကာမကင်းဖွယ်တို့ ကို တွေ့ရှိသည့် အခါ၌ရင်း၊ အကျဉ်း ချထားစဉ် အကျဉ်းသမားတို့သေဆုံးသည့် အခါ၌ရင်း၊ ဥစ္စာသိုက်များနှင့်စပ်လျဉ်း၍ နိုင်ငံတော်ကပိုင်ထိုက်သည်၊ နိုင်ငံတော်သားကပိုင်ထိုက်သည်ဟု အငြင်းပွားသောအခါ၌ရင်း စစ်ဆေးရသောတာဝန်ဖြစ်လေသည်။

အင်္ဂလန်ပြည်တွင် မှုခင်းစစ်ဆေးသောဂျူရီအဖွဲ့ငယ်တွင် ဂျူရီလူကြီး ၁၂ ဦးပါဝင်ရ၍၊ ရာဇဝတ်ကြောင်းမှုခင်း

တို့၌ ထိုဂျူရီ ၁၂ ဦးတို့တညီတညွတ်တည်းဆုံးဖြတ်မှသာလျှင်၊ စီရင်ချက်သည်အတည်ဖြစ်နိုင်သည်။ ဂျူရီလူကြီးတို့ သဘောကွဲလွဲသည့် အခါများ၌၊ ဂျူရီအဖွဲ့သစ်ကိုဖွဲ့ပြီးလျှင်၊ အမှုကိုအသစ်ပြန်၍စစ်ဆေးရသည်။ တရားမမှုများ၌ကား သက်ဆိုင်ရာ ကာယကံရှင်တို့က ဂျူရီလူကြီးအများဆုံးဖြတ်ရာကို နာခံပါမည်ဟု ဆိုလျှင်၊ ထိုများရာဆုံးဖြတ်ချက်ဖြင့် အမှုကိုစီရင်နိုင်သည်။ စကော့တလန်ပြည်၌ ရာဇဝတ်မှုခင်းများတွင် ဂျူရီလူကြီး ၁၅ ဦးပါဝင်ရ၍၊ များရာဆုံးဖြတ်ချက်သည် အတည်ဖြစ်ရသည်။ အမှုကိုစွဲဆိုတင်သွင်းရသော ဂျူရီအဖွဲ့ကြီး၌ကား ဂျူရီလူကြီး ၁၂ ဦးမှ ၂၃ ဦး အထိ ပါဝင်ရသည်။ အမှုကိုစွဲဆိုတင်သွင်းခွင့်ရရန် ဂျူရီလူကြီး ၁၂ ဦးက သဘောတူညီရသည်။ ၁၂ ဦးထက်နည်းသောဂျူရီလူကြီးတို့က အမှုကိုစွဲဆိုတင်သွင်းရန်ဆုံးဖြတ်သည်ရှိသော် ထိုစွပ်စွဲချက်ကို ပလပ်လိုက်ရသည်။ သေမှုတို့ကိုစစ်ဆေးရသော ဂျူရီအဖွဲ့၌ကား ဂျူရီလူကြီး ၇ ဦးမှ ၁၂ ဦး ထိ ပါဝင်ရသည်။ ယင်းတို့အနက် ၂ ဦး ထက်မပိုသောဂျူရီလူကြီးတို့၌ သဘောကွဲလွဲချက်များရှိခဲ့သော် ကျန်ဂျူရီလူကြီးအများဆုံးဖြတ်ရာကို သေခင်းစစ်ဆေးသောတရားသူကြီးကလက်ခံရသည်။

ဂျူရီအဖွဲ့ဖြင့် မှုခင်းစစ်ဆေးသောမူလဇာစ်မြစ်မှာမထင်ရှားချေ။ ထင်မြင်ယူဆချက်များ အမျိုးမျိုးအဖုံဖုံရှိကြ၏။ သို့သော် အများကယူဆထားသော အချက်တရပ်မှာ ရှေးအင်္ဂလိုဆက္ကဆွန်ခေတ်က နေရင်းဒေသရှိနယ်သူနယ်သားများအချင်းချင်း အငြင်းအခုံဖြစ်သည့်အခါ၊ အရပ်လူကြီးများပါဝင်သော ဒေသန္တရဆိုင်ရာ ခရိုင်ခွဲအဖွဲ့အစည်းအဝေးပြုလုပ်၍၊ အဆုံးအဖြတ်ပေးသောဓလေ့မှ ဂျူရီအဖွဲ့ ဖွဲ့ခြင်းသည် ဆင်းသက်လာသည်ဟုဖြစ်လေသည်။ ထိုထက်သင့်မြတ်သောအယူအဆတရပ်မှာ၊ ယခုခေတ်တွင်အများသိပြီးဖြစ်သော ဂျူရီစံနစ်သည် ရောမအင်ပိုင်ယာ နောက်ပိုင်းခေတ်မှ စတင်ပေါ်ပေါက်ခဲ့သည်ဟူသောအယူအဆဖြစ်၏။ ထိုခေတ်တွင် ရောမအင်ပိုင်ယာသည် နေပြည်တော်အပြင် ရပ်ဝေးရှိနယ်ပယ်များအထိ အုပ်ချုပ်ရေးအာဏာ ပျံ့နှံ့ခဲ့သည်။ ထိုအခါ ဗဟိုဘဏ္ဍာတော်တိုက်ဌာနအာဏာပိုင်တို့နှင့် ရပ်ဝေးနယ်ပယ်ရှိ တိုင်းသူပြည်သားတို့ အချင်းချင်း ဘဏ္ဍာရေးနှင့်ဆိုင်သော ဝိဝါဒများဖြစ်ပွားလာလေသည်။ ထိုဝိဝါဒတို့ကို ဖြေရှင်းရန်အလို့ငှာ၊ နေပြည်တော်ရှိအရာရှိအရာခံတို့သည် သက်ဆိုင်ရာဒေသ၏ ထက်အောက်ပတ်ဝန်းကျင်ရှိ တာဝန်ရှိသူပုဂ္ဂိုလ်တို့အား ဆင့်ခေါ်ပြီးလျှင်၊ ကျမ်းကျိန်စေ၍ စစ်တမ်းထိုတ်လေသည်။ ထိုရောမအင်ပိုင်ယာခေတ်က စစ်တမ်းများကို မြန်မာဘုရင်လက်ထက်က စစ်တမ်းများနှင့် သဘောသွားချင်းနှိုင်းယှဉ်နိုင်ပေသည်။ နှောင်းခေတ်ရောမအင်ပိုင်ယာ၏ နည်းနိဿယတို့ကို ဖရန့်ကေရာင်ဘုရင်တို့နှင့် နော်မန်မြို့စားကြီးတို့က အတုယူလေသည်။ နော်မန်တို့က အင်္ဂလန်ပြည်ကိုလွှမ်းမိုးလာသောအခါ၊ ဘဏ္ဍာရေးနှင့်အုပ်ချုပ်ရေးကိစ္စတို့၌ ဘုရင်နှင့်တိုင်းသူပြည်သားတို့အချင်းချင်း ဝိဝါဒဖြစ်လေသော်၊ နော်မန်တို့သည် ထိုဝိဝါဒကိုဖြေရှင်းရန်အလို့ငှါ၊ အရပ်လူကြီးများပါဝင်သည့် အစည်းအဝေးကို ဆင့်ဆိုသည့်အခွင့်အာဏာကို အသုံးပြုလာကြသည်။

ခရစ် ၁၁၆၆ ခုနှစ်တွင် အရပ်လူကြီးများအစည်းအဝေးဆင့်ခေါ်သည့်ထုံးတမ်းကို ဥပဒေဖြင့် အတည်ပြုလိုက်ပြီးသည့်နောက်၊ ဂျူရီအဖွဲ့ကြီးစံနစ်သည် ဖြစ်ထွန်းလာလေသည်။ ဤအချိန်အထိ အမှုစစ်ဂျူရီအဖွဲ့ငယ် ဟူ၍ မပေါ်လာသေးချေ။ အမှုတင်သောဂျူရီအဖွဲ့ကြီးက တရားခံ၏အမှုကိုတင်သည့်အခါ၊ တရားခံသည်စွဲချက်ကိုချေပသောအနေဖြင့် ကမ္ဘာလေးရပ်စစ်နည်းဖြင့် အမှုကိုစစ်ဆေးစေရန်တောင်းဆိုလိုက တောင်းဆိုနိုင်ခွင့်ရှိသည်။ ၁၂၁၆ ခုနှစ်တွင် ကမ္ဘာလေးရပ် စစ်နည်းကို ပယ်ဖျက်လိုက်သောအခါ ဂျူရီအဖွဲ့ငယ်နှင့် အမှုစစ်သောစံနစ်သည် ပေါ်ပေါက်လာလေသည်။ သို့သော်မူလတွင် အမှုတင်ဂျူရီအဖွဲ့ကြီးနှင့် အမှုစစ်ဂျူရီအဖွဲ့ငယ်တို့ကို ပြတ်သားစွာပိုင်းခြား၍မထားခဲ့လေ။ အမှုတင်ဂျူရီအဖွဲ့ကြီးသည် မိမိအမှုကိုမိမိတင်လျှောက်ပြီးနောက်၊ ထိုအမှုကိုပင်စစ်ဆေးလေ့ရှိကြသည်။ ၁၃၅၂ ခုနှစ်ရောက်ခါမှပင်၊ အမှုတင်ဂျူရီအဖွဲ့ကြီးသည် အမှုကိုစစ်ဆေးခြင်းမပြုရဟူ၍ ပညတ်လေသည်။ ထိုနှစ်တွင် အမှုတင်ဂျူရီအဖွဲ့ကြီးနှင့် အမှုစစ်ဂျူရီအဖွဲ့ငယ်ဟူ၍ တရားခံအားစွဲချက်တင်ရန်နှင့် အမှုစစ်ရန် အလို့ငှာ တီထွင်လိုက်ပြီဖြစ်သော်လည်း၊ တရားခံ၏သဘောတူညီချက်မရှိပါဘဲလျက်၊ ဂျူရီအဖွဲ့နှင့်စစ်ဆေးခြင်းကို မပြုနိုင်သေးချေ။ ရုံးတော်ရှေ့သို့ တရားခံရောက်ရှိလာသောအခါ၊ တရားခံက တရားသူကြီးနှင့် ဂျူရီအဖွဲ့တို့၏စစ်ဆေးခြင်းကို သဘောတူလက်ခံပါသည်ဟု ပဋိညာဉ်မပေးလျှင်၊ တရားခံကိုမစစ်ဆေးနိုင်တော့ချေ။ ထို့ကြောင့် ၁၇၇၂ ခုနှစ်အထိ၊ လုပ်ရိုးလုပ်စဉ်မှာ အမှုစစ်ဆေးခြင်းကိုတရားခံကလက်ခံလာသည့်တိုင်အောင် တရားခံအား နှိပ်စက်ညှဉ်းပန်းခြင်းပင် ဖြစ်၏။ တရားခံကသဘောတူညီချက်မပေးသဖြင့်၊ ညှဉ်းပန်းနှိပ်စက်ယင်းဖြင့် တရားခံသေဆုံးရသောအမှုများ ရှိခဲ့ဘူးသည်။ တရားခံသည် သူ၏အမှုကိုအစစ်ခံသည်ထက် ညှဉ်းပန်းနှိပ်စက်၍သေဆုံးရသောဒဏ်ကို အဘယ်ကြောင့်ပို၍ ကျေနပ်နှစ်သက်ပါသနည်းဟုဆိုသော်၊ ထိုခေတ်ကပြစ်ဒဏ်ခံရသောသူတို့သည် သေဒဏ်ဖြင့်စီရင်ခြင်းကိုသာ ခံရရုံမျှမက၊ ဥစ္စာပစ္စည်းများလည်း အသိမ်းခံရ၍၊ သူ့အားဆက်ခံရမည့်အမွေစား အမွေခံ ဟူသမျှမှာလည်း နိုင်ငံရေးအခွင့်အရေးနှင့် တကွအခြားအခွင့်အရေးများပါဆုံးရှုံးခြင်းကို ခံရသော

ကြောင့်ဖြစ်၏။ ဒါကယ်၍ညှဉ်းပန်းနှိပ်စက်ခြင်းကြောင့် သေဆုံးခဲ့သော်တရားခံသည် မှုပြစ်မရှိဘဲသေဆုံးရသည်မည် သဖြင့်၊ အထက်ပါအခွင့်အရေးမျိုးကို မဆုံးရှုံးလေ။ ၁၇၇၂ ခုနှစ်သို့ရောက်သည့်အခါ တရားခံ၏သဘောတူညီချက်ကို ရခါမှ တရားသူကြီးနှင့် ဂျူရီအဖွဲ့တို့စစ်ဆေးနိုင် စေရမည်ဟူ သော အချက်ကိုပယ်ဖျက်လိုက်လေသည်။ ဂျူရီလူကြီးများ အဖြစ်ဖြင့်ဆောင်ရွက်သော အရည်အခြင်းရှိသူများ၏စာ ရင်းကို သက်ဆိုင်ရာနယ်မှ အရာရှိများ ကပြုလုပ်ပေးရလေ သည်။ အသက် ၂၁ နှစ်မှ ၆၀ အတွင်းရှိ မည်သည့် ယောကျ်ား၊ မိန်းမ မဆို ဂျူရီလူကြီးအဖြစ် ဆောင်ရွက်နိုင် သည့်ဂုဏ်အင်္ဂါရှိသည်။ သို့သော်ဆရာဝန်များ၊ သာသနာ့ဝန် ထမ်းများ၊ လွှတ်တော်အမတ်များ၊ ရှေ့နေရှေ့ရပ်များ၊ စစ်ဖက်ဆိုင်ရာအမှုထမ်းများ၊ တရားသူကြီးများ စသည် တို့မှာ၊ ဂျူရီလူကြီးများအဖြစ်ဆောင်ရွက်ခြင်းမှ ခွင့်လွှတ် ထားခြင်းခံရသူများဖြစ်၏။ ရုံးမှအလိုရှိသည့်အခါ စာရင်း မှရွေးချယ်ကာ ဆင့်ခေါ်လေသည်။ ဂျူရီလူကြီးအဖြစ် ဆောင်ရွက်ရန်ဆင့်ခေါ်ခြင်းခံရသူသည် ရုံးသို့မပျက်မကွက် သွားရောက်ရသည်။ ရုံးကအခွင့်အမိန့်ရမှသာလျှင် ရုံး သို့မသွားဘဲနေနိုင်သည်။ ရုံးမှလည်းလုံလောက်သောအ ကြောင်းပြချက်မရှိဘဲ ခွင့်ပြုခြင်းမရှိချေ။ ဂျူရီလူကြီး အဖြစ်ဆောင်ရွက်သဖြင့် အခကြေးငွေအနည်းငယ်သာရ၏။ ဂျူရီလူကြီးများသည် မည်သည့်ဖက်သို့မှမျက်နှာမလိုက်ဘဲ ဆုံးဖြတ်ရမည်ဖြစ်ရာ ဂျူရီလူကြီးများကို ဂရုစိုက် စိစစ်ရွေး ချယ်ရလေသည်။ အရေးကြီးသောအမှုများတွင် ဂျူရီ လူကြီးများကို မည်သည့်ဖက်ကမှ သြဇာပေးခြင်း၊ သွေး ဆောင်ခြင်းမပြုနိုင်အောင် အထူးဂရုစိုက်ရ၏။ ဂျူရီလူကြီး များအားလာဘ်ထိုးရန်ကြံစည်သူ၊ လာဘ်ပေးသူများကို လည်း ပြင်းပြင်းထန်ထန်နှိပ်ကွပ်အပြစ်ပေးလေသည်။

မြန်မာနိုင်ငံ တရားလွှတ်တော်တွင် မူလစီရင်ပိုင်ခွင့်အာ ဏာအရ၊ စက်ရှင်မှုများကိုစစ်ဆေးသည့်အခါ၊ ဂျူရီလူကြီး များအဖွဲ့ဖြင့်စစ်ဆေးလေသည်။ ဂျူရီလူကြီးများအဖွဲ့တွင် အဖွဲ့ဝင် ၉ ဦးပါဝင်၏။ ဂျူရီလူကြီးများကိုတရားလွှတ် တော်ရုံးဝန်ထောက်က အမည်များကိုအက္ခရာလိုက်စဉ်ကာ ရေးဆွဲထားသောစာရင်းမှရွေးချယ်ရသည်။ ထိုစာရင်း တွင်၊ ခရိုင်ဝန်ထက်ရာထူးကြီးမြင့်သူများ၊ လွှတ်တော်အမတ် များ၊ တရားသူကြီးများ၊ အကောက်တော်နှင့်အခွန်တော် ဆိုင်ရာကော်လိပ်တော်အရာရှိများ၊ ရဲအမှုထမ်းများနှင့် အ ကောက်ဌာန ဖမ်းဆီးရေးအရာရှိများ၊ အခွန်တော်အရာ ရှိထံမှ ကော်လိပ်တော်အရာရှိကခွင့်လွှတ်သင့်သည်ဟုထင် မြင်သဘောရရှိသူများ၊ သာသနာ့ဝန်ထမ်းများ၊ စစ်ဖက် တွင်အမှုထမ်းနေသူများ၊ ရှေ့နေရှေ့ရပ်များ၊ ကြေးနန်း နှင့်စာပို့ဌာနအမှုထမ်းအရာထမ်းများ စသည်တို့မပါဝင်ချေ။

ဂျူရီလူကြီးအဖြစ် ဆောင်ရွက်ရန် ဆင့်ခေါ်ခြင်းခံရသူ သည် တရားဝင်သောအကြောင်းပြချက်တစုံတရာမရှိလျှင် ရုံးသို့မပျက်မကွက်လာရောက်ရလေသည်။ ထိုသို့မလာ ရောက်ဘဲနေလျှင်သော်၎င်း၊ ဂျူရီလူကြီးအဖြစ်ဆောင်ရွက် နေစဉ် ရုံးမှအခွင့်မပြုဘဲပြန်သွားလျှင်သော်၎င်း၊ ရုံးတော်၏ အမိန့်ကိုမလေးမစားပြုမှုဖြင့် တရားဝန်ကြီးကသင့်တင့်သည် ထင်သောငွေကို ဆောင်ရန် အပြစ်ပေးနိုင်၏။ ဒဏ်ငွေမ ဆောင်လျှင်တရားမ ထောင်တွင် ၆ လထက်မပိုသောထောင် ဒဏ်ကို သတ်မှတ်နိုင်၏။

ဂျူရီလူကြီးအဖြစ်ဆောင်ရွက်ရန်ဆင့်ခေါ်ရာတွင် အမှန် လိုအပ်သည့် အရေအတွက်ထက်ပို၍ ဆင့်ခေါ်လေသည်။ ထိုသို့ဆင့်ခေါ်ထားသူများထဲမှ လိုသမျှကို မဲချ၍ရွေးချယ် သည်။ မဲကျသူများကို တဦးစီ တဦးစီအမည်ခေါ်သည့် အခါ တရားသူကြီး၏ရှေ့တွင် ရပ်ပြရလေသည်။ ထိုအခါ တရားခံ သို့မဟုတ် အစိုးရရှေ့နေက သဘောမကျလျှင် အ ကြောင်းပြကန့်ကွက်နိုင်သည်။ ကန့်ကွက်ခြင်းခံရသူမှာ အကြောင်းပြချက်လုံလောက်လျှင်အပယ်ခံရသည်။ ထို့ပြင် အကြောင်းမပြဘဲနှင့်လည်း တရားခံနှင့် အစိုးရရှေ့နေတို့ သည် ၇ ဦးစီအထိ ကန့်ကွက်နိုင်သေးရာ၊ ရုံးတော်ကထိုသို့ ကန့်ကွက်သည်ကိုလက်ခံရ၏။

ဂျူရီလူကြီးများနှင့် အမှုစစ်ဆေးပုံမှာ သဘောအား ဖြင့် အထက်ကပြဆိုခဲ့သည့် ဗြိတိသျှတရားရုံးများ စံနစ်အ တိုင်းပင်ဖြစ်သည်။ ဂျူရီလူကြီးအချင်းချင်းသဘောကွဲလွဲ သည့်အခါ၊ ဂျူရီလူကြီးသစ်များဆင့်ခေါ်၍ အမှုကိုပြန် လည်စစ်ဆေးရ၏။ သို့သော် ၆ ဦးထက်မနည်းက တသ ဘောတည်းဖြစ်နေလျှင် တရားဝန်ကြီးသည် ထိုဆုံးဖြတ် ချက်ကိုလက်ခံ၍ အမိန့်ချမှတ်နိုင်သည်။ လက်မခံလိုက၊ ဂျူရီလူကြီး သစ်များကိုဆင့်ခေါ်၍ အမှုပြန်လည်စစ်ဆေး ရန် တရားဝန်ကြီးကအမိန့်ချမှတ်ရ၏။

**ဂျူးဂျစ်ဆူအတတ်။** ဂျူးဂျစ်ဆူဆိုသည်မှာ ဂျပန်နပန်း သတ်နည်း တမျိုးပင်ဖြစ်သည်။ ဂျူးဂျစ်ဆူပညာတတ် မြောက်သူသည် ကာယဗလအားဖြင့်ကြံ့လိုသူဖြစ်သော် လည်း မိမိထက်အားအင်ကြီးမားသန်စွမ်းသူကို အလွယ် တကူအောင်မြင်နိုင်သည်။ ဤအတတ်၏မူရင်းသဘောမှာ လက်မောင်းအားအရှိန်နှင့်ချိန်သားကို စံနစ်တကျတွက်ဆ အသုံးပြုခြင်းပင်ဖြစ်သည်။ လက်မောင်းအားအရှိန်ဖြင့်ရန် သူ၏ခြေလက်စသည်တို့ ကျိုးသွားစေနိုင်သည့်ပြင် အကြော အဆစ်လွဲခြင်း၊ သတိမေ့လျော့ခြင်းတို့ကိုလည်းဖြစ်စေနိုင်၏။

ဂျူးဂျစ်ဆူအတတ်မှာအာရုံကြောများကို အရိုးနှင့်ဖိကပ် ပေးခြင်းဖြင့် ကြီးစွာသောဝေဒနာကိုဖြစ်ပေါ်စေပြီးလျှင် ထုံ ကျင်ခြင်းကိုလည်းဖြစ်စေနိုင်သည်။ သွေးလွှတ်ကြောများ

ကို ဖိနှိပ်ထိုးကြိတ်ခြင်း အားဖြင့် လည်း ချက်ချင်းပင်မေ့မြော သွား စေ နိုင် သည်။ ဂျူးဂျစ်ဆူ သိုင်း ကွက် များ ကို မတ်တတ်ရပ်နေစဉ်အခါတွင်ရင်း၊ မြေကြီးပေါ် တွင် ဝမ်းလျားမှောက် နေသည့် အခါ တွင် ရင်း၊ အသုံး ချနိုင်သည်။ သိုင်းဆရာသည် မိမိကိုယ်ကို ကာကွယ် ရန် အတွက်ဖြစ်စေ၊ အရေးကြီးသည့်သိုင်းကွက်တခုခု ရရန်အတွက်ဖြစ်စေ၊နည်းပရိယာယ် ကို ဉာဏ် စေစား ၍ သုံး လေ့ ရှိ သည်။ ရန်သူကို အနည်းငယ်လျှော့ပေးတန်က လျှော့ပေးခြင်းဖြင့် အောင်မြင်နိုင်ပေသည်။ တခါတရံသူသည်ရန်သူ၏မျက်နှာကို ဦးထုပ်ဖြင့်ပေါက်ခြင်း၊ လက်ကိုင် ပုဝါဖြင့် ပစ်ခြင်း စသည့်တမုဟုတ်ခြင်း အံ့အားသင့်စေတတ်သောနည်းကို သုံး၍ လိုရာသိုင်းကွက်ကိုဖမ်းယူကာ ရန်သူကို ဗုံးဗုံးလဲစေနိုင် ပေသည်။ ဂျူးဂျစ်ဆူပညာတွင် ပူးသတ် ခြင်း များ သည် အလွန် ဖြင်းထန်လှ၏။ အဘယ်ကြောင့်ဆိုသော်ရန်သူကို ပခုံးသို့မဟုတ် ကျောရိုးဖြင့် ဦး စောက် ကျအောင် ပြုလုပ် လို သော ကြောင့်ပင်ဖြစ်သည်။ ရန်သူတို့၏ တိုက်ခိုက် ခြင်းကို ခံရသော အခါ ဂျူး ဂျစ် ဆူသမား သည် အနည်း ငယ် နောက် ဆုတ် ပေး ပြီးလျှင် ရှေ့သို့ ကျုံလာ သော ရန်သူ၏ ခြေမျက်စိ သို့မဟုတ် ဒူးကို ခြေဖဝါးဖြင့် ခတ်လိုက်၍ ရန်သူကို အရေးနိမ့်စေသည်။ လက်မောင်းအရှိန်ဖြင့် ရန်သူကိုပစ်ချရာဝယ်ပေါင်၊ တင်ပါးနှင့်ပခုံးအားကိုအသုံးပြုသည်။ ရန်သူ၏ ကုတ်အင်္ကျီကော်လာ၊ အင်္ကျီလက် စသည်တို့ကို ဆွဲကိုင်၍ ဂျူးဂျစ်ဆူသမားသည် ချိန် သား ပျက်အောင် ပစ်ချ အနိုင် ယူစမြဲဖြစ်သည်။

ရန်သူသည်ပစ်ချခြင်းခံရသောအခါ အများအားဖြင့်အရိုးကျိုး၊ အဆစ်လွဲသွားတတ်သော်လည်း ဂျူးဂျစ်ဆူပညာကျွမ်းကျင်ထားလျှင် ယင်းသို့အကျ မနာအောင် ကျင့်သားရနိုင် ပေ သည်။ အကျမနာ အောင် လေ့ ကျင့် ရာဝယ် ဦးခေါင်းသို့မဟုတ် အဆစ်တခုခုဖြင့် ကြမ်း ပြင်ပေါ် သို့မကျရန်သတိပြုဖို့ပင်ဖြစ်သည်။ ထမ်းပိုး၍ ပစ်ချခြင်း ခံရသော အခါဂျူးဂျစ်ဆူသမား သည် လက်ကိုလျှင် မြန် စွာ ဆန့် တန်းပြီးသော် ကြမ်းပြင်ကိုလက်ဖဝါးဖြင့် ရိုက်လိုက်ရသည်။ ယင်းသို့ခန္ဓာကိုယ်ကြမ်း ပြင် ပေါ် သို့မကျမီစက္ကန့်ပိုင်းအတွင်းရိုက်ပုတ်လိုက်ခြင်းဖြင့်ပစ်ချခြင်းခံရသောအရှိန်ကို ပျက်ပြားစေသည်။ ကြမ်းပြင်ကို မျက် နှာ မူ၍ တည့် တည့် ကြီး ဆင်းလာလျှင် ကိုယ်၊ လက်၊ ခြေထောက်နှင့် ဦးခေါင်း တို့ကိုတန်းနေစေပြီးလျှင် လည်ပင်းကြွက်သား များကို လည်း တောင့်ထားလိုက်ရသည်။ ကြမ်းပြင်ပေါ် သို့လက်ဖဝါးဖြင့်ကျစေ၍ယင်းသို့ကျသည့် အခါတွင် လည်း လက် မောင်း များကို အတန်ငယ်ကွေးညွတ်ရပေသည်။ ဤကဲ့သို့အကျမနာအောင်အလေ့အကျင့် ပြုလုပ်ထားခြင်းမှာ ဂျူး ဂျစ် ဆူ အတတ် ၌သာမက ဘောလုံး ကစား ခြင်း စသော အခြားအတတ်များတွင်လည်းအသုံးဝင်ပေသည်။

**ဂျူးရားတောင်တန်း**။ ။ဂျူးရားတောင်တန်းသည် ပြင်သစ်နှင့်ဆွစ်ဇာလန်နိုင်ငံ ၂ ခုကြားတွင် အရှေ့မြောက်မှအနောက်တောင် သို့တန်းလျက် တည်ရှိသည်။ အကျယ်အား



ဂျူးဂျစ်ဆူအတတ်ကို လေ့ကျင့်နေကြ သောဂျပန်လူငယ်များ

ဖြင့် ၃၈ မိုင်ခန့်ရှိ၍ ၁၅၆ မိုင်ရှည်လျားသည်။ တောင်တန်း၏အလယ်ကိုချန်လှပ်၍၊ အခြားနေရာများတွင်မြစ်များနှင့် နက် ရှိုင်း သော တောင် ကြား များ ဖြတ်သန်းလျက်ရှိသည်။ အနောက်ဖက်တွင် တောင်တန်းသည်ပြင်သစ် နိုင်ငံ တွင်း ရှိ မြေနိမ့်ပိုင်းသို့ ခပ်ပြေပြေနိမ့်ဆင်းသွားသည်။ အရှေ့ဖက်၌မူကား တောင်များသည်အလွန်မတ်စောက်၍၊ တောင်ပေါ်ချောင်းတို့သည်ဂျီနီးဗားနှင့် နျူရှားတဲအိုင်များသို့ဒလဟောစီး ဆင်း ကြ သည်။ တောင် တန်း ၏ မြောက် ဖက် အ စွန်ဆုံးတွင် ထင်ရှား ကျော် စောသော ဗဲလဖောတောင် ကြား ရှိ၏။ ထိုတောင်ကြားလမ်းမှာ လူနေအစည်ကားဆုံးဖြစ်သော ပြင်သစ် နိုင်ငံ တွင်း ရှိ ဒေသကို ဖြတ်သွားလေရကား၊ ပြင်သစ် နိုင်ငံ ၏ အိမ်ရှေ့တံခါးပေါက်ဟုခေါ် ဆိုနိုင်သည်။ ဂျူးရားတောင်တန်း၏ အနောက်တောင်ပိုင်းတွင် သစ်ပင်များအလွန်ထူထပ်စွာ ပေါက်ရောက်လျက်ရှိသည်။ ထိုသစ်တောမှရသောသစ်သားတမျိုးကို ကလေးကစားစရာပြုလုပ်ရန်အသုံးချကြသည်။ တောင်တန်း၏ကုန်းမြင့်ဒေသတို့တွင် မြက်ခင်းလွင်ပြင်များရှိလေရာ၊ ထိုဒေသ၌သိုးကိုမွေးမြူကြသည်။ ဂျုံကိုလည်းစိုက်ကြသည်။

**ဂျူးလ, ဂျေ၊ ပီ** (ခရစ် ၁၈၁၈–၁၈၈၉)။ ။ရူပဗေဒပညာရှင် ဂျိမ်းပရက်စကော့ဂျူးလ သည်အင်္ဂလိပ်လူမျိုးဖြစ်သည်။ ခရစ် ၁၈၁၈ ခုနှစ်ဒီဇင်ဘာလ ၂၄ ရက်နေ့တွင် ဆာလ်ဖို့မြို့၌ဖွားမြင်၏။ ဂျူးလ သည်သိပ္ပံပညာဆိုင်ရာ သုတေသနလုပ်ငန်းများတွင်စိတ်ဝင်စားသည်။ ကောင့်ရမ်းဖို့နှင့်ဆာဟန်ဖရီဒေဗီတို့ကဲ့သို့ အပူဓာတ်အကြောင်းတွင် ပါရဂူမြောက်သော ပုဂ္ဂိုလ်ကြီးဖြစ်၏။ ဂျူးလသည်အက်တမ်အဆိုကို ဖန်တီးသူ ရူပ ဗေ ဒ ကဝိ ကျော် ဂျွန်ဒေါလတန် ထံ၌တပည့်ခံ၍ ရူပဗေဒပညာရပ်များကိုလေ့လာ ဆည်းပူးခဲ့သည်။ (ဒေါလတန်, ဂျေ — လည်းရှု။) အထူးသဖြင့်သံလိုက်ဓာတ်နှင့်လျှပ်စစ်ဓာတ်တို့၏ဆန်းကြယ်မှုအကြောင်းကို စူးစမ်းရှာဖွေခဲ့၏။ ၁၈၃၄ ခုနှစ်တွင်လျှပ်စစ်ဓာတ်ကိုတိုင်းတာရန်နည်းစံနစ်ရှာဖွေစမ်းသပ်စဉ် အတွင်း၊ အပူ အလုပ်မျှ ကိန်းကို ပဌမဆုံးကြံစည်၍သိရှိခဲ့လေသည်။

အပူစွမ်းအင်ကိုအလုပ်အားဖွဲ့ပြနိုင်သည့်အချက်ကိုဂျူးလသည်နှစ်ပေါင်း ၄၀ မျှကြာအောင်စမ်းသပ်ရှာဖွေရသည်။ ဂျူးလကိုအစွဲပြု၍ ထိုအချက်သည် ရူပဗေဒတွင် 'ဂျူးလနိယမ' ဟူ၍ခေါ် တွင်လေသည်။

ဂျူးလနိယမ အရအလေးချိန်တပေါင်ရှိရေကို အပူချိန် ၁ ဒီဂရီဖာရင်ဟိုက်တက်အောင် ပြုလုပ်သော အပူသည် ၇၇၈ ပေါင် အလေး ချိန်ရှိဝန်ကို ၁ ပေမြင့်အောင် ပြုလုပ်သော အလုပ်အား နှင့် ညီမျှသည်။ လော့ ကယ် လဗင် နှင့်အတူ ဂျူးလသည် ဖိနှိပ်ထားသောဓာတ်ငွေ့တွင်အပူပြောင်းလဲမှုရှိကြောင်း ကိုရင်း၊ ဖိနှိပ်ထား သော အစိုင် အခဲနှင့် စန့်ထွက်သော အစိုင် အခဲ တို့တွင် အပူချိန် ပြောင်း လဲမှု ရှိကြောင်းကိုရင်း၊ လေ့လာစုံစမ်းခဲ့သည်။ (ကယ်လဗင်, ဒဗျူ၊တီ — လည်းရှု။) တော်ဝင် အသင်း က ဂျူးလ အား ငွေကြေးထောက်ပံ့၍ သုတေ သန လုပ်ငန်းကို လုပ် ကိုင် စေသဖြင့် ကွန်ဒင်ဆား ကို တီထွင်နိုင် သည်။ ဂျူးလ တီထွင် သော ကွန် ဒင်ဆားများသည် ထိုအခါက သင်္ဘောများ တွင် အသုံးပြုသော ရေနွေး ငွေ့ အင်ဂျင်စက်များကို ပိုမို၍ကောင်းမွန်လာစေလေသည်။


ရူပဗေဒပညာရှင်ဂျေ၊ ပီ၊ ဂျူးလ

ဂျူးလ သည် ဂုဏ်ထူးဘွဲ့ထူးများစွာတို့ဖြင့် ချီးမြှင့်ခြင်းခံရသည်။ ၁၈၅၀ ပြည့်နှစ်တွင် တော်ဝင်အသင်းဝင်တဦးဖြစ်လာသည်။ ၁၈၈၉ ခုနှစ် အောက်တိုဘာလ ၁၁ ရက်နေ့တွင် ကွယ်လွန်လေသည်။

**ဂျယ်လတင်း**။ ။တိရစ္ဆာန်တို့၏အရိုး၊ ဦးချိုနှင့်ခွာများကို အက် ဆစ် အပျော့ ရည် ထဲတွင် စိမ်လိုက် လျှင် အချို့ သော အစိတ်အပိုင်းများ သည် အရည် ပျော် သွား ၍ အချို့သည် အရည် မပျော် ဘဲကျန် ခဲ့ သည်။ အရည် မပျော်ဘဲ ကျန်ခဲ့သောအစိတ်အပိုင်းများကို ရေတွင်ထည့်၍ပြုတ်လိုက်လျှင် ကော်ရည်ဖြစ် လာသည်။ အရောင်မှာဝါတာတာရှိ၍ အရသာမရှိချေ။ ခဲသွားသောအခါ မာ၍ဆတ်လာသည်။ ထိုကော်ကိုဂျယ်လတင်းဟုခေါ် သည်။ ကျောက်ကြောဟုခေါ် သည့် ငါးစည်ဖောင်းကော်မှာ ဂျယ်လတင်းအကောင်းဆုံးအစားဖြစ်၍ ယင်းကိုလူတို့စားသုံးနိုင်သည်။ (ငါးစည်ဖောင်းကော် — ရှု။)

စက်မှုလက်မှုလုပ်ငန်းတွင် ဂျယ်လတင်းကိုများစွာအသုံးပြုကြသည်။ ဂျယ်လတင်းသန့်သန့်ကို သရည်စာမုန့်နှင့် အခြား အစား အသောက် များ ပြုလုပ် ရာ တွင် အသုံး ပြု ၍ ဂျယ်လတင်း အညံ့ စား ကိုမူ ကော်အဖြစ် ဖြင့် အသုံး ပြုကြသည်။ ဂျယ်လတင်းမှရသောကော်သည်အလွန်စေးကပ်သဖြင့် ပစ္စည်းများဆက်စပ်ရာ၌အသုံးပြုသည်။ ဂျယ်လတင်း အညံ့စား ကို ဆာလဖျူရစ် အက် ဆစ် ရည် နှင့် သန့်အောင်ပြုလုပ်လိုက်သောအခါ အရောင်ဖြူလာ၍ အလင်း မပေါက် တပေါက် ရှိ သော ဂျယ်လတင်း အကောင်းစားကိုရသည်။ ဂျယ်လတင်းကို အစားအသောက်များမာလာစေရန်နှင့် အရက်များကိုသန့်အောင်လုပ်ရာ၌လည်းအသုံးပြုသည်။ အချောင်း လိုက်လှီးဖြတ်၍ ဈေးတွင် ရောင်း ချကြသောကျွဲ

ကော်မှာ ဂျယ်လတင်းအညံ့စားပင်ဖြစ်၏။ ကျွဲကော်ကိုပုံနှိပ်စက်မင်လုံးများ သွန်းလုပ်ရာတွင် အဓိက အသုံးပြုကြသည်။ ဂျယ်လတင်းကို ဆေးလုံးကလေးများ အပြင်ဖက်မှ သုတ်လိမ်းပေးရာတွင်၎င်း၊ သားရေနယ်လုပ်ငန်း၊ ဆေးဆိုးလုပ်ငန်း၊ စက္ကူလုပ်ငန်း၊ ရေခံပစ္စည်းလုပ်ငန်း၊ မင်လုပ်ငန်း၊ သားရေတုနှင့်ပိုးတုလုပ်ငန်းတို့တွင်၎င်း များစွာအသုံးပြုကြသည်။ ဓါတ်ပုံရိုက်မှန်နှင့်ရုပ်ရှင်ကော်ပြားများပြုလုပ်ရာတွင်လည်း ဂျယ်လတင်းကော်ကို အခြေခံပစ္စည်းအဖြစ်ဖြင့် အသုံးပြုကြလေသည်။



ဂျယ်လတင်းကိုအစားအစာများပြုလုပ်ရာ၌လည်းအသုံးချနိုင်၏။

**ဂျယ်လီကို, ဂျေ၊ အာ** (ခရစ် ၁၈၅၉–၁၉၃၅)။ ။ဗြိတိသျှရေကြောင်းဖက်တွင် ထင်ရှားသောပုဂ္ဂိုလ်ကြီးများတွင် ဆာဂျွန်ရပ်ရှဝပ်ဂျယ်လီကို လည်းတယောက်အပါအဝင်ဖြစ်သည်။ ဂျယ်လီကို သည် ၁၈၅၉ ခုတွင်ဆောက်သမ္ပတန်မြို့၌ ဖွားမြင်သည်။ ငယ်စဉ်အခါကပင်ရေကြောင်းဖက်၌စိတ်အားထက်သန်သဖြင့် ၁၈၇၂ ခုနှစ် ၁၃ နှစ်သားအရွယ်တွင် ရေတပ်သို့ဝင်ခဲ့သည်။ သူ၏ဖခင်မှာ ကုန်သွယ်ရေကြောင်းဆိုင်ရာတွင်မာလိန်မှူးဖြစ်၍ သူ၏ဘေးမှာ စစ်ပွဲပေါင်းများစွာ၌ပါဝင်တိုက်ခိုက်သဖြင့်ပွဲရခဲ့သော ဒုတိယရေကြောင်းဗိုလ်ချုပ်ကြီးဖိလစ်ပက်တန် ဖြစ်သည်။

ဂျယ်လီကို သည်ရေတပ်သို့ဝင်ပြီး၍ ၈ နှစ်ကြာသောအခါ ရေတပ်ဗိုလ်ကြီးရာထူးသို့တိုး မြှင့်ပေးခြင်းခံရသည်။ ဂျယ်လီကိုသည် ရေကြောင်းဖက်တွင်အမှုထမ်းသက်ရင့်လေလေ၊ အရည်အခြင်း တိုးတက်ထူးချွန်လေလေဖြစ်ရကား၊ အရေးကြီးသောတာဝန်များကိုရှုပ်ရှုပ်ချွံချွံဆောင် ရွက်နိုင် ခဲ့သဖြင့် ဆုတံဆိပ် မြောက် မြားစွာ ဖြင့် ချီး မြှင့် ခြင်း ခံ ရ လေ သည်။ ရာထူးများလည်းတိုးတက်လာလေသည်။ ၁၉၀၇ ခုနှစ်တွင် ရေကြောင်းဗိုလ်ချုပ်ကလေး အဖြစ် ခန့်အပ်ခြင်း ခံရပြီးနောက် ၁၉၁၄ ခုနှစ်ပဌမကမ္ဘာစစ်ကြီးတွင် ဂျယ်လီကိုသည် ရေကြောင်းသေနာပတိချုပ်ကြီး အဖြစ် ခန့်အပ်ခြင်းခံရ၍ မဟာရေတပ်မတော်ကိုအုပ်ချုပ်ရသည်။ ၁၉၁၆ ခုနှစ်မေလ ၃၁ ရက်နေ့တွင်တိုက်ခိုက်သော ဂျတ်တလန်စစ်ပွဲတွင် ဂျာမန်ရေတပ်ကြီးကို ရှုပ်ရှုပ်ချွံချွံ တိုက်ခိုက်နိုင် နင်းလိုက်သောကြောင့် ဘွဲ့ထူးဂုဏ်ထူးများစွာဖြင့် သူကောင်းပြုခြင်းခံရလေသည်။ ထိုနှစ်နိုဝင်ဘာလမှစ၍ ပဌမရေကြောင်းဆိုင်ရာအမတ်ကြီးအဖြစ် ခန့်အပ်ခြင်းခံရသည်။ ၁၉၁၈ ခုနှစ်တွင် ဗိုင်းကောင့်ခေါ် သူကောင်းဘွဲ့ဖြင့် အချီးမြှင့်ခံရပြီးနောက် ၁၉၁၉ ခုနှစ်တွင်ရေကြောင်းဗိုလ်ချုပ်အဖြစ် ခန့်အပ်ခြင်းခံရသည်။ ထိုကြောင့် ဂျယ်လီကိုသည် ပဌမကမ္ဘာစစ်၏ရေကြောင်းအာဇာနည်အဖြစ် ယခုတိုင် ကျော်ကြားလျက်ရှိသည်။ ၁၉၂၀ ပြည့်နှစ်မှ ၂၄ ခုနှစ်အထိ နယူးဇီလန်ကျွန်းတွင်ဘုရင်ခံချုပ်ဖြစ်လာသည်။ ၁၉၂၅ ခုနှစ်တွင် ပဉ္စမဂျော့ဘုရင်မင်းမြတ်က 'အား' ခေါ် သူကောင်းဘွဲ့ဖြင့်မှူးမတ်ငယ်အဖြစ် အပ်နှင်းချီးမြှင့်ပြန်လေသည်။ ဂျယ်လီကိုကား ရေကြောင်းအမြောက်ပစ်အတတ်များတွင် ထူးချွန်သောပါရဂူတဦးဖြစ်သည့်အလျောက် သူ၏ဆောင်ရွက်ချက်အရ



ဗြိတိသျှရေကြောင်းဗိုလ်ချုပ်ဂျေ၊အာ၊ဂျယ်လီကို





အင်္ဂလန်ပြည့်ရှင်၊ ဟန်နိုဗာအနွယ်ဂျော့ဘုရင်များ
(အထက်ဝဲ) ပဌမဂျော့၊ (အထက်ယာ) ဒုတိယဂျော့
(အောက်ဝဲ) တတိယဂျော့၊ (အောက်ယာ) စတုတ္ထဂျော့





ဗြိတိသျှ ရေကြောင်း အမြောက်ဌာနသည် အထူးပင် တိုး တက်ခဲ့လေသည်။ ထိုရေကြောင်းအာဇာနည်ပုဂ္ဂိုလ်ကြီး ကား ၁၈၃၅ ခုနှစ် နိုဝင်ဘာလ ၂၀ ရက်နေ့တွင်ကွယ်လွန်ရာ သူ၏ရုပ်အလောင်းကို အခြားသော ဗြိတိန် အာဇာနည် ပုဂ္ဂိုလ်ကြီးများနှင့်အတူ စိန်ပေါဘုရားရှိခိုးကျောင်းတွင်မြှုပ် နှံထားလေသည်။ ထိုပုဂ္ဂိုလ်ကြီးရေးသားခဲ့သော 'မဟာ ရေတပ်မတော်' (၁၈၁၄–၁၆) နှင့် 'ရေကြောင်းစစ်ပွဲ၏ အဖြစ်အပျက်များ' ဟူသောစာအုပ် ၂ အုပ်ကား ဗြိတိသျှ ရေကြောင်းဆိုင်ရာမှတ်တမ်းကြီးများသဖွယ်ဖြစ်ရာ ရာဇဝင် ကို အထောက်အပံ့အလွန်ပေးသော အဖိုးတန်သည့်စာအုပ် ကြီးများပင်ဖြစ်ပေသည်။

**ဂျော့ဘုရင်များ (အင်္ဂလိပ်)**။ ။အင်္ဂလန်ပြည်၌ဂျော့ အမည်နှင့် ဘုရင် ၆ ပါးမင်းပြုခဲ့ကြရာပဌမ ၄ ဦးမှာ ဟန်နိုဗာ အနွယ်များဖြစ်၍ ကျန် ၂ ဦးမှာ ပဌမကမ္ဘာစစ်အပြီးတွင် အမည်ပြောင်းလဲခဲ့သော ဝင်ဆာအနွယ်များဖြစ်ကြသည်။

ခရစ် ၁၇၁၄ ခုနှစ်တွင်အင်္ဂလန် ပြည့်ရှင် အန်ဘုရင်မကြီး တွင် ထီးမွေနန်းမွေဆက်ခံရန် သားထောက်သမီးခံမကျန် ရစ်ခဲ့ရကား ဂျာမန်အဆက်အနွယ်ဖြစ်သည့်ဂျော့မင်းသားက အင်္ဂလိပ်ထီးနန်းကိုဆက်ခံစိုးစံလေသည်။

ပဌမဂျော့ (ခရစ် ၁၆၆၀–၁၇၂၇) သည် အင်္ဂလန်ပြည် ပဌမဂျိမ်းဘုရင်၏ သမီးတော် အယ်လစ်ဇဗက် မင်းသမီးမှ ပေါက်ဖွားသောအနွယ်ဖြစ်၍ ဂျာမနီ ဟန်နိုဗာနယ်စားမင်း သားဖြစ်၏။ အင်္ဂလိပ်ထီးနန်းကို ရှေးဦးစွာဆက်ခံစိုးစံသူ ပဌမဂျော့သည် ၁၆၆၀ ပြည့်နှစ်မတ်လ ၂၈ ရက်နေ့တွင် ဟန်နိုဗာ၌ဖွားမြင်၍၊ ၁၆၉၈ ခုနှစ်တွင်ထိုနယ်ကိုစားရသော မင်းသားကြီး ဖြစ်လာပြီးသည့်နောက် ၁၄ ဆက်မြောက်၊ ပြင်သစ်ဘုရင်လူဝီအားဆန့်ကျင်သည့် လုပ်ငန်းများတွင် ထိ ရောက်စွာဆောင်ရွက်ခဲ့၏။ နန်းတက်သောအခါဂျော့မှာ ၅၄ နှစ်မျှပင်ရှိခဲ့လေပြီ။

သူသည်အင်္ဂလန်ထက်ဂျာမနီနိုင်ငံရှိမြေများကို ပိုမိုစွဲလန်း ခဲ့၏။ တိုင်းရေးပြည်မှုကိုလည်း စိတ်ပါဝင်စားခြင်းမရှိလှဘဲ အင်္ဂလိပ်အမတ်ကြီး များ နှင့် သာလွှဲအပ်ထားခဲ့ရာ နန်းရင်း ဝန်ရောဗတ်ဝါလပို ကသာနိုင်ငံကြီးကိုကြိုးကိုင်ခဲ့လေသည်။

သူ့လက်ထက်၌ စတူးဝပ် အဆက် အနွယ် ဖြစ်သည့် ဂျိမ်း စတူးဝပ်သည် ၁၇၁၅ ခုနှစ်တွင်စကော့တလန်သို့လာရောက် ကာ တောင်ပေါ် သားများနှင့်ပူးပေါင်း၍သူပုန်ထလေသည်။ မင်းလောင်းဂျိမ်း၏ ဘက်တော်သားများကို ဂျက္ကဗိုက်ဟု ခေါ် ၍ထိုပုန်ကန်မှုကြီးကို ဂျက္ကဗိုက်ပုန်ကန်မှုကြီးဟုခေါ် ၏။ (ဂျက္ကဗိုက် — ရှု။) သို့သော်ဂျိမ်းမှာနောက်ဆုံး၌ အရေး နိမ့်၍ထွက်ပြေးရ၏။ ပဌမဂျော့ဘုရင်သည် ၁၇၂၇ ခုနှစ် ဇွန်လ ၁ ရက်နေ့တွင်ကံတော်ကုန်လေသည်။

ဒုတိယဂျော့ (ခရစ် ၁၆၈၃–၁၇၆၀)။ ပဌမဂျော့ဘုရင် နတ်ရွာလွန်လျှင် သားတော်ဒုတိယ ဂျော့နန်း တက်သည်။ သူသည်လည်းဟန်နိုဗာနယ်များကို အင်္ဂလန်ထက်ပင်ပို၍ခင် တွယ်ခဲ့၏။ ဖခင်ကဲ့သို့ပင်တိုင်းရေးပြည်မှုများကို မှူးကြီး မတ်ကြီးများသို့ လွှဲအပ် ထား လျက်၊ သူ၏နန်းစံချိန်ရှေ့ပိုင်း တွင် နန်းရင်းဝန်ရောဗတ်ဝါလပိုကရင်း၊ နောက်ပိုင်းတွင်ဝီလျံ ပစ်အကြီးကရင်းစီမံခန့်ခွဲကြ၏။ သူ့လက်ထက်၌ပြင်သစ် တို့နှင့်ဖြစ်ပွားသော စစ်ပွဲများတွင်နိုင်သဖြင့်ကနေဒါနိုင်ငံကို အပိုင်ရလိုက်၍ အိန္ဒိယပြည် တွင် လည်း ရောဗတ် ကလိုက်၏ စွမ်းရည်ဖြင့်နယ်ပယ်အချို့ကိုအနိုင်ရခဲ့လေသည်။

၁၇၄၅ ခုနှစ်သူ၏လက်ထက်တွင်ထကြွသောဂျက္ကဗိုက်ပုန် ကန်မှုမှာ သူ့ဖခင်လက်ထက်ကထက်ပင်ဆိုးရွားခဲ့၏။ ဂျိမ်း စတူးဝပ်၏သားချာလီမင်းသားကလေးသည် စကော့တလန် သားများ၏အကူအညီဖြင့် အစကနဦးတွင် အောင်မြင်စွာ တိုက်ခိုက်နိုင်ခဲ့သော်လည်း ၁၇၄၆ ခုနှစ် 'ကလော့ဒင်' တိုက်ပွဲတွင် အရှုံး ကြီး ရှုံးပြီးနောက် အင်္ဂလန်မှနောက်ဆုံး ထွက်ခွာသွားရလေသည်။

ဒုတိယဂျော့ဘုရင်၏မိဖုရားကယ်ရိုလိုင်းမှာ စွမ်းလွန်းတမံ ဆောင်ရွက်နိုင်သူဖြစ်၍ ဘုရင်ကြီးအားအထူးအကူအညီပေး ခဲ့၏။ ဒုတိယဂျော့ဘုရင်သည် အလှအပအခမ်းအနားတို့ကို အထူး နှစ် သက်၏။ အသုံး အစွဲ အနေ အထိုင်၌မူ အလွန် စေ့စပ်သေချာပြီးလျှင် စစ်စီလှသော ဘုရင် တပါး ဖြစ် လေ သည်။ သို့စဉ်လျက်ထိုမင်းလက်ထက်တွင် ခုနစ်နှစ်စစ်ပွဲများ ဖြစ်ခြင်းကြောင့် နိုင်ငံတော်အကြွေးမှာနှစ်ဆမျှတိုးတက်ခဲ့ လေသည်။ (ခုနစ်နှစ်စစ်ပွဲ — ရှု။)

ဒုတိယဂျော့ဘုရင်သည် ၁၆၈၃ ခုနှစ်နိုဝင်ဘာလ ၁၀ ရက် နေ့တွင် ဟန်နိုဗာ၌ဖွားမြင်၍အင်္ဂလိပ်ထီးနန်းကို ၁၇၂၇ ခု နှစ်မှ ၁၇၆၀ ပြည့်နှစ်ထိ ၃၃ နှစ်တိုင်စိုးစံခဲ့ပြီးနောက် ၁၇၆၀ ပြည့်နှစ်အောက်တိုဘာလ ၂၅ ရက်နေ့တွင်ကံကုန်လေသည်။

ထိုမင်း ကွယ် လွန် ပြီး နောက် အိမ် နိမ့် စံ ဘဝက ပင် ကွယ် လွန်ခဲ့သော သားတော်အိမ်ရှေ့ဥပရာဇာ ဖရက်ဒရစ်၏ သား တတိယဂျော့ကထီးမွေနန်းလျာကိုရရှိခဲ့၏။

တတိယဂျော့ (ခရစ် ၁၇၃၈–၁၈၂၀) သည် ၁၇၃၈ ခုနှစ်ဇွန် လ ၄ ရက်နေ့တွင်အင်္ဂလန်၌ ဖွားမြင်၍ ပဌမနှင့် ဒုတိယ ဂျော့ဘုရင် များ နှင့် မတူဘဲ အင်္ဂလန် မွေး အင်္ဂလန်ကြီးဖြစ် ရကား အင်္ဂလိပ်ဖြစ်ရသည်ကိုပင်ဂုဏ်ယူသောပဌမဆုံးဟန်နို ဗာဆက်မင်းဖြစ်လေသည်။

ငယ်စဉ်ကပင် 'မျိုးချစ်ဘုရင်ဝါဒ' ကိုသင်ယူခဲ့ရသဖြင့် ကက်ဗိနက် ဝန် ကြီး အဖွဲ့က တိုင်း ပြည် အား ဘုရင့် ကိုယ်စား အုပ်ချုပ်ခြင်း ကို ရင်း၊ ကက်ဗိနက်ကို ထောက် ခံ သော အင် အားကောင်းသည့်ပါတီက အုပ်ချုပ်ရေးဝါဒကိုဘုရင့်ကိုယ် စားဖန်တီးသည်ကိုရင်း မလိုလားမနှစ်သက်ခဲ့ချေ။ ၁၇၆၀

ပြည့်နှစ်တွင် ဘုရင်ဖြစ်လာသောအခါ သူသည်တိုင်းပြည်ကိုစိုးမိုးအုပ်ချုပ်ရုံမျှသာမက စံနစ်တကျလည်းအုပ်ချုပ်ရန် သန္နိဋ္ဌာန်ချထားသည့်အတိုင်း ပါလီမန်တွင်ဝှစ်ပါတီလွှမ်းမိုးခြင်းကိုစတင်ဖြိုဖျက်လေသည်။

ပြည်တွင်းရန်အေးစေရန် ပြည်ပရန်ကိုလည်းငြိမ်းစေရမည်ဖြစ်သဖြင့် ဂျော့ဘုရင်သည်နန်းရင်းဝန်ပစ်အား ခုနစ်နှစ်စစ်ပွဲကိုရပ်စဲစေ၏။ ပစ်လည်းဘုရင်နှင့် စိတ်ဝမ်းကွဲပြားကာ ရာထူးမှနုတ်ထွက်လေတော့၏။ ၁၇၆၂ ခုနှစ်တွင်သူ၏ယယ်ဆရာဖြစ်သောဗျူ အား နန်းရင်းဝန်ခန့်၍ဘုရင့်အလိုတော်ကျကက်ဗိနက်အဖွဲ့အစိုးရပေါ်ပေါက်လာစေ၏။ ခုနစ်နှစ်စစ်ပွဲရပ်စဲရန်စာချုပ်နှင့် စပ်လျဉ်း၍ နာမည်ပျက်သဖြင့်ဗျူလည်းရာထူးမှနုတ်ထွက်ရပြန်၏။

ထိုနောက်ဘုရင့်ဩဇာစူးရှမည့် နန်းရင်းဝန်များ မပေါ်ပေါက်ဘဲရှိနေခဲ့သည်။ သို့နှင့်ပင်အလျော့မပေးဘဲတရားသောနည်း၊ မတရားသောနည်းတို့ကိုသုံး၍ တိုရီများနှင့်ပူးပေါင်းကာ ၁၇၇၀ ပြည့်နှစ်တွင် ဘုရင့်ပါတီတခုကိုပါလီမန်၌ထူထောင်နိုင်ခဲ့လေသည်။ ထိုအခါတိုရီဂိုဏ်းဝင်လော့နော့သည် ဘုရင့်အလိုတော်ကျအစိုးရအဖွဲ့တွင် နန်းရင်းဝန်ဖြစ်လာလေသည်။ ထိုအခါမှစ၍ဘုရင်နှင့်လော့နော့တို့သည် တိုင်းပြည်အုပ်ချုပ်ရေးဝါဒကို လွတ်လပ်စွာဖန်တီးနိုင်ခဲ့ကြ၏။ သို့သော်သူတို့ ၂ ဦး၏ညံ့ဖျင်းမှုမလိမ်မာမှုတို့ကြောင့် ထိုအချိန်အတွင်းအမေရိကန်လွတ်လပ်ရေးစစ်ဖြစ်ပွားကာ အမေရိကန်ကိုလိုနီနိုင်ငံများဆုံးရှုံးခဲ့ရလေသည်။

ဘုရင်ကြီးမှာမကြာခဏစိတ်ဖောက်ပြန်တတ်သောရောဂါရှိသဖြင့် သားတော်အိမ်ရှေ့မင်းက သူ၏ကိုယ်စားအုပ်ချုပ်ရလေရာ ၁၈၁၁ ခုနှစ်တွင်ဘုရင်ကြီးမှာလုံးလုံးရူးသွပ်သွားရှာလေသည်။ ထိုမျှသာမကမျက်စိကွယ်သွားသောဝေဒနာကိုလည်း တာရှည်စွာခံစားရပြီးနောက် ၁၈၂၀ ပြည့်နှစ်ဇန်နဝါရီလ ၂၉ ရက်နေ့တွင်ကံကုန်လေသည်။

**စတုတ္ထဂျော့ (ခရစ် ၁၇၆၂–၁၈၃၀)။** ဘုရင်ကြီးနတ်ရွာလွန်လေသော်သူ၏သားတော်အကြီးဆုံးသည် စတုတ္ထဂျော့အမည်ဖြင့် ထီးနန်းအရိပ်အရာကိုယူလေ၏။ စတုတ္ထဂျော့ဘုရင်သည် ၁၇၆၂ ခုဩဂုတ်လ ၁၂ ရက်နေ့တွင် ဖွားမြင်၍ထိုနှစ်ကပင် ဝေလမင်းသားဘွဲ့ကိုရရှိခဲ့သူဖြစ်၏။ သို့ရာတွင်သူသည်အင်္ဂလန်နိုင်ငံဘုရင်များထဲတွင် တိုင်းသူပြည်သားတို့မုန်းတီးရွံရှာဆုံးဘုရင်ဖြစ်သည်။

ငယ်စဉ်ကရုပ်ရည်သန့်ပြန့်ခန့်ညား၍ အနေအထိုင်အားဖြင့်သိမ်မွေ့သူတယောက်ဖြစ်ခဲ့သော်လည်း ကြီးပြင်းလာသောအခါအသုံးအဖြုန်းလွန်ကဲခြင်း၊ မသင့်လျော်သောအပေါင်းအသင်းများနှင့်ပေါင်းဖော်ခြင်း၊ မလျော်ကန်ပတ်သောအပျော်အပါးတို့ကိုလိုက်စားခြင်းတို့ကြောင့် တိုင်းသူပြည်သားများ၏အကြည်ညိုပျက်ခြင်းကိုခံရ၏။

၁၇၈၈ ခုနှစ်တွင်ဖခင်တတိယဂျော့ဘုရင် စိတ်ဖောက်ပြန်သွားသည့်အခါ တိုင်းပြည်ကိုခေတ္တမျှ တကြိမ်အုပ်ချုပ်ခဲ့ပြီးနောက်၊ ၁၈၁၁ ခုနှစ်တွင်ဘုရင်ကြီးလုံးလုံးရူးသွပ်သွားသည့်အခါ ၉ နှစ်ကြာမျှဒုတိယအကြိမ်အုပ်ချုပ်ခဲ့ရပြန်သည်။ နန်းစံ ၁၀ နှစ်အတွင်း သူသည်တိုင်းရေးပြည်မှုနှင့်စပ်လျဉ်း၍ ထိရောက်ကျနစွာဆောင်ရွက်ခြင်းမရှိခဲ့သည့်ပြင် ဂရိတ်ဗြိတိန်နိုင်ငံနှင့်တကွဟန်နိုဗာနယ်များ၏အုပ်ချုပ်မှုရေးရာတို့ကိုအမတ်ကြီးများအားလွှဲအပ်ထားခဲ့လေသည်။

မှတ်သားသင့်သောအချက်တချက်မှာ သူ၏လက်ထက်တွင်ပဌမအင်္ဂလိပ်မြန်မာစစ်ဖြစ်ခဲ့၏။ ထိုစစ်မှာ ၁၈၂၄ ခုနှစ်တွင်စတင်ဖြစ်ပွား၍ ၁၈၂၆ ခုနှစ်တွင် ရန္တပိုစာချုပ်ဖြင့်ပြေငြိမ်းရပ်စဲခဲ့သည်။ အင်္ဂလိပ်တို့သည် ထိုစစ်ပွဲအပြီးတွင်အာသံ၊ ရခိုင်နှင့်တနင်္သာရီနယ်များကို မြန်မာတို့လက်မှရရှိလေသည်။ ထိုမင်းလက်ထက် အခြားထင်ရှားသောအဖြစ်အပျက်များမှာ ရေတပ်ဗိုလ်ရပ်ကော့ရင်းတန် ဦးစီးသောအင်္ဂလိပ်ရေတပ်သည် ၁၈၂၇ ခုနှစ်တွင် တူရကီရေတပ်အား 'နာဗာရီးနိုး' စစ်ပွဲ၌အနိုင်ရခြင်း၊ အယူဝါဒကွဲနှိပ်ကွပ်ရေးဥပဒေများကို ၁၈၂၈ ခုနှစ်တွင်ဖျက်သိမ်းခြင်း၊ ဗရင်ဂျီများချုပ်ချယ်မှုလွတ်လပ်ရေးအက်ဥပဒေတရပ်ကို ၁၈၂၉ ခုနှစ်တွင် ပြဋ္ဌာန်းခဲ့ခြင်းစသည်တို့ဖြစ်လေသည်။

စတုတ္ထဂျော့သည် ၁၈၃၀ ပြည့်နှစ် ဇွန်လ ၂၆ ရက်နေ့တွင် ကံကုန်ခဲ့ရာ သူ၏တဦးတည်းသောသမီးတော်မှာလည်း ဘုရင်ကြီးအလျင်ကွယ်လွန်ခဲ့သဖြင့်ထီးနန်းအရိုက်အရာကို ညီတော်ဖြစ်သူစတုတ္ထဝီလျံကဆက်ခံစိုးစံလေသည်။

စတုတ္ထဂျော့အားရွံရှာမုန်းတီးသလောက် တိုင်းသူပြည်သားတို့၏ချစ်ခင်လေးစားခြင်းကိုခံရသူကား ပဉ္စမဂျော့ပင်ဖြစ်လေတော့သည်။

**ပဉ္စမဂျော့ (ခရစ် ၁၈၆၅–၁၉၃၆)။** ထိုမင်းသည်တိုင်းပြည်အုပ်ချုပ်မှုရေးရာများတွင်အသိအလိမ္မာဉာဏ်ပညာအမြော်အမြင်ကြီး၍ သူ၏ခမည်းတော် သတ္တမအက်ဒွပ်ဘုရင်နှင့် သူ၏ဖွားတော်ဝိတိုရိယဘုရင်မကြီးတို့၏ခြေရာကို ကောင်းစွာနင်းနိုင်သောဘုရင်ဖြစ်၏။ သတ္တမအက်ဒွပ်ဘုရင်နှင့် အယ်လက်ဇန္ဒြာမိဖုရားကြီးတို့၏ ဒုတိယသားတော်ဖြစ်၍ ၁၈၆၅ ခုနှစ်ဇွန်လ ၃ ရက်နေ့၌ လန်ဒန်မြို့မာလဗာရာစ်အိမ်တော်တွင်ဖွားမြင်၏။ ၆ နှစ်ကျော်ခန့်အရွယ်တွင်သူ့ထက် ၂ နှစ်မျှကြီးသောနောင်တော်အဲလဗတ်မင်းသားနှင့်အတူစာပေသင်ကြားခဲ့ပြီးနောက်၁၂နှစ်သားအရွယ်တွင်ရေတပ်သို့ဝင်ရောက်အမှုထမ်းခဲ့ရာ၊ ၁၈၉၀ ပြည့်နှစ်၌ရေကြောင်းဗိုလ်မှူးကြီးရာထူးကိုရရှိခဲ့လေသည်။ ထိုနောက် ၁၈၉၂ ခုနှစ်တွင်နောင်တော်ကွယ်လွန်သဖြင့် နန်းညွန့်နန်းလျာအဖြစ်သို့ရောက်ရှိလာပြီးလျှင် ရေတပ်၌အမှုထမ်းခြင်းကိုလည်းစွန့်လွှတ်လိုက်ရလေတော့သည်။

၁၈၉၂ ခုနှစ်၌ ယော့နယ်စားဒျူဘွဲ့ကို ခံယူခဲ့ပြီးနောက် ၁၈၉၃ ခုနှစ်တွင် ဒျူဘွဲ့ရ တက်နယ်စားကြီး၏ သမီးတော် မေရီမင်းသမီးနှင့် စုံဖက်ခဲ့၏။ ဂျော့နှင့်မေရီတို့တွင်သား သမီး ၆ ယောက်ထွန်းကားခဲ့ရာ တယောက်ပျက်စီးသဖြင့် သား ၄ ယောက်နှင့်သမီးတယောက်ကျန်ရှိ၏။ သားတော် များမှာ အဋ္ဌမအက်ဒွပ်ဘုရင်၊ ဆဋ္ဌမဂျော့ဘုရင်၊ ဂလော့စတာနယ်စားဒျူဘွဲ့ရ ဟင်နရီမင်းသားနှင့် ကင့်နယ်စားဒျူဘွဲ့ရဂျော့မင်းသား တို့ဖြစ်ကြ၍ တပါးတည်းသော သမီးတော်မှာ မင်းသမီးကြီး မေရီဖြစ်သည်။

ခမည်းတော်သတ္တမအက်ဒွပ် ဘုရင်ကြီး ကဲ့သို့ပင် ဘုရင်မဖြစ်မီ ဗြိတိသျှအင်ပိုင်ယာကို လှည့်လည်ခဲ့၏။ ပင်လယ်ရပ်ခြားရှိ ဗြိတိသျှပိုင်နယ်များ အကြောင်းကို မျက်မြင်ကိုယ်တွေ့လေ့လာကြည့်ရှုခဲ့၏။ ၁၉၀၁ ခုနှစ်တွင် ဩစတြေးလီးယား၊ နယူးဇီလန်၊ တောင်အာဖရိကနှင့် ကနေဒါနိုင်ငံများသို့သွားရောက်လည်ပတ်ခဲ့၏။ ဩစတြေးလီးယားသို့ရောက်စဉ်က ပဌမဆုံးဖြစ်သော ပါလီမန်ကိုဖွင့်လှစ်ခဲ့၏။ ထိုနှစ်၌ပင်ဝေလမင်းသားဘွဲ့ကို ခံယူခဲ့သည်။ ခမည်းတော်လွန်သည့် ၁၉၁၀ ပြည့်နှစ်မေလ ၆ ရက်နေ့တွင် ထီးနန်းဆက်ခံ၍ ၁၉၁၁ ခုနှစ်ဇွန်လ ၂၂ ရက်နေ့တွင်မှ ရာဇဘိသေကကို ခံယူသည်။ ထိုနှစ်၌ပင် ဂျော့ဘုရင်သည်အိန္ဒိယပြည်သို့မေရီမိဖုရားကြီးနှင့်အတူ တိုင်းခမ်းလှည့်လည်လေသည်။

သူ၏လက်ထက်တွင် ပဌမကမ္ဘာစစ်ကြီး (၁၉၁၄–၁၈) ဖြစ်ပွားခဲ့သည်။ ထိုအတွင်းဂျော့ဘုရင်သည် စစ်မြေပြင်ရှိရာ ပြင်သစ်နိုင်ငံ သို့အခေါက်ခေါက် အခါခါသွားရောက်ပြီးလျှင် စစ်သည်တော်သားများအား ကြည့်ရှုစစ်ဆေးအားပေး၏။ ၁၉၁၇ ခုနှစ်တွင်ဂျာမန်အဆောင်အယောင်များကို စွန့်ပယ်ပြီးနောက် 'ဝင်ဆာမင်းမျိုး' ဟူ၍ကြေညာခဲ့လေသည်။ သူ၏လက်ထက်တွင် တိုင်းသူပြည်သားများက ဘုရင်အား ကြည်ညိုလေးစားမှုတိုးတက်ခဲ့၏။ အင်္ဂလန်နှင့်ကိုယ်ပိုင်



ပြည်သူတို့ကြည်ညိုသော ပဉ္စမဂျော့ဘုရင်

အုပ်ချုပ်ရေးရသော ဒိုမီနီယန်တိုင်းပြည်များကြားတွင် ဘုရင်သည်အဓိကအဆက်အသွယ်ကြီးဖြစ်လာတော့သည်။

၁၉၃၅ ခုနှစ်မေလတွင် မင်းသက် ၂၅ နှစ်မြောက်အထိမ်းအမှတ်အဖြစ် ဆီးလဗားဂျူဗလီပွဲကို အင်္ဂလန်နှင့် တကွဗြိတိသျှအင်ပိုင်ယာနိုင်ငံတဝှန်းလုံးတွင် သိုက်မြိုက်စည်ကားစွာ ကျင်းပကြ၏။ ဤပွဲမကျင်းပမီ ၁၉၂၈–၂၉ ခုနှစ်တွင် ဂျော့ဘုရင်အသည်းအသန်နာမကျန်းဖြစ်သောအခါ၌ ပြည်သူပြည်သားတို့ ကြောင့်ကြစိုးရိမ်ဖြစ်ကြပုံကိုရင်း၊ ၁၉၃၆ ခုနှစ်ဇန္နဝါရီ ၂၀ ရက်နေ့၌ဘုရင်ကံကုန်သည်တွင် အမျိုးနှင့်ချီ၍ ကြည်ကွဲဝမ်းနည်းကြပုံကိုရင်း၊ ထောက်ချင့်ခြင်းအားဖြင့် ဤဘုရင်အား မည်မျှလောက်ခင်မင်လေးစားကြသည်ကို ထင်ရှားစွာသိနိုင်လေသည်။

ပဉ္စမဂျော့ဘုရင်သည် တိုင်းသူပြည်သားများအား အသံလွှင့်ဌာနမှပဌမဦးဆုံးမိန့်ခွန်း စကားမြွက်ကြားခဲ့သော အင်္ဂလိပ်ဘုရင်ဖြစ်၏။ သူ၏လက်ထက်တွင် ထင်ရှားသော အဖြစ်အပျက်အချို့မှာမိန်းမများဆန္ဒမဲပေးခွင့် ရရှိခြင်း၊ ပဌမကမ္ဘာစစ်ကြီးဖြစ်ပွားခြင်း၊ ၁၉၂၂ ခုနှစ်တွင် အိုင်ယာလန်အားလွတ်လပ်ရေးပေးခြင်း၊ ၁၉၂၄ ခုနှစ်တွင်လေဘာအစိုးရပဌမဆုံးအကြိမ်တက်လာခြင်းနှင့် ၁၉၂၆ ခုနှစ်တွင် အထွေထွေသပိတ်ကြီးပေါ်ပေါက်ခဲ့ခြင်းများဖြစ်၏။

ဆဋ္ဌမဂျော့ (ခရစ် ၁၈၉၅–၁၉၅၂)။ ထိုမင်းသည် ပဉ္စမဂျော့၏ဒုတိယသားတော်ဖြစ်၏။ ငယ်နာမည်မှာအဲလဗတ်မင်းသားဖြစ်၍ ၁၈၉၅ ခုဒီဇင်ဘာ ၁၄ ရက်နေ့တွင် ဆန်ဒရင်ဂမ်ရှိ ယော့အိမ်တော်ငယ်၌ဖွားမြင်လေသည်။

အသက် ၁၄ နှစ်တွင်ရေကြောင်းအတတ်ကိုသင်ယူပြီးနောက် ၁၇ နှစ်သားအရွယ်တွင်ရေတပ်သို့ဝင်ရောက်အမှုထမ်းယင်း၊ အနောက်အိန္ဒိယကျွန်းစုနှင့် ကနေဒါနိုင်ငံများသို့လှည့်လည်ခဲ့၏။ ပဌမစစ်ကြီးအတွင်း ၁၉၁၆ ခုနှစ်တွင် မြောက်ပင်လယ်၌ဖြစ်ပွားသော ဂျတ်တလန် စစ်ပွဲ၌ ထူးချွန်

ဋ္ဌာအမှုထမ်းခဲ့၏။ ၁၉၁၈ ခုနှစ်တွင် ရေတပ်လေကြောင်းဌာနခွဲ၌ ဗိုလ်မှူးကြီး ရာထူးဖြင့် ခြီးမြှင့်ခြင်းခံခဲ့ရ၏။

ထိုနောက် ကိမ်းဗရစ်တက္ကသိုလ် သို့ဝင်ရောက်ကာ နိုင်ငံသမိုင်း၊ ဘောဂဗေဒ၊ အုပ်ချုပ်မှုရေးရာ၊ ပြည်သူ့နီတိနှင့် စက်မှုပညာရပ်များကိုလေ့လာဆည်းပူးခဲ့၏။ ၁၉၂၀ ပြည့်နှစ်တွင် ယော့နယ်စားဒျုဘွဲ့ကို ခံယူပြီးနောက် ၁၉၂၃ ခုနှစ်တွင်အားဘွဲ့ရ စထရက်မိုး နယ်စား၏ သမီးအယ်လစ်ဇဗက်နှင့် လက်ထပ်ခဲ့လေသည်။ ကြင်ယာတော်မှာ စကော့မင်းသွေးပါသော မင်းသမီးတပါးဖြစ်၏။ သို့ဖြင့် ဇနီးမောင်နှံတွင် အယ်လစ်ဇဗက်နှင့် မာဂရက်ဟူ၍ သမီးတော်နှစ်ပါးထွန်းကားခဲ့ရာ သမီးတော်အကြီးဖြစ်သော အယ်လစ်ဇဗက် မင်းသမီးမှာ ထီးညွန့် နန်းလျာဖြစ်သည်။



ဆဋ္ဌမဂျော့ဘုရင်ကိုမင်းမြောက်တန်ဆာဖြင့်တွေ့မြင်ရပုံ

၁၉၃၉ ခုနှစ်တွင်မင်းမိဖုရားနှစ်ပါးတို့သည် ကနေဒါနှင့်အမေရိကန်ပြည်ထောင်စုနိုင်ငံတို့သို့ တိုင်းခမ်းလှည့်လည်ခဲ့ကြ၏။

ဒုတိယကမ္ဘာစစ်ကြီး (၁၉၃၉-၄၅) ဖြစ်လာသောအခါမင်းမိဖုရားနှစ်ပါးတို့မှာ ကြီးလေးသောတာဝန်များကို ရွက်ဆောင်ကြရ၏။ စစ်ကြီးဖြစ်စဉ်ဂျော့ဘုရင်သည် ပြင်သစ်နိုင်ငံရှိစစ်သည်တော်များထံသို့ကိုယ်တိုင်သွားရောက်အားပေးခဲ့၏။ ၁၉၄၃ ခုနှစ်စစ်ပြင်းထန်နေစဉ်တွင် အာဖရိကမြောက်ပိုင်းရှိမဟာမိတ်တပ်များသို့၎င်း၊ မော်လတာကျွန်းသို့၎င်းသွားရောက်ခဲ့၏။ ဗြိတိန်နိုင်ငံရှိစစ်စခန်းများ၊ စစ်နှင့်ဆိုင်သောစက်ရုံများ၊ သင်္ဘောကျင်းများ၊ ဆေးရုံများနှင့်စစ်ဒဏ်ခံကြရသောနေရာများသို့ မင်းမိဖုရားနှစ်ပါးလုံးပင်သွားရောက်အားပေးခဲ့ကြ၏။

ဂျော့သည်ယော့နယ်စားဘဝ၌ ကြင်ယာတော်နှင့်အတူ ၁၉၂၄ ခုနှစ်နှင့် ၁၉၂၅ ခုနှစ်များတွင် အာဖရိကတိုက်ရှိကင်းနယာ၊ ယူဂန်ဒါနှင့်ဆူဒန်နယ်များသို့၎င်း၊ ၁၉၂၇ ခုနှစ်တွင် ဩစတြေးလီးယားနှင့် နယူးဇီလန်သို့၎င်း၊ သွားရောက်လည်ပတ်ခဲ့၏။ ဩစတြေးလီးယားသို့ရောက်စဉ် ဗရားမြို့၌ ပါလီမန်အဆောက်အအုံ ဖွင့်ပွဲကိုတက်ရောက်ခဲ့လေသည်။

ဂျော့သည်ကစားခုန်စားဖက်တွင်ဝါသနာထုံလျက် ဘောလုံးကန်ခြင်း၊ တင်းနစ်ရိုက်ခြင်း၊ ပိုလိုရိုက်ခြင်း၊ အမဲလိုက်ခြင်းတို့တွင် နာမည်ရသူတဦးဖြစ်၏။ ထီးနန်းမစိုးစံမီကပင် စက်မှုအလုပ်သမားများဆိုင်ရာ သက်သာချောင်ချိရေးလုပ်ငန်းများ၌၎င်း၊ လူငယ်ကလပ်အသင်းလုပ်ငန်းများ၌၎င်း၊ စိတ်ရောကိုယ်ပါဆောင်ရွက်ခဲ့၏။ ဘုရင်ဖြစ်ပြီးသည့်နောက်မှပင် ဆောက်သဝေါ၌ နှစ်စဉ်ကျင်းပသောလူငယ်တောစခန်းချပွဲသို့ မပျက်မကွက်တက်ရောက်ခဲ့၏။

သူ၏နောင်တော် အဋ္ဌမအက်ဒွပ်နန်းတက်သောအခါ ဂျော့သည်ထီးညွန့်နန်းလျာဖြစ်လာပြီးနောက် ၁၉၃၆ ခုနှစ်ဒီဇင်ဘာလ ၁၁ ရက်နေ့အဋ္ဌမအက်ဒွပ်ဘုရင်နန်းစွန့်သည့်အခါတွင် ထီးမွေနန်းရာကိုဆက်ခံခဲ့လေသည်။ ဘိသိက်ပွဲကိုမူ ၁၉၃၇ ခုနှစ် မေလ ၁၂ ရက်နေ့တွင်မှကျင်းပခဲ့၏။

၁၉၄၇ ခုနှစ်တွင်ဂျော့ဘုရင်နှင့် မိဖုရားကြီးတို့သည် အယ်လစ်ဇဗက်မင်းသမီးနှင့်အတူ တောင်အာဖရိကနယ်ပယ်များသို့တိုင်းခမ်းလှည့်လည်ခဲ့ကြ၏။ ဧစ်ဘေးစစ်ဒဏ်အလူးအလဲခံခဲ့ရသောနိုင်ငံတော်ကြီးကို ကစဉ့်ကလျားမဖြစ်စေရန် ထိန်းသိမ်းအုပ်ချုပ်ခဲ့လေသည်။

ဆဋ္ဌမဂျော့သည် ၁၉၅၂ ခုနှစ်ဖေဖော်ဝါရီလ ၆ ရက်နေ့တွင်နတ်ရွာစံသည်။

ဆဋ္ဌမဂျော့ဘုရင်လက်ထက် ၁၉၄၈ ခုနှစ်ဦး၌ ကျွန်ုပ်တို့မြန်မာနိုင်ငံသည် ဗြိတိသျှလက်အောက်ခံနိုင်ငံအဖြစ်မှ လွတ်မြောက်၍၊ လွတ်လပ်သောအချုပ်အချာအာဏာပိုင်နိုင်ငံဖြစ်လာခဲ့လေသည်။

ဂျော်တို (ခရစ် ၁၂၇၆-၁၃၃၇)။ ။ဣတာလျံလူမျိုးကမ္ဘာကျော် ပန်းချီဆရာကြီး ဂျော်တိုသည် ဥရောပတိုက်တွင်အနုပညာရပ်များပြန်လည်ဆန်းသစ်လာစကထွန်းကားခဲ့သည်။ သူ၏နာမည်အပြည့်အစုံမှာ ဂျော်တိုဒီဗွန်ဒိုးနေးဖြစ်သည်။ ဂျော်တိုသည် ဣတာလီမြောက်ပိုင်းရှိဖလော်ရင့်မြို့အနီး ရွာကလေးတရွာတွင် မွေးသည်ဟုအဆိုရှိသည်။ သူ၏ဖခင်မှာလယ်ပိုင်ရှင်တဦးဖြစ်၍ ကိုယ်ပိုင်လယ်ယာများ

ကိုလုပ်ကိုင်ခြင်းဖြင့် အသက်မွေးမှုကြောင်းသိရှိရသည်။ ဂျော်တိုသည်ကလေးဘဝက လမ်းပေါ်တွင်သိုးရုပ်တရုပ်ရေးဆွဲနေသည်ကို ထိုအခါကထင်ရှားသော ပန်းချီဆရာကြီးချီမားဗူး ကတွေ့သဖြင့် ဂျော်တိုကိုခေါ်သွားပြီးလျှင် ပန်းချီအတတ်ကိုသင်ကြားပေးသည်ဟုဆိုသည်။ ဂျော်တိုသည် ချီမားဗူးနှင့်တွေ့ပြီးနောက် ထိုဆရာကြီးထံမှာပင် တပည့်ခံကာပန်းချီပညာကိုလေ့လာလိုက်စားခဲ့ရာ၊ မူလပါရမီခံရှင်သန်ပြီး သူဖြစ်သည့်အတိုင်း မကြာမီပင် ပန်းချီအတတ်တွင် ထက်မြက်ထူးချွန်လာလေသည်။ ဘဝကိုဖော်ကြရာတွင် ဂျော်တိုသည်သူမတူအောင်ကောင်းမွန်သေချာလှသည်။

ဂျော်တိုရှေးဦးစွာရေးဆွဲခဲ့သောပုံများမှာ အဆီဇီဘုရားရှိခိုးကျောင်းအတွင်းရှိ အဆီဇီစိန်ဖရန်းစစ်၏အတ္ထုပ္ပတ္တိကားများဖြစ်သည်။ သူသည်လူပုံများကိုရေးဆွဲရာတွင် သက်ရှိလူများကိုကြည့်၍ရေးဆွဲလေ့ရှိသည်။ ထိုပန်းချီကားများကို သူ၏ဆရာကြီးကိုယ်တိုင်စတင်ရေးဆွဲ၍အပြီးမသတ်သေးခင် ကွယ်လွန်သွားသောကြောင့် ဂျော်တိုကပင်တာဝန်ယူ၍ အပြီးသတ်အထိဆက်လက်ရေးဆွဲခဲ့သည်ဟုအဆိုရှိသည်။

ထိုနောက်ဂျော်တိုသည်ရောမမြို့သို့သွားရောက်ကာ ရှေးဟောင်းရောမပြည်၏ ခမ်းနားသော အနုပညာရပ်များကိုလေ့လာဆည်းပူးခဲ့လေသည်။

ထိုနောက်ပက်ဒူအားမြို့သို့သွားရောက်ပြီးလျှင် ရှေးခေတ်ရောမပြည်၏ အရီနာမြို့တည်ရာအရပ်ရှိ စိန်မေရီဘုရားရှိခိုးကျောင်း၏ အတွင်းဖက် ၄ မျက်နှာလုံးကို ပန်းချီကားများရေးဆွဲပေးလေသည်။

ရောမမြို့တွင်စိန်ပီတာဘုရားရှိခိုးကျောင်းကြီးကို တည်ဆောက်ပြီးသောအခါ အတွင်းဖက်၌ တန်ဆာဆင်ယင်ရန်အတွက် နိုင်ငံတွင်းရှိ သုခုမပညာသည်များကိုပုပ်ရဟန်းမင်း၏ အမိန့်ဖြင့်လိုက်လံရှာဖွေ၍ လက်ရာများကို တောင်းယူသည်။ ထိုသူများအနက်ဂျော်တိုအားစိတ်တိုင်းကျသဖြင့် အလျင်အမြန်ခေါ်ယူ၍ရေးခြယ်စေသည်။


ဇာတာလျံပန်းချီကျော်ဂျော်တိုဒီဗွန်ဒိုးနေး

ဂျော်တိုသည် အလုပ်နှင့်လက်မပြတ်ဘဲ အချိန်ရှိသမျှပန်းချီကားများကို ရေးခြယ်နေသောပညာသည်ကြီးဖြစ်သည်။ ကမ္ဘာ့စာပေသမိုင်းတွင်ထင်ရှားလှသော စာဆိုတော်ကြီးဒန်တီမှာ သူနှင့်ရင်းနှီးခင်မင်သောမိတ်ဆွေဖြစ်သည့်ပြင် အကြံဉာဏ်ပေးပုဂ္ဂိုလ်လည်းဖြစ်သည်။ ဂျော်တို၏လက်ရာကောင်းများသည်ပန်းချီကားများအဖြစ်သာအများအပြားကျန်ရစ်သောကြောင့် သူ့အားပန်းချီဆရာအတတ်၌သာကျွမ်းကျင်သူဟု ထင်မြင်ဖွယ်ဖြစ်သော်လည်း၊ ဗိသုကာအတတ်နှင့်ရုပ်လုံးဖော်အတတ်တွင်လည်း ကျွမ်းကျင်လှသူဖြစ်သည်။ ဖလော်ရင့်မြို့ရှိ ဂျူအိုမိုဘုရားရှိခိုးကျောင်းခေါင်းလောင်းစင်ကြီးနှင့် ဂျော်တိုမျှော်စင်အဆောက်အအုံကြီးများ၏ပုံစံများမှာ ဂျော်တိုရေးဆွဲခဲ့သောပုံစံများဖြစ်သည်သာမက သူကိုယ်တိုင်ကြီးကြပ်ဆောက်လုပ်ခဲ့ရသောအဆောက်အအုံကြီးများဖြစ်ပေသည်။ သို့ရာတွင် ထိုအဆောက်အအုံကြီးများဆုံးခန်းသို့မရောက်မီ ၁၃၃၇ ခုနှစ်၌ ပန်းချီဆရာကြီးဂျော်တိုကွယ်လွန်လေသည်။ သူ၏တပည့်များကဆက်လက်၍လက်စသတ်သည်။ သူ၏ရုပ်အလောင်းကိုကြီးကျယ်ခမ်းနားစွာဂုဏ်ပြုလျက်သူတည်ဆောက်ထားခဲ့သော ဖလော်ရင့်မြို့ရှိထင်ရှားသည့် ဂျူအိုမိုဘုရားရှိခိုးကျောင်းကြီးအတွင်း၌ အမှတ်တရမြှုပ်နှံထားကြလေသည်။

## ဂျော်ဒန်နိုင်ငံ။

။ဂျော်ဒန်နိုင်ငံကို ယခင်က ထရန်စဂျော်ဒန်ဟုခေါ်သည်။ သို့ရာတွင် အမီအင်ဒူလာဘုရင် လက်ထက်၌ ၁၉၄၆ ခုနှစ်ဇွန်လ ၁၇ ရက် နေ့တွင်အတည်ပြုသော အပြည်ပြည်ဆိုင်ရာစာချုပ်အရ ထရန်စဂျော်ဒန်အမည်ကို ဂျော်ဒန်ဟုပြောင်းလိုက်၏။ သို့သော်ထိုအမည်ကို ၁၉၄၉ ခုနှစ်ရောက်မှပင် အများကအသုံးပြုလာကြလေသည်။

ထရန်စဂျော်ဒန်ဟုခေါ်ဝေါ်ရခြင်းမှာ ထိုပြည်ငယ်သည် မြေထဲပင်လယ်၏ အရှေ့ဖက်ကမ်းခြေဒေသရှိ ဂျော်ဒန်မြစ်ကိုဖြတ်လျက်တည်ရှိသောကြောင့်ဖြစ်ပေသည်။ ထိုပြည်၏အကျယ်အဝန်းမှာ စတုရန်းမိုင် ၃၄,၇၅၀ ရှိသည်။ လူဦးရေမှာ မူလက ၃၅၀,၀၀၀ ခန့်ရှိသည်ဟုဆိုသည်။ သို့သော်ယခုအခါလူဦးရေ ၁,၃၃၂,၉၇၉ ခန့်ရှိသည်ဟုခန့်မှန်းရသည်။ အစ္စလမ်အယူဂါဒီ အာရပ်လူမျိုးတို့နေထိုင်ရာ အာရပ်တိုင်းပြည်ဖြစ်၍ သူတို့၏နေထိုင်ပုံစနစ်မှာ အလွန်ရှေးရိုးကျသေး၏။ ရှေးရောမအင်ပိုင်ယာခေတ်က လယ်ယာစိုက်ပျိုးသောတိုင်းပြည်ဖြစ်ခဲ့သော်လည်း၊ နောင်အခါနှစ်ရာပေါင်းများစွာ လယ်မြေတို့ကိုပစ်ထားခဲ့သောကြောင့်၎င်း၊ မိုးနည်းပါးသွားသောကြောင့်၎င်း၊ လယ်မြေတို့မှာ စိုက်ပျိုး၍မဖြစ်

ထွန်းတော့ဘဲ ဂျော်ဒန်မြစ်တလျှောက် ကျဉ်းမြောင်းသော မြေကွက်အနည်းငယ်တွင်သာ ဂျုံ၊ မုယောစပါးနှင့် သစ်သီးများကိုစိုက်ပျိုးလုပ်ကိုင်ကြ၏။ ကုန်းမြင့်ဒေသများတွင်၊ စပျစ်ခြံများကိုလုပ်ကိုင်ကြသည်။ များစွာသောအာရပ်တို့မှာကား သိုး၊ ဆိတ်များကို တနေရာမှတနေရာသို့ လှည့်လည်ထိန်းကျောင်းကြလေသည်။ ထိုပြည်တွင်ရှိသောဓာတ်သတ္တုများမှာ ဖော့စဖိတ်နှင့်ပိုတက်တို့ဖြစ်သည်။ မြို့တော်မှာအမ္မန်ဖြစ်၏။ ထိုပြည်၏ဒေသအများသည်သဲကန္တာရဖြစ်၍ ရာသီဥတုမှာခြောက်သွေ့ ပြီးလျှင်နေ့အခါပူ၍ညဖက်တွင် ချမ်းအေးလှလေသည်။

ရှေးအခါက ထရန်စဂျော်ဒန် နှင့် ပါလက်စတိုင်း တို့မှာတပြည်တည်းဖြစ်၍ ပဌမကမ္ဘာစစ်အပြီးတွင် ထရန်စဂျော်ဒန်ကိုတပြည် သတ်သတ် ခွဲထုတ် ပေး ခဲ့ လေသည်။ သို့သော် ဗြိတိသျှ ဩဇာခံပြည် တ ခု ဖြစ် သည်။ ပဌမ နှင့် ဒု တိ ယ ကမ္ဘာစစ်ကြီးအကြားတွင် ထိုပြည်နယ်၌ယဟူဒီနှင့်အာရပ်တို့၏ အဓိကရုဏ်း များ မကြာခဏဖြစ်ပွားသည်။ ဒုတိယကမ္ဘာစစ်ကြီး အတွင်းကမူ ယဟူဒီရောအာရပ်တို့ပါ ဂရိတ်ဗြိတိန်ဖက်မှကူညီတိုက်ခိုက်ပေးကြသည်။

၁၉၄၆ ခုနှစ်တွင်ထရန်စဂျော်ဒန်မှာ ဘုရင်အုပ်စိုးသည့် လွတ်လပ်သောဂျော်ဒန်နိုင်ငံဟူ၍ဖြစ်လာ၏။ ဂရိတ်ဗြိတိန်နှင့်အနှစ် ၂၀ မဟာမိတ်စာချုပ်ချုပ်ဆိုထားသော်လည်း အကြောင်းရှိလာပါက ဂျော်ဒန်ကအာရပ်နိုင်ငံအဖွဲ့ကိုသာ ပဌမဦးစားပေးကာ ကူညီမည်ဖြစ်ကြောင်း ထုတ်ဖော်ကျေညာထားလေသည်။ ဂျော်ဒန်နိုင်ငံမှာအိန္ဒိယနှင့် ဥရောပတို့ဆက်သွယ်သည့် ကုန်းလမ်း ခရီးကြောင်းတွင် အရေးပါသော နိုင်ငံ တနိုင်ငံ အဖြစ် ဖြင့်ထင်ရှားသိရှိကြလေသည်။




ဂျော်ဒန်နိုင်ငံခေါ် ထရန်စ ဂျော်ဒန်၏တည် နေရာပြမြေပုံ

**ဂျော့ဂျီးယားပြည်နယ် (အမေရိက)။** ။ဂျော့ဂျီးယားနယ်သည် အမေရိကန်ပြည်ထောင်စု မူရင်းနယ် ၁၃ နယ်တွင် အပါအဝင်ဖြစ်လေသည်။ အင်္ဂလန်နိုင်ငံ ဒုတိယဂျော့ဘုရင်ကိုအစွဲပြု၍ ဂျော့ဂျီးယားဟုတွင်သည်။ ခရစ် ၁၇၃၃ ခုနှစ်တွင်တည်ထောင်သည်။ အမေရိကန်ပြည်ထောင်စု၏ အတ္တလန္တိတ်ကမ်းရိုးတန်း တောင်ပိုင်းတွင် တည်ရှိလေသည်။ ထိုနယ်၏အနောက်ဖက်၌ အယ်လဗားမားပြည်နယ်၊ အရှေ့ဖက်၌တောင်ကယ်ရိုလီးနားပြည်နယ်နှင့် အတ္တလန္တိတ်သမုဒ္ဒရာ၊ မြောက်ဖက်၌ တင်နက်ဆီပြည်နယ်နှင့် မြောက်ကယ်ရိုလီးနားပြည်နယ်၊ တောင်ဖက်၌ ဖလော်ရီဒါပြည်နယ်တို့ရှိသည်။

ထိုပြည်နယ်၏ အကျယ်အဝန်းမှာ စတုရန်းမိုင် ပေါင်း ၅၈,၈၇၆ ရှိ၍ လူဦးရေမှာ ၁၉၅၀ ပြည့်နှစ် သန်းကောင် စာရင်းအရ ၃,၄၄၄,၅၇၈ ဖြစ်လေသည်။ ယင်းအနက်ကပ္ပလီလူမျိုးတို့၏ဦးရေမှာ ၁,၀၀၀,၀၀၀ ကျော်လေသည်။

ဂျော့ဂျီးယား နယ်ကို ၁၅၄၀ ပြည့်နှစ်တွင် ဒီဆိုးတိုး အမည်ရှိဥရောပတိုက်သားတဦးက ပဌမဦးစွာရှာဖွေတွေ့ရှိခဲ့သော်လည်း ထိုနောက်နှစ်ပေါင်း ၂၀၀ ခန့်ကြာသောအခါမှသာ ထိုနယ်တွင်ဥရောပတိုက်သားများ အခြေတကျနေထိုင်စပြုကြလေသည်။

ဂျော့ဂျီးယားပြည်နယ်၏ရာသီဥတုမှာ တနေရာနှင့်တနေရာမတူချေ။ ဂျော့ဂျီးယား တောင် ပိုင်း ၏ ရာသီဥတုသည် ဖလော်ရီဒါ မြောက် ပိုင်း ၏ ရာသီဥတုနှင့် တူ၏။ သို့ရာတွင် ပူလွန်း၊ အေးလွန်းသောရာသီဥတုမျိုးကား မည်သည့်အပိုင်းတွင်မျှမရှိသဖြင့် ယေဘုယျအားဖြင့်ဂျော့ဂျီးယားပြည်နယ်သည် သမမျှတသော ရာသီဥတုရှိသည်ဟု ဆိုနိုင် ပေသည်။ မြောက်ပိုင်းတွင် မိုးအများဆုံးရွာသွန်း၍ အရှေ့ပိုင်းတွင်မိုးအနည်းဆုံးဖြစ်လေသည်။ ပျမ်းမျှမိုးရေချိန်မှာလက်မ ၅၀ ခန့်ဖြစ်လေသည်။

ဂျော့ဂျီးယားနယ်တွင် လယ်ယာစိုက် ပျိုး ရေး လုပ်ငန်းကို အကြီးအကျယ် လုပ်ကိုင်ကြ၍ ဝါဂွမ်းကို အများဆုံးစိုက်ပျိုးကြ၏။ အခြားစိုက်ပျိုးသောအသီးအနှံတို့မှာဂျုံ၊ ပြောင်း၊ ကန်စွန်းဥ၊ ဆေးပင်စသည်တို့ဖြစ်လေသည်။ သစ်တောများမှာလည်း စတုရန်းမိုင်ပေါင်း ၄၀,၈၀၀ ခန့်ရှိလေသည်။ စက်မှုလက်မှုလုပ်ငန်းများလည်းရှိရာ ယခုအခါရေအားသုံး လျှပ်စစ်အားကြောင့် တနေ့တခြားကြီး

ပွားတိုးတက်လျက်ရှိပေသည်။ ဂျော်ဂျီးယားပြည်နယ်သည် အမေရိကန်ပြည်ထောင်စုထဲတွင် မြေစေးဖြူအများဆုံးထွက်ရာအရပ်ဖြစ်သည်။ ဂျော်ဂျီးယားနယ်မှထွက်သောဓာတ်သတ္တုများမှာ နှမ်းဖတ်ကျောက်၊ စကျင်ကျောက်၊ မန်ဂနိ၊ ကန့်ကူ၊ ရွှေငွေနှင့်လချေးတို့ဖြစ်သည်။

ဂျော်ဂျီးယားပြည်နယ်၏မြို့တော်မှာ အတ္တလန္တာမြို့ဖြစ်၍ လူဦးရေ ၃၃၁,၃၁၄ ရှိလေသည်။ ဗရန်ဇွစ်နှင့်ဆာဗန္နာမြို့များမှာ အရှေ့ဖက်ကမ်းခြေတွင်ရှိ၍ သင်္ဘောဆိပ်ကမ်းမြို့များဖြစ်လေသည်။

**ဂျော်ဂျီးယားပြည်နယ် (အာဂျ)**။ ။ပင်လယ်နက်နှင့် ကက်စပျန်ပင်လယ် ၂ ခုကြားတွင် ကော်ကေးဆပ်တောင်တန်းများရှိသည်။ ထိုတောင်တန်းများကိုအစွဲပြု၍ ထိုဒေသတဝိုက်ကို ကော်ကေးဆပ်ဒေသဟုခေါ်တွင်သည်။ ဂျော်ဂျီးယားပြည်နယ်သည် ထိုဒေသတွင်ရှိ၍ ဆိုဗီယက်နိုင်ငံတွင်ပါဝင်သောပြည်နယ်တနယ်ဖြစ်သည်။ ကော်ကေးဆပ်တောင်တန်းနှင့် အာမီးနီးယားနယ်တို့၏ အကြားတွင်တည်ရှိ၏။ အကျယ်အဝန်းအားဖြင့် စတုရန်းမိုင်ပေါင်း ၂၉,၀၀၀ ကျယ်၍ လူဦးရေ ၃,၅၄၂,၃၀၀ ရှိသည်။ ရုရှနိုင်ငံ၏ကွယ်လွန်ခဲ့သူ သမတစတာလင်သည် ဂျော်ဂျီးယားနယ်တွင်ဖွားမြင်သူဖြစ်၏။ ထိုနယ်၏မြို့တော်မှာတစ်ဖလစ်မြို့ဖြစ်၍ လူဦးရေ ၅၁၉,၁၇၅ ခန့်ရှိသည်။ ဗာတွမ်းမြို့သည် ဂျော်ဂျီးယားနယ်၏သင်္ဘောဆိပ်မြို့ကြီးဖြစ်၏။

ဂျော်ဂျီးယားနယ်တွင် အများအားဖြင့် လယ်ယာလုပ်ငန်းကိုလုပ်ကိုင်ကြသည်။ အထူးသဖြင့် လက်ဖက်၊ ပြောင်း၊ ဆေးပင်၊ ပိုးစာပင်၊ စပျစ်သီး၊ ဝါဂွမ်းများကို စိုက်ပျိုးလုပ်ကိုင်ကြသည်။ သဘာဝတွင်းထွက်ပစ္စည်းများစွာရရှိ၍ ကမ္ဘာပေါ်တွင်မန်ဂနိအများဆုံးထွက်ရာဒေသဖြစ်သည်။ အဖိုးတန်သစ်တောကြီးများရှိသော်လည်း သစ်လုပ်ငန်းကိုကားကောင်းစွာမလုပ်ကြသေးချေ။ ဆိုဗီယက်အစိုးရ၏ကြီးမှူးဆောင်ရွက်ချက်ကြောင့် ရေအားဖြင့် ခုတ်မောင်းသော လျှပ်စစ်ဓာတ်ရုံကြီးများ ဆောက်လုပ်၍ သဘာဝပစ္စည်းများကိုတူးဖော်ရာ၌ တွင်ကျယ်စွာအသုံးပြုလျက်ရှိသည်။ ဂျော်ဂျီယန်းဘာသာစကားကို တောင်ဖက်ကော်ကေးဆပ်နယ်အားလုံးလိုလို၌ပင်ပြောကြ၍ ယခုအခါရုံးသုံးဘာသာစကားဖြစ်လာလေပြီ။ ဂျော်ဂျီယန်းလူမျိုးများသည် ရုပ်ဆင်းအင်္ဂါလှပကြသည့်အပြင် ကစားခုန်စား၌လည်းထူးချွန်ကြပေသည်။

ဂျော်ဂျီးယားပြည်နယ်သည် နှစ်ပေါင်း ၂၀၀၀ ကျော်အောင်ပင် မင်းဆက်မပြတ်ဘဲ ကိုယ့်မင်းကိုယ့်ချင်းနှင့်နေလာသောနိုင်ငံဖြစ်သည်။ ၁၈၀၁ ခုနှစ်တွင် တူရကီတို့၏ဘေးရန်မှကင်းလွတ်ရန် ရုရှနိုင်ငံ၏လက်အောက်ခံအဖြစ်ဝင်ရောက်လာသည်မှ ရုရှပိုင်နယ်တနယ်ဖြစ်လာသည်။ ၁၉၁၇ ခုနှစ်ရုရှတော်လှန်ရေးကြီးပြီးဆုံးအောင်မြင်လာသောအခါ ထိုနယ်၏လွတ်လပ်ရေးကိုကျေညာခဲ့သည်။ ၁၉၂၂ ခုနှစ်တွင် အဇာဗိုင်ဂျန်နယ်၊ အာမီးနီးယားနယ်တို့နှင့်ပူးပေါင်း၍ ထရန်စကော်ကေးရှန်း ဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံအဖြစ်တည်ထောင်ခဲ့သည်။ ၁၉၃၆ ခုနှစ်မှစ၍ ဆိုဗီယက်ရုရှနိုင်ငံအစိုးရ၏လက်အောက်ခံ၊ ဆိုဗီယက်သမတနိုင်ငံငယ်တခုအဖြစ်ဖြင့် သီးခြားတည်ရှိခဲ့လေသည်။



အာဂျတိုက်ရှိ ဂျော်ဂျီးယားပြည်နယ်မြို့တော်တစ်ဖလစ်မြို့

**ဂျော်ဖား, ဂျေ၊ ဂျေ၊ စီ (ခရစ် ၁၈၅၂–၁၉၃၁)**။ ။ပဌမကမ္ဘာစစ်အတွင်း၊ အနိုင်နိုင်ငံတွင်စစ်နှင့်စပ်လျဉ်း၍ထင်ရှားသော ပုဂ္ဂိုလ်ကျော်များစွာရှိကြသည့်အနက် ပြင်သစ်နိုင်ငံမှအာဇာနည်ပုဂ္ဂိုလ်ကြီးမှာဂျိုးဆက်ဇက်ဆေးဇားဂျော်ဖားဆိုသူ စစ်သေနာပတိပင်ဖြစ်၏။ ဂျော်ဖားသည် ၁၈၅၂ ခုနှစ်ဇန္နဝါရီလ ၁၂ ရက်နေ့တွင် ပီးရနီးနယ်၌ဖွားမြင်သည်။ သူ၏ဖခင်မှာ ဝိုင်အရက်စည်လုပ်သူလက်သမားဖြစ်၏။ ၁၈၆၉ ခုနှစ်တွင် စက်မှုလက်မှုပညာသင်ကျောင်း၌ပညာသင်ယူစဉ် ၁၈၇၀ ပြည့်၌ ပြင်သစ်နှင့်ဂျာမနီတို့စစ်ဖြစ်ကြရာ၊ ကျောင်းမှထွက်၍စစ်ထဲဝင်သည်။ ထိုစစ်ပွဲတွင် ပြင်သစ်တို့အရေးရှုံးနိမ့်ရသည်ကို အသက် ၁၈ နှစ်ရွယ်မျှသာရှိသေးသောဂျော်ဖားသည် အခဲမကြေဖြစ်ခဲ့ရသည်။

ထိုစစ်ပွဲအပြီးတွင် ဂျော့ဖားသည်ပညာကို ဆက်လက်သင်ကြားရာ၊ ၂ နှစ်အတွင်းအင်ဂျင်နီယာဖြစ်လာသောကြောင့် စစ်တပ်အင်ဂျင်နီယာတပ်စုတွင် ဝင်ရောက် အမှုထမ်း သည်။ ပါရစ်မြို့ခံတပ်ကြီးကို တည်ဆောက်ရာတွင် ဂျော့ဖားလည်း အင်ဂျင်နီယာတဦးအဖြစ် ပါဝင်အမှုထမ်းရွက်ခဲ့လေသည်။


စစ်သူကြီးဂျေ၊ ဂျေ၊ စီ၊ ဂျော့ဖား

ဂျော့ဖား သည် အသက် ၂၄ နှစ်အရွယ်၌ ဗိုလ်ကြီး အဆင့် အ တန်း သို့ တိုး မြှင့် ခန့် ထား ခြင်း ခံ ရ သည် ။ ထို နောက် သူ၏ ဇနီး ကွယ် လွန် သ ဖြင့် စိတ် ပြေလက် ပျောက် ဆိုဘိသကဲ့ သို့ အင် ဒိုချိုင်းနား သို့ ရွှေ့ပြောင်းသည်။ ၁၈၈၈ ခုနှစ်တွင် ပါရစ် သို့ပြန် လာ ပြီး လျှင်၊ စစ် တပ် မီး ရ ထား ဌာ န၌ အမှုထမ်းသည်။ ထိုနောက် ဗိုလ်မှူး ဖြစ် လာသည်။ ၁၉၀၀ ပြည့်နှစ်၌တပ်မဟာဗိုလ်ချုပ်၊ ၁၉၀၅ ခုနှစ်၌တပ်မကြီးဗိုလ်ချုပ်ဟူ၍ အဆင့်ဆင့် ရာထူးတိုးလာခဲ့လေသည်။

၁၉၁၄ ခုနှစ်ကမ္ဘာစစ်ကြီးဖြစ်သောအခါ ဂျော့ဖားသည် ပြင်သစ်နှင့်မဟာမိတ် ၂ ဦးပေါင်း စစ်တပ်များ၏စစ်သူကြီး ဖြစ်လာသည်။ ထိုစဉ်က သူ၏အမိန့်လွှာများတွင်ပါရှိသော 'ရဲဘော်တို့၊ ငါတို့တိုက်စစ်ဆင်နေကြပြီ၊ ရှေ့သို့တက်နိုင်သမျှတက်ကြလော့၊ မတက်နိုင်လျှင်၊ သိမ်းပိုက်ပြီးနေရာကိုလက်မလွှတ်စေနှင့်၊ လက်လွှတ်ရလျှင်သေကြကုန်လော့' ဟူသောအမိန့်များသည်၎င်း၊ 'စံနစ်ကျမှအောင်မြင်သည်' ဟူသောသြဝါဒသည်၎င်း၊ သူ၏စစ်သည်တော်များအတွက် အဖိုးတန်စကားများဖြစ်ချေသည်။

ဂျော့ဖားသည် စစ်သားတို့၏ချစ်ကြောက်ရိုသေခြင်းကို ခံရသူဖြစ်ရာ၊ စစ်သားများက သူ့အားဖခင်ကြီးဂျော့ဖား ဟုခေါ်ကြသည်။ ထိုစစ်သားကောင်းအာဇာနည်ပုဂ္ဂိုလ်သည် ၁၉၃၁ ခုနှစ်ဇန်နဝါရီလ ၃ ရက်နေ့၌ကွယ်လွန်သည်။

**ဂျိုဟန္နက်စဗတ်မြို့။** ။ဂျိုဟန္နက်စဗတ်မြို့သည် ထရန်စဗားပြည်နယ်မြို့တော်ဖြစ်၍ အာဖရိကတိုက်၏တောင်ပိုင်းတွင် အနေအထား အလှပဆုံး နှင့် အရောင်း အဝယ် အစည်ကားဆုံးမြို့ဖြစ်လေသည်။

မြို့၏ တောင် ဖက် တွင် ရွှေ အမြောက် အမြား ထွက် ရာ တောင်တန်းကြီးတခုတည်ရှိ၍၊ မြို့၏တောင်ဖက်၊ အရှေ့ဖက်နှင့်အနောက်ဖက်များတွင် ရွှေတွင်းများ၊ အလုပ်ရုံများ၊ အလုပ်သမားတန်းလျားများဖြင့်ပြည့်နှက်နေ၏။ မြို့ပေါ်ရှိ လမ်း များ မှာ လည်း လေး ကွက် ကျား ချ၍ ထားဘိသကဲ့သို့ အရှေ့နှင့်အနောက်၊ တောင်နှင့်မြောက်တည့်မတ်စွာတည်ရှိ၍ အလွန်လှပသောမြို့တမြို့ဖြစ်လေသည်။

ခရစ် ၁၈၈၆ ခုနှစ်ကထရန်စဗားနယ် သတ္တုတူးဖော်ရေးဖက်ဆိုင်ရာမြေတိုင်းမင်းကြီး ဂျိုဟန္နက်ရစ်ဆက်၏အမည်ကို အစွဲပြုပြီးလျှင် ဂျိုဟန္နက်စဗတ်မြို့ဟုခေါ် တွင်ခဲ့ကြ၏။ ထိုမြို့မှကိပ်ကို လိုနီမြို့ကြီးများ၊ နာတဲပြည် နယ်ရှိမြို့ကြီးများနှင့်မီးရထားလမ်းအဆက်အသွယ်ကောင်းခြင်းဖြင့် သတ္တုတူးဖော်ရေးလုပ်ငန်းကိုပို၍ဖွံ့ဖြိုးအကျိုးဖြစ်ထွန်းစေ၏။


ဂျိုဟန္နက်စဗတ်မြို့ရှိအမြင့်ဆုံးအဆောက်အအုံ

ဝစ်ဝေါတားဆရန်းခေါ် သည့် ရွှေထွက် ရာတောင် ကျောမှာ ၆၁ မိုင်ရှည် လျား ၍၊ ကမ္ဘာပေါ် တွင် ရွှေအထွက် ဆုံးနေရာအဖြစ်ဖြင့် ထင်ရှားကျော်စောပြီးလျှင် ယင်းဒေသ၏ သတ္တုတူးဖော်ရေးလုပ်ငန်းများကို အမှီပြု၍တည်ထားသော ဂျိုဟန္နက် စဗတ် မြို့ ကို လည်း 'ရွှေမြို့တော်ကြီး' ဟူသော အမည်ကိုပင်ပေးထားကြလေသည်။

မျူနီစီပ ယ်အဆောက် အအုံ များ၊ မြို့တော် ခန်း မကြီး၊ တက္ကသိုလ်ကျောင်းတော်ကြီး၊ အနုပညာပြခန်း၊ စာတိုက်ရုံး၊ တရားရုံးများမှစ၍ကြီးကျယ်ခမ်းနားသော အဆောက်အအုံကြီးများမှာ မြို့၏ ကျက် သရေဆောင် များ ဖြစ် ကြ၍

အခြားကျော်စောထင်ရှားသောနေရာများမှာ မြင်းပြိုင်ကွင်းနှင့်တိရစ္ဆာန်ရုံစသည်တို့ဖြစ်၏။

မြို့အကျယ်အဝန်းမှာ စတုရန်းမိုင် ၇၉ မိုင်ရှိ၍ လူဦးရေ ၈၈၀,၀၀၀ ကျော်ခန့်ရှိလေသည်။

**ဂျိုးဇဖင်းမိဖုရား။** ။ပြင်သစ်စစ်ဘုရင်နပိုလီယန်ဗိုနပတ်၏ ချစ်ဇနီး မာရီရို ဂျိုးဇဖင်းသည် ပြင်သစ်ပိုင်အနောက်အိန္ဒိယကျွန်းစုတွင် အပါအဝင်ဖြစ်သောမားတီနစ်ကျွန်း၌ ခရစ် ၁၇၆၃ ခုနှစ် ဇွန်လ ၂၃ ရက်နေ့တွင်ဖွားမြင်သည်။ ဂျိုးဇဖင်းသည် ရေကြောင်းတပ်စုဗိုလ်ကလေး ဂျိုးဇက်တရှဲဒီလာပါဇရီး၏သမီး ၃ ယောက်အနက် အကြီးဆုံးဖြစ်၍၊ ရုပ်ရည်ချောမွေ့လှပသည့်ပြင် ဉာဏ်ပညာလည်းထက်မြက်သူဖြစ်၏။ ပေါင်းသင်းဆက်ဆံရေးတွင် လိမ်မာရေးခြားရှိသဖြင့် ပါရစ်မြို့မျက်နှာကြီးပိုင်း၌ ဝင်ဆံ့သူတယောက်ဖြစ်ပေသည်။ ဂျိုးဇဖင်းသည် ဗိုင်းကောင့် အယ်လက်ဇန္ဒာဗိုးအာနန်နှင့် ပဌမအိမ်ထောင်ပြုခဲ့၏။ ဗိုးအာနဲမှာပြင်သစ်တော်လှန်ရေးအတွင်း၌ အသတ်ခံရလေသည်။ ဂျိုးဇဖင်းကိုယ်တိုင်လည်း အချုပ်ခံရပြီး အသတ်ခံရမည့်ဘေးမှလက်မတင်ကလေးလွတ်ခဲ့လေသည်။ ပဌမအိမ်ထောင်ဖြင့်ဂျိုးဇဖင်းတွင် ယူဂျင်းခေါ်သားတယောက်နှင့် ဟော်တင်းယူဂျင်းနီ ခေါ်သမီးတယောက်ကျန်ရစ်ခဲ့လေသည်။

မုဆိုးမချော ဂျိုးဇဖင်း၏ ဖော်ရွေမှုနှင့် လူမှုရေးရာနားလည်မှုသတင်းမှာ ပါရစ်မြို့တွင်ပျံ့နှံ့နေခဲ့ရာ နောက်ဆုံး၌ပြင်သစ်အမြောက်တပ်မှ အရာရှိကလေး နပိုလီယန်ဗိုနပတ်နှင့်ဆုံစည်းမိလေတော့သည်။ နပိုလီယန်သည် ဂျိုးဇဖင်းကို ကလေး ၂ ယောက်၏မိခင်မုဆိုးမဖြစ်မှန်းသိသော်လည်း တကယ်ပင်ချစ်ခင်မြတ်နိုးလှသဖြင့် ၁၇၉၆ ခုနှစ်မတ်လ ၈ ရက်နေ့တွင် ထိမ်းမြားလက်ထပ်လိုက်လေ၏။ ဂျိုးဇဖင်းမှာ မိန်းမချောတယောက်ဖြစ်သောကြောင့် နပိုလီယန်နှင့်လက်ထပ်ခြင်းမှာ လူတကာအတင်းပြောစရာအကြောင်းဖြစ်သွားခဲ့၏။ ထိုကြောင့် နပိုလီယန်စစ်ထွက်နေစဉ်အတွင်း ဂျိုးဇဖင်းမှာ



ပြင်သစ်ဧကရာဇ်နပိုလီယန်၏မိဖုရားကြီးဂျိုးဇဖင်း

သယောက်လင်ယော်များနှင့် အချစ်စခန်းဖွင့်လေ့ရှိသည်ဟုဆိုကြသည်။ ထိုသတင်းဆိုးကို နပိုလီယန်ကြားသိသောအခါ ပြင်းစွာအမျက်ထွက်သည်ဟုလည်းဆိုကြ၏။ ထိုမှတပါးဂျိုးဇဖင်းသည် သူ့ယောက်ျားကိုနိုင်သည့်အကြောင်းနှင့် စပ်လျဉ်းသော အကြောင်းအရာများပေါ် ထွက်လာခဲ့သော်လည်း မှန်သည်ဟုအထောက်အထားပြ၍ ပြောဆိုရန်ကားခဲယဉ်းလှပေသည်။

သို့သော် နပိုလီယန်သည် ဂျိုးဇဖင်းနှင့် လက်ထပ်လိုက်သဖြင့် စိတ်ပျော်ရွှင်ချမ်းမြေ့မှုရရှိခဲ့သည်မှာအမှန်ပင်ဖြစ်လေသည်။ ဂျိုးဇဖင်းမှာအတန်ဉာဏ်ထက်မြက်သူဖြစ်ရာ နပိုလီယန်ကို အကြံကောင်းဉာဏ်ကောင်းများ ပေးလိမ့်မည်မှာယုံမှားဖွယ်ရာမရှိပေ။

နပိုလီယန်နှင့် လက်ထပ်ထိမ်းမြားပြီးနောက် ၁၀ နှစ်အတွင်းဂျိုးဇဖင်းသည်ပြင်သစ်အင်ပိုင်ယာ၏ ဧကရီမိဖုရားကြီးဖြစ်လာသည်။ ၁၈၀၄ ခုနှစ်တွင်နပိုလီယန်ကိုယ်တိုင် ဂျိုးဇဖင်းအားသရဖူဆောင်းပေး၍မိဖုရားအဖြစ်ဘိသိက်မြှောက်ခဲ့လေသည်။ ဂျိုဇဖင်းမှာနပိုလီယန်နှင့်သားသမီးမရချေ။ ထိုအခါနပိုလီယန်သည် သူ၏ထီးမွေနန်းမွေဆက်ခံမည့်သူမရှိဘဲ သေဆုံးသွားမည်ကိုရင်း၊ ထိုသို့သေဆုံးသွားလျှင်သူကြိုးပမ်းပြုစုပျိုးထောင်ခဲ့သော နိုင်ငံတော်ကြီးပျက်စီးသွားမည်ကိုရင်း စိုးရိမ်မိလေသည်။ ထိုကြောင့်နပိုလီယန်ကထီးမွေနန်းမွေဆက်ခံမည့်သူကို အလိုရှိသည်ကတကြောင်း၊ ဥရောပတိုက်မှ အခြားသောထီးဆောင်းမင်းတို့နှင့် ဆွေမျိုးဆက်လိုသည်ကတကြောင်း၊ အကြောင်းပြကာ သူအလွန်ချစ်မြတ်နိုးသော မိဖုရားကြီး ဂျိုးဇဖင်းကို ကွာရှင်း၍ ဩစတြီးယားမင်းသမီးမာရီလွီနှင့် လက်ထပ်ထိမ်းမြားလေသည်။ နပိုလီယန်နှင့် ကွာရှင်းခဲ့ပြီးနောက်ဂျိုးဇဖင်းသည် ပါရစ်မြို့အနီးရှိ လာမားမေဆွန်၌နေထိုင်ခဲ့လေသည်။ နပိုလီယန်သည် ဂျိုးဇဖင်း၏ထံသို့ တခါတရံလာရောက်၍ အကြံကောင်းဉာဏ်ကောင်းများ တောင်းတတ်လေသည်။ နပိုလီယန်ကို အယ်လဗာကျွန်းသို့ပို့ထားခဲ့သောအခါ၊ ဂျိုးဇဖင်းကသူ့ကို နပိုလီယန်နှင့် အတူ

လာရောက်နေထိုင်ခွင့်ပြုပါမည့်အကြောင်း နပိုလီယန်ထံစာ ရေးလိုက်လေသည်။ နပိုလီယန်ကထိုသို့နေထိုင်ရန်မဖြစ် ကြောင်း စာပြန် လိုက်၏။ သို့သော်ဂျိုးဇဖင်းကားထိုစာ မရောက်မီ ၁၈၁၄ ခုနှစ် မေလ ၂၉ ရက်နေ့တွင် ကွယ်လွန် လေသည်။ (နပိုလီယန်၊ ပဥ္စမ — ရှု။)

သားတော်ယူဂျင်းမှာ နပိုလီယန်လက်အောက် တွင် ဗိုလ် ချုပ်မှူးအဖြစ်သစ္စာရှိစွာအမှုတော်ထမ်း၍ ဣတလီပြည်၏ ဘုရင်ခံခေတ္တဖြစ်ဘူးလေသည်။ သမီးတော်ကား နပိုလီ ယန်၏နောင်တော် ဟော်လန် ဘုရင် လူဝီနှင့် ထိမ်းမြားရ၍ တတိယမြောက်နပိုလီယန်ကိုဖွားမြင်လေသည်။

ဂျက္ကဆန်, တီ၊ ဂျေ (ခရစ် ၁၈၂၄–၆၃)။ ။အမေရိကန် ပြည်ထောင်စုသမိုင်းတွင် ထင်ရှားသောတောင်ပိုင်းပြည်နယ် များနှင့် မြောက်ပိုင်းပြည်နယ်များတို့၏ ပြည်တွင်းစစ်ပွဲကြီး တွင် တောမတ် ဂျေ်ာနသန် ဂျက္ကဆန်သည် တောင်ပိုင်းစစ် တပ်များကိုအုပ်ချုပ်ရသော စစ်ဗိုလ်ချုပ်ကြီးဖြစ်လေသည်။ တောင် ပိုင်း စစ်တပ်၏ စစ် သေနာ ပတိချုပ် ကြီး လီ ၏ညာ လက်ရုံးလည်းဖြစ်၏။ ဂျက္ကဆန်သည်ဗာဂျင်နီးယားပြည် နယ်၊ ကလတ်စဗတ်မြို့၌ ၁၈၂၄ ခုနှစ် ဇန္နဝါရီလ ၂၁ ရက် နေ့တွင်ဖွားမြင်သည်။ ငယ်စဉ်ကပင်သူ၏ဖခင်သေဆုံးခဲ့ လေရာ မိခင်ဖြစ်သူနှင့်ဆင်းရဲစွာနေထိုင်ရသည်။ ထိုကြောင့် ဂျက္ကဆန်သည်တောရွာစာသင်ကျောင်းတကျောင်း၌ ရေး တတ်ရုံ၊ ဖက်တတ်ရုံမျှပညာသင်ကြားခဲ့ရသည်။ သို့ရာတွင် ဂျက္ကဆန်၏လုံ့လဝီရိယကြောင့် ရသမျှအခွင့်အရေးဖြင့်ပညာ ကို အတန်ပင်တတ်မြောက်အောင်သင်ကြားနိုင်ခဲ့လေသည်။ ၁၈၄၂ ခုနှစ်အသက် ၁၈ နှစ်အရွယ်တွင် ဝါရှင်တန်မြို့စစ် တက္ကသိုလ်သို့ဝင်ခွင့်ရသည်။ နောက် ၄ နှစ်ခန့်ရှိသော် ဒုတိ ယဗိုလ်အဖြစ်ဖြင့်အမြောက်တပ်တွင် ပြန်တမ်းဝင်ရာထူး၌ခန့် အပ်ခြင်းခံရလေသည်။ စစ်တက္ကသိုလ်မှအောင်မြင်ခဲ့ပြီး နောက် ၁၈၄၆ ခုနှစ်တွင်မက္ကဆီကိုစစ်ပွဲ၌ ဝင်ရောက်အမှု ထမ်းရာ အထူးပင်ထင်ပေါ် ကျော်စောခဲ့၏။ ယင်းသို့ ၇ လအတွင်း စစ် ပွဲ အပ္ပဲပွဲ တွင် အောင် ပန်း ဆွတ် ခူး၍ နာမည် ကျော်ကြားလာခြင်းကြောင့် ဗိုလ်မှူးရာထူးသို့တိုးတက်ခန့် ထားခြင်းခံရလေသည်။ ၁၈၅၁ ခုနှစ်တွင် ဗာဂျင်းနီးယား စစ်ပညာသင်ကျောင်း၌အမြောက်တပ်ဖက်ဆိုင်ရာပါမောက္ခ အဖြစ်ဆောင်ရွက်ရသည်။ လက်အောက်ငယ်သားတို့အား ကြင်နာသနားတတ်မှု၊ တည်ကြည်ဖြောင့်မှန်မှု၊ ရဲရင့်သတ္တိ ရှိမှု၊ ဘုရားတရားကြည်ညိုမှုတို့ကြောင့် အားလုံးကုန်သော တပည့် စစ် သား များ က သူ့ အား ရိုသေ လေး စား ကြ လေ သည်။ ဘုရား တ ရား ကို အ လွန် ကြည် ညို သူ ဖြစ် သည့် အ လျောက် တိုက်ပွဲမစမီ နှင့် တိုက်ပွဲပြီး တိုင်း ဘုရား ဝတ် ပြုလေ့ရှိသည်ဟုအဆိုရှိလေသည်။


'ကျောက်နံရံဂျက္ကဆန်' ဟုအမည်တွင်ခဲ့သောစစ်ဗိုလ်ချုပ်ကြီး

၁၈၆၁ ခုနှစ်တွင်တောင်ပိုင်းနှင့်မြောက်ပိုင်းပြည်တွင်းစစ် ဖြစ်သောအခါ ဂျက္ကဆန်သည်စစ်ထဲသို့ဝင်ရောက်အမှုထမ်း မြန်လေသည်။ သူ၏လက်ရုံးရည်နှင့်နှလုံးရည်တို့မှာ သူအုပ် ချုပ်ရသောစစ်တပ်များ၌သာမက ရန်သူစစ်တပ်များသို့ပင် ပျံ့နှံ့ ကျော်ကြားခဲ့သည်။ သူ၏တပ်သားများနှင့်ရန်သူဖြစ် သောမြောက် ပိုင်း တပ်သားများ နှစ်ဖက်စလုံးကပင်သူ့ ကို လေးစားကြသည်။ ဗူလရန်းတိုက်ပွဲတွင်မြောက်ပိုင်းတပ် များဖက်မှအပြင်းအထန်ဖိတိုက်ခြင်းခံရသောတောင်ပိုင်းစစ် တပ်ဗိုလ်ချုပ်ဗီးသည် ဂျက္ကဆန်ထံသို့ပြေးလာပြီးလျှင် 'ဗိုလ် ချုပ်၊ ဗိုလ်ချုပ်၊ ကျွန်ုပ်တို့ကိုရန်သူတွေဖိလိုက်လာကြပြီ' ဟု ပြောသည်။ ထိုအခါဂျက္ကဆန်က 'သို့ဖြစ်လျှင်သူတို့အား လှံစွပ်ဖြင့်ဆီး၍ခံလော့' ဟုဆိုပြီးလျှင် ဗာဂျင်း နီး ယန်စစ် တပ်များ၏နောက်မှကြံ့ကြံ့ခံလေသည်။ ဗိုလ်ချုပ်ဗီးလည်း စိတ်အားတက်ကြွကာ သူ့ စစ်သားများထံပြန်သွားပြီးလျှင် 'ရဲဘော်တို့ရှုလော့၊ ဗိုလ်ချုပ်ဂျက္ကဆန်သည် သင်တို့ထံပါး၌ ကျောက်နံရံကြီးသဖွယ် ကြံ့ကြံ့ ခံနေပေသည်' ဟုအား ပေး၍ ရန်သူတို့ကိုရှုပ်ရှုပ်ချချတွန်း လှန်တိုက် ခိုက်စေသည်။ ထိုအခါမှစ၍ဂျက္ကဆန်အား 'စတုန်းဝေါဂျက္ကဆန်' ဟုခေါ် ကြတော့သည်။ 'ကျောက်နံရံဂျက္ကဆန်'ဟုအဓိပ္ပါယ်ရသည့် ထိုအမည်ကားသူနှင့်သင့်လျော်လှပေသည်။ ၁၈၆၃ ခုနှစ်

မေလအတွင်း၌ချန်စယ်လာစဗီးတိုက်ပွဲတွင် သူ၏တပ်အား ဝိုင်းထားသောရန်သူတပ်ကို ပြန်ဝိုင်းမိ အောင်စစ်ဆင်ခြင်းဖြင့် ဗိုလ်ချုပ်ဂျက္ကဆန်သည်စစ်သမိုင်းတွင် ဥဒါန်းတွင်ရစ်သောရဲစွမ်းသတ္တိကိုပြခဲ့သည်။ သို့ရာတွင်ဂျက္ကဆန်သည် ထိုတိုက်ပွဲဖြစ်ပွားနေစဉ် သူ၏စစ်သားများက လူမှား၍ ပစ်ခတ်မိသောကြောင့် ဒဏ်ရာအကြီးအကျယ်ရရှိခဲ့လေသည်။ ထိုဒဏ်ရာဖြင့် ပင်လက်ျာလက်ဖြတ်ပစ်ရရုံ မကတပတ်ခန့်အကြာ ၁၈၆၃ ခုနှစ်မေလ ၁၀ ရက်နေ့တွင် စစ်သားကောင်းကြီးဂျက္ကဆန်ကွယ်လွန်လေသည်။

**ဂျက္ကဗိုက်**။ ။ဥရောပတိုက်နိုင်ငံများတွင် ၁၆ ရာစုနှစ်များအထိ ဗရင်ဂျီဂိုဏ်းသည်ပြိုင်ဖက်မရှိသြဇာကြီးခဲ့သည်။ ပြည့်ရှင်မင်းမှအစ ဆင်းရဲသားများအထိ ဗရင်ဂျီဂိုဏ်းဝင်များဖြစ်၍ ထိုဂိုဏ်းကိုဦးစီးသောပုပ်ရဟန်းမင်းကြီး၏သြဇာအာဏာကို ရိုသေလေးစားကြသည်။ သို့ရာတွင်ခရစ်နှစ် ၁၅၀၀ ကျော်လောက်မှစ၍ ဂျာမနီပြည်ကအစပြုကာပြန့်ပွားလာသော ပရိုတက်စတန့်ဂိုဏ်းကြီး ထွန်းကားလာရာထိုဂိုဏ်းကို သက်ဝင်ယုံကြည်သူပေါ်များလာသည်။ ယင်းသို့ဖြစ်ရကား ထိုစဉ်အခါက အင်္ဂလန်ပြည်၌ အုပ်စိုးနေသောဗရင်ဂျီဂိုဏ်းဝင် စတူဝပ်မင်းဆက် ဒုတိယဂျိမ်းသည် ဗရင်ဂျီဂိုဏ်းပြန်လည်ထွန်းကားလာစေရန်အတွက် တိုင်းပြည်ဝန်ထမ်းများအဖြစ် ဗရင်ဂျီဂိုဏ်းဝင်များအားသာခန့်အပ်ခဲ့သည်။ ထိုအခါတိုင်းသူပြည်သားတို့သည် ဒုတိယဂျိမ်းဘုရင်အားစက်ဆုပ်မုန်းတီးသဖြင့် ဂျိမ်း၏သမီးတော် ပရိုတက်စတန့်ဂိုဏ်းဝင်ဖြစ်သော ဟော်လန်နိုင်ငံ မိဖုရားမေရီနှင့် မြောက်သားတော်ဝီလျံဘုရင်တို့အား ခေါ်ယူ၍ နန်းအပ်ရာ၊ ဂျိမ်းသည်ပြင်သစ်နိုင်ငံသို့ ထွက်ပြေးတိမ်းရှောင်ရလေသည်။



ဒုတိယဂျက္ကဗိုက်ပုန်ကန်မှုကိုဦးစီးခဲ့သောချားမင်းသား

၁၆၈၉ ခုနှစ်တွင် အင်္ဂလိပ်ထီးနန်းဆက်ခံခွင့် ဥပဒေကိုအတည်ပြုလိုက်လေရာ၊ အင်္ဂလိပ်ထီးနန်းဆက်ခံခွင့်ကို ပရိုတက်စတန့်ဂိုဏ်းဝင်များသာရရှိနိုင်ပေရကား ဂျိမ်းဘုရင်နှင့်သားတော်ဂျိမ်းမင်းသားတို့အားလိုလားကြသောသူများကဂျိမ်းဘုရင်ထီးနန်းပြန်လည်ရရှိရေးကို ကြိုးစားကြလေသည်။ ထိုလူတစုကိုဂျက္ကဗိုက်ဟုခေါ်လေသည်။ ဂျက္ကဗိုက်ဟူသောအမည်မှာ 'ဂျိမ်း' ဟူသောအမည်၏ လက်တင်ဘာသာအခေါ်အဝေါ်ဖြစ်လေရာ ထီးနန်းမှ နှင်ထုတ်ခြင်းခံရသော ဒုတိယဂျိမ်းဘုရင်နှင့်တကွ ဆွေစဉ်မျိုးဆက်များကိုကြည်ညိုသူများဟုအဓိပ္ပါယ်ရလေသည်။

၁၇၁၄ ခုနှစ်ပဌမဂျော့ဘုရင်နန်းတက်သောအခါ ဘုရင်သည်ဂျာမန်လူမျိုးသာဖြစ်သဖြင့် အင်္ဂလိပ်စကားကိုလည်း မတတ်၊ အင်္ဂလိပ်ဓလေ့ထုံးစံကိုလည်းနားမလည်၊ အင်္ဂလိပ်လူမျိုးများကိုလည်း မလေးစားဘဲ ရှိနေပေရာ ဂျက္ကဗိုက်အဖွဲ့ဝင်များသည်အလွန်စိတ်နာကျည်းလျက် ၁၇၁၅ ခုနှစ်တွင်ပဌမဂျက္ကဗိုက်ပုန်ကန်မှုကြီးဖြစ်ပေါ်လာသည်။ သို့ရာတွင်ခေါင်းဆောင်ကောင်းမရှိမှု၊ လက်နက်ရိက္ခာကြေးငွေမလုံလောက်မှုစသောအကြောင်းများကြောင့် ဂျက္ကဗိုက်များအရေးနိမ့်ရလေသည်။

ဒုတိယဂျိမ်း၏မြေးတော်ချားမင်းသားခေါင်းဆောင်လျက် ဒုတိယအကြိမ်ဂျက္ကဗိုက်များပုန်ကန်ထကြွကြသည်။ သို့ရာတွင်ထိုအကြိမ်၌လည်း ဂျက္ကဗိုက်များရှုံးနိမ့်ရာ၊ ချားမင်းသားသည်ပင်ထွက်ပြေးတိမ်းရှောင်နေရ၏။ ထိုအခါမှစ၍ ဂျက္ကဗိုက်တို့သည် နိုင်ငံရေးနယ်ပယ်မှကွယ်ပျောက်၍သွားသော်လည်း အစဉ်အလာစွဲလမ်းမှုတခုကဲ့သို့ အရိပ်အငွေ့ကျန်ရစ်လေသည်။ စကော့တလန်ပြည်မှာဂျက္ကဗိုက်တို့၏ပင်ရင်းဌာနဖြစ်သောကြောင့် ရုတ်တရက်ဝါဒစွဲမပျောက်နိုင်ခဲ့ပေ။ ပဌမကမ္ဘာစစ်ကြီးဖြစ်ပွားချိန်အထိ ဂျက္ကဗိုက်အစွဲအလမ်းများသည် ကျန်ရှိနေခဲ့ပေသေးသည်။

**ဂျက္ကဗင်း**။ ။ဂျက္ကဗင်းဟူသည် ပြင်သစ်တော်လှန်ရေးအတွင်းက ထင်ရှားသော တော်လှန်ရေးအဖွဲ့ဖြစ်လေသည်။ ထိုအဖွဲ့ကို ၁၇၈၉ ခုနှစ်တွင် ဗာဆေးမြို့၌စတင်ဖွဲ့စည်းခဲ့၍ပဌမ၌ ဂျက္ကဗင်း ဆိုမဟုတ် ဒိုမင်နီကန်ဘုန်းကြီးကျောင်းအလွတ်တခုအတွင်းတွင် ယင်း၏ဌာနချုပ်ထားရှိခဲ့သည်ကိုအစွဲပြု၍ နောင်အခါဂျက္ကဗင်းအဖွဲ့ဟုခေါ်တွင်ခဲ့လေသည်။ အစကနဦးတွင်အဖွဲ့ဝင်များသည် ပြင်သစ်နိုင်ငံ တဝှန်းလုံး၌ အဖွဲ့ခွဲများဖြန့်ထား၍ ဘုရင်အစိုးရနိုင်မြဲတည်တံ့ရေးကိုကြိုးပမ်းခဲ့ကြလေသည်။

လူဝီဘုရင်ပြင်သစ်နိုင်ငံမှထွက်ပြေးရန်ကြံစည်သောအခါ ဂျက္ကဗင်းတို့သည် ဘုရင်အစိုးရစနစ်ကို မလိုလားကြတော့ဘဲ သမတအစိုးရစနစ်ကိုနှစ်သက်လိုလားလာကြလေသည်။

သူတို့အဖွဲ့ကိုလည်းရောဗက်စပဲျ (၁၇၅၈–၉၄) စသောတ ယူသန်သမားများက ဦးစီးကြိုးကိုင်လာကြလေသည်။ (ရော ဗက်စပဲျ, အမ် — ရှု။)

ဂျက္ကဗင်းအဖွဲ့မှာ တဖြည်းဖြည်း အင်အားကောင်းလာ၍ အရေးပါသောအဖွဲ့ဖြစ်လာခဲ့ရာ၊ နောက်ဆုံးတွင်တော်လှန် ရေးအတွင်း ပြင်သစ်နိုင်ငံကို အုပ်ချုပ်သောအဖွဲ့ကြီးပင်ဖြစ် လာလေသည်။ ဂျက္ကဗင်းအဖွဲ့ဝင်တို့သည် လူထုဆန္ဒပြပွဲများ မကြာခဏလုပ်ခဲ့သော ပါရစ်ကွန် မျှန်းကိုလည်း ကြိုးကိုင် ခဲ့၏။ ယင်းအဖွဲ့၏ခေါင်းဆောင်များဖြစ်ကြသော ရောဗက် စပဲျနှင့်ဒန်တွန်တို့သည် တယူသန်သမားများဖြစ်ကြ၍ နောင် အခါ ဂျက္ကဗင်းဆိုလျှင် တယူသန် တော်လှန် ရေးသမားဟုအ များကမှတ်ယူကြလေတော့၏။ (ဒန်တွန်, ဂျီ၊ ဂျေ — ရှု။) ထိုပြင်သူတို့၏ခေါင်းဆောင်ရောဗက်စပဲျသည် ပြင်သစ်နိုင်ငံ တွင်သွေးချောင်းစီးမျှ လူအများကို သတ်ဖြတ် ခဲ့စဉ်က အာ ဏာရှင်တမျှတန်ခိုးထွားခဲ့ပေသည်။ သူတို့ကြောင့်ပင်လူ့ဝီ ဘုရင်မှာ ၁၇၉၃ ခုနှစ်တွင်အသတ်ခံရလေသည်။

၁၇၉၄ ခုနှစ်၌ရောဗက်စပဲျအား သူ၏အတိုက်အခံလူစုက သတ်ပစ်လိုက်သည်။ ရောဗက်စပဲျအသတ်ခံရပြီးနောက် အဖွဲ့မှာတဖြည်းဖြည်းတန်ခိုးမှိန်၍ပျက်လုမတတ်ဖြစ်လာလေ သည်။ ထိုနှစ်နိုဝင်ဘာလတွင် ကား ထိုပျက် လုမတတ်ဖြစ် သော အဖွဲ့ကိုလုံးဝဖျက်သိမ်းလိုက်ရလေတော့သည်။ (ပြင် သစ်တော်လှန်ရေး — လည်းရှု။)

**ဂျက္ကတ်ရက်ကန်းစင်။** ။၁၉ ရာစုနှစ်ဆန်းစလောက် အထိ လူတို့သည်ရိုးရိုးအဆင်များကို ရက်ကန်းစင်များဖြင့် သာရက်လုပ်နိုင်ခဲ့ကြသည်။ အဆင်ဆန်းများကိုရက်လို သောအခါ ရက်ကန်းစင် တစင်လျှင် လူ ၃ ယောက်ကျစီ အလုပ်လုပ်ကြရ၏။ ဤ ၃ ယောက်တွင်ပဌမလူသည် အဆင် ပုံစံကိုကြည့်၍ဒုတိယလူအား မည်သည့်နှတ်ကိုနင်းပေးရမည် ကိုရင်း၊ တတိယလူအားလိုသောအရောင်ရရှိအောင် မည် သည့် လွန်း ကို အသုံး ပြုရမည် ကို ရင်း အမြဲတစေညွှန် ကြား ပေးနေရပေသည်။

ခရစ် ၁၈၀၄ ခုနှစ်တွင် ဂျိုးဇက်မာရီဂျက္ကတ် ဆိုသူ ပြင် သစ်ရက် ကန်း သမား တဦး သည် ရက်ကန်း စင်တမျိုးကိုတီ ထွင်လိုက်သည်။ ထိုရက်ကန်းစင်မှာဂျက္ကတ်ရက်ကန်းစင် ဟုတွင်၍၊ ထိုရက်ကန်းစင်ကြောင့်ပင်ရက်ကန်းလုပ်ငန်းကြီး တခုလုံး များစွာတိုးတက်လာခဲ့လေသည်။ အဆိုပါရက် ကန်းစင်မျိုးဖြင့် အဆင် ဆန်း များကို လူတယောက်တည်း ကရက်လုပ်နိုင်သည်။ ဂျက္ကတ်လက်ထက်မတိုင်မီက အခြား ပြင်သစ်လူမျိုးတဦးဖြစ်သူ ဇက်ဒါဗိုကန်ဆန်သည်လည်းလို သည့် အဆင်မျိုး ရအောင် ဒလိမ့်တုံး၌ အပေါက် ငယ်များစီ တန်း၍ ဖောက်လုပ်ထားသည့် အထိန်းကရိယာတမျိုးကိုတီ ထွင်ခဲ့သည်။ ဗိုကန်ဆန်သည်တိုင်ခြည်တိုင်း၌ ယင်းတို့ကို မြှင့်တင်ပေးရန်ကြိုး (မြှင့်ကြိုး) တပင်စီချည်၍ ထိုကြိုးစ များကို ဘောင်တခုသို့ဆက်ထားသည်။ ဘောင်တွင်ဒလိမ့် တုံးမျက်နှာပြင်ပေါ် သို့ စပရင်ဖြင့်ဖိပေးသည့်အပ်များတပ် ဆင်ထားသည်။ ဒလိမ့်တုံးပတ်လည်၌ အဆင်ပုံစံအလိုက် အပေါက်ဖောက်ထားသော စက္ကူကပ်ပြားတခုရှိလေသည်။ အပ်များသည်စက္ကူကပ်ပြားရှိအပေါက်များမှတဆင့် ဒလိမ့် တုံးရှိဆိုင်ရာ အပေါက်များထဲသို့ဝင်သွားသည်။ ထိုအခါ မြှင့်ကြိုးက တိုင်ခြည်ကိုအထက်သို့ဆွဲတင်ပေးသည်။

ဗိုကန်ဆန်၏ ကရိယာ သည် ဂျက္ကတ် ရက် ကန်း စင်ဖြစ် မြောက်အောင်မြင်ရန် လမ်းခင်းပေးခဲ့သည်။ ဗိုကန်ဆန်၏ ကရိယာကိုအသုံးပြုရာတွင် ရက်လုပ်သောဒီဇိုင်းပုံတခုလုံးကို ဒလိမ့်တုံးပေါ် ရှိကပ်ပြား၌ဖော်ပေးရန်လိုသည်။ ယင်းသို့လို သည့်အတိုင်း ဤကရိယာဖြင့် အထည်ငယ်များကို သာရက် လုပ်နိုင်သည်။ ထို့ပြင်ဒလိမ့်တုံးကိုလည်း စက်မှုအခက် အခဲများကြောင့် ကြီးကြီးမားမားမပြုလုပ်နိုင်ပေ။ ဂျက္ကတ် သည်ဗိုကန်ဆန်၏ကရိယာကိုအတုယူ၍ တမျိုးတဖုံတိုး၍ပြု ပြင်လိုက်သည်။ သူပြုလုပ်သည့်ကရိယာတွင်ဒလိမ့်တုံးလုံးဝ



ရက်ကန်းအတတ်တွင် အထည်၏အဆင်အကွက်တို့ကိုပုံဖော်ရာ၌ ခေတ်မှီ စေခဲ့သည့်ဂျက္ကတ်ရက်ကန်းစင်



ကြံ့သူတော်ကိုခုန်အုပ်၍ကိုက်သတ်နေသောဂျက်ဂွားကောင်

မပါတော့ချေ။ ဂျက္ကတ်ရက်ကန်းစင်တွင် ဒလိမ့်တုံးအစား အပေါက် ဖောက် ထား သော လေး ထောင့် ကပ်ပြားများကို သာအသုံးပြုထားလေသည်။

ဂျက္ကတ် ရက် ကန်း စင် သည် ပုံဖော် ရက် ကန်း အတတ်ကို တခါတည်းခေတ်မှီပြောင်းလဲသွားစေသည်။ နောင်သော် အပေါက်ဖောက်ထားသော ကပ်ပြားဖြင့် အလိုအလျောက် ထိန်းပေးသည့်ကရိယာမျိုးကို ခေတ်မှီရက်ကန်းစင်များတွင် သာမက ဂဏန်းတွက်စက်၊ စန္ဒရား၊ ဇာထိုးစက် စသည့်စက် များတွင်လည်း အနှံ့အပြားတပ်ဆင်အသုံးပြုလာကြသည်။ (ရက်ကန်းစင် — လည်းရှု။)

**ဂျက်ဂွားကောင်။** ။မြောက်အမေရိကတိုက်နှင့် တောင် အမေရိကတိုက်တို့တွင်တွေ့ရသော ဂျက်ဂွားခေါ် ကျားမျိုး သည် ထိုတိုက် များရှိကြောင် အနွယ် ဝင် သား ကောင်များ တွင် အကြီးဆုံးဖြစ်သည်။ ဂျက်ဂွား၏ဦးခေါင်းမှာ သာ မန်ကျားဦးခေါင်းနှင့်မတူဘဲ အတော်ပင်ကြီးမား၏။ ခြေ ထောက်များသည်တုတ်ခိုင်သန်မာ၏။ ကိုယ်အလျားမှာ အမြီးမပါဘဲ ၄ ပေမျှရှည်လျား၏။ အသွေးအရောင်မှာ အမျိုးမျိုး ကွဲပြားခြား နား သော် လည်း အများအားဖြင့်မှု ဝါညစ်ညစ်အရောင်ပေါ်တွင် အနက်ရောင်အပြောက်အစက် များရှိသည်။ အမြီးဖျား၌နက်နေသည်။

ဂျက်ဂွားကောင်သည် သစ်ပင်ပေါ်၌အနေများပေသည်။ သား ကောင်ကို ဖမ်း သော အခါ သစ်ပင်ပေါ် မှ ခုန်အုပ်ဖမ်း တတ်သည်။ တခါတရံမြေပြင်သို့ဆင်း၍ နွား၊ မြင်း၊ သိုး တို့ကိုဖမ်းယူစားသောက်တတ်သည်။ လူကိုတွေ့လျှင်လည်း လူကို စား သည်။ လိပ်များကို လည်း မြစ်လယ် သို့ရောက် အောင်ပင် လိုက်လံဖမ်းယူစားသောက်တတ်သည်။ ဂျက် ဂွားကောင်ကို များသောအားဖြင့် တကောင်ချင်းတွေ့ရ သည်။ ဂျက်ဂွားအမသည် တနှစ်လျှင်သား ၂ ကောင် မှ ၄ ကောင်အထိမွေးသည်။ သားငယ်သည်မွေးပြီး ၃၅ ရက် အကြာတွင် မိခင်နောက်သို့လိုက်နိုင်သည်။

**ဂျက်ဖာဆန်, တီ** (ခရစ် ၁၇၄၃–၁၈၂၆)။ ။တောမတ် ဂျက် ဖာ ဆန် သည် အမေရိ ကန် ပြည် ထောင်စု၏ တတိယ မြောက်သမတဖြစ်သည်။ သူသည်ဗာဂျင်းနီးယားပြည်နယ် အဲလဗီမားခရိုင် ရှက်ဒဝယ်မြို့၌ ၁၇၄၃ ခုနှစ် ဧပြီလ ၁၃ ရက်နေ့တွင်ဖွားမြင်သည်။ သူ၏ဖခင်ကား မြို့ပြအင်ဂျင်နီ ယာ ပီတာဂျက်ဖာဆန်ဖြစ်သည်။ ပီတာဂျက်ဖာဆန်သည် အနောက်ဖက်နယ်စပ်ဒေသတွင် ယာမြေပေါင်းမြောက်မြား စွာပိုင်သူဖြစ်ရာ၊ သားဖြစ် သူတောမတ် သည် ငယ်စဉ်ကပင် ကျေး လက် တောရွာလုပ် ငန်း များ နှင့် လက်ပွန်းတတီးဗဟု သုတရခဲ့လေသည်။ ၅ နှစ်သားအရွယ်ကျောင်းနေစက တည်းက သင်္ချာသာသာရပ် များ တွင် ထူးချွန်ခဲ့လေသည်။ ၉ နှစ်သားအရွယ်မှစ၍ လက်တင်၊ ဂရိ၊ ပြင်သစ်ဘာသာ များကို သင် ယူ သည်။ ၁၇ နှစ် အရွယ် တွင် ဝီလျံစဗတ်မြို့ တွင် ဝင်ရောက် ပညာ သင် ကြား လေသည်။ သင်္ချာဘာ သာ၌ ငယ်စဉ်ကပင် ထူးချွန်သူဖြစ်သည့်အလျောက်သင်္ချာ ဘာသာပါမောက္ခကြီး ဒေါက်တာဝီလျံစမော၏ ခြီးကျူး



**တောမတ်ဂျက်ဖာဆန်နေထိုင်ခဲ့သော 'မွန်တီစယ်လို' နေအိမ်**

ခြင်းကို အထူးခံရသူဖြစ်၏။ ဒေါက်တာဝီလျံစမောသည် တောမတ်ဂျက်ဖာဆန်အား ဗာဂျင်းနီးယားပြည်နယ်မှ ထင်ရှားသော ဝတ်လုံတော်ရကြီး ဂျော့ဝစ်နှင့် မိတ်ဆက်ပေးသည်။ ထိုကြောင့်တောမတ်ဂျက်ဖာဆန်သည် ကောလိပ်ကျောင်းမှ ဘွဲ့ထူးများရရှိပြီးနောက် ဂျော့ဝစ်ထံ၌ ဥပဒေပညာကို ၅ နှစ်မျှဆည်းပူးရလေသည်။ ထိုဥပဒေပညာသည်ပင် သူ့အား နိုင်ငံရေး၊ တိုင်းပြည်အုပ်ချုပ်ရေးတို့၌ အထောက်အပံ့ဖြစ်စေခဲ့၏။

၁၇၇၂ ခုနှစ်တွင်တောမတ်ဂျက်ဖာဆန်သည် အသက် ၂၃ နှစ်အရွယ်ရှိ မုဆိုးမမိန်းမချောကလေး မာသာ ဝေးစကယ်လတန်နှင့်လက်ထပ်သည်။ သူတို့မောင်နှံစုံမှာအလွန်ချစ်ခင်ပျော်ရွှင်စွာ မွန်တီစယ်လိုခေါ် တောင်ကုန်းအိမ်ကလေး၌ နေထိုင်ကြ၏။ မာသာနှင့်သားသမီး ၆ ယောက်မွေးဖွားသည့်အနက် မိန်းကလေး ၂ ယောက်သာအဖတ်တင်သည်။

ဂျက်ဖာဆန်သည် ဗာဂျင်းနီးယားဥပဒေပြုအောက်လွှတ်တော်သို့ ၁၇၆၉ ခုနှစ်တွင်ပြည်သူ့ကိုယ်စားလှယ်အဖြစ်ရွေးကောက်တင်မြှောက်ခြင်းခံရသည်။ ဗြိတိသျှအစိုးရအားတော်လှန်ပြီးနောက် အမေရိကန်လွတ်လပ်ရေးကြေညာစာတမ်းကြီးကို စီကုံးရေးသားရာတွင်၊ ထူးချွန်စွာဆောင်ရွက်စီမံနိုင်မှုကြောင့် ကျော်ကြားလာခဲ့လေသည်။ တောမတ်ဂျက်ဖာဆန်သည် ပြည်သူတို့၏အကျိုးကိုလိုလားသောစိတ်ဓာတ်ခံရှိသူဖြစ်သောကြောင့် ဒီမိုကရေစီဝါဒကိုနှစ်ခြိုက်၏။ ဉာဏ်ပညာ ထက်သန်ခြင်း၊ လွတ်လပ်စွာတွေးခေါ်တတ်ခြင်း၊ ကြောက်ရွံ့မှုကင်းမဲ့ခြင်း စသည်တို့ကြောင့် သူ့ကိုလူထုကများစွာကိုးစားကြလေသည်။

၁၇၇၉ ခုနှစ်တွင် ဗာဂျင်းနီးယားဘုရင်ခံအဖြစ်ရွေးချယ်တင်မြှောက်ခြင်းခံရလေသည်။ ၁၇၈၁ ခုနှစ်တွင်ဂျက်ဖာဆန်သည် ဘုရင်ခံရာထူးမှနုတ်ထွက်လိုက်သည်။ နောက်တနှစ်တွင်သူ၏ချစ်ဇနီးကွယ်လွန်သွားရာ သမီး ၂ ယောက်နှင့်ကျန်ရစ်ခဲ့သည်။ တောမတ်ဂျက်ဖာဆန်ကိုအမေရိကန်ပြည်ထောင်စု၏ တတိယမြောက်သမတအဖြစ် ၁၈၀၀ ပြည့်နှစ်တွင် ရွေးကောက်ကြလေသည်။ ဂျက်ဖာဆန်၏သမတသက်တန်း ၄ နှစ်အတွင်းတွင် အမေရိကန်ပြည်၌ ဒီမိုကရေစီဝါဒသည်အလွန်ထွန်းကားခဲ့ပေသည်။

ထိုနောက် ဂျက်ဖာဆန်သည် သမတအဖြစ်ဖြင့် နောက်တကြိမ် ဆက်လက်၍ ရွေးကောက်တင်မြှောက်ခြင်းခံရပြန်သည်။ ဒုတိယအကြိမ်သမတဘဝနှင့် ၁၈၀၈ ခုနှစ်ဇန္နဝါရီလ ၁ ရက်နေ့မှစ၍ ကျွန်အရောင်းအဝယ်ကိုပိတ်ပင်ရန်ဥပဒေတရပ်ကိုထုတ်ပြန်ခဲ့သည်။ သမတရာထူးသက်တန်းကုန်ဆုံးသောအခါတွင် ဂျက်ဖာဆန်မှာအကြွေးဒေါ်လာ ၂၀,၀၀၀ ခန့်တင်နေသည့်အတွက် သူစုဆောင်းထားခဲ့သော စာအုပ်ပေါင်း ၁၃,၀၀၀ ပါဝင်သည့်စာကြည့်တိုက်ကို ပြည်ထောင်စုအစိုးရသို့အဖိုးငွေ ၂၃,၉၅၀ ဒေါ်လာဖြင့် ရောင်းချ၍ဆပ်ရလေသည်။ ဂျက်ဖာဆန်မှာဆွေမျိုးသားချင်းမိတ်သင်္ဂဟပေါများသူဖြစ်၍ အိမ်တွင်ဧည့်သည်မပြတ်ရှိရာ၊ စာကြည့်တိုက်ရောင်းရငွေမှာလည်း မကြာမီပင် ကုန်လေတော့သည်။ ထိုကြောင့်အိမ်ကလေးတလုံးဆောက်ကာ တိမ်းရှောင်နေရသည်ဟုပင်အချို့ကဆိုကြသည်။ သို့သော်ပြည်ထောင်စုအစိုးရထံမှ အထောက်အပံ့အဖြစ်စုဆောင်း၍ ပေးသောငွေ ၁၆,၅၀၀ ဒေါ်လာကို ရရှိသောကြောင့်သာလျှင် ဂျက်ဖာ

ဆန်မှာအနည်းငယ်ခံသာသည်။ သို့နှင့်လည်းထိုထောက်ပံ့ငွေရပြီးမကြာမီ သူပိုင်ပစ္စည်းများဖြစ်သော အိမ်ထောင်ခမ်းနား၊ ငွေထည်ပစ္စည်း၊ ပန်းချီကားများနှင့်တကွ ဗာဂျင်းနီးယားနယ်ရှားလော့စဗီးမြို့ရှိ သူပိုင်မွန်တီစယ်လိုအိမ်နှင့်ဝင်းခြံကို ရောင်းချ၍အကြွေးများကိုပေးဆပ်ရသေး၏။

သမတရာထူး ၂ ကြိမ်တိုင်တိုင်ဆက်ယူပြီးနောက် တတိယအကြိမ်အရွေးမခံတော့ဘဲအနားယူလိုက်လေတော့သည်။ ထိုနောက်သူ၏နေရပ်ဖြစ်သောရှားလော့စဗီး၌ ဗာဂျင်နီးယားတက္ကသိုလ်ကျောင်းကြီးတကျောင်းကိုတည်ထောင်ရန် လုံးပန်းဆောင်ရွက်လေသည်။ တက္ကသိုလ်၏အဆောက်



အမေရိကန်သမတကြီးတောမတ် ဂျက်ဖာဆန်

အအုံကြီးများကို သူကိုယ်တိုင်စံနစ်ပုံရေးဆွဲ၍တည်ဆောက်ရာတွင်ကြပ်မကြည့်ရှုခဲ့လေသည်။ တောမတ်ဂျက်ဖာဆန်၏အမည်သည် အမေရိကန် နိုင်ငံရေးလောကတွင်သာမဟုတ် ဗိသုကာလောကတွင်လည်းဥဒါန်းတွင်ရစ်ပေသည်။ ဂျက်ဖာဆန်သည်ပထဝီဝင်၊ ဘူမိဗေဒ၊ ရုက္ခဗေဒ၊ ပါဏဗေဒ၊ တို့ကိုလည်းဝါသနာအလျောက်လိုက်စားခဲ့သည်။ လယ်ယာစိုက်ပျိုးခြင်း၊ သစ်ပင်စိုက်ခြင်းတို့အပြင်၊ ဆေးပညာ၊ ခွဲစိတ်ကုသခြင်းပညာနှင့် သင်္ချာဘာသာရပ်များတွင်လည်း အထူးပင် ဝါသနာထုံသူဖြစ်၏။ ထိုမျှသာမကသေး အယူဝါဒဆိုင်ရာဖက်တွင်လည်းမှလစ်ဟင်းခဲ့ချေ။ စာပေနှင့်ဝေါဟာရများကိုလည်း ဂရုစိုက် သည်။ အမေရိကန်ယထာဘူတပညာအသင်းကြီးတွင် ဥက္ကဋ္ဌအဖြစ် နှစ်ပေါင်းများစွာ ဆောင်ရွက်ခဲ့လေသည်။

၁၈၂၆ ခုနှစ်ဇူလိုင်လ ၄ ရက်နေ့ (လွတ်လပ်ရေးအနှစ် ၅၀ မြောက်အောင်ပွဲနေ့) တွင် တောမတ်ဂျက်ဖာဆန်ကွယ်လွန်လေသည်။ သူ၏မှာထားချက်အရ သူ၏ဂူပေါ်တွင် မော်ကွန်းစာတမ်းအဖြစ် 'ဤနေရာ၌အမေရိကန်လွတ်လပ်ရေးကျေညာစာတမ်းကြီးနှင့် ဗာဂျင်းနီးယားနယ်အယူဝါဒလွတ်လပ်မှုဥပဒေကိုရေးခဲ့သူ ဗာဂျင်းနီးယားတက္ကသိုလ်ဖခင်ကြီး၊ တောမတ်ဂျက်ဖာဆန်ကိုမြှုပ်နှံသည်' ဟုကမ္ပည်းထိုးထားလေသတည်း။

**ဂျက်အင်ဂျင်။** ။ဂျက်အင်ဂျင်၏သဘောအကျဉ်းကို လွယ်ကူထင်ရှားသောသာဓကဖြင့် ရှင်းလင်းပြနိုင်ပေသည်။ ရော်ဘာပူဖောင်းကလေးတလုံးကို လေဝအောင်မှုတ်ပြီးနောက် ရုတ်တရက်လက်မှလွှတ်လိုက်ပါ။ ရော်ဘာပူဖောင်းကလေးလွင့်ထွက် သွားသည်ကို တွေ့မြင်ကြရပေလိမ့်မည်။ ပူဖောင်းကလေးလွင့်သွားရခြင်းမှာ ထိပ်ဝမှလေပန်းထွက်ခြင်းကြောင့်ဖြစ်သည်။ ထိုသို့လွင့်သွားခြင်းသည် ဂျက်အင်ဂျင်၏သဘောအကျဉ်းပင်ဖြစ်ပေသည်။

ဂျက်အင်ဂျင်ခုတ်မောင်းပုံနည်းကို လူတို့သည်လွန်ခဲ့သည့်နှစ်ပေါင်း ၂၀၀ ကျော်ကပင် စတင်ကြံစည်လာခဲ့ကြသည်။ သိရသလောက်မှာ ဂျန်အယ်လင်ဆိုသူပုဂ္ဂိုလ်တဦးသည်ခရစ် ၁၇၂၉ ခုနှစ်က လေငြိမ်အရပ်ရှိသင်္ဘောကိုဤနည်းဖြင့်ခုတ်မောင်းနိုင်အောင်ကြံစည်ခဲ့ဘူးသည်။ သူ၏အကြံမှာယမ်းမှုန့်၏ပေါက်ကွဲမှုဖြင့် အင်ဂျင်ကို ခုတ်မောင်းရန်ဖြစ်သည်။ ထိုနည်းကိုအယ်လင်သည် မူပိုင်မှတ်ပုံပင်တင်ထားခဲ့၏။

နောင်နှစ်ပေါင်း ၅၀ ကြာသောအခါ ဂျိမ်းရမ့်ဇီဆိုသူအမေရိကန်လူမျိုးတဦးသည် ရေအားသုံးဂျက်ခုတ်မောင်းနည်းဖြင့် လှေတစင်းကိုခုတ်မောင်းပြခဲ့သည်။ သူသည် ရေကိုလှေဦးပိုင်းမှနေ၍ ရေစုတ်စက်ဖြင့်စုတ်သွင်းပြီးနောက် လှေပဲ့ပိုင်းရှိနှုတ်သီးခေါင်းမှ နောက်ပြန်ပန်းထုတ်ပေးသည်။ ထိုအခါထိုရေပန်း၏နောက်ပြန်အားကြောင့် လှေသည်ရှေ့သို့ရွေ့သွားသည်။ ရမ့်ဇီသည်အလားတူလှေမျိုးကို နောက်ထပ်အင်္ဂလန်ပြည်၌လည်းပြုလုပ်သေး၏။ သို့သော်ဘေးခုတ်စက်ဖြင့်ခုတ်မောင်းသောသင်္ဘောများ အောင်မြင်စွာပေါ်ပေါက်လာခြင်းကြောင့်တကြောင်း၊ ရမ့်ဇီကိုယ်တိုင်မှာကွယ်လွန်သွားခြင်းကြောင့်တကြောင်း ထိုခုတ်မောင်းနည်းမှာတိမ်မြုပ်သွားသည်။ ထိုနောက်တွင် အတိုင်းတိုင်းအနိုင်နိုင်ငံမှသိပ္ပံပညာရှင်တို့သည် တစထက်တစတိုးတက်ကြံစည်ကြိုးစားလာကြသောကြောင့် နောက်ဆုံးတွင် ထိထိရောက်ရောက်အသုံးချနိုင်သော ဂျက်အင်ဂျင်မျိုးဖြစ်ထွန်းပေါ်ပေါက်လာလေသည်။

သိပ္ပံပညာရှင်တို့သည် လှေသင်္ဘောများကိုခုတ်မောင်းရန် ရေပန်းဂျက်စက်အမျိုးမျိုးကို စမ်းသပ်ခဲ့ကြသည်။ ပဌမ

ကမ္ဘာစစ်ဖြစ်နေချိန်က အသံမမြည်သောဂျက်အင်ဂျင်ကိုကြံစည်ကြိုးစားခဲ့ကြသည်။ တုံးပျံအမျိုးမျိုးကို စမ်းသပ်၍ လသို့အရောက်သွားနိုင်မည့်ရောမတုံးပျံကြီးများကိုပင် စိတ်ကူးခဲ့ကြဘူးသည်။ (တုံးပျံ — ရှု။) တုံးများတွင်ယမ်းမှုန့်အစား လေ၊ အောက်စီဂျင်စသည်တို့ကိုအရည်ပြုလုပ်၍ ကန်အားရရှိအောင်စမ်းသပ်ခဲ့ကြသည်။ တုံးအင်ဂျင်ဖြင့် ခုတ်မောင်းသော တုံးမော်တော်ကား၊ တုံးလေယာဉ်ပျံများကိုကြံစည်ခဲ့ကြသည်။ ဒုတိယကမ္ဘာစစ်အတွင်းက ဂျာမန်လူမျိုးတို့အသုံးပြုသော မက်ဆာရှမစ် ၁၆၃ တိုက်လေယာဉ်ပျံမျိုးတွင် တုံးအင်ဂျင်တပ်ဆင်ထားသည်။ ထိုအင်ဂျင်မှာအရည်ပြုလုပ်၍ထားသော အောက်ဆီဂျင်ဖြင့်ခုတ်မောင်းခြင်းဖြစ်လေသည်။

ဂျက်လေယာဉ်ပျံများ ထူးထူးခြားခြားခေတ်စားလာခဲ့သည့်အချိန်ကား ဒုတိယကမ္ဘာစစ်ကြီးအတွင်းကဖြစ်၏။ ထိုအချိန်တွင်စစ်ပွဲ၌ ပါဝင်တိုက်ခိုက်သည့်နိုင်ငံတိုင်းလိုလိုပင် ဂျက်လေယာဉ်ပျံများကို ဆောက်လုပ်ကြသည်။ ဣတလျံလူမျိုးတို့က ၁၉၄၁ ခုနှစ်တွင်ဂျက်လေယာဉ်ပျံတစင်းကို ဆောက်လုပ်၍ ပျံသန်းပြခဲ့သည်။ မက်ဆာရှမစ် ၂၆၂ ခေါ် ဂျာမန်လူမျိုးတို့၏တိုက်လေယာဉ်ပျံမှာလည်း ဂျက်လေယာဉ်ပျံပင်ဖြစ်၏။ အင်္ဂလိပ်လူမျိုးတို့က ဂျက်စက်တလုံးတပ် ဂလော့စတာတိုက်လေယာဉ်ပျံကို တီထွင်ခဲ့ကြသည်။ နောင်အခါတီထွင်သော စက် ၂ လုံးတပ် ဂလော့စတာဂျက်လေယာဉ်ပျံသည် ၁၉၄၅ ခုနှစ်တွင် တနာရီလျှင် ၆၀၆ မိုင်နှုန်းဖြင့်ပျံသန်း၍ ကမ္ဘာ့စံချိန်ထားခဲ့လေသည်။ ၁၉၄၄ ခုနှစ်တွင်ဂျာမန်လူမျိုးတို့သည် ဗုံးပျံများကိုအသုံးပြုကြသည်။ ဗုံးပျံတွင်ပေါက်ကွဲမှုသည် ပြတ်တောင်းပြတ်တောင်း လျှင်မြန်စွာဖြစ်၍၊ အခြားဂျက်အင်ဂျင်မျိုးတွင်မူ စက်လည်သည်နှင့် တပြိုင်နက် ပေါက်ကွဲမှုသည်တောက်လျှောက်တဆက်တည်းဖြစ်ပေသည်။ (ဗုံးပျံ — ရှု။) ဂျက်လေယာဉ်ပျံ၌ကောင်းသောအချက်များနှင့် မကောင်းသောအချက်များရှိလေသည်။

**ကောင်းသောအချက်များ။** ။ဂျက်လေယာဉ်ပျံသည် ပစ်စတန်အင်ဂျင်တပ် သာမန်လေယာဉ်ပျံတို့ထက် မြန်သည်။ အသံလှိုင်းထက်ပင်မြန်သေး၏။ အလွန်မြင့်သောအရပ်၌ ပျံသန်းနိုင်သည်။ မီးလောင်လွယ်သောဓာတ်ဆီအစား ပယ်ရဖင်ဆီကိုအသုံးပြုနိုင်သည်။

ဂျက်လေယာဉ်ပျံသည် ပျံသန်းနေစဉ် သာမန်လေယာဉ်ပျံတို့လောက်အသံမကျယ်ချေ။ သာမန်လေယာဉ်ပျံတို့ထက် ပို၍မတ်စောက်စွာပျံတက်နိုင်သည်။ တခဏခြင်း စက်ပူလာနိုင်သဖြင့် လျှင်မြန်စွာပျံထွက်နိုင်သည်။

**မကောင်းသောအချက်များ။** ။ဂျက်လေယာဉ်ပျံသည် နိမ့်သောအရပ်တွင်ပျံသန်းရာ၌ငင်း၊ အမြန်နှုန်းကိုလျှော့၍ ပျံသန်းရာ၌ငင်း၊ သာမန်လေယာဉ်ပျံတို့လောက်မကောင်းချေ။ ဂျက်လေယာဉ်ပျံသည် ဆီအပေါ်စားများကိုအသုံးပြုနိုင်သော်လည်း ဆီးစားကြီးလွန်းလှသဖြင့် လောင်စာဆီ အမြောက်အမြားသယ်ဆောင်ရန်လိုသည်။ ယင်းသို့သယ်ဆောင်ရန်မှာ မဖြစ်နိုင်သည့်အတိုင်း၊ ခရီးဝေးကိုအလိုရှိသလောက်မပျံသန်းနိုင်ချေ။ စက်အတွင်းပေါက်ကွဲမှုကြောင့် ဖြစ်ပေါ်လာသည့်အပူချိန်မှာ အဆမတန်ကြီးမားလွန်းသည့်အတွက် ဂျက်အင်ဂျင်ကို အလွန်ပြင်းထန်သော အပူဒဏ်ခံနိုင်သည့်သတ္တုမျိုးဖြင့်သာဆောက်လုပ်ရသည်။

ယခုအခါဂျက်အင်ဂျင်များသည် တစထက်တစတိုးတက်ကောင်းမွန်လာကြသည်။ ပရော့ပဂျက်အင်ဂျင်ခေါ် ဂျက်အင်ဂျင်သည် သာမန်တာဗိုဂျက်အင်ဂျင်နည်းတူပင် ဓာတ်ငွေ့ကိုအသုံးပြုသည်။ သို့သော်တာဗိုအင်ဂျင်၌ပေါက်ကွဲပြီး ဓာတ်ငွေ့များသည်နောက်ပိုင်းရှိနှုတ်သီးမှပန်းထွက်၍ပရော့ပဂျက်အင်ဂျင်တွင်မူ အဆိုပါဓာတ်ငွေ့များသည်ပန်ကာကိုလည်စေသည်။ ဓာတ်ငွေ့အချို့ဖြင့် ပန်ကာကိုလည်စေ၍ ကျန်ဓာတ်ငွေ့များကိုပန်းထုတ်သောအင်ဂျင်မျိုးလည်းရှိပေသည်။ အချို့ဂျက်လေယာဉ်ပျံများသည် ဦးပိုင်း၌ပန်ကာလည်စေသောအင်ဂျင်ကိုငင်း၊ နောက်ပိုင်း၌ ဓာတ်ငွေ့ပန်းထုတ်သောအင်ဂျင်ကိုငင်း တပ်ဆင်၍ အသုံးပြုကြသည်။ ဤလေယာဉ်ပျံမျိုးသည် အမြန်နှုန်းကို အမျိုးမျိုးပြောင်းလဲ၍ပျံသန်းနိုင်လေသည်။

**ဂျက်အင်ဂျင်အမျိုးအစား။** ။လေကိုအသုံးပြုသောဂျက်အင်ဂျင်များမှာအဓိကအားဖြင့် ၃ မျိုး ၃ စားရှိသည်။

ပဌမအမျိုးမှာတာဗိုဂျက်အင်ဂျင်ဖြစ်၍ ထိုအင်ဂျင်သည် ရှေးဦးစွာအရှေ့ဖက်မှလေကိုစုတ်ယူသည်။ ထိုနောက်စက်အတွင်း၌ လေကိုဖိညှစ်ပေးကာ လောင်စာတမျိုးမျိုးဖြင့် လောင်ကျွမ်းပေါက်ကွဲစေသည်။ ထိုနောက်ပေါက်ကွဲပြီး ဓာတ်ငွေ့ကိုအနောက်ဖက်ရှိနှုတ်သီးခေါင်းမှပန်းထုတ်ပစ်၏။

ဒုတိယအမျိုးမှာ အင်တာမစ်တင်း – ဒပ်အင်ဂျင်ခေါ် ပြတ်တောင်းပေါက်ကွဲသည့် ဂျက်အင်ဂျင်မျိုးဖြစ်သည်။



လေယာဉ်ပျံများတွင်တပ်ဆင်သည့်ဂျက်အင်ဂျင်တမျိုး

ယင်းကိုဂျာမန်လူမျိုးတို့က ဗွိဝမ်းဟုခေါ်တွင်သော ဖုံးပျံလက်နက်ဆန်း၌ ပဋမဦးစွာအသုံးပြုခဲ့ကြသည်။ ထိုအင်ဂျင်မျိုးကိုတခါတရံ ပါလဆိုဂျက် ဟုလည်းခေါ်လေသည်။ ထိုအင်ဂျင်ကို တနည်းနည်းဖြင့် လျင်မြန်စွာပစ်လွှတ်ပေးရသည်။ အင်ဂျင်ရှေ့၌လျင်မြန်စွာပိတ်နိုင်ဖွင့်နိုင်သော တံခါးအရှင်ပါသည်။ ရှေးဦးစွာတံခါးပွင့်သောအခါ စက်ထဲသို့လေဝင်လာသည်။ ထိုနောက်တံခါးပိတ်သွားသည်။ ထိုအချိန်၌ အတွင်းသို့ရောက်သွားသောလေသည် လောင်စာတခုခုနှင့် ရောကာပေါက်ကွဲသွားသည်။ ဤသို့ပေါက်ကွဲပြီးသောအခါ တံခါးသည်တဖန်ပွင့်လာပြန်သည်။ လေလည်းဝင်၍ ပေါက်ကွဲပြန်သည်။ ဤနည်းဖြင့်တံခါးသည် တစက္ကန့်တွင် အကြိမ်ပေါင်း ၄၀ ခန့်ပွင့်လိုက်ပိတ်လိုက်ဖြစ်သည်။ လောင်ကျွမ်းပြီးဓာတ်ငွေ့များသည် နောက်ပိုင်းရှိ နှုတ်သီးခေါင်းမှ ပန်းထွက်လေသည်။

တတိယအမျိုးမှာ ရမ်းဂျက်ခေါ် တဆက်တည်းပေါက်ကွဲသည့် အင်ဂျင်မျိုးဖြစ်သည်။ ရမ်းဂျက်သည်ရှေ့သို့တိုးလာချိန်တွင် လေကိုစက်အိုးထဲသို့ဆောင့်ဝင်စေသည်။ လေသည်စက်အိုးထဲ၌ပျံ့ထွက်လာပြီးလျှင် လောင်စာတခုခုဖြင့်ရော၍ပေါက်ကွဲသည်။ ထိုနောက်ဓာတ်ငွေ့သည်နောက်ပိုင်းရှိ နှုတ်သီးခေါင်းမှလျင်မြန်စွာထွက်သွားသည်။ ရမ်းဂျက်အင်ဂျင်ကို အသံလှိုင်းတမျှ လျင်မြန်သောယာဉ်များတွင်သာ တပ်ဆင်အသုံးပြုရန်သင့်တော်သည်ဟုယူဆကြလေသည်။

**ဂျင်ဂစ်ခန်** (ခရစ် ၁၁၆၂–၁၂၂၇)။ ။ဂျင်ဂစ်ခန်ကို ဗိုက်ကာအိုင်ကြီး၏ အရှေ့တောင်ဖက်၊ အိုနွန်မြစ်ပေါ်ရှိ၊ ဒယ်လီဂန်၊ ဗူလဒွတ်အရပ်တွင် ဖွားမြင်ခဲ့သည်။ သူ့ဖခင်မှာ တရုပ်နိုင်ငံတံတိုင်းကြီးနှင့် အမူးမြစ်အကြားရှိ အတော်ကျယ်ဝန်းသောဒေသကို အုပ်ချုပ်သော မွန်ဂိုအကြီးအကဲတဦးဖြစ်၍ ဖခင်သေဆုံးသောအခါ ဂျင်ဂစ်ခန်သည် အသက် ၁၃ နှစ်အရွယ် လူမမယ်ဘဝနှင့်ကျန်ရစ်၏။ ထိုစဉ်ကသူ့ကို တင်မျူဂျင်ဟူ၍ခေါ်ခဲ့ကြသည်။ သူသည်ထိုသို့နုနယ်ပျိုမျစ်သောအရွယ်မှာပင်၊ အခြားမွန်ဂိုလူမျိုးစုများကို တိုက်ခိုက်အောင်မြင်ပြီးနောက် တန်းဂွတ်ဒေသကို အောင်မြင်ခဲ့၏။ ၁၂၀၆ ခုနှစ်တွင် ဝီးဂူးဝါးတို့၏တိုင်းပြည်ကို အလွယ်တကူအောင်မြင်၍၊ မိမိအောင်ပွဲရခဲ့သည်တို့ကို ထင်ရှားစိမ့်သောငှာ၊ ဂျင်ဂစ်ခန်ဟူသောအမည်ကို ခံယူခဲ့လေသည်။ ထိုအမည်ဖြင့်ပင် ကမ္ဘာ့သမိုင်း၌ ထင်ရှားပေတော့သည်။ ထိုအခါတွင် သူ၏အသက်မှာ ၄၈ နှစ်ရှိချေပြီ။

ဂျင်ဂစ်ခန်သည် ပဋမဦးစွာ မွန်ဂိုဟူသမျှကို တစည်းတလုံးတည်းညီညွတ်အောင် ထပ်မံဆောင်ရွက်၏။ သဘောကွဲလွဲလျက်ရှိသော ခေါင်းဆောင်များကို သိမ်းသွင်းသည်။ အချို့ကို သုတ်သင်ရှင်းလင်းပစ်လေသည်။ ထိုနောက် မွန်ဂိုနယ်နိမိတ်ကို ကျော်လွန်ကာ နယ်ပယ်ချဲ့ရာတွင် ၁၂၁၃ ခုနှစ်၌တရုပ်နိုင်ငံတံတိုင်းကြီးကို ဖြတ်ကျော်၍ မြောက်ပိုင်းသို့ ဝင်ရောက်တိုက်ခိုက်သည်။ ထိုအရပ်ရှိ ကင်တားတားလူမျိုးတို့ကို လက်အောက်သို့သိမ်းသွင်းခဲ့ပြီးနောက် ယခင်က ယင်ကင်း၊ ယခုပီကင်းမြို့တော်တွင် အတန်ကြာအုပ်ချုပ်နေခဲ့သည်။ ထိုမှ ၅ နှစ်အကြာတွင် ကိုရီးယားသို့ သွားရောက်တိုက်ခိုက်ခဲ့သည်။



မွန်ဂိုဘုရင်ဂျင်ဂစ်ခန်

ထိုနောက်၊ အေရယ်ပင်လယ်၏ တောင်ဖက်ရှိ ခွာရစ်ဇံနိုင်ငံမှ ရှားဘုရင်သည် မွန်ဂိုသူပုန်ခေါင်းဆောင်တဦးကိုလက်ခံခြီးမြှောက်ခဲ့သည့်အတွက် ဂျင်ဂစ်ခန် သွားရောက်တိုက်ခိုက်ကာ၊ ရှားဘုရင်နှင့်တကွ သူပုန်ခေါင်းဆောင်ကို လက်ရဖမ်းဆီးမိ၏။ သို့သော်လည်း ရှားဘုရင်အား အမျက်မထားဘဲ သဘောထားကြီးကြီးနှင့် မဟာမိတ်ဖွဲ့ကာ၊ နိုင်ငံအချင်းချင်းကူးသန်းရောင်းဝယ်ရန် စာချုပ်ကိုပင် ချုပ်ဆိုခဲ့၏။ ရှားဘုရင်ကမူ၊ စာချုပ်ကိုဖောက်ဖျက်ကာ၊ မွန်ဂိုကုန်သည်များကိုသတ်ဖြတ်၏။ ထိုကိစ္စအတွက် သံတမန်များစေလွှတ်ခဲ့ရာတွင် ရှားဘုရင်ကသံတမန်များကို မလေးမခန့်ပြုရုံမက တဦးကို ခေါင်းဖြတ်၍ပင်သတ်ခဲ့လေသည်။ ထိုကြောင့်ဂျင်ဂစ်ခန်သည် စစ်သည် ၇၀၀,၀၀၀ ဖြင့် သွားရောက်တိုက်ခိုက်သည်။ မွန်ဂိုတပ်များ၏ဒဏ်ကို ခိုင်မာသောခံတပ်ကြီးများပင် မခံနိုင်ချေ။ ရှားဘုရင်မှာလည်း ခွာရစ်ဇံနိုင်ငံမှ လက်လွတ်ထွက်ပြေးတိမ်းရှောင်ခဲ့ရသည်။ ဗူခါးရားနှင့် ဆမားကန်းမြို့ ၂ မြို့မှာလည်း စစ်ဒဏ်ကြောင့် ကြေမွသွားလေတော့သည်။

ဂျင်ဂစ်ခန်သည် ခွာရစ်ဇံနိုင်ငံတွင်ရှိစဉ် ရုရှနိုင်ငံရှိ နိုင်ငံ

အသီးသီးသို့ သံတမန်များကို လက်ဆောင်ပဏ္ဏာများဖြင့် မိတ်ဖွဲ့ရန်စေလွှတ်ခဲ့သည်။ သို့ရာတွင် ထိုနိုင်ငံများသည် မွန်ဂိုလူမျိုးဟူ၍ ကြားပင်မကြားဘူးသည့်ပြင် မိမိတို့နိုင်ငံများသာ ကြီးကျယ်ခမ်းနားသည်ဟု အထင်ကြီးနေခဲ့ကြသဖြင့်၊ မွန်ဂိုသံတမန်တို့အား မချေမငံပြုကျင့်၏။ အချို့နိုင်ငံများကမူ သတ်ဖြတ်ပစ်၏။ ထိုအခါ၌ မွန်ဂိုတို့၏ အစွမ်းကိုပြရန်အလို့ငှာ အနောက်ဖက်သို့ အလုံးအရင်းနှင့် ချီတက်လျက် နိုင်ငံပေါင်းများစွာကို မှုန်မှုန်ညက်ညက်ချေမှုန်းလိုက်လေသည်။ ထိုနောက်တွင်မှ ယင်းနိုင်ငံများသည် အညံ့ခံ၍သံတမန်များ၊ လက်ဆောင်ပဏ္ဏာများဖြင့် လာရောက်ကာ သစ္စာခံကြလေသည်။

ဤသို့ဂျင်ဂစ်ခန်၏တပ်မတော်ကြီးက ရုရှနိုင်ငံများကိုနှိမ်နင်းပြီးစတွင် ယခင်ရှားဘုရင်၏သား၊ ဂျလားလွတ်ဒင်က မွန်ဂိုစစ်သည်တို့အား လာရောက်ထိပါးပြန်သည်။ မွန်ဂိုတို့ကယုဉ်ပြိုင်တိုက်ခိုက်သည်တွင် ဂျလားလွတ်ဒင်မှာမခံမရပ်နိုင်ဘဲ တောင်ဖက်သို့ ဆုတ်ခွာပြေးရလေ၏။ မွန်ဂိုတို့လည်း ထက်ကြပ်မကွာ လိုက်လံတိုက်ခိုက်ရာတွင် အိန္ဒုမြစ်ကမ်း၌ ရန်သူတို့ တပ်လုံးပြုတ်၍ ဂျလားလွတ်ဒင်တဦးတည်းသာ ဒေလီမြို့သို့ ထွက်ပြေးပုန်းအောင်းနေရလေသည်။

ဤသို့ဖြင့် ဂျင်ဂစ်ခန်၏တပ်မတော်သည် အနောက်ဖက်တခွင်တွင် အရှုံးမရှိ၊ စစ်ပွဲများကိုအောင်နိုင်ပြီးသောအခါ၊ ကယ်ရကိုးရမ်းနေပြည်သို့ပြန်လေသည်။ နေပြည်တော်သို့ရောက်၍ အသက်ပင် ၆၀ ကျော်ပြီဖြစ်သော်လည်း၊ တရုပ်ပြည်အနောက်မြောက်ပိုင်းသို့ ချီတက်တိုက်ခိုက်ကာအောင်ပွဲခံလိုက်သေးသည်။

ဤသို့မရပ်မနား၊ အောင်ပွဲအဆက်ဆက်ခံခဲ့ပြီးနောက်၊ ၁၂၂၇ ခုနှစ် ဩဂုတ်လတွင် ရုတ်တရက်နာမကျန်းဖြစ်၍ ဂျင်ဂစ်ခန် ကွယ်လွန်လေတော့သည်။ သူစည်းရုံးခဲ့သောနိုင်ငံတော်ကြီးမှာ အရှေ့ဖက်ပင်လယ်ဝါမှ အနောက်ဖက်ပင်လယ်နက်အထိ ကျယ်ပြန့်လေသည်။ ဤမျှကျယ်ဝန်းသောနိုင်ငံတော်ကြီးကို ကမ္ဘာ့သမိုင်းတွင် အကြီးမားဆုံး အဆောက်အအုံတခုဖြစ်ခဲ့သည်ဟု မှတ်တမ်းတင်နိုင်တော့သည်။ ဂျင်ဂစ်ခန်ကွယ်လွန်သည့်နောက် သူ့အမည်နှင့် တည်ဆောက်ခဲ့သောနိုင်ငံတော်ကြီးမှာ အာရှတိုက်သားတို့ ဂုဏ်ယူရစ်ရန် ကျန်ခဲ့လေသည်။ ယခုခေတ်အီရန်နိုင်ငံ၊ အိန္ဒိယအနောက်မြောက်ပိုင်း၊ ရုရှနိုင်ငံ၏ တစိတ်တဒေသ၊ တရုပ်နိုင်ငံမြောက်ပိုင်းနှင့် မွန်ဂိုးလီးယားနယ်မြေများအပါအဝင်ဖြစ်သော အာရှတခွင်သည် ဂျင်ဂစ်ခန်မင်းကြီး၏ ဩဇာပျံ့နှံ့ရာ ဖြစ်ခဲ့လေသည်။

သူသည်မြင်းကုန်းနှီးပေါ်မှနေ၍ ဓားလွတ်ဖြင့် နိုင်ငံထူထောင်ခဲ့သူဖြစ်သည်။ သူ့အတွက် အားထားရဆုံးရဲမက်တို့ကား နာမည်ကျော် မွန်ဂိုမြင်းစီးသူရဲများ ဖြစ်လေသည်။

ဂျင်ဂစ်ခန်သည် သက်တမ်းတလျှောက်စစ်မက်ဖြင့်သာ ရင်းနှီးခဲ့ရကား၊ စစ်ရေးစစ်ရာတွင် ကျွမ်းကျင်လှသည်။ သူ၏တပ်မတော်ကြီးမှာ စည်းကမ်းကောင်း၍ ဖွဲ့စည်းပုံစနစ်ကျနသဖြင့် အထူးခြီးကျူးဖွယ်ဖြစ်သည်။

မိမိအောင်မြင်ခဲ့သောနိုင်ငံများမှကျွမ်းကျင်သူများစွာကို မိမိထံတွင်အမှုထမ်းစေခြင်းဖြင့် စစ်ပညာများဖွံ့ဖြိုးစေကာ စစ်အောင်နိုင်ရေးအတွက် အကူအပံ့များစွာရခဲ့သည်။ သူကိုယ်တိုင် ပညာခေါင်းပါးခဲ့သော်လည်း ပညာရေးကို အားပေးသူဖြစ်သည်။ ဂျင်ဂစ်ခန်မင်းကြီးသည် ကြမ်းတမ်းသော စစ်သားကြီးတဦးဖြစ်သော်လည်း နိုင်ငံတဝှန်းလုံးလက်ခံယုံကြည်ကြသော အယူဝါဒအသီးသီးကိုလေးစားသည်။ ကိုးကွယ်ဆည်းကပ်ခွင့်နှင့် ဆိုင်သော အခွင့်အရေးများကိုလည်းပေးခဲ့သည်။

သူကွယ်လွန်သောအခါ မွန်ဂိုလူမျိုးတို့တွင် နိုင်ငံခြားယဉ်ကျေးမှုအစုစုကို လက်ခံသိမ်းသွင်းပြီးလျှင် ယဉ်ကျေးစွာတိုးတက်ကြီးပွားရေးအတွက်၌လည်း အခြေတည်မိပြီးဖြစ်လေသည်။ သူ၏လက်ငုတ်လက်ရင်းဖြစ်သောနိုင်ငံတော်ကြီးကို သားတော် ၃ ဦးကခွဲခြမ်း၍ တာဝန်ယူအုပ်ချုပ်ကြသည်။ ကွယ်လွန်ခါနီးတွင် တရုပ်နိုင်ငံတောင်ပိုင်းကိုပါ သိမ်းယူရန် သူ့အားဆက်ခံမည့်သူများကိုမှာကြားခဲ့သေးသည်။

ဂျင်ဂစ်ခန်၏နိုင်ငံတော်ကြီးကို အအောင်မြင်ဆုံးပြန်လည်အုပ်ချုပ်နိုင်သူကား သူ၏မြေးကူဗလိုင်ခန်မင်းကြီးပေတည်း။ (ကူဗလိုင်ခန် — ရှု။)

**ဂျင်နက်တစ်ပညာ**။ ။ဂျင်နက်တစ်ဟူသည်မှာ မျိုးရိုးဇာတိနွယ်ပုံကို လေ့လာသော သိပ္ပံပညာတရပ်ဖြစ်သည်။ ဘမျိုးဘိုးတူဟူသောမြန်မာစကားသည် ဂျင်နက်တစ်ပညာ၏အခြေခံဥပဒေပင်ဖြစ်လေတော့သည်။ သားသမီးများသည် မိဖနှင့်မျိုးတူ၏။ ပင်ရင်းသည် ပင်ပွားနှင့်မျိုးတူ၏။ ခွေးသည်ကြောင်ကိုမမွေးနိုင်၊ ကုက္ကိုစေ့မှ နှင်းဆီပင်မပေါက်နိုင်။ ခွေးမှခွေးတို့သာပေါက်ပွား၍ကုက္ကိုစေ့မှ ကုက္ကိုပင်သာပေါက်ပွားနိုင်ရသည်။

သားသမီးတို့သည် မိဖတို့ထံမှ တူသောလက္ခဏာသွင်ပြင်တို့ကို ဇာတိအမွေခံရသည်။ ပမာအားဖြင့် ကြောင်နက်ကမွေးသောကြောင်သည် နက်ရပေလိမ့်မည်။ သို့သော်တခါတရံ ကြောင်နက်မှကြောင်ဖြူ၊ ကြောင်ဝါ၊ ကြောင်ကျားမွေးသည်လည်းရှိ၏။ လက္ခဏာသွင်ပြင်တူသမျှကိုသာ သားသမီးတို့က အမွေခံကြရမည်ဟုဆိုပါလျှင် အဘယ်ကြောင့် လက္ခဏာသွင်ပြင်ကွဲပြားပြန်ပါသနည်း။ ဤအချက်ကိုစဉ်းစားလိုက်သော် မျိုးရိုးဇာတိနွယ်ရာ၌ သတ္တဝါတို့တွင် ပဋိသန္ဓေစိတ်၌တူကြစေကာမူ၊ မူကွဲသည့်အကြောင်းရင်းလည်း ရှိရပေဦးမည်။ ဂျင်နက်တစ်ပညာရပ်၏အလို၌

တူသောမျိုးရိုးဇာတိကိုသာ သားသမီးတို့ကအမွေခံသည် မဟုတ်၊ မူမတူသောပြောင်းလဲချက်တို့သည်လည်း အစဉ်အဆက်လိုက်တတ်သည်ဟူသောသဘောကို ထင်ရှားစွာပြသည်။ သားဖြစ်သူသည် မိဖထံမှလက္ခဏာတူများကို ရယူခဲ့လျှင် ကွဲပြားသောလက္ခဏာများကိုလည်း ထိုနည်းအတိုင်းပင် ရယူရပေမည်။ သို့မဟုတ်ပါက အီဗော်လျူရှင် (ဆင့်ကဲဖြစ်လာခြင်း) တွင်အဓိပ္ပါယ်မရှိဖြစ်ပေမည်။ ဤကွဲပြားမှုလက္ခဏာများသည် ဗီဇဆဲတို့၏ပြုမူချက်ပြောင်းလဲရာမှဖြစ်ပေါ်လာကြသည်။ အမြင့်တန်းစားသတ္တဝါများတွင် ဤဆဲများသည် မျိုးပွားရန်အတွက် သီးခြားပင်တည်ရှိကြသည်။ ဤကားဂျင်နက်တစ်ပညာ၏အလိုတည်း။

ဤစိတ်ဝင်စားဖွယ်ရာကောင်းလှသော ပညာရပ်နှင့်စပ်လျဉ်း၍ ကျွန်ုပ်တို့သည် အနည်းငယ်မျှလောက်သာသိရှိကြရသည်။ ထိခိုက်ခြင်းကြောင့် ရရှိသည့်အင်္ဂါချွတ်ယွင်းမှု၊ လေ့ကျင့်ခြင်းကြောင့် ရရှိသည့်အင်္ဂါဖွံ့ဖြိုးမှု အစရှိသည့် လက္ခဏာများသည် မျိုးတဆက်မှတဆက်သို့ ကူးပြောင်းသွားခြင်းမရှိပေ။ ပမာအားဖြင့် စစ်တိုက်၍လက်မောင်းတဖက်ပြတ်နေသူတွင် လက်တဖက်သာပါသော သားသမီးကိုမရနိုင်ချေ။ ထိုနည်းတူစွာ အလွန်သန်မာသောကြွက်သားများရှိသည့် ပန်းဘဲသမား၏သားသမီးသည်လည်းသန်မာသောကြွက်သားများရှိရမည်ဟုမဆိုနိုင်ချေ။ သို့ရာတွင် အရက်ကိုကြိုက်နှစ်သက်တတ်သောစိတ်သည် သားစဉ်မြေးဆက်၌ မျိုးရိုးလိုက်စေမည် မဟုတ်သော်လည်း အရက်ကြောင့်နုံချာမသန်စွမ်းမှုသည်ကား မျိုးရိုးစဉ်ဆက်ကို လိုက်လိမ့်မည်ဖြစ်ပေသည်။

မျိုးရိုးလိုက်စေသည့်လက္ခဏာများသည် အမြဲပင်ထင်ရှားပြတ်သား၏။ ဤလက္ခဏာတို့သည် ရေနှင့်နွားနို့ရောထားသကဲ့သို့ ထွေပြားသည်မဟုတ်။ အရောင်စုံပုတီးစေ့များရောထားသကဲ့သို့ ခြားနားပြတ်သားသည်။ ပမာပြရလျှင် စိတ်ကြမ်းသူနှင့် စိတ်နူးညံ့သူနှစ်ဦး ပေါင်းဖော်၍ ရရှိသော သားသမီးတို့တွင်၊ ကြမ်းတမ်းသောစိတ်နှင့် နူးညံ့သောစိတ်သည် ရေနှင့်နွားနို့ရောထားသဖြင့် နွားနို့ရေကျဲဖြစ်သွားသကဲ့သို့ စိတ်နှစ်စိတ်ရောပြွမ်းကာ၊ မကြမ်းတကြမ်း၊ မနုတနုစိတ်ဟူ၍ ဖြစ်ပေါ်မလာနိုင်။ စိတ်ခက်ထန်သူသတ်သတ် စိတ်နူးညံ့သူသတ်သတ်ဟူ၍ မိဖမျိုးရိုးမှရသောစိတ် ၂ မျိုးစလုံးရှိသည့် သားသမီး ၂ မျိုး ၂ စားဟူ၍သာ ဖြစ်ပေါ်လာတတ်လေသည်။

မိဖထံမှ အမွေခံရသောလက္ခဏာတို့သည် တခါတရံငုပ်၍နေပြီးလျှင်၊ မျိုးရိုးစဉ်ဆက်ကိုကျော်ပြီးမှ၊ ပြန်ပေါ်လာတတ်လေသည်။ ယင်းကိုဇီဝဗေဒအရ အက်တာဗစ်ဇင်းဟုခေါ်သည်။

ယခုခေတ်တွင် မျိုးသန့်ခြင်းနှင့် မျိုးရိုးအကြောင်းကို လူတို့သည် များစွာစိတ်ပါဝင်စားလျက်ရှိကြသည်။ ဤသို့စိတ်ဝင်စားကြခြင်းမှာလည်း အခြားအကြောင်းကြောင့် မဟုတ်ဘဲ၊ လူတဦး၏ ကိုယ်ခန္ဓာအတွင်း၌ မည်သို့သောသွေးမျိုးရှိသည်ကို သိနိုင်ရန်ဖြစ်သည်။ ထိုသို့သိရှိပါက ထိုသူ့အတွက် သင့်တော်သောကျန်းမာရေး၊ သင့်တော်သောရာသီဥတု၊ သင့်တော်သောအလုပ်အကိုင် စသည်တို့ကို ရွေးချယ်နိုင်ကြမည်ဖြစ်သည်။ (မျိုးရိုးဇာတိ — ရှု။)

**ဂျင်းနား, အမ်၊ အေ** (ခရစ် ၁၈၇၆–၁၉၄၈)။ ။'ပါကစ္စတန်နိုင်ငံ၏ဖခင်ကြီး' ဟူ၍ ထင်ရှားသည့် ပုဂ္ဂိုလ်ကြီးကား မဟာမက်အလီဂျင်းနားပင်ဖြစ်သည်။ သူသည် အိန္ဒိယပြည်ကြီးမှ ပါကစ္စတန်နိုင်ငံဟူ၍ သီးခြားပေါ်လာရေးအတွက် နှစ်ပေါင်းများစွာကြိုးပမ်းခဲ့သောကြောင့် ထိုကဲ့သို့နာမည်တွင်ခြင်းဖြစ်သည်။ ဂျင်းနားသည် အိန္ဒိယပြည်ရှိ မွတ်စလင်တို့၏ချစ်ကြည်လေးစားမှုကို ခံရသောခေါင်းဆောင်ဖြစ်သည်။ ထို့ကြောင့် ၁၉၄၇ ခုနှစ် ဩဂုတ်လ ၁၅ ရက်နေ့တွင် ပါကစ္စတန်နိုင်ငံဟူ၍ လွတ်လပ်ရေးကိုကြေညာသောအခါ တွင်ဂျင်းနားသည် ထိုနိုင်ငံ၏ ပဌမဆုံးဘုရင်ခံချုပ်ဖြစ်လာခဲ့လေသည်။


မဟာမက်အလီဂျင်းနား

ဂျင်းနားသည် ကရာချိမြို့မှ ကြွယ်ဝသောကုန်သည်ကြီးတဦး၏ သားဖြစ်၍ အသက် ၁၆ နှစ်အရွယ်တွင် အင်္ဂလန်ပြည်လန်ဒန်မြို့သို့သွားရောက်ကာ ၄ နှစ်မျှဝတ်လုံပညာသင်ကြားခဲ့လေသည်။ အိန္ဒိယပြည်သို့ပြန်ရောက်၍ များမကြာမီဘုံဘိုင်မြို့တွင် ထိပ်တန်းဝတ်လုံတော်ရတဦးအဖြစ် နာမည်ရလာပြီးလျှင် နိုင်ငံရေးတွင် ပါဝင်ဆောင်ရွက်ခဲ့လေသည်။ အသက် ၃၀ အရွယ်တွင် အိန္ဒိယအမျိုးသားကွန်ဂရက်ဥက္ကဋ္ဌကြီး၏ အတွင်းရေးမှူးအဖြစ် ထမ်းဆောင်ခဲ့သည်။

၇ နှစ်ခန့်ကြာသောအခါ ဂျင်းနားသည် အိန္ဒိယကွန်ဂရက်အသင်းသားအဖြစ်နှင့်ပင် မွတ်စလင်အသင်းကြီးနှင့်လည်း ဆက်သွယ်ခဲ့သည်။ ထိုအချိန်တွင် မသင့်မမြတ်ဖြစ်နေကြသော မွတ်စလင်အသင်းကြီးနှင့် ဟိန္ဒူအမျိုးသားအများပါဝင်သော အိန္ဒိယအမျိုးသားကွန်ဂရက်တို့၏ နိုင်ငံရေးတွင် ချစ်ကြည်စွာတွဲဖက်ဆောင်ရွက်မှုကို ကြိုးစားခဲ့သည်။ သို့သော်မွတ်စလင်လူနည်းစုကို ထိရောက်သောဥပဒေများဖြင့် ကာကွယ်သမှုပြုမပေးသမျှ မအောင်မြင်နိုင်ဟုယူဆ

ကာ မွတ်စလင်များ၏ အခွင့်အရေးပြည့်စုံစွာရရှိအောင် ပြုလုပ်ရန်ရည်သန်၍ ၁၉၁၆ ခုနှစ်တွင် မွတ်စလင်အသင်းကြီး၏ ဥက္ကဋ္ဌအဖြစ်ကို ခံယူခဲ့လေသည်။

ထိုအချိန်မှစ၍ အိန္ဒိယပြည်၏ နိုင်ငံရေးကိစ္စများတွင် မဟာတ္တမဂန္ဓီနှင့် ဂျင်းနားတို့သည် ရှေ့ဆောင်ခဲ့လေသည်။ အိန္ဒိယပြည်သည် လွတ်လပ်ရေးရရှိရန် အခွင့်ကောင်းအမျိုးမျိုးကို အရယူခဲ့သော်လည်း ရင်ကြားမစေ့နိုင်သော ဟိန္ဒူနှင့်မွတ်စလင် စိတ်ဝမ်းကွဲပြားမှုကြီးကြောင့် မည်သည့် အလုပ်ကိုမျှ အဆင်ပြေအောင်မလုပ်နိုင်ဖြစ်ခဲ့ရသည်။

ခရစ် ၁၉၂၈ ခုနှစ်သို့ရောက်သောအခါ ဗြိတိသျှအစိုးရတို့က စိတ်ဝမ်းကွဲပြားမှုများကို ဖြေရှင်းပေးမည့် ကော်မရှင်အဖွဲ့တခုကို စေလွှတ်ခဲ့ရာတွင် ဂျင်းနားသည် မွတ်စလင်များဖက်မှ အချက်ပေါင်း ၁၄ ချက်ကိုတင်ပြခဲ့လေသည်။ နောက်ထပ်၍ လန်ဒန်မြို့တွင် ကျင်းပခဲ့သော အစည်းအဝေးများ၌ ဂျင်းနားပင်လျှင် မွတ်စလင်များဖက်မှ အရေးဆိုခဲ့လေသည်။ အင်္ဂလိပ်အောက်လွှတ်တော်တွင် ၁၉၃၅ ခုနှစ် အိန္ဒိယပြည်အုပ်ချုပ်ရေးအက်ဥပဒေကို တင်သွင်းဆွေးနွေးခဲ့စဉ်ကလည်း ဂျင်းနားသည် တက်ရောက်နားထောင်ခဲ့၏။

ထိုနောက်ဂျင်းနားသည် မွတ်စလင်အသင်းကြီးအားမွတ်စလင်လူထုတရပ်လုံးက အားပေးထောက်ခံလာရေးအတွက် အိန္ဒိယတပြည်လုံးကိုလှည့်၍ တရားဟောသည်။ သူသည် မွတ်စလင်အသင်းကြီး အင်အားတောင့်တင်းမှသာ အိန္ဒိယအမျိုးသားကွန်ဂရက်နှင့် အင်္ဂလိပ်အစိုးရတို့က အုပ်ချုပ်ရေးအသစ်တွင် မွတ်စလင်တို့အား ပူးပေါင်းဆောင်ရွက်ခွင့်ပေးမည်ဟုယုံကြည်ခဲ့၏။ ဂျင်းနားသည် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရသော ပြည်နယ်များတွင် မွတ်စလင်တို့သည် ရာထူးရာခံများ ရနိုင်မည်မဟုတ်သည့်ပြင်၊ နိုင်ငံရေးဖိနှိပ်ညှဉ်းပန်းမှုများကိုလည်း ခံရလိမ့်ဦးမည်ဟုလည်း စိုးရိမ်ခဲ့လေသည်။ ထို့ကြောင့်ဂျင်းနားသည် အိန္ဒိယပြည်အတွင်း မွတ်စလင်လူမျိုးတို့အတွက် သီးခြားနိုင်ငံတခု တည်ထောင်ပေးရန်အရေးဆိုခဲ့လေသည်။ ယင်းရည်ရွယ်ချက်အောင်မြင်ရန် ကြိုးစားသည့်ကာလအတွင်း သူ့အား 'ခေါင်းဆောင်ကြီး' ဟူသောဘွဲ့နှင့် ပိုမိုလူသိများလာခဲ့သည်။ ထိုနောက်၌ကား အိန္ဒိယအမျိုးသားကွန်ဂရက်နှင့် မွတ်စလင်အသင်းကြီးတို့သည် ၁၀ နှစ်ကြာမျှ ထပ်မံ၍ ပဋိပက္ခဖြစ်နေခဲ့ကြလေ၏။ ၁၉၄၄ ခုနှစ်အတွင်း ဂန္ဓီနှင့် ဂျင်းနားတို့ တွေ့ဆုံဆွေးနွေးခဲ့သေးရာ အရာရောက်သော ဖြေရှင်းမှု မရခဲ့ပေ။ ၁၉၄၇ ခုနှစ်တွင်မှ ဗြိတိသျှအစိုးရကပါလီမန်တွင် အိန္ဒိယပြည်အား လွတ်လပ်ရေးပေးသော အက်ဥပဒေကို သဘောတူညီခဲ့၍ အိန္ဒိယနိုင်ငံနှင့် ပါကစ္စတန်နိုင်ငံဟူသော ဒိုမီနီယန်နိုင်ငံများ ထူထောင်ခွင့်ပေးခဲ့ရာ ခေါင်းဆောင်ကြီးဂျင်းနားကိုပင် ပါကစ္စတန်ဒိုမီနီယန်နိုင်ငံ၏ ပဌမဆုံးဘုရင်ခံချုပ်အဖြစ် တင်မြှောက်ကြသည်။ ဂျင်းနားသည် ၎င်းရာထူးတွင် ၁ နှစ်မျှဆောင်ရွက်ခဲ့ပြီးနောက် ၁၉၄၈ ခုနှစ်စက်တင်ဘာလ ၁၁ ရက်နေ့၌ ကရာချိမြို့တွင် ကွယ်လွန်လေသည်။ (ပါကစ္စတန်နိုင်ငံ — လည်းရှု။)

**ဂျင်းမင်။** ။ချင်းပင် — ရှု။

**ဂျင်းဖော။** ။ကချင်လူမျိုး — ရှု။

**ဂျိုင်ရိုစကုပ်။** ။ဂျိုင်ရိုစကုပ်ဟူသည်ကား လည်ပတ်နိုင်သောဘီးတခုကို လွတ်လပ်စွာလှုပ်ရှားနိုင်သော ဝင်ရိုးတခုပေါ်၌ တပ်ဆင်ထားသည့် ကရိယာပင်ဖြစ်သည်။ ဂျိုင်ရိုတော့ခေါ် ကလေးကစားစရာကျင်ကို အချို့မြင်ဘူးကြပေမည်။ ယင်းမှာလက်တွေ့စမ်းခန်းတွင် ထားရှိအသုံးပြုလေ့ရှိသော ဂျိုင်ရိုစကုပ်နှင့် မည်သို့မျှမခြားပေ။ ဂျိုင်ရိုစကုပ်တွင် ဝင်ရိုးတပ်ထားသော လေးလံသည့်ဘီးဝိုင်းတခုပါရှိ၍ ဘီးလည်ပတ်နိုင်စေရန် အဆိုပါဝင်ရိုးကို ဘောင်ဝိုင်းတခုအတွင်း၌ ဆုံလည်သဘောဖြင့် တပ်ဆင်ပေးထားသည်။ ထိုဘောင်ကိုတဖန် အခြားဘောင်ဝိုင်းတခုအတွင်း၌ ဆုံလည်ဆက်ဖြင့် ကန့်လန့်ဖြတ်၍ တပ်ဆင်ထားပြန်သည်။ ထိုသို့ဆုံလည်တပ်ဘောင်နှစ်ခုနှင့် တပ်ဆင်ထားသည့်အတွက် ဘီးကိုအလိုရှိသလိုတိမ်းစောင်းလည်ပတ်စေနိုင်သည်။



သိပ္ပံလက်တွေ့စမ်းခန်းများ၌ သုံးသောဂျိုင်ရိုစကုပ်

ဘီးလည်၍မနေသောအချိန်၌ဘီးကိုကြိုက်သလိုထားနိုင်သည်။ တိမ်းစောင်းပေးနိုင်သည်။ သို့သော်ဝင်ရိုးတွင်ကြိုးနှင့်ရစ်ပတ်၍ ကြိုးစကိုဆောင့်၍ဆွဲပေးခြင်းဖြင့် ဘီးကိုလည်စေသောအချိန်၌မူ၊ ယင်းကိုစိတ်ကြိုက်အတိုင်း တိမ်းစောင်းပေး၍မရတော့ချေ။ ဘီးလည်နေစဉ်အချိန်တွင်မူဂျိုင်ရိုစကုပ်၌ ပြင်းထန်



ပြင်သစ်ရူပဗေဒဆရာကြီးဖူးကိုးက ဂျိုင်ရိုစကုပ်၏ သဘောကိုလက်တွေ့စမ်းသပ်ပြသနေစဉ်

သော ကိုယ်ပိုင် အား တခုဝင်၍ နေပေပြီ။ ဘီးကိုလည် အောင် ပြုပြီးနောက် ဂျိုင်ရိုစကုပ်ကိုလက်တွင်ကိုင်ကာ အခန်းထဲ၌ ဟိုဟိုသည်သည် ကွေ့ကောက်၍ လျှောက်ကြည့်သည်ဆိုကြပါစို့။ မည်သို့လှည့်ပတ်ကွေ့ကောက်၍ သွားစေကာမူ ဘီး၏ ဝင်ရိုးညွှန်ပြရာအရပ်သည် မည်သို့မျှ မပြောင်းဘဲ၊ မူလကအတိုင်းပင် တည်မြဲလျက်ရှိသည်ကို တွေ့ရလိမ့်မည်။ သို့သော် ဂျိုင်ရိုစကုပ်ကို မူလနေရာတွင် ပြန်ထားပြီးနောက် လက်ဖြင့်ဝင်ရိုးစွန်းကို တွန်းရွှေကြည့်ပါက ဝင်ရိုးစွန်းသည် စိုက်ထုတ်သောအားကိုတွန်းကန်ရုံသာမက တွန်းရွှေပေးသည့်ဖက်နှင့် ထောင့်မတ်ကျသည့်ဖက်သို့ လည်သွားသည်ကိုတွေ့ရမည်။ ဥပမာအားဖြင့် ဂျိုင်ရိုစကုပ်၏ဝင်ရိုးစွန်းကို ရေပြင်ညီအတိုင်း ဗယ်ညာတဖက်ဖက်သို့ တွန်းရွှေကြည့်လျှင် ဝင်ရိုးသည် ထောင်လိုက်ရွှေသည်ကိုတွေ့ရမည်။ တဖန်ထိုဝင်ရိုးစွန်းကို ထက်အောက်ထောင်လိုက် တွန်းရွှေကြည့်လျှင် ဝင်ရိုးစွန်းသည်ရေပြင်ညီအလိုက် ရွေ့သည်ကိုတွေ့ရလိမ့်မည်။

ကလေးကစားသောကျင်သည် လည်နေချိန်၌ ထောင်လိုက်တည်နေနိုင်သည်။ ရိုင်ဖယ်ကျည်ဆံသည်၎င်း၊ ကျွန်ုပ်တို့၏ကမ္ဘာအပါအဝင်ဖြစ်သော ဂြိုဟ်များသည်၎င်း အရှိန်ပြင်းစွာဖြင့် ရွေ့ရှားသွားလာလျက်ရှိစဉ် စောက်ထိုးပြောင်းပြန် ဖြစ်မသွားဘဲ တသမတ်တည်းပင်ရွေ့ရှားသည်။ ယင်းတို့မှာ ဂျိုင်ရိုစကုပ်အားသဘောကြောင့်ပင်ဖြစ်သည်။

ဂျိုင်ရိုစကုပ်များကို အသုံးပြုခြင်းအားဖြင့်အနည်းငယ်မျှသော တည်နေရာပြောင်းလဲမှုကိုပင် သိရှိနိုင်သည်။ ထို့ကြောင့် ဂျိုင်ရိုစကုပ်သဘောဖြင့်စီမံထားသော ဂျိုင်ရိုကရိယာများကို ခေတ်မှီမီးရထား၊ သင်္ဘောနှင့် လေယာဉ်ပျံများတွင် ပြတန်ဆာအဖြစ်ဖြင့်၎င်း၊ ငြိမ်ထိန်းကရိယာအဖြစ်ဖြင့်၎င်း တပ်ဆင်အသုံးပြုထားကြသည်။

သံလမ်းတလမ်းတည်းပေါ်၌ ပြေးသောမီးရထားတွဲများသည် သံလမ်းတလျှောက်ပြေးလျက်ရှိစဉ် တိမ်းမှောက်၍ မသွားခြင်း၊ တော်ပီဒိုများ အနေနှင့် ချိန်ထားသည့်လမ်းကြောင်းအတိုင်း ဖြောင့်ဖြောင့်တန်းစွာသွားခြင်းတို့မှာလည်း အလားတူဂျိုင်ရိုစကုပ်မျိုးကို အထိန်းသဘောနှင့် တပ်ဆင်၍ထားသောကြောင့်ပင်ဖြစ်သည်။ မောင်းသူမဲ့လေယာဉ်များကို ကြံစည်နိုင်ခြင်းမှာလည်း အဆိုပါအထိန်းကရိယာတို့၏ ကျေးဇူးကြောင့်ပင်ဖြစ်၏။ ရေခဲပြင်ပေါ်များရာအရပ်ဒေသ၌ လမ်းရှင်းပေးရသော ရေခဲပြင်ခွဲသင်္ဘောများတွင်မူ သင်္ဘောများကို တမင်လူးလိမ့်နေစေရန် ယိမ်းထိုးဂျိုင်ရိုဘီးများကို တပ်ဆင်ပေးထားရပေသည်။

ဂျိုင်ရိုစကုပ်ကို ၁၉ ရာစုခေတ်အစလောက်က တီထွင်ခဲ့ဟန်တူသော်လည်း မည်သူကစတင်တီထွင်ခဲ့သည်ကို မည်သူမျှအတိအကျမပြောနိုင်ချေ။ သို့သော် ဂျိုင်ရိုစကုပ်၏ ထူးခြားသောသတ္တိများကို ဖူးကိုးဆိုသူပြင်သစ်ရူပဗေဒဆရာကြီးတဦးက ၁၈၅၂ ခုနှစ်တွင် လေ့လာခဲ့သည်။ ထို့နောက် ၁၉၁၁ ခုနှစ်တွင် စပရီဆိုသူကတဖန်ယခုအခါတွင် ထင်ရှားလျက်ရှိသည့် ဂျိုင်ရိုအိမ်မြှောင်ကို လက်တွေ့စမ်းသပ်ခဲ့ပြန်သည်။ ရှေးအထက်ကစ၍သင်္ဘောများ၌ အသုံးပြုခဲ့ကြသောအိမ်မြှောင်မျိုးမှာ သံလိုက်အပ်များဖြင့် တပ်ဆင်ပြုလုပ်ထားသည့်အတွက်၊ အပြင်အပမှ သံလိုက်အားတခုခုကြောင့် ညွှန်ပြရာအရပ်သည် တိမ်းပါးလွဲမှားသွားနိုင်သည်။ ဂျိုင်ရိုကွန်ပါကိုမူ ဂျိုင်ရိုစကုပ်၏ ဝင်ရိုးမြဲခြင်းသဘောကြောင့် မည်သည့်သံလိုက်အားကမျှ မနှောင့်ယှက်နိုင်ချေ။ ထို့ကြောင့်ယခုအခါ ပင်လယ်ကူးသင်္ဘောကြီးတိုင်းလိုလိုမှာပင် ဂျိုင်ရိုကွန်ပါများကို တပ်ဆင်သုံးစွဲလျက်ရှိကြပေသည်။

**ဂျစ်ပစီလူမျိုး။** ။ဥရောပတိုက်တွင် အိုးအိမ်အတည်တကျမရှိဘဲ တနေရာမှတနေရာသို့ ခြေသလုံးအိမ်တိုင်ပြု၍ လှည့်လည်သွားလာနေထိုင်သော လူမျိုးကို ဂျစ်ပစီ ဟုခေါ်



ပင်လယ်ကမ်းစပ်တွင်ဂျစ်ပစီတို့ပွဲတော်ကျင်းပနေကြပုံ

သည်။ ဂျစ်ပစီတို့ကိုရှေးအခါက အိန္ဒိယနိုင်ငံ၌သာတွေ့ရသည်။ ၁၃၀၀ ပြည့်နှစ်လောက်က ဂျစ်ပစီတို့သည် အိန္ဒိယနိုင်ငံမှ ထွက်ခွာလာကြ၍ အီရန်နိုင်ငံကို ဖြတ်ကျော်ပြီးနောက် အာမီးနီးယားပြည်၊ ဆီးရီးယားပြည်၊ အီဂျစ်ပြည်နှင့် မြောက်အာဖရိကတိုက်သို့ ရောက်သွားခဲ့ကြ၏။ ၁၅၀၀ ပြည့်နှစ်ခန့်သို့ရောက်သောအခါ သူတို့သည် ဥရောပတိုက်သို့ ဝင်ရောက်မိကြ၍ စပိန်၊ အင်္ဂလန်၊ ရူမေးနီးယား၊ ဟန်ဂေရီ၊ ရုရှနှင့် ပြင်သစ်တိုင်းပြည်များတွင် အခြေစိုက်မိကြ၏။

ဂျစ်ပစီတို့ဘာသာစကားကို ရိုမနီဘာသာဟုခေါ်သည်။ ထိုဘာသာထဲတွင်ဂရိ၊ အာမီးနီးယန်းနှင့် ဆလားဗစ်စကားများပါဝင်သည်။ သူတို့တွင် ဘာသာစကားသီးသန့်ဟူ၍ မရှိချေ။ ရိုမနီဘာသာသည် ၁၄ မျိုးကွဲ၍ အခြားဘာသာစကားများနှင့် ရောနှောထွေးယှက်ကာ၊ ကပြားဘာသာစကားဖြစ်နေသည်။ ထိုရိုမနီဘာသာစကားမှာ ဂျစ်ပစီတို့ဖိုးဖွားများလက်ထက်ကတည်းက သုံးစွဲလာသောဘာသာဖြစ်၍ ရှေးကျသော သင်္သကရိုဋ္ဌ (သက္ကဋ) ဘာသာနှင့် ပြကရိုဋ္ဌဘာသာတို့၌မူတည်၏။ ဂျစ်ပစီတို့သည် သူတို့၏ ဓလေ့ထုံးစံများကို လွန်စွာအရေးထားလိုက်နာကြ၏။

ယေဘုယျအားဖြင့် ဂျစ်ပစီလူမျိုးတို့၏ အရပ်အမောင်းမှာ ၅ ပေ ၄ လက်မသာသာမြင့်၏။ ရှေးကျသောဂျစ်ပစီတို့မှာ အသားမည်း၍ မျက်လုံးအိမ်နက်၏။ ဆံပင်မှာမည်း၍ များသောအားဖြင့်ကုပ်ပေါ်ဝဲနေတတ်၏။ ဆံရှည်ဟူ၍မထားကြချေ။ တနေရာမှတနေရာသို့ လှည့်လည်သွားလာနေကြသော ဂျစ်ပစီတို့မှာ ထိုရှေးကျသောဂျစ်ပစီများနှင့် ပုံပန်းသဏ္ဌာန်ခပ်ဆင်ဆင်တူ၏။ သို့ရာတွင်တနေရာရာ၌ အတည်တကျစွဲမြဲ၍ နေတတ်သောဂျစ်ပစီတို့မှာ များသောအားဖြင့် သူတို့အခြေစိုက်ရာဒေသရှိလူမျိုးများဖက်သို့ နွယ်၍ရုပ်ပြောင်းသွားတတ်၏။

ဂျစ်ပစီလူမျိုးတစုတစုတွင် သူတို့တင်မြှောက်ထားသော အကြီးအကဲများကို ဘုရင်နှင့်ဘုရင်မဟု ခေါ်ကြသည်။ 'ထိုဘုရင်နှင့်ဘုရင်မတို့က အုပ်ချုပ်ကာ ကိုယ့်လူစုနှင့်ကိုယ် တနေရာမှ တနေရာသို့ ရွှေ့ပြောင်းသွားလာနေထိုင်ကြ၏။ ရွှေ့ပြောင်း သည့်အခါ သူတို့၏ အိမ်ထောင်ပစ္စည်း ကလေးများ၊ သားသမီးများနှင့် မွေးမြူထားသော ခွေးများကို ရထားပေါ်သို့ တင်ဆောင်သွားတတ်၏။ ဂျစ်ပစီတို့သည် အလွန်တောက်ပသောအရောင်များကိုနှစ်ခြိုက်၏။ အဝတ်အစားများကိုသော်၎င်း၊ အသုံးအဆောင်ပစ္စည်းများကိုသော်၎င်း တောက်ပစွာဆင်ယင်ခြယ်လှယ်ထား၏။ ဂျစ်ပစီမိန်းမများမှာ ဇာထိုး၊ ပန်းချုပ်၊ဗေဒင်ဟောခြင်းတို့၌ ကျွမ်းကျင်၏။ အဝတ်အစားများကို ဇာပန်းများထိုးထားလေ့ရှိ၏။ မိန်းမများသည်လက်ဝတ်လက်စားများကို အလွန်မက်ကြ၏။ ရွှေလက်ကောက်ကြီးများဝတ်ကာ နားနှစ်ဖက်၌လည်း ရွှေနားကွင်းများကိုတချင်ချင်မြည်အောင် ဆွဲထားတတ်ကြလေသည်။

ဂျစ်ပစီတို့မှာ တစုနှင့်တစုဓလေ့ထုံးစံချင်း မတူကြချေ။ သို့သော်ဂျစ်ပစီလူမျိုးစုတိုင်း၌ပင် ပွဲတော်နေ့များ၊ ပျော်ပွဲရှင်ပွဲကခုန်ပွဲများ ရှိကြလေသည်။ ပွဲတော်ကျင်းပသည့်ညများ၌ စခန်းချရာတဲများရှေ့တွင် မီးပုံကြီးများပုံ၍

ယောကျ်ားများက အတီးအမှုတ်များတီးကာ၊ မိန်းမကလေးများက သီချင်းများဆိုပြီးလျှင် ကခုန်မြူးထူးကြ၏။ ဂျစ်ပစီတို့မှာ ပျော်ပျော်နေတတ်သည်။ အခြေအတည်အကျမရှိချေ။ ရှေးကျသောဂျစ်ပစီတို့မှာ သက်မွေးဝမ်းကျောင်းမကောင်းချေ။ ရပ်ရွာထဲ၌လှည့်လည်၍ ခိုးဝှက်တိုက်ခိုက်လိမ်လည်လှည့်ဖြား၍ စားတတ်၏။ အမေရိကတိုက်နှင့် ဥရောပတိုက်ရှိဂျစ်ပစီတို့မှာ အများအားဖြင့် ဆင်းရဲနွမ်းပါးသူများ ဖြစ်ကြသည့် အတိုင်း တဝမ်းတခါးဝအောင်မျှပင် မစားသောက်နိုင်ကြချေ။

ဂျစ်ပစီတို့တွင် ထူးဆန်းသော ဓလေ့ထုံးစံများ ရှိသည်။ မွေးခါစနို့စို့ကလေးကို ရေစီးနေသော မြစ်ချောင်းထဲတွင် ရေချိုးပေးရ၏။ လက်ထပ်ပွဲတွင် သတို့သားနှင့်သတို့သမီးသည် မီးပုံပေါ်လွှားခုန်၍ သူတို့၏လက်များကိုဓားနှင့်ခြစ်ပြီးလျှင် လက်နှစ်ဖက်ကို စည်းနှောင်ထားရသည်။ ထိုသို့ပြုလုပ်ခြင်းမှာ သွေးချင်းရောသွားစေရန်ဖြစ်သည်။ လူတယောက်သေလျှင်လည်း ထိုသူ၏ပစ္စည်းဝန်ထုပ်အားလုံးကို မီးတင်ရလေသည်။

ဂျစ်ပစီယောကျ်ားများ၏ သက်မွေးဝမ်းကျောင်းပညာမှာ မမာသောမြင်းများကို ဆေးကုပေးခြင်း၊ သတ္တုထည်များလုပ်ခြင်း၊ ပန်းဘဲလုပ်ခြင်း၊ ဆပ်ကပ်ပွဲပြခြင်း၊ တီးမှုတ်သီဆိုခြင်းတို့ဖြစ်၏။ မိန်းမများကမူ ဗေဒင်ဟောခြင်း၊ နက္ခတ်ကြည့်ခြင်း၊ ဇာထိုးခြင်းတို့ဖြင့် ဝမ်းကျောင်းကြ၏။ အလုပ်အကိုင်ပါးရှားသည့်အခါများ၌ ဂျစ်ပစီတို့သည် သူတောင်းစားဘဝကိုပင် ရောက်ခဲ့ကြရ၏။ ဂျာမနီနိုင်ငံ၌ သွားရောက်နေထိုင်ကြသောဂျစ်ပစီတို့မှာ ဟစ်တလာလက်ထက်က နတ်ဆီတို့၏နှိပ်စက်ညှဉ်းပန်းမှုကို များစွာခံခဲ့ကြရ၏။ နတ်ဆီများကသူတို့ကို လူရာမဝင်သောသူများဟု ရှုတ်ချကာ သူတို့၏နေရေးထိုင်ရေး၊ ရွှေ့ပြောင်းသွားလာရေး၌ များစွာတားမြစ်ခဲ့၏။ အမေရိကတိုက်နှင့် ဥရောပတိုက်ရှိ အချို့ဒေသများ၌ ဂျစ်ပစီတို့ကို နေရာမရွှေ့ပြောင်းရန်ပြင်းထန်စွာ ဥပဒေဖြင့် တားမြစ်ထားလေသည်။

**ဂျစ်ပဆမ်**။ ။ဂျစ်ပဆမ်သည်အဖြူရောင်သို့မဟုတ် အဖြူတွင်အဝါရောင် အနည်းငယ်သန်းနေသော တွင်းထွက်ပစ္စည်းဖြစ်သည်။ ဓာတုဗေဒအလိုအရ ဂျစ်ပဆမ်သည် ရေဖြင့်ပေါင်းစပ်ဖွဲ့စည်းထားအပ်သော ကယ်လဆီယမ်ဆာလဖိတ်ဖြစ်၏။ ဂျစ်ပဆမ်သည်အဆိုပါဓာတ်ဆားပျော်ဝင်ရည်







အထက်ပုံ၊ စပိန်နိုင်ငံရှိဂျစ်ပစီတစုတို့၏ကပွဲ

အလယ်ပုံ၊ ဂျစ်ပစီအိမ်ထောင်စုများစခန်းချရပ်နားနေကြစဉ်

အောက်ပုံ၊ တံခါးဝမှထွက်ပြူနေသောဂျစ်ပစီမိန်းမပျိုကလေး



အမေရိကန်ပြည်ထောင်စု၊ နယူးမက္ကဆီကိုပြည်နယ်တွင် ဂျစ်ပဆမ်ကိုသဲခုံများ၌ဤကဲ့သို့တွေ့ရှိရသည်။

များမှ ရေတဖြည်းဖြည်းအခိုးအငွေ့ဖြစ်ကာ လွင့်ပျောက်သွားပြီးနောက် ကျန်နေရစ်သောကျောက်ဖြစ်သည်ဟုယူဆကြသည်။ ဂျစ်ပဆမ်ကျောက် သည် အလွန် ပျော့ သောကြောင့် ယင်းကိုလက်သည်းနှင့်ပင်ခြစ်၍ရသည်။ တခါတရံဂျစ်ပဆမ်ကို ဆယ်လီနိုက်ခေါ် ကြည်လင်သည့် ခရစ္စတက်ပွင့်များအနေဖြင့်တွေ့ရ၏။ တခါတရံလည်း အယ်လဗတ်စတာကျောက်ဖြူအနေဖြင့်တွေ့ရတတ်သည်။

ဂျစ်ပဆမ်ကို အမှုန့်ကြိတ်၍ အပူတိုက် ပေး သော အခါရေ ၇၅ ရာခိုင်နှုန်းခန့်ထွက်သွားပြီးနောက် ဖြူဖွေးနုနယ်သော အမှုန့် များ ရသည်။ ထိုအမှုန့် ကို ပလာ စတာအော့ပဲရစ် (အင်္ဂတေမှုန့်) ဟုခေါ် သည်။ ပါရစ်မြို့ အမည် တပ် ထားခြင်းမှာ ယခင်ကပါရစ်မြို့အနီး၌ဂျစ်ပဆမ်ကိုအကြီးအကျယ်တူး၍ အင်္ဂတေအဖြစ်အသုံးပြုခဲ့ကြသော ကြောင့်ဖြစ်သည်။

အဆိုပါပလာစတာမှုန့်ကိုအသုံးပြုသောအခါ ရှေးဦးစွာရေဖြင့်ရောနယ်ပေးရသည်။ ရေဖြင့်ရောနယ် ၍လေသလပ်ခံပေးသောအခါ ပလာစတာမှုန့်သည် လျှင်မြန်စွာမာကျောခိုင်ခံ့သော အင်္ဂတေတမျိုးဖြစ်လာသည်။ ထိုကြောင့်ဤပလာစတာကို အထူးသဖြင့် ရုပ်ထုဆရာများက ပုံအမျိုးမျိုးသွန်းလုပ်ရန်အသုံးပြုကြသည်။ ဆေးရုံများတွင်ခြေလက်ကျိုးသူများအား ကျပ်စည်းရန်အတွက်လည်းအသုံးပြုကြသည်။ ဂျစ်ပဆန်ကို တခါတရံ မြေဩဇာအဖြစ်ဖြင့် အသုံးပြုကြ၍၊ စက္ကူလုပ်ငန်း၊ အရောင် ဆေး လုပ် ငန်း၊ အင်္ဂတေ နှင့် အဆောက်အအုံပစ္စည်းလုပ်ငန်း စသည်များတွင်လည်း အသုံးပြုကြသည်။ ဂျစ်ပဆမ်ကျောက်လွှာထပ်များကို စီးဖြတ်လာသောရေတွင် အဆိုပါဓာတ်ဆားများ အမြောက်အမြားပျော်ဝင်လျက်ရှိရာ ထိုရေစေးမျိုးသည် ဖြစ်ရည်ချက်လုပ်ရာ၌ အဖိုးတန်အသုံးဝင်လေသည်။

ဂျစ်ပဆမ်ကိုအမေရိကန်နိုင်ငံ၌ အများဆုံးတူးဖော်ရရှိ၍၊ အခြားဂျစ်ပဆမ်ထွက်ရာနိုင်ငံများမှာ အင်္ဂလန်၊ ဂျာမနီ၊ စပိန်၊ ဣတလီနှင့်ရုရှတို့ဖြစ်ကြသည်။

**ဂျူနွား, အက်ဒွပ်** (ခရစ် ၁၇၄၉–၁၈၂၃)။ ။ကျောက်ဆေးထိုးခြင်းဖြင့် ကျောက်ရောဂါကို ကာကွယ်နိုင်သည်ဟူသောအချက်ကို ရှာဖွေ၍တွေ့သူမှာ ခရစ် ၁၇၄၉ ခုနှစ် မေလ ၁၇ ရက်နေ့တွင် အင်္ဂလန်ပြည် ဂလော့စတာရှိုင်ယာခရိုင် ဗာကလေမြို့၌မွေးဖွားသော အက်ဒွပ်ဂျူနွားဖြစ်သည်။ ထိုပုဂ္ဂိုလ်သည် ဆော့ဒဗရီမြို့ ရှိဆရာဝန် ဒန်း နယ်ဒလိုထံတွင် တပည့်ခံ၍ဆရာဝန်အတတ်သင်နေစဉ်၊ ကျေးတောသူမကလေးတဦးက 'ကျွန်မနွားကျောက်ပေါက်ပြီးမို့၊ နောက်ထပ်ကျောက်မပေါက်နိုင်တော့ပါ၊' ဟု ပြောလိုက်သည်ကိုကြားမိသည့်နေ့မှ စ၍ ထိုစကား ယုတ္တိ တန် သည်မ တန် သည် ကို စူးစမ်းရှာဖွေခဲ့သည်။ ထိုသို့စူးစမ်းရှာဖွေယင်း ကျောက်ရောဂါကာကွယ်နည်းကိုတွေ့ရှိလေသည်။

ဂျူနွားသည် ဆရာဝန်ကြီး ဂျွန်ဟန်း တားလက် အောက်၌ ဆရာဝန်အတတ်ကိုဆက်လက်သင်ကြား၍ ခရစ် ၁၇၉၂ ခုနှစ်တွင်ဆေးပညာဘွဲ့ရရှိသည်။ ထိုအခါမိမိဇာတိရပ်ဌာန်သို့

ပြန်၍၊ ဆရာဝန်အဖြစ်ဖြင့်အသက်မွေးယင်း ခရစ် ၁၇၇၅ ခုနှစ်၌ကျောက်ရောဂါကုထုံးဆိုင်ရာ သုတေသနကိုရှာမှီးခဲ့သည်။ သို့သော် ၁၇၉၆ ခုနှစ် ရောက်မှပင် ယခင်ကကျေးတောသူမကလေး၏စကားမှန်မမှန်ကို စစ်ဆေးကြည့်ရှုနိုင်သည်။ သူ၏စမ်းသပ်နည်းမှာ နို့သည်မကလေးတဦး၏လက်မောင်းတွင် ပေါက်နေသော နွားကျောက်အနာမှပြည်ကိုယူ၍၊ ကလေးတယောက်၏အသားအရေထဲသို့ သံဆူးနှင့်ခြစ်ကာထည့်သွင်းသည်။ နှစ်လခန့်ကြာသော်ထိုကလေးကို ကျောက်ရောဂါပိုးကူးစက်အောင် ဆေးထိုး၍ပေးလေသည်။ သို့သော်ကလေး၌ ကျောက်ရောဂါမဖြစ်ပေ။ ခရစ် ၁၇၉၈



အက်ဒွပ်ဂျန္နား၏အထိမ်းအမှတ်ရုပ်တု

ခုနှစ်တွင်ဂျန္နားသည် သူ၏စမ်းသပ်ချက်ကို ကျေညာလိုက်၏။ ဤတွင်ကျောက်ဆေးထိုးနှံသော စလေ့ပျံ့နှံ့လာ၍၊ ကျောက်ရောဂါလည်း များစွာပပျောက်သွားခဲ့သည်။ (ကျောက်ကြီးရောဂါ၊ ကျောက်ဆေးထိုးခြင်း — လည်းရှု။) ထိုပုဂ္ဂိုလ်ကြီးသည် ခရစ် ၁၈၂၃ ခုနှစ်ဇန္နဝါရီလ ၂၄ ရက်နေ့တွင် ကွယ်လွန်လေသည်။

**ဂျုန်းအော့အာ့ဗ်** (ခရစ် ၁၄၁၂–၁၄၃၁)။ ။၁၅ ရာစုနှစ်အတွင်းက ပြင်သစ်နိုင်ငံကိုအင်္ဂလိပ်တို့၏ဘေးရန်မှ ကယ်တင်လိုက်သော ပြင်သစ်အမျိုးသမီး သူရဲကောင်း အာဇာနည်မှာ ဂျုန်းဖြစ်သည်။

ဂျုန်းမှာ ကမ္ဘာပေါ်တွင် ရှိခဲ့သမျှ အမျိုးသမီးများတွင် အထင်အရှားဆုံးတယောက်ဖြစ်၍ သူ၏အတ္ထုပ္ပတ္တိမှာလည်း မယုံနိုင်လောက်အောင်ပင်ထူးခြားသည်။ သူ၏အမည်မှာ ပြင်သစ်ဘာသာဖြင့် ‘ဇန်းဒါ့’ ဟုခေါ်ဝေါ်၍၊ ‘အော်လီယန်းမြို့၏လုံမပျို’ ဟူ၍လည်း ခေါ်တွင်လေသည်။

၁၄၁၂ ခုနှစ်တွင် ဒွန်ရမီလာပွိစဲမြို့ကလေးတွင်မွေးဖွား၍ အနှစ်စွ ရောက်သောအခါတွင် ဂျုန်းသည် အသက် ၂၀ မျှသာရှိသေးသည်။ ဂျုန်းသည်သူလိုငါလို သာမန်အမျိုးသမီးကလေးတဦးအဖြစ် ကြီးပြင်းလာခဲ့သည်။ မိဖများကား ဝမ်းရေးဖူလုံသောလယ်သမားများဖြစ်ကြသည်။

ဂျုန်းသည် အိမ်တွင်းမှုတို့၌မိခင်ကိုကူညီလျက် ၁၃ နှစ်သမီးသို့ရောက်သောအခါ ဘုရားတရားကို အထူးလေးစားလာသည်။ ထိုအချိန်တွင်အင်္ဂလိပ်နှင့် ပြင်သစ်တို့၏နှစ်တရာစစ်ပွဲကြီး ဖြစ်ပွားနေစဉ်ဖြစ်၍ ပြင်သစ်နိုင်ငံမြောက်ပိုင်းမှာ အင်္ဂလိပ်တို့လက်အောက် သို့ကျရောက်လျက်ရှိလေသည်။ (နှစ်တရာစစ်ပွဲ — ရှု။)

ဂျုန်းသည် ရပ်ရွာဘုရားရှိခိုးကျောင်း၌ ဘုရားဝတ်ပြုနေစဉ် စိန်မားဂရက်နှင့် စိန်ကက်သရင်းတို့က သူ့အားမည်သို့ဆောင်ရွက်ရန်ပြောပြနေသည်ကို ထူးခြားစွာကြားရ၏။ ထိုထူးခြားသည့်အခြင်းအရာကို အခြားသူများအားပြောပြ၍လည်း ယုံကြည်နိုင်ဖွယ်မရှိသဖြင့် ဂျုန်းသည်မိမိရင်ထဲတွင် မျိုသိပ်ထားရလေသည်။ ၄ နှစ်တိုင်မျှထိုကဲ့သို့ဆက်လက်ကြားနေရသည်ဟု ဆိုလေသည်။

ဂျုန်းသည် ၁၇ နှစ်အရွယ်သို့ရောက်သောအခါ ဘိသိက်မခံရသေးသောပြင်သစ်နိုင်ငံဘုရင် သတ္တမချားထံသို့သွားရောက်၍ အကူအညီပေးရန် တိုက်တွန်းသံကိုကြားရပြန်၏။ ထိုကြောင့် မိဖဆွေမျိုးသားချင်းမိတ်ဆွေများနှင့် ကိုးကွယ်သောဘုန်းတော်ကြီးများကတားမြစ်သော်လည်းချားဘုရင်ရှိရာသို့ထွက်ခွာလာခဲ့လေသည်။

ချားဘုရင်နှင့်တွေ့သောအခါ ပြင်သစ်နိုင်ငံတော်အရေးကို ဘုရားသခင်၏အလိုတော်အရ၊ ကူညီရန်လာရောက်ကြောင်း လျှောက်တင်လေသည်။ ချားကလည်း ဂျုန်း၏လျှောက်တင်ချက်ကိုယုံကြည်လျက် ကူညီရန်ခွင့်ပြုလိုက်၏။ ချားမှာဘုရင်ဟုအမည်ခံယူထားသော်လည်း ဘိသိက်မခံရသေးချေ။ ထိုကြောင့်ချားအား ပြင်သစ်ဘာသာဖြင့်ဒိုဖန်ဟုခေါ်လေသည်။ ချားသည်ဘဏ္ဍာရေးအလွန်ချို့တဲ့သောကြောင့် ဆင်းရဲစွာနေထိုင်ရသည်။ သို့ဖြစ်၍အင်္ဂလိပ်တို့၏ရန်စွယ်ကို စွမ်းလွန်းတမံတွန်းလှန်နိုင်မည့် အင်အားတောင့်တင်းသောစစ်တပ်ကြီးများကိုဖွဲ့စည်းကာ ရှုပ်ရှုပ်ချချမတိုက်ခိုက်နိုင်ခဲ့ချေ။ ထိုအချိန်တွင်ပြင်သစ်တနိုင်ငံလုံးလိုလိုပင် အင်္ဂလိပ်တို့လက်အောက်ရောက်နေပြီးလျှင် အော်လီယန်းမြို့ကြီးမှာလည်း ကျဆုံးလုဆဲဆဲဖြစ်နေလေသည်။




ပြင်သစ်နိုင်ငံ၊ ရိမ်းမြို့ရှိ ဂျုန်းအော့အတ်အထိမ်းအမှတ်ရုပ်တု

ချားဏ်အမိန့်ဖြင့် ဂျုန်းသည်သောင်းတပ်ကြီးကို ကွပ်ကဲအုပ်ချုပ်ခွင့်ရလေသည်။ ထိုကြောင့်ချပ်ဝတ်တန်ဆာတို့ကိုဆင်မြန်းကာဂျုန်းသည် ပြင်သစ် အလံတော် ကြီးကို တလူလူဝင့်ထူပြီးလျှင် တပ်ဦးမှနေ၍ ရဲဝံ့စွာချီတက်လေတော့သည်။ နောက်ပါတပ် သား များ လည်း များစွာစိတ်အားတက်ကြွလျက်လိုက်ပါကြသည်။ ဂျုန်း၏တပ်ကြီးသည်လည်း တိုက်ပွဲတခုပြီးတခုအောင်မြင်လျက်ရှိသည်။ ၁၄၂၉ ခုနှစ်မေလတွင် ရန်သူ့လက်တွင်းသို့ကျလုဆဲဆဲ အော်လီယန်းမြို့ကြီးကို ကယ်တင်နိုင်ခဲ့သည်။ ဂျုန်းကိုယ်တိုင်ရှေ့ဆောင်လျက် တိုက်ခိုက်သဖြင့် ရန်သူတို့အရေးနိမ့်၍ဆုတ်ခွာထွက်ပြေးကြရသည်။ ယင်းသို့ဖြင့် အော်လီယန်းမြို့တိုက်ပွဲမှာနိုင်ငံသမိုင်းတွင်ထင်ရှားခဲ့လေသည်။

ထိုတိုက်ပွဲကြီးအပြီးတွင်၊ မိမိကြည်ညိုလေး စား လှသော ချားကို ဘုရင်အဖြစ်ဘိသိက်ခံနိုင် အောင်ဆောင်ရွက်သည်။ ပြင်သစ်ဘုရင်တို့သည် ရိမ်းမြို့တွင်ဘိသိက်ခံရမြဲအစဉ်အလာရှိရာ၊ ထိုမြို့ဆီတွင် ရန်သူတို့မရှင်းလှသေးသော်လည်း ဂျုန်းကတာဝန်ယူ၍စောင့်ရှောက်ကာကွယ်ပြီးလျှင်ထိုမြို့၌ချားကိုဘိသိက်ခံစေသည်။ ယင်းသို့ဖြင့်ဂျုန်းသည် ယောကျ်ားကောင်းတို့ဆောင်ရွက်နိုင်ခဲသောကိစ္စများကိုပင် အောင်မြင်ခဲ့သဖြင့် သူ၏ဂုဏ်သတင်းမှာ လွန်စွာထင်လင်းခဲ့လေသည်။

ထိုနောက် တွင် သူကြားနေကျဖြစ် သော ညွှန် ကြား ချက်များကိုမကြားရတော့ သဖြင့် သူ့ အလုပ်ပြီးပြီဟု ယူဆကာ နေရပ်သို့ပြန်မည်ပြု၏။ သို့သော်ချားဘုရင်ကတားထားသေး သဖြင့် တိုက်ပွဲ များ တွင် ဆက် လက် ခေါင်း ဆောင်နေရပြန်သည်။ ဤသို့အံ့ဖွယ်သရဲကိစ္စတို့ကို ဆောင်ရွက်ခဲ့သောဂျုန်းမှာ နောက်ဆုံးတွင်ဒုက္ခနှင့်တွေ့ရသည်။

ကွန်ပြိန်မြို့ကို ဗာဂန်ဒီပြည်သားတို့ကဝန်းရံထားရာ ထိုမြို့ကိုကယ်တင်ရန်အတွက် ဂျုန်းသည်ခေါင်းဆောင်လျက်တိုက်သော်လည်း စစ်ရေးနိမ့်၍ ဂျုန်းမှာ အဖမ်းခံ ခဲ့ရ လေသည်။ ထိုအခါ၌ဂျုန်းကူညီ၍ဘုရင်ဖြစ်လာသောချားသည်သူ့အားကယ်ဆယ်ရန်မကြိုးစားခဲ့ချေ။

ထိုကြောင့် ကယ်မည့်သူကင်းဝေးသောဂျုန်းကို ဗာဂန်ဒီပြည်သားတို့က အင်္ဂလိပ်တို့အား ရောင်းချလိုက်လေသည်။ ဂျုန်းကြောင့်စစ်ရေးနိမ့်ခဲ့ရသောအင်္ဂလိပ်တို့သည် ရူအန်းမြို့တွင်ဂျုန်းကိုချုပ်နှောင်ထားကြသည်။ အင်္ဂလိပ်တို့၏နှိပ်စက်ညှဉ်းပန်းခြင်းကိုလည်း ဂျုန်းခံရ၏။ အင်္ဂလိပ်တို့ကဂျုန်းသည်စုန်းမဖြစ်၍သာ ဤမျှအံ့ဖွယ်သရဲများကို ထူးကဲစွာဆောင်ရွက်နိုင်သည်ဟု စွဲချက်တင်၍ထားလေသည်။ ကူညီအားပေးမည့်သူမရှိသော်လည်း ဂျုန်းသည် ရဲဝံ့တည်ကြည်စွာဖြင့် ပြန်လည်ချေပခဲ့၏။ သို့ရာတွင် ၁၄၃၁ ခုနှစ်မေလတွင် မီးရှို့သတ်ခြင်းကိုခံရလေသည်။ ဂျုန်းအနိစ္စရောက်ပြီး၍အနှစ် ၅၀၀ ခန့်ကြာမှ ဂျုန်း၌အပြစ်မရှိဟုပြန်လည်ဆုံးဖြတ်ကာ ဗရင်ဂျီဂိုဏ်းသူတော်စင်စာရင်းတွင်သွတ်သွင်းကာ စိန်ဂျုန်းအဖြစ်ကိုးကွယ်ကြသည်။ ယင်းသို့ဖြင့် ကမ္ဘာကြေသော်လည်း ဥဒါန်းမကြေနိုင်သည့် အာဇာနည်ဂျုန်းမှာ ကြေကွဲဝမ်းနည်းဖွယ်ရာဇာတ်သိမ်းခဲ့ရလေသည်။

**ဂျပ်ခုတ်ခြင်း။ ။ရက်ကန်း — ရှု။**

**ဂျပ်စတာင်းနီးယန်း၊ ပဌမ** (ခရစ် ၄၇၃–၅၆၅)။ ။အရှေ့ရောမနိုင်ငံတော်၏ ကေရာဇ်ဘုရင်တပါးဖြစ်သူ ပဌမဂျပ်စတင်းနီးယန်းသည် ကမ္ဘာ့သမိုင်းတွင်ဓမ္မသတ်ပြုစုသောမင်းအဖြစ်ဖြင့် ထင်ရှားကျော်စောသည်။ ဂျပ်စတင်းနီးယန်းသည်တောင်သူလယ်သမားမျိုးရိုးဖြစ်သည်။ သို့ရာတွင် တောင် သူလယ် သမား မျိုး ရိုးမှ မင်းဖြစ်ခဲ့သော ဦးရီးတော်ကေရာဇ်ဘုရင်ပဌမဂျပ်စတင်း၏ကျေးဇူးကြောင့် ငယ်စဉ်ကကောင်းစွာပညာသင်ကြားခွင့်ရခဲ့သည်။ ခရစ် ၅၂၇ ခုနှစ်တွင် ဦး ရီး တော် လွန် လေ သော် ဂျပ် စတင်း နီး ယန်းသည် ထီးနန်းကိုဆက်ခံလေသည်။

ဂျပ်စတင်းနီးယန်း၏အလိုဆန္ဒမှာ နိုင်ငံတော်အတွက်ဓမ္မသတ်တို့ကိုပြုစုခြင်းအားဖြင့်ရင်း၊ ဘုရားကျောင်း၊ ဆေးရုံ၊ ခံတပ်၊ ဆည် မြောင်း စ သော အ များ ပြည် သူ ဆိုင် ရာ အဆောက်အအုံတို့ကို အကြီးအကျယ် တည်ဆောက်ခြင်းဖြင့်ရင်း၊ အနောက်ဂျာမန်တိုင်းနိုင်ငံတို့ကို တိုက်ခိုက်အောင်မြင်သိမ်းသွင်းခြင်း ဖြင့်ရင်း အရှေ့ရောမအင်ပိုင်ယာနိုင်ငံတော်ကြီးကို ပြုစုပျိုးထောင်လိုသောဆန္ဒဖြစ်သည်။ ဂျပ်စတင်းနီးယန်းမှာမင်းမှုထမ်းများကို သူနှင့်သူထိုက်တန်သောနေရာတွင် နေရာချထားအသုံးပြုတတ်သောကြောင့် မြောက်အာဖရိကနှင့်ဣတလီပြည်တို့ကိုအောင်မြင်ခဲ့သည်။ ကြီးကျယ်ခမ်းနားသော အဆောက်အအုံများကိုလည်း တည်ထောင်နိုင်ခဲ့ရာ ကွန်စတန်တီနိုပယ်မြို့တော်ရှိ သူတည်ဆောက်ခဲ့သောစိန်ဆိုဖိုင်းယာဘုရားရှိခိုးကျောင်းမှာ ယခုအခါထိုမြို့တွင်အကြီးအကျယ်ဆုံးဖြစ်သည်။

ဓမ္မသတ်များရေးသားရာ၌ကား၊ ဂျပ်စတင်းနီးယန်းသည် ရောမနိုင်ငံရှိဥပဒေဟူသမျှတို့ကို ညှိနှိုင်းပြုစုတည်းဖြတ်စေရန် ကော်မရှင်အဖွဲ့တခုခန့်အပ်ခဲ့သည်။ ဤကော်မရှင်သည် ရောမနိုင်ငံဓမ္မသတ် ၁၂ စောင်တွဲပါဝင်သော ဓမ္မသတ်ကျမ်းတစောင်ကိုရင်း၊ ရောမနိုင်ငံရှေ့နေရှေ့ရပ်၊ ခုံသမာဓိ၊ တရားသူကြီး တို့၏ ဖြတ်ထုံး သခ်ေပကျမ်း ကိုရင်း၊ ဥပဒေလေ့လာသူစာသင်သားတို့အတွက် ဥပဒေပေါင်းချုပ်ကိုရင်း ပြုစုစီရင်ခဲ့သည်။ ဤကျမ်းအစုတို့ကို ‘ကော်ပပ်ဂျူးရစ်စီဗီလစ်’ ဟုခေါ်ကြသည်။ အဓိပ္ပါယ်မှာဓမ္မသတ်ပေါင်းချုပ်ပင်ဖြစ်သည်။ ယနေ့ခေတ်မှီနိုင်ငံတို့၏ တရားဥပဒေမှာ ယင်းရောမဓမ္မသတ်ပေါင်းချုပ်ကိုမှီ၍ပြုသောဥပဒေများဖြစ်လေသည်။

ဂျပ်ဆင်, ဘော။ ။ယုဒသန် — ရှ။

ဂျပ်မြွေ။ ။ဂျပ်မြွေသည်ပင်လယ်၌ရှင်း၊ ရေငန်ဒေသအနံ့အပြား၌ရှင်း နေတတ်လေသည်။ ဂျပ်ကိုသေချာစွာမြင်ဘူးသူ နည်းပါးသည်။ ဂျပ်တို့သည် တကောင်နှင့်တကောင်မတူ။ အရောင်အဆင်း၊ ကိုယ်ဟန်၊ ဦးခေါင်းနေပုံတို့သည် အမျိုးမျိုးကွဲပြားကြသည်။ ဂျပ်တို့ကိုဂျပ်ပြားမျိုး၊ ဂျပ်လုံးမျိုးဟူ၍အောက်ပါအတိုင်းခွဲခြားနိုင်ပေသည်။ ပါဏ ဗေဒအရ ဂျပ်ပြားကို 'လက်တီကောဒါစကုတာတာ' ဟု ခေါ်၍ ဂျပ်လုံးကို 'ဟိုင်းဒရတ်' သို့မဟုတ် 'ဟိုင်းဒရိုဖစ်' ဟုခေါ်သည်။

ဂျပ်ပြားများ

၁။ ဂျပ်မွဲ။
၂။ ဂျပ်နက်။
၃။ ဂျပ်ဝါ။
၄။ ဂျပ်နီ။
၅။ ဂျပ်ညိုမှိုင်း။
၆။ ဂျပ်ချောင်းရွှေဝါ။

ဂျပ်လုံးများ

၇။ ဂျပ်လုံး။
၈။ ဂျပ်ရက်ဖောက်။
၉။ ဂျပ်ငန်း။

ဂျပ်သည် လူကို တမင် မကိုက် တတ်ချေ။ ရေထဲ၌အနံ့အပြားရှိသော်လည်း လူကိုရှောင်ရှား၍ သွားတတ်သည်။ လှိုင်းလေထသောအချိန်မျိုးတွင်ရေငြိမ်ရာကမ်းခြေသို့ကပ်၍ သစ်ခက်သစ်ကိုင်းတို့ကိုတွယ်နေတတ်သည်။ တခါတရံမြစ်ထဲချောင်းထဲ၌ ရေချိုးနေသော လူကို လူမှန်း မသိသဖြင့် ပေါင်၊ ခြေသလုံး၊ ခါးတို့ကိုရစ်ပတ်ထားတတ်သည်။ ဂျပ်ပတ်ထားသည်ကိုလူကသိ၍အသာငြိမ်ငြိမ်နေလိုက်လျှင် ဂျပ်သည်သွားလိုသောအခါ အလိုအလျောက်ရစ်ပတ်ထားသည်ကိုဖြေ၍ ကူးသွားတတ်လေသည်။ သို့သော်လူကကြောက်အားလန့်အားဖြင့် ဂျပ်ကိုပုတ်ခတ်ဖယ်ရှားလျှင်၊ ဂျပ်သည်တင်းကျပ်စွာပတ်ထားပြီးလျှင် ဦးခေါင်းကိုရမ်းခါ၍နေတတ်သည်။ ဂျပ်၏အစွယ်သည် ချေး၏အစွယ်ကဲ့သို့အပြင်ထွက်နေသောကြောင့် အစွယ်သည်အသားနှင့်ငြိတတ်လေသည်။ ထိုသို့ငြိသောအစွယ်ရာသည် သက်ယက်ရှသလောက်မျှပင်မရှိချေ။ သို့ရာတွင်ချက်ခြင်းအဆိပ်တတ်လာတတ်သည်။

ဂျပ်ကိုက်လျှင်နာကျင်ပူလောင်ခြင်းမရှိချေ။ ပါးစပ်၌ ချွဲပြစ်စေးကပ်လျက် မျက်စိမှုန်ဝေကာစကားလည်းမပြောနိုင်ဘဲ လွန်စွာအိပ်ချင်လာသည်။ လူနာပြုစုသူတို့သည် လူနာကို မအိပ်အောင်မျက်နှာကို ရေပက်ခြင်း၊ လည်ကုပ်ကို ဆုပ်နယ်ခြင်း၊ ကိုယ်လက်လှုပ်ရှားပေးခြင်းတို့ကို ပြုလုပ်ရသည်။ အကယ်၍ လူနာကို မအိပ် အောင်လုပ်၍ မရလျှင် ထိုလူနာသည် နောက်ဆုံး၌ အိပ်ပျော်ရာမှမနိုး တော့ဘဲတဖြည်းဖြည်းအသက်ရှူရပ်သွားတတ်သည်။

ဂျပ်ပြားအမျိုးမျိုး

ဂျပ်ပြားများသည်အထက်ကဆိုခဲ့သည့်အတိုင်း ပင်လယ်နှင့်ရေငန်ရောက်ရာဒေသတို့တွင်နေကြသည်။ ရေချိုတွင်လုံးဝမနေကြချေ။ ယင်းတို့သည်ရေသက်ကိုမရှူကြဘဲ၊ ငွေးငရဲ့ တို့ကဲ့သို့လေသက်ကိုရှူရှိုက်ကြသဖြင့်ရေပေါ် သို့ဦးခေါင်းတထွာခန့်ဖော်ပြီးလျှင် ရှူးကနဲမြည်၍ငုပ်သွားတတ်ကြလေသည်။

ဂျပ်မွဲမှာငပုတ်သင်၏အရောင်ကဲ့သို့ မွဲခြောက်ခြောက်အရောင်ရှိသည်။ အကွက်အစင်းများမပါချေ။ လုံးပတ်လက်မောင်းခန့်ရှိ၍ အရှည်မှာနှစ်တောင်တထွာခန့်ရှိလေသည်။ ဦးခေါင်းနှင့်ကိုယ်သည် မြွေခေါင်းနှင့်မြွေကိုယ်ကဲ့သို့ပင်ဖြစ်သည်။ အမြီးသည် ငမြွေထိုး၊ ငလင်ပန်းတို့၏အမြီးကဲ့သို့ပြားယောင်ယောင်ဖြစ်သည်။ လွန်စွာအဆိပ်ပြင်းသည်။

ဂျပ်နက်သည်ဂျပ်မွဲကဲ့သို့ ဦးခေါင်းနှင့်လိုက်သောကိုယ်ရှိသည်။ အမြီးပြားသည်။ တကိုယ်လုံးနက်သည်။ မျက်လုံး၊ အူ၊ အသည်း၊ အတွင်းသား၊ အာပေါင်၊ အစွယ်တို့လည်းနက်၏။ အဆိပ်ပြင်းထန်လှ၍ ကိုက် လျှင် ဆေးမရှိဟုဆို၏။ အခြားဂျပ်မျိုးကဲ့သို့မပေါများ၊ တွေ့ရခဲ၏။

ဂျပ်ဝါသည်ပုံသဏ္ဌာန်အားဖြင့် ဂျပ်မွဲနှင့်တထေရာတည်းတူသည်။ သို့သော်အရောင်အဆင်းကွဲသည်။ ဂျပ်ဝါ၏အရောင်သည်တကိုယ်လုံးထိန်ဝါလျက်ရှိသည်။

ဂျပ်နီသည်ပုံသဏ္ဌာန်အားဖြင့် ဂျပ်မွဲ၊ ဂျပ်ဝါတို့နှင့်တထေရာတည်းတူသည်။ ကျောရိုးတလျှောက်တွင် အညိုရောင်ရှိပြီးလျှင် ဘေးနှစ်ဖက်၌မူ ဟင်းသပြဒါးကဲ့သို့နီမြန်းသောအကြောင်းအစင်းများရှိသည်။ အဆိပ်လွန်စွာပြင်းထန်သည်။ ယင်းကိုအချို့ကဂျပ်ဟင်းသပြဒါးဟုခေါ် သည်။

ဂျပ်ညိုမှိုင်း၏ ဦး ခေါင်း သည် စားတော်ပဲသာသာခန့်ရှိသည်။ ဦးခေါင်းနှင့်လည်ပင်းတွင် အနက်နှင့်အဝါစင်းများတမိုက်ခန့်ရှိသည်။ ဦးခေါင်းကိုလကျာ်လက်ဝဲသို့လျှင်မြန်စွာစောင်းငဲ့နိုင်သည်။ လည်ပင်းမှတဖြည်းဖြည်းတုတ်လာသောကိုယ်သည် လက်မောင်းလုံးခန့်ရှိသည်။ အမြီးမှာပြားယောင်ယောင်ဖြစ်သည်။ ကျောရိုးတလျှောက်တွင်ညိုမှိုင်းမှိုင်းအရောင်ရှိ၍ ဘေးနှစ်ဖက်တွင်ဝါဖန့်ဖန့်အရောင်ရှိသည်။ တကိုယ်လုံး၌အဝါနှင့်အညိုစင်းများရှိသည်။

ဂျပ်ချောင်းရွှေဝါသည် ဂျပ်ညိုမှိုင်းနှင့်တူသည်။ ဦးခေါင်းမှာပဲကြီးစေ့ခန့် ရှိလေသည်။ ကိုယ်လုံးကြီး၍ကျောရိုးတ

လျှောက်တွင် ဝါမှိုင်းမှိုင်းအရောင်ရှိသည်။ ဘေးနှစ်ဖက်သည်ထိန်ဝါလျက် ကိုယ်လုံး၌အဝါနှင့်အမဲစင်းများရှိသည်။

### ဂျပ်လုံးအမျိုးမျိုး

ဂျပ်လုံး၏ဦးခေါင်းနှင့်လည်ပင်းသည် အလွန်သေးငယ်၍ ကိုယ်လုံးမှာ မတ်စေ့သာသာခန့်ရှိသည်။ ခေါင်းမှအမြီးတိုင်အောင်မြေနှင့်တသမတ်တည်းတူသည်။ ဂျပ်ပြားကဲ့သို့အမြီးမပြားလှချေ။ အမြီးဖျားလက် ၃ သစ်ခန့်လောက်၌သာလျှင် မသိမသာပြားယောင်ယောင်ဖြစ်သည်။ ဂျပ်သည်မြေနှင့်ကွဲပြားပုံမှာ ဂျပ်လုံးဟူသမျှတွင်ခေါင်းသေး၍ ဦးခေါင်းမှ အမြီးဖျားတိုင်အောင် အနက်တတန်း၊ အဖြူတတန်းသို့မဟုတ် အနက်တတန်း၊ အဝါတတန်းပါရှိသည်။ ဂျပ်လုံးများကို ပင်လယ်နှင့်တကွ ကမ်းနားလတာများနှင့် ရေတက်ရေကျရှိသော ချောင်းတိမ်၊ ရိုးတိမ်တို့တွင်တွေ့ရသည်။ ထိုပြင်မိုးအခါရေရောက်သောကွင်းပြင်နှင့် လယ်ကွင်းများ၌လည်းတွေ့ရလေသည်။ ဂျပ်လုံးသည်ဂျပ်ပြားထက်အဆိပ်ပြင်းသဖြင့်ကိုက်လျှင်နာရီဝက်နှင့် သေနိုင်သည်။ ကုန်းရှိမြေထက်အဆိပ်ရှစ်ဆပိုသည်ဟုအဆိုရှိ၏။

ဂျပ်ရက်ဖောက်သည် အလွန်သေးငယ်၍ ဂျပ်လုံးနှင့်တူသည်။ အရောင်အမျိုးမျိုးရောနေ၍အဝါတန်း၊ အနက်တန်းများလည်းပါရှိသည်။ ရက်ဖောက်ခန့်ကိုယ်လုံးရှိသည်။ ဂျပ်ရက်ဖောက်နှင့်ဂျပ်လုံးတို့သည်အမူအကျင့်တူ၍ အရွယ်သာလျှင်ခြားနားကြသည်။ ဂျပ်လုံးသည်များစွာမရှည်လှချေ။ ကိုယ်တုတ်သည်။ ဂျပ်ရက်ဖောက်မှာမူဝတုတ်ခြင်းမရှိဘဲ သေးသွယ်လျက်အလွန်ရှည်လျားလေသည်။

ဂျပ်ငန်းသည် ဂျပ်လုံး၊ ဂျပ်ရက်ဖောက်တို့ထက်အကောင်ကြီးမားသည်။ ကိုယ်မှာငန်းသံကွင်းစွပ်များကဲ့သို့ အနက်တန်း၊ အဝါတန်း၊ အဖြူတန်းရောထွေးလျက်ရှိသည်။ ဦးခေါင်းပေါ်ရှိနှာသီးဖျားမှာ အဖြူကွက်တကွက်၊ ထိပ်လည်မှာအဖြူကွက် ၂ ကွက်တို့သည် ခနောက်သဖွယ်သုံးကွက်ဆိုင်လျက်ရှိသည်။ ကိုယ်သည်နှစ်တောင်တထွာခန့်ရှိသည်။ အဆိပ်တက်လျှင်မြန်သည်။

ဂျပ်ကိုက်သောအခါပင်လယ်ခရာမြစ်ကိုဝါးမျှိစားသောက်ခါမျှဖြင့်ပျောက်တတ်၏။ အချိုလည်းလတာနုံးကိုလက်ဖြင့်ကော်၍စားမျှိခြင်းဖြင့် ပျောက်တတ်၏ဟုအဆိုရှိသည်။

ဂျပ်ကိုကျပ်ဟူ၍လည်းရေးသည်။

**ဂျိမ်းဘုရင်များ (အင်္ဂလိပ်)**။ ။အင်္ဂလန်သမိုင်းတွင်ဂျိမ်းအမည်ခံ ဘုရင်နှစ်ပါးသာရှိခဲ့ဘူးလေသည်။ ထိုဂျိမ်းဘုရင်နှစ်ပါး၏သက်ဦးဆံပိုင်ဆန်ဆန်စိုးမိုးမှုကို အင်္ဂလန်ပြည်သူပြည်သားများတို့ ရွံရှာမုန်းတီးကြသဖြင့် ဂျိမ်းဟူသောအမည်ကိုနောက်မင်းများဆက်လက်အသုံးပြုဟန်မတူချေ။

**ပဌမဂျိမ်းဘုရင် (ခရစ် ၁၅၆၆–၁၆၂၅)**။ ။ပဌမဂျိမ်းဘုရင်သည် စကော့တလန်ပြည့်ရှင်မေရီဘုရင်မနှင့်လော့ဒန်လီတို့၏ သားတော်ဖြစ်၏။ ၁၅၆၆ ခုနှစ်ဇွန်လ ၁၉ ရက်နေ့တွင် အက်ဒင်ဗာရာရဲတိုက်ကြီး၌ ဖွားမြင်ခဲ့လေသည်။ ၁၅၆၇ ခုနှစ်တွင်မယ်တော်မေရီဘုရင်မသည် တိုင်းသူပြည်သားများ ဆူပူမှုကြောင့် ထီးနန်းစွန့်လွှတ်ပေးရသောအခါသားတော်ဂျိမ်းသည် စကော့တလန်ပြည် ဆဋ္ဌမဂျိမ်းဘုရင်



ပါလီမန်နှင့်အခြင်းများခဲ့သောပဌမဂျိမ်းဘုရင်

အဖြစ် စကော့တလန်ထီးနန်းကိုဆက်ခံရသည်။ ထိုစဉ်ကဂျိမ်းမှာ ကလေးအရွယ်လူမမယ်မျှသာရှိသေးသဖြင့် ရင်ခွင်ပိုက်အဖွဲ့နှင့် တိုင်းပြည်ကို အုပ်ချုပ်ရသည်ဖြစ်ရာ ရင်ခွင်ပိုက်အုပ်စိုးလိုသော မှူးမျိုးမတ်နွယ်များရာထူးလုမှုကြောင့် တိုင်းပြည်မငြိမ်မသက်နှင့် ပြည်တွင်းစစ်များဖြစ်ခဲ့ရလေ၏။

၁၅၈၂ ခုနှစ်တွင် ပရိုတက်စတန့်ဂိုဏ်းဝင်များက ဂျိမ်းအားဖမ်း၍တနှစ်ခန့် အချုပ်နှင့်ထား ခဲ့ဘူးသည်။ ၁၅၈၃ ခုနှစ် အချုပ်မှလွတ်မြောက်သည့်နေ့မှအစပြု၍ ဂျိမ်းသည်တိုင်းပြည်ရင်ခွင်ပိုက်အဖွဲ့ဖြင့်မအုပ်စိုးတော့ဘဲ ကိုယ်တိုင်ပင်အုပ်စိုးလေတော့သည်။

၁၆၀၃ ခုနှစ်၌အင်္ဂလန်ပြည့်ရှင် အယ်လစ်ဇဗက်ဘုရင်မနတ်ရွာစံသောအခါ ဂျိမ်းဘုရင်လည်း ပဌမဂျိမ်းအဖြစ်နှင့်



သွေးမြေမကျတော်လှန်မှုကြောင့် ထီးနန်းစွန့်ရသည့်ဒုတိယဂျိမ်းဘုရင်

အင်္ဂလန်ထီးနန်းကိုဆက်ခံစိုးစံရပြန်သည်။ စကော့တလန်ပြည်နှင့် အင်္ဂလန်ပြည်သည် ဤနည်းအားဖြင့် ဘုရင်တပါးတည်း၏ အုပ်ချုပ်စိုးစံခြင်းခံရသော်လည်း နိုင်ငံရေးအရမူ အန်ဘုရင်မလက်ထက်တိုင်စည်းလုံးခြင်းမရှိခဲ့ချေ။

ပဌမဂျိမ်းဘုရင်သည် ငယ်စဉ်က ကျန်းမာရေးချို့တဲ့ရှာသဖြင့် ကိုယ်အောက်ပိုင်းကောင်းစွာမသန်ရကား အသက် ၇ နှစ်အရွယ်တိုင်အောင် အကိုင်မရှိဘဲမထနိုင်ချေ။ ဘုရင်ဖြစ်လာသည့်တိုင်အောင် ခေါင်းကြီး ကိုယ်သေးဖြစ်နေရှာသဖြင့် ရာဇရုပ်မပေါ်လွင်လှချေ။

ပဌမဂျိမ်းသည်ထီးနန်း ကိုသိမ်းပိုက်အုပ်စိုးနိုင်သည့်အချိန်မှစ၍ ဘုရင်ဟူသည် ဘုရားသခင်ကအုပ်စိုးနိုင်ခွင့်ပေးထားသည် ဟူသော ဝါဒကိုစွဲမြဲယုံကြည်ခဲ့သည်။ ထိုဝါဒအရ ဘုရင်တို့၏ အခွင့်အရေး တန်ခိုးအာဏာသည် ဘုရားသခင်ထံမှရရှိသောကြောင့် ဘုရင်များသည်လူထု၏ဆန္ဒကိုလိုက်လျောရန်မလိုဘဲ အုပ်ချုပ်ပိုင်ခွင့်ရှိသည်ဟု ယုံကြည်လေသည်။ သို့ဖြစ်ရကားအင်္ဂလိပ်ပါလီမန်နှင့်ဘုရင်တို့ မကြာခဏအခြင်းများကြရပြီးလျှင် ပဌမဂျိမ်းဘုရင်ဆောင်ရွက်ပေးသမျှကို အင်္ဂလိပ်မှူးမတ်မျိုးရာများ၊ ပြည်သူပြည်သားများက သဘောကျကျေနပ်သည်ဟူ၍မရှိခဲ့ချေ။

ပဌမဂျိမ်းသည် စတာလင်ရဲတိုက်တွင်နေထိုင်စဉ်ငယ်ငယ်ကပင် အယူဝါဒတရားကိုကျနစွာသင်ယူလေ့လာခဲ့၏။ မယ်တော်မှာဗရင်ဂျီဂိုဏ်းဝင်ဖြစ်လင့်ကစား ဂျိမ်းဘုရင်မှာမူပရိုတက်စတန့်ဂိုဏ်းကို လေးလေးနက်နက် သက်ဝင်ယုံကြည်သူတယောက်ဖြစ်သည်။ တိုင်းသူပြည်သားတို့အားလည်း အယူဝါဒတရား၌လွတ်လပ်စွာကိုးကွယ်ခွင့်မပေးဘဲ၊ ရေဖျန်းဂိုဏ်းသို့ဝင်စေလိုသည်။ ထို့ကြောင့်ဗရင်ဂျီဂိုဏ်းဝင်များနှင့် ပျူရီတန်များကိုများစွာညှင်းပန်းနှိပ်ကွပ်ခြင်းပြုရာဗရင်ဂျီဂိုဏ်းဝင်အချို့သည် ၁၆၀၅ ခုနှစ် နိုဝင်ဘာလ ၅ ရက်နေ့ ပါလီမန်ဖွင့်ပွဲ၌ပါလီမန်ကိုဖောက်ခွဲဖျက်ဆီးကာ ဗရင်ဂျီဂိုဏ်းဝင်တဦးအားနန်းတင်ရန်ကြံစည်ခဲ့သည်။ သို့သော်ထိုအကြံမှာပေါက်ကြားသွားသဖြင့် ခေါင်းဆောင်များမှာကွပ်မျက်သတ်ဖြတ်ခြင်းခံရသည်။ ပျူရီတန်တို့သည်လည်းဘုရင်၏ဖိနှိပ်ချုပ်ချယ်မှုကိုမခံနိုင်ကြသဖြင့် ၁၆၀၇ ခုနှစ်တွင်အမေရိကတိုက်သို့ သွားရောက်ကာ ပဌမဆုံး အင်္ဂလိပ်ကိုလိုနီနယ်သစ်များ ကိုအခြေစိုက်တည်ထောင်ကြလေသည်။

ပဌမဂျိမ်းဘုရင်သည် နိုင်ငံရေးသဘောတရားများ၌လည်း သူ့ကိုယ်သူကျွမ်းကျင်လှသည်ဟုအထင်ကြီး၏။ ထို့ကြောင့် ဘုရင်နှင့်ပါလီမန်သည်နိုင်ငံခြားရေးရာများ၌လည်း သဘောကွဲလွဲကြရ၏။ ဂျိမ်းဘုရင်သည်ဗရင်ဂျီတိုင်းပြည်ဖြစ်သော စပိန်နိုင်ငံနှင့်မဟာမိတ်ဖြစ်လို၏။ သားတော်ချားကိုပင် စပိန်မင်းသမီးတဦးနှင့်လက်ဆက်ရန်ကြံရွယ်ခဲ့သည်။ ပါလီမန်ကမူ ဥရောပနှစ်သုံးဆယ်စစ်ပွဲတွင် ဂျာမန်ပရိုတက်စတန့်များအားကူညီ၍ စပိန်နိုင်ငံကိုတိုက်ခိုက်လို၏။ ဤသို့သဘောကွဲနေရာ နောက်ဆုံးတွင် စပိန်နှင့်မဟာမိတ်မဖြစ်နိုင်တော့သည့်အချိန်ကျမှ ဂျိမ်းသည်စပိန်နိုင်ငံကိုစစ်ကျေညာရန်သဘောတူလိုက်ရ၏။ ပြည်သူလူထုအကြည်ညိုပျက်မှုကို အများဆုံးခံယူရအောင်ဖြစ်ရသော ဂျိမ်း၏ပြုမှုချက်တခုကား ဆာဝေါလတာရော်လီကိုကွပ်မျက်လိုက်ခြင်းပင်ဖြစ်၏။ (ရော်လီ, ဆာဝေါလတာ ဂျိမ်း — ရှု။) ဂျိမ်း၏ဆောင်ရွက်ချက်များအနက် တိုင်းပြည်လူထု၏ ကျေနပ်မှုအများဆုံးခံယူရသောအချက်မှာ ၁၆၁၁ ခုနှစ်တွင်သမ္မာကျမ်းစာကိုအင်္ဂလိပ်ဘာသာသို့ ပြန်ဆိုစေခြင်းပင်ဖြစ်သည်။ ထိုကျမ်းစာမှာ သမ္မာကျမ်းစာများအနက် အရေးအသားအကောင်းဆုံးဖြစ်၍ ယခုတိုင်ကျော်ကြားလေသည်။

၁၅၈၉ ခုနှစ်တွင် ဒိန်းမတ်မင်းသမီး အန်နှင့် ဂျိမ်းဘုရင်သည်လက်ဆက်ခဲ့ရာ သားတော်နှစ်ပါးနှင့်သမီးတော်တပါးထွန်းကားသည်။ သားတော်ကြီးဟင်နရီသည် ၁၆၁၂ ခုနှစ်တွင်ကွယ်လွန်၍ သားတော်ငယ်ချားကဂျိမ်း၏အရိုက်အရာကိုဆက်ခံလေသည်။ သမီးတော်အယ်လစ်ဇဗက်ကို ဂျာမန်မင်းသား ပလက်တနိတ်နယ်စားကြီးနှင့် လက်ဆက်ခဲ့ရာ၊ ယင်းတို့မှဆင်း သက်ပေါက်ဖွားသော ဟန်နိုဗာမြို့စား ဂျော့သည် ပဌမဂျော့ဘုရင်အဖြစ် ၁၇၁၄ ခုနှစ်တွင် အင်္ဂလန်ထီးနန်းကိုဆက်ခံခဲ့သည်မှအစ ဟန်နိုဗာမင်းဆက်ပေါ်ပေါက်ခဲ့သည်။ (ဂျော့ဘုရင်များ (အင်္ဂလိပ်) — ရှု။)

ဒုတိယဂျိမ်းဘုရင် (၁၆၃၃–၁၇၀၁)။ ။ဒုတိယဂျိမ်းဘုရင်မှာ ပဌမဂျိမ်း၏မြေးတော်ဖြစ်သည်။ ပဌမချားဘုရင်နှင့် ပြင်သစ်မင်းသမီး မရီယာ တို့မှ ပေါက်ဖွားသောသားတော်အငယ်ဖြစ်သည်။ ၁၆၈၅ ခုနှစ်တွင်နောင်တော်ကြီးဖြစ်သူဒုတိယချားဘုရင်နတ်ရွာစံသောအခါ ဂျိမ်းသည်ထီးနန်းဆက်ခံရသည်။ ဖိုးတော်ပဌမဂျိမ်းဘုရင်ကဲ့သို့ပင် ဘုရင့်အခွင့်အရေးဝါဒ၌အယူသည်းသူဖြစ်၏။

နောင်တော်ဒုတိယချားဘုရင်သည် အင်္ဂလန်ပြည်၏ဘုရင်ဖြစ်လာသောအခါ ဂျိမ်းသည် ယော့မြို့စားမင်းသားအဖြစ်နှင့် ရေတပ်ဗိုလ်ချုပ်ရာထူး ကို ပေး အပ်ခြင်း ခံ ရလေသည်။ သူသည် ရဲစွမ်း သတ္တိနှင့် ပြည့်စုံ၍ ရှပ်ရှပ်ချွံချွံကြိုးပမ်းဆောင်ရွက်တတ်သည့်ပြင် ရိုးသားဖြောင့်မတ်သူတဦးလည်းဖြစ်ပေသည်။ ဂျိမ်း မင်း သားသည် ဗရင် ဂျီဂိုဏ်းသို့ ဝင်လိုက်ပြီးနောက် ဗရင်ဂျီဂိုဏ်းဝင်အမျိုးသမီးတဦးနှင့်လက်ဆက်လိုက်သည်တွင် တိုင်းပြည်ကမကျေမနပ်ဖြစ်ကြလေသည်။ ပါလီမန်ကလည်းဗရင်ဂျီဂိုဏ်းဝင်များအား အလုပ်အကိုင်ရာထူးမပေးရန် တားမြစ်သည့် ဥပဒေတရပ်ကို ထုတ်ပြန် လိုက်လေသည်။ ဂျိမ်းလည်းရေတပ်ဗိုလ်ချုပ်ရာထူးမှနုတ်ထွက်ကာ အင်္ဂလန်ပြည်မှထွက်ခွာသွားသည်။

ဂျိမ်းသည် ၁၆၈၅ ခုနှစ်အသက် ၅၂ နှစ်အရွယ်၌အင်္ဂလန်ပြည်သို့ပြန်လည်လာရောက်၍ ထီးနန်းစိုးစံရလေသည်။ ဂျိမ်းနန်းတက်သည်နှင့်တပြိုင်နက် မွန်းမတ်နယ်စားခေါင်းဆောင်သောသူပုန်နှင့် အားဂျိုင်းနယ်စားခေါင်းဆောင် သောသူပုန် တို့ထကြွကြလေသည်။ သို့ရာတွင် ဂျိမ်း ဖက် မှပြည်သူလူထုတရပ်လုံးက စည်းလုံးစွာကူညီထောက်ခံကြသဖြင့် သူပုန်တို့အရေးရှုံးနိမ့်သည်။ သို့သော်မွန်းမတ်ပုန်ကန်မှုတွင် နောက်လိုက်နောက်ပါအဖြစ်ပါဝင်သူ ၃၂၀ ကို ရက်စက်စွာသတ်ပစ်လိုက်ခြင်းကြောင့် တိုင်းသူပြည်သားတို့ကမကျေမနပ်ဖြစ်ကြပြန်သည်။ ဂျိမ်းသည်သူ၏အမိကရည်ရွယ်ချက် ၂ ချက်ဖြစ်သော ပလီမန်ကိုပယ်ဖျက်၍ပါလီမန်၏ အကူအညီမပါဘဲ တိုင်းပြည်ကိုအုပ်ချုပ်ရန်နှင့် ဗရင်ဂျီဂိုဏ်းကိုအင်္ဂလန်ပြည်တွင် ပြန်လည်ထွန်းကားလာအောင်ပြုလုပ်ရန်တို့ကို ချက်ခြင်းပင်ကြိုးစားဆောင်ရွက်သည်။ ထိုကြောင့် အင်္ဂလန်ပြည်သူပြည်သား အားလုံးလိုလိုပင် ဂျိမ်းအားပို၍မုန်းတီးလာကြလေသည်။

၁၆၈၇ ခုနှစ်တွင်ပြည်သူလူထုအား လွတ်လပ်စွာကိုးကွယ်ခွင့်ပေးသည့်ကြေညာချက်တရပ်ကိုထုတ်ပြန်၏။ ထိုကြေညာချက်အရ ဗရင်ဂျီဂိုဏ်းဝင်များ အကျိုးကျေးဇူး ပို၍ခံစားရမည်ကို အင်္ဂလန်ပြည်သူပြည်သားများကများစွာစိုးရိမ်ကြ၏။ ထိုအခိုက်တွင်ဂျိမ်းဘုရင်၏ဗရင်ဂျီဂိုဏ်းဝင်မိဖုရားမှ သားတော်တပါးဖွားမြင်လေသည်။ ထိုအခါသမီးတော်အကြီးနှစ်ပါးဖြစ်သူမေရီနှင့်အန်တို့မှာ ပရိုတက်စတန့်ဂိုဏ်းဝင် ဖြစ်လင့် ကစား အင်္ဂလန် ထီး နန်း ကို ဆက်ခံရန်အကြောင်းမရှိတော့ပေ။ သို့ဖြင့်တိုင်းပြည်လည်းမငြိမ်မသက်ဖြစ်ကာ ပါလီမန်က ၁၆၈၈ ခုနှစ်တွင်သမီးတော်မေရီ၏ခင်ပွန်းဩရိန်းနယ်စားဝီလျံမင်းသားအားခေါ်ယူကာ အင်္ဂလန်ပြည်ထီးနန်းကိုစိုးစံစေသည်။ ထိုပုန်ကန်မှုကြီးကို ၁၆၈၈ ခုသွေးမြေမကျတော်လှန်မှုဟုခေါ်လေသည်။ ဂျိမ်းလည်းထီးနန်းကိုစွန့်ခွာပေးလိုက်ရပြီးနောက် ထောက်ခံအားပေးမည့်သူ ကင်းမဲ့သည့် အတိုင်း ပြင်သစ်နိုင်ငံသို့ထွက်ပြေးတိမ်းရှောင်နေရလေသည်။

ပြင်သစ်နိုင်ငံမှ ၁၄ ဆက်မြောက်လူဝီဘုရင်က ဂျိမ်းအားဆီးကြိုပြုစုထားပြီးလျှင် အင်္ဂလန်ပြည်ကိုပြန်လည်တိုက်ခိုက်ရန်စစ်တပ်စသည့်လိုအပ်သောအကူအညီများလည်းပေး၏။ ၁၆၈၉ ခုတွင် အိုင်ယာလန်ပြည်ကို ဝင်ရောက်တိုက် ခိုက်ခြင်းဖြင့် ထီးနန်းကို ပြန်လည်ရရှိအောင် ကြိုးစားသေးသည်။ သို့သော်ဂျိမ်းသည် ဗွိုင်းစစ်ပွဲတွင် နလံမထူနိုင် အောင် အရှုံးကြီး ရှုံး သွား သဖြင့် ပြင်သစ်ပြည် ပါရစ်မြို့ စိန်ဂျာမိန်းရပ်၌ ၁၇၀၁ ခုကွယ်လွန်သည့်တိုင်နေရတော့သည်။

ဂျုံ။ ။တရုပ်နိုင်ငံတွင်လွန်ခဲ့သော နှစ်ပေါင်း ၂၀၀၀ ကျော်ခန့်ကပင် ဂျုံကို စားသောက် ရန် ကောက် ပဲသီးနှံအဖြစ် ဖြင့်စိုက်ပျိုးခဲ့ကြသည်။ အီဂျစ်နိုင်ငံနှင့်ဆွစ်ဇာလန်နိုင်ငံတို့တွင်ရှေးလူများသည်လည်း ဂျုံကိုစိုက်ပျိုး၍ စားသောက် ခဲ့သည့်အထောက်အထားများ တွေ့ရှိရသေးသည်။ ထိုအထောက်အထားများမှာတရုပ်နိုင်ငံထက်နှစ်ပေါင်းထောင်ပေါင်းများ



ဝေဝေဆာဆာထွက်နေသောဂျုံအနှံများ

စွာပင်ရှေးကျသည်။ ထိုကြောင့်ဂျုံပင်မှာ လူ့ယဉ်ကျေးမှုစကတည်းကပေါ် ပေါက်လာသော စားဖွယ်ရာကောက်မျိုးဖြစ်သည်ဟုဆိုရပေမည်။

အစအဦးတွင် အမေရိကတိုက် သားများ တို့သည် ဖုံးစားပြောင်းကို ပဓာနထား၍ စားကြသော်လည်း၊ ယခုအခါတွင် ဂျုံကိုသာအများဆုံး စားသုံးလျက်ရှိကြသည်။ ရာသီဥတုအေးချမ်းသော အခြားတိုင်းပြည်များ၌လည်း ဂျုံကိုပဓာနအစာအဖြစ်စားသုံးကြလေသည်။

ဂျုံပင်သည် စိုစွတ်ပူအိုက်သော ရာသီဥတုတွင် မဖြစ်ထွန်းချေ။ ထိုအပင်မျိုးတို့ကိုမည်း၍စေးသောမြေတို့၌ ကောင်းမွန်စွာစိုက်ပျိုးလုပ်ကိုင်နိုင်သည်။ ထိုမြေမျိုးသည်မိုးဥတု၌ ရွာသောမိုးရေတို့ကို စုတ်ယူထိန်းသိမ်းထားနိုင်သောကြောင့် အမြစ်၌ သာရေကို အလိုရှိသော ဂျုံပင်တို့နှင့် အထူးပင်သင့်လျော်လေသည်။ နုံးမြေများ၌စိုက်ပျိုးသောအခါ မဖြစ်ထွန်းလှချေ။ သဲမြေ၊ သစ်ဆွေးမြေများ၌ကား ရေသွင်း၍စိုက်ပါမှအတော်အသင့်ဖြစ်ထွန်းနိုင်သည်။

ဂျုံစိုက် သော မြေကွက် များ၌ နှစ်စဉ်နှစ်တိုင်းဂျုံကိုဆက်လက်စိုက်ပျိုးသွားလျှင် ကောင်းစွာမဖြစ် ထွန်း တော့ပေ။ ထိုကြောင့် ပဲ၊ အာလူးစသည့်အခြားသီးနှံပင်များ အလှည့်ပေး၍စိုက်ရသည်။ သို့တည်းမဟုတ်၊ ဂျုံစိုက်ပြီးမြေကွက်များ၌တရာသီခန့် မည်သည့်အပင်မျှမစိုက်ဘဲ၊ မြေလှပ်ထားခြင်းဖြင့် မြေဩဇာပြန်၍ကောင်းလာအောင်ပြုလုပ်နိုင်၏။

ဂျုံပင်များကိုအနောက်နိုင်ငံများ၌စပရင်းဥတု (နွေကူးရာသီ) တွင် စတင်စိုက်ပျိုးကြ၏။ မြန်မာနိုင်ငံကဲ့သို့ပူအိုက်စိုစွတ်သောရာသီဥတုရှိသည့် တိုင်းနိုင်ငံမျိုး၌ကား မိုးကုန်လောက်တွင်မှ စတင်စိုက်ပျိုး လုပ်ကိုင်နိုင်ကြသည်။ မြန်မာနိုင်ငံတွင်မိုးပါး၍ဆောင်းအခါ၌ အတန်ငယ်အေးသောရာသီဥတုရှိသည့် ရှမ်းပြည်နယ်နှင့် မြန်မာနိုင်ငံအထက်ပိုင်း စစ်ကိုင်း၊ အောက်ချင်းတွင်း၊ ကျောက်ဆည်၊ ရွှေဘိုစသည့် လွင်ပြင်ဒေသများတွင်ဂျုံကိုစိုက်ပျိုးကြသည်။

အနောက်နိုင်ငံများတွင် ဆောင်းအခါမအေးလွန်းသော တိုင်းပြည်များ၌ ဂျုံပင်များကို နွေကူး ရာသီတွင် သာမက၊ ဆောင်းရာသီ၌လည်းစိုက်ပျိုးကြသည်။ ဤသို့လျှင်နွေကူးရာသီဂျုံနှင့် ဆောင်းရာသီဂျုံဟူ၍ရှိကြသည်။

ဂျုံမှာအမာစား၊ အပျော့စားဟု ၂ မျိုးကွဲသည်။ အရောင်မှာလည်း အနီ၊ အဝါ၊ အဖြူကွဲကာအချို့မှာအရွက်နေပုံ ပုံပန်းသဏ္ဌာန်ပါကွဲပြားခြားနားသည်။ အချို့မှာမှည့်ချိန်ချင်း ကွဲပြားခြားနား၏။ ထိုကြောင့်အမျိုးအစားပေါင်း ၃,၅၀၀ ကျော်မျှရှိလေသည်။ ဂျုံပင်များကို ၄ လခန့်မျှစိုက်ပျိုးရ၏။ မြေအမျိုးအစား ကိုလိုက်၍ သင့်တော်မည့်ဂျုံအမျိုးအစားကို ရွေးချယ်စိုက်ပျိုးကြရသည်။

ဂျုံပင်သည် ဝါဝင်းသောအနှံများဖြင့် ဦးခေါင်းငိုက်လာလျှင်မှည့်၍ ရိတ်ချိန်တန်ပြီဟုသိရသည်။ အချိန်ကျရောက်သည်နှင့်တပြိုင်နက်ရိတ်သိမ်းနိုင်ပါမှ အောင်မြင်သောသီးနှံ

တရုပ်ပြည်သူ့ သမတနိုင်ငံ၏စုပေါင်းထွန်ယက်သောလယ်ယာများတွင်ဂျုံကိုစုသိမ်းနေပုံ





ခေတ်မှီစက်ကြီးများဖြင့်ဂျုံကိုရိတ်သိမ်းနေကြစဉ်

များကိုရရှိနိုင်သည်။ အချိန်လိုသေးလျှင်လည်း၊ ဂျုံစေ့များမှာ ရှုံ့တွနေတတ်၍ပိုးတွယ်တတ်၏။ အချိန်လွန်သွားပြန်လျှင်လည်းဂျုံစေ့များကြွေကျတတ်သည်။

ခေတ်မှီသည့်နိုင်ငံကြီးများ၌ကား ဂျုံစိုက်ပျိုးရာ၌စက်များကိုအသုံးပြုကြလေသည်။ စိုက်ပျိုးရန်မြေကြီးကိုထွန်ယက်သည်မှစ၍ ပျိုးကြဲခြင်း၊ စိုက်ခြင်း၊ ရိတ်ခြင်း၊ နယ်ခြင်း၊ လှေ့ခြင်း၊ ကြိတ်ခြင်းစသည်တို့ကို စက်ဖြင့်သာလုပ်ကိုင်သွားကြသည်။ အချို့ကဂျုံစေ့များကိုနယ်ရန်အတွက်စက်တစက်၊ လှေ့ရန်အတွက်တစက်၊ ကြိတ်ရန်အတွက်တစက်အသုံးပြုသော်လည်း၊ ယခု၌ကား ရိတ်ခြင်း၊ နယ်ခြင်း၊ လှေ့ခြင်းများကို တခါတည်းအပြီးအစီး လုပ်ကိုင်ပေးနိုင်သောစက်မျိုးပေါ်ပေါက်နေလေပြီ။ မြန်မာနိုင်ငံတွင်ကားဂျုံကိုစက်ဖြင့်မစိုက်ပျိုးကြသေးချေ။

စက်ကရိယာမသုံးသောမြန်မာနိုင်ငံ၌ ဂျုံပင်များစိုက်ပျိုးပုံမှာ မိုးရာသီအတွင်း၌ဂျုံစိုက်မည့်ကွင်းများကို မိုးရွာပြီးတိုင်း ထွန် ပေး ရသည်။ ထယ်ဖြင့် ထိုးပေးရသည်လည်းရှိသည်။ ထိုသို့ထွန်ပြီးနောက်လွင်ပြင်ဒေသများ၌ မိုးကုန်သည့် တန်ဆောင်မုန်းလလောက်တွင်၎င်း၊ ရှမ်းပြည်နယ်၌ သီတင်းကျွတ်လတွင်၎င်း မျိုးကြဲလေသည်။ ဂျုံမှာစပါးကဲ့သို့မဟုတ်ဘဲ၊ မျိုးကြဲခြင်းပြီးသည့်နောက်တွင်လည်း၊မျိုးစေ့များမြေထဲသို့ ၃ လက်မ၊ ၄ လက်မ ခန့်ကျသွား၍၊ မြေဖြင့်ဖုံးအုပ်နေလေအောင် ထပ်မံထွန်ပေးရသည်။ သာမန်အားဖြင့်ဆိုလျှင် မြေတဧကလျှင်မျိုးစေ့တတင်းခန့် ကြဲပေးရသည်။ သို့ရာတွင် မြေဩဇာကောင်းလျှင်ဖြစ်စေ၊ ရေသွင်းစိုက်ပျိုးရသည့် အခါ၌ ဖြစ်စေ၊ မျိုးကြဲနောက် ကျလျှင်ဖြစ်စေ၊ မျိုးစေ့များပိုမိုကြဲပေးရသည်။ ရိတ်သိမ်းချိန်မှာမြန်မာနိုင်ငံ၌ လွင်ပြင်ဒေသများတွင် တပေါင်းလလောက်တွင်၎င်း၊ ရှမ်း ပြည် နယ် ကဲ့သို့ ကုန်း မြင့် ဒေသများ၌ တပို့တွဲလလောက်တွင်၎င်း ရိတ်သိမ်းကြလေ့သည်။

ရိတ်သိမ်းပုံမှာ ဂျုံပင်များကို တံစဉ်ဖြင့် အပင်ရင်း နားမှ ကပ်၍ရိတ်ရသည်။ အပင်တိုလျှင်ဆွဲနုတ်ယူရသည်။ ရိတ်ပြီး၊ နုတ်ပြီးလျှင်ကောက်ပင်များကို ကောက်လှိုင်းများပြုလုပ်၍ထားရသည်။ ထိုဂျုံကောက်လှိုင်းများကိုခြောက်သွေ့သွားစေရန် တရက်နှစ်ရက်ခန့်နေပူပြီးမှ တလင်းထဲသို့သယ်ယူ၍နွားဖြင့်နင်းနယ်ရသည်။ သို့တည်းမဟုတ်တုတ် ဖြင့်ရိုက်၍ဂျုံစေ့များထုတ်ယူရသည်လည်းရှိသည်။ ထိုနောက်အမှော်အဖျင်းမပါရအောင်လှေ့ပေးရသည်။

မြန်မာနိုင်ငံ၌ဂျုံစိုက်ပျိုးရာတွင် အထွက်မကောင်းလှချေ။ နိုင်ငံတွင်း လိုသမျှကိုပင် မဖြည့်စွမ်းနိုင်အောင် ဂျုံအထွက်နည်းနေသေးသဖြင့် တိုင်းတပါးတို့ကိုသာအားကိုးနေရလေသည်။ ခေတ်မှီသောနိုင်ငံကြီးများ၌ကား စက်ကရိယာများကိုသုံး၍ စံနစ်တကျခေတ်မှီစွာစိုက်ပျိုးလုပ်ကိုင်ကြသဖြင့် အမျိုးအစားကောင်း၍ အထွက်လည်းများပေသည်။ ကမ္ဘာပေါ်တွင်ဂျုံအများဆုံးထွက်အောင်စိုက်ပျိုးနိုင်သောနိုင်ငံမှာ အမေရိကန်ပြည်ထောင်စုဖြစ်၍ ကမ္ဘာ့ဂျုံထွက်သမျှ၏ ၄ ပုံ ၁ ပုံမျှရရှိလေသည်။ ရုရှမှာဒုတိယဂျုံအထွက်

များသောနိုင်ငံဖြစ်၍ ကနေဒါနိုင်ငံမှာတတိယ၊ အိန္ဒိယနိုင်ငံမှာ စတုတ္ထ၊ ပြင်သစ်နိုင်ငံမှာပဥ္စမဖြစ်လေသည်။

ဂျုံစေ့ကိုစက်တင်ကြိတ်သော အခါဂျုံမှုန့်နု၊ ဂျုံမှုန့်ကြမ်း၊ ရွှေကြည်မှုန့်ခေါ် ဂျုံဆန်ကွဲ၊ ဂျုံဖွဲ့ဟူ၍ဂျုံမှုန့်အမျိုးအစားများကိုရရှိလေသည်။ ထိုဂျုံမှုန့်များဖြင့် မုံ့ပဲသားရေစာအမျိုးမျိုးတို့ကိုပြုလုပ်ကြသည်။

ခေတ်မှီနိုင်ငံကြီးများ၌ ဂျုံပင်မှရရှိသောကောက်ရိုးများကို အလဟဿမဖြစ်စေဘဲ၊ စက္ကူ၊ ဦးထုပ်၊ ဖျာ၊ ဖျာပန်းအတုများစသည်တို့ကိုပြုလုပ်ကြသည်။ ကောက်ရိုးပြတ်များကိုကား မီးရှို့ကာမြေဩဇာအဖြစ်အသုံးပြုကြသည်။

**ဂျုံမှုန့်။** ။ဂျုံမှုန့်သည်ဂျုံစေ့မှကြိတ်ယူသောအမှုန့်ဖြစ်၍ ပေါင်မုန့်၊ ဗီစကွတ်မုန့် စသည်တို့ကိုဂျုံမှုန့်နှင့် ပြုလုပ် ကြသည်။ ဂျုံစေ့သည် စပါးစေ့ထက်အနည်းငယ်ပိုရှည်၍ အလုံးပိုကြီးသည်။ သို့ရာတွင်စပါးစေ့လောက်ထိပ်နှစ်ဖက်မချွန်ချေ။ ဂျုံစေ့၏ဘေးတဖက်တွင် အရှည်လိုက်ကွဲကြောင်းတခုရှိ၏။ ဂျုံစေ့တခုလုံး၏အပြင်ဖက်တွင် အဝါရင့်ရောင်အခွံဖုံးလွှမ်းထား၏။ ကြိတ်လိုက်သောအခါ ထိုအခွံများကိုဂျုံဖွဲ့အဖြစ်ဖြင့်ရရှိသည်။ အခွံအတွင်း၌ကစီအများပါရှိသောအစေ့ဖြူရှိသည်။ ထိုအစေ့ကိုကြိတ်လိုက်သောအခါ ဂျုံမှုန့်အဖြူကိုရသည်။ ဂျုံစေ့တဖက်စွန်းတွင်အဆန်ကလေးတခုရှိသည်။ ထိုအဆန် သည်ဂျုံ၏ဗီဇဖြစ်၍ မြေတွင်စိုက်လျှင် အညှောက်ထွက်လာသည်။

ရှေးအခါက ဂျုံကို ကျောက် ဆုံနှင့် ကျောက်ကျည်ပွေ့များဖြင့်သာ ထောင်းခဲ့ကြသည်။ ထိုနောက်လက်ကြိတ်ဆုံများပေါ် လာသည်။ ထိုလက်ကြိတ်ဆုံများ သည် မြန်မာနိုင်ငံ၌ ယခုတိုင်အသုံးပြုလျက်ရှိသော မုံ့ကြိတ်ဆုံမျိုးကဲ့သို့ပင်ဖြစ်သည်။ လက်ကြိတ်ဆုံတွင် ကျောက်ပြားဝိုင်း ၂ ခုကို ၂ ဆင့်တပ်ထား၍ အပေါ်ဖက်ကျောက်ပြားအလယ်တွင် အပေါက်ဖောက်ထားသည်။ ဂျုံကြိတ်လိုသောအခါ ထိုအပေါက် တွင်းသို့ဂျုံစေ့များကို ချပေးကာ အပေါ် ဖက်ကျောက်ပြား ကိုလက်ကိုင်ဖြင့်လှည့်ပေးရသည်။ ထိုမှတဆင့်ကာလအတန်ကြာသော် နွားဖြင့်လှည့်ရသောအလားတူကြိတ်ဆုံအကြီးစားများပေါ် ပေါက်လာပြန်သည်။ နွားများကိုအသုံးပြုနေရာမှတဖန် ရေစီးအား နှင့် လေအား ကို အသုံးပြုရ သော ဂျုံကြိတ်စက်မျိုး ကို တဆင့်တိုး၍ တီထွင်လာကြပြန်သည်။ ရေစီးအားကို သုံး သောစက်များတွင် ကျောက်ပြားကိုရေစီးအားဖြင့်လည်စေသည်။ ထိုကြောင့် ချောင်းများရှိရာအရပ်တွင် ထိုစက်မျိုးများအလျှိုလျှိုပေါ် ပေါက်ခဲ့ကြသည်။ ရေအားမရနိုင်သောနေရာများတွင်မူ လေအားကိုအသုံးပြုကြရ၏။ ဟော်လန်နိုင်ငံ၌ ယခုတိုင်အောင် အ ဆိုပါ လေအား ဖြင့်လည် သော ဂျုံကြိတ်စက်မျိုး အမြောက်အမြား ရှိနေသေး သည်။ ထိုစက်မျိုးများတွင် လေရဟတ်ကြီးများဖြင့်ကျောက်ပြားကိုလည်စေလေသည်။ ကျောက်ပြားတချပ်ပေါ် တွင် အခြားတချပ်ကိုလှည့်ပေး၍ ဂျုံကြိတ်လာခဲ့ရာမှ ၁၈၇၀ ပြည့်နှစ်လောက်သို့ရောက်သော အခါ ပျော့ကြောင်းကလေးများ ထိုး ထား သော ဒလိမ့်တုံးများဖြင့် ကြိတ်ပေးသည့်နည်းပေါ် လာသည်။ ယခုခေတ် ဂျုံကြိတ် စက် များ တွင် အသုံး ပြုနေကြ သော နည်းမှာ ဤဒလိမ့်ကြိတ်နည်းပင်ဖြစ်၍ ထိုစက်များတွင် သံမဏိဒလိမ့်တုံးများကိုအသုံးပြုထားကြသည်။ ယခုအခါဥရောပတိုက်နှင့် အမေရိကန်နိုင်ငံရှိဂျုံစက်ကြီးများမှာ ခေတ်မှီစက်များဖြင့်လည်ရ၍၊ ရှေးကနှင့်စာလျှင် မနှိုင်းယှဉ်သာအောင် အဆပေါင်းများစွာတိုးတက်ကောင်းမွန်လာလေပြီ။

ခေတ်သစ်ဂျုံကြိတ်စက်များ၌ အထပ်ပေါင်း ၈ ထပ်မှ ၁၀ ထပ်ခန့်အထိရှိ၍ ဂျုံကြိတ်သည့်အလုပ်ကိုအပေါ် ဆုံးထပ်မှ အောက်ဆုံးထပ်တိုင်အောင် အဆင့်ဆင့်လုပ်ကိုင်၍သွားကြသည်။ ဂျုံကြိတ်စက်သို့ရောက်လာသောဂျုံစေ့များသည် အမှိုက်သရိုက်များနှင့်ရောနေတတ်သောကြောင့် မကြိတ်မီစင်ကြယ်အောင်ပဌမပြုလုပ်ပေးရသည်။ ထိုနောက်ဂျုံစေ့များကိုစက်၏အပေါ် ဆုံးထပ် သို့ တင်ပေးလိုက်သောအခါ တထပ်ပြီးတထပ်အလိုအလျောက်ကြေညက်၍ အောက်သို့ဆင်းလာသည်။ အထပ်တိုင်း၌ဒလိမ့်တုံးများအသီးသီးရှိကြရာ၊ ပဌမအဆင့်တွင်တခါတည်းညက်သွားအောင်မကြိတ်ဘဲ အခွံနှင့်အဆန်ကွဲရုံသာကြိတ်ပေးလိုက်သည်။ နောက်အဆင့်များသို့ရောက်မှ တခါထက်တခါညက်၍လာသည်။ ညက်သောဂျုံမှုန့်များနှင့်မညက်သေးသောဂျုံမှုန့်များကို ပိုးဆန်



ဂျုံကြိတ်စက်မှဂျုံမှုန့်ကျနေပုံ

ခါစိပ်များနှင့်ချ၍ ခွဲထုတ်ပြီးလျှင် မညက်သေးသောဂျုံမှုန့်များကိုတဖန်ထပ်၍ကြိတ်ရပြန်သည်။ ဤသို့ကြိတ်ယင်းမှာပင် စက်ကဂျုံကြမ်းနှင့်ဂျုံဖွဲ့ကိုတခြားစီခွဲထုတ်ပေးသွားသည်။ ဤသို့ဖြင့်နောက်ဆုံးအလွန်ညက်သောဂျုံမှုန့်အဖြူ၊ ညည်၎င်း၊ ဂျုံကြမ်းနှင့်ဂျုံဖွဲ့များသည်၎င်း၊ တနေရာစီခွဲခြား၍ထွက်လာကြသည်။ ဂျုံအမျိုးကိုလိုက်၍အချို့သောဂျုံမှုန့်သည် မဖြူဘဲအဝါရောင်ဖြစ်နေတတ်သည်။ လူအများကလည်း ဂျုံဖြူကိုသာပို၍ နှစ်သက်ပုံရသည်။ ထို့ကြောင့် စက်ပိုင်ရှင်များက ဂျုံမှုန့်ဝါများကို ဖြူ အောင် ချွတ်၍ ပေးလေ့ရှိကြသည်။

ကြိတ်ပြီး သောအခါ ဂျုံမှုန့်ကို အရွယ်အမျိုး မျိုးရှိသောအိတ်များဖြင့်ထည့်၍ ရပ်ဝေးရပ်နီးသို့တင်ပို့ရောင်းချသည်။ ဂျုံမှာအမျိုးမျိုးရှိသဖြင့် ဂျုံမှုန့်လည်းအမျိုးမျိုးရှိပေသည်။ တဖန်ဂျုံမှုန့်အကြမ်းအနုကိုလိုက်၍၎င်း၊ ပါဝင်နေသောဂျုံဖွဲ့အနည်းအများကိုလိုက်၍၎င်း၊ ဂျုံမှုန့်အစားစားရှိပြန်သည်။ တနှစ်တနှစ်လျှင် တကမ္ဘာလုံး၌ ဂျုံမှုန့်အမြောက်အမြားကို ပေါင်မုံ့၊ ဗီစကွတ်မုံ့ စသည်တို့ပြုလုပ်၍ စားသောက်လျက်ရှိကြသည်။ ဂျုံကြိတ်ရာမှဘေးထွက်ပစ္စည်းအဖြစ်ဖြင့်ထွက်လာသောဂျုံဖွဲ့၊ ဂျုံကြမ်းစသည်တို့ကိုမူ ကျွဲ၊ နွား၊ သိုး၊ ဆိတ်၊ ကြက်၊ ဝက်တို့အား ကျွေးမွေးကြရသည်။

# ကောင်းကင်ကိုတန်ဆာဆင်လျက်ရှိသောပိမာန်များ

**ဂြိုဟ်သည်ကမ္ဘာမြေကြီးကဲ့သို့ပင် နေစကြာဝဠာ၏တစိတ်တဒေသဖြစ်သည်။ သို့သော် ဂြိုဟ်နှင့် ဤကမ္ဘာမြေမှာ သဘာဝချင်းကွဲပြားခြားနားလှ၏။ အချို့မှာကမ္ဘာထက်ငယ်၍၊ အချို့မှာအဆပေါင်းများစွာကြီးသည်။ အချို့မှာအလွန်ပူ၍ အချို့မှာအလွန်အေးသည်။ အချို့တွင်လေမရှိ။ အချို့တွင်ရေမရှိပေ။**

**ဂြိုဟ်များ။** ။အနောက်နိုင်ငံနက္ခတ္တဗေဒ အလို၌ ဂြိုဟ်ဟူသည်မှာ နေကိုဗဟိုပြု၍လှည့်ပတ်နေသော ကောင်းကင်တန်ဆာများဖြစ်လေသည်။ ဂြိုဟ်သည်ကြယ်နှင့်ကွာခြားသည်။ ဂြိုဟ်၌ကြယ်ကဲ့သို့ ကိုယ်ပိုင်အလင်းရောင် မရှိချေ။ (ကြယ် — ရှု။) ဂြိုဟ်မှထွက်သောအလင်းရောင်သည်နေမှရသောအလင်းရောင်သာ ဖြစ်သည်။ ဂြိုဟ်တို့သည် နေကိုအမြန်နှုန်းအမျိုးမျိုးဖြင့် လှည့်ပတ်နေကြသည်။ နေကိုလှည့်ပတ်နေကြသော ယင်းတို့၏လမ်းကြောင်းများသည် တလမ်းစီဖြစ်ကြသည်။ ထိုလမ်းကြောင်းများ၏ပုံသဏ္ဌာန်မှာ ဘဲဥပုံသဏ္ဌာန်ဖြစ်သည်။

သိပ္ပံပညာအရ ယနေ့အထိသိရသလောက်မှာ နေကိုလှည့်ပတ်နေသော ဂြိုဟ်ပေါင်း ၉ လုံးသာလျှင်ရှိသည်။ နေနှင့်အနီးဆုံးမှအစပြု၍ အစဉ်အတိုင်းဖော်ပြရသော်၊ မာကျူရီ (ဗုဒ္ဓဟူးဂြိုဟ်)၊ ဗီးနပ် (သောကြာဂြိုဟ်)၊ ကမ္ဘာဂြိုဟ်၊ မား (အင်္ဂါဂြိုဟ်)၊ ဂျူပီတာ (ကြာသပတေးဂြိုဟ်)၊ ဆက်တန် (စနေဂြိုဟ်)၊ ယူရေးနပ်၊ နက်ပကျွန်းနှင့် ပလူတိုတို့ဖြစ်ကြ၏။ ထိုဂြိုဟ်အားလုံးပင် အနောက်ဖက်မှ အရှေ့ဖက်သို့ လည်ကြသည်။ မာကျူရီနှင့် ဗီးနပ်ဂြိုဟ်တို့သည် နေနှင့်ကမ္ဘာကြားတွင်ရှိ၍ ကျန်ဂြိုဟ်များမှာမူ ကမ္ဘာ့လမ်းကြောင်း အပြင်ဖက်တွင် ရှိကြသည်။ နေကိုလှည့်ပတ်ရာတွင် မာကျူရီနှင့် ဗီးနပ်တို့သည် ကမ္ဘာထက်မြန်၍ ကျန်ဂြိုဟ်များသည် ကမ္ဘာထက်နှေးသည်။ မားနှင့်ဂျူပီတာအကြားတွင် နေကိုလှည့်ပတ်သွားနေကြသော ဂြိုဟ်ကလေးပေါင်းမြောက်မြားစွာ ရှိသေးသည်။

အဆိုပါဂြိုဟ်အားလုံးတို့သည် နေစကြာဝဠာမိသားစုထဲတွင် ပါဝင်ကြသော်လည်း တခုနှင့်တခုမတူဘဲ ကွဲပြားခြားနားကြကုန်သည်။ ဂြိုဟ်အချို့သည် ကမ္ဘာထက်ငယ်ကြ၍ အချို့မှာမူကမ္ဘာထက် အဆပေါင်းများစွာ ကြီးမားကြသည်။ အချို့မှာအလွန်ပူ၍ အချို့မှာအလွန်အေးသည်။ ဂြိုဟ်အချို့တွင်လေမရှိ။ ဂြိုဟ်အချို့တွင်ရေမရှိပေ။

မာကျူရီသည် နေနှင့်အနီး ဆုံးဂြိုဟ် ဟုဆိုရသော်လည်း နေမှမိုင်ပေါင်း ၃၆,၀၀၀,၀၀၀ ဝေးကွာသည်။ အချင်းမှာ မိုင်းပေါင်း ၃၀၀၀ ဖြစ်သဖြင့် ကမ္ဘာထက်ငယ် သည်။ ဂြိုဟ်အားလုံးအနက်နေကိုအမြန်ဆုံး လှည့်ပတ်သောဂြိုဟ်ဖြစ်၏။ မာကျူရီသည် ၈၈ ရက်နှင့် နေကိုတပတ်ပြည့်အောင်လှည့်သဖြင့် ထိုဂြိုဟ်၌တနှစ်တွင် ရက်ပေါင်း ၈၈ ရက်သာရှိသည်။ နေနှင့်မည်သည့်အခါမျှ မဝေးကွာသောကြောင့် ထိုဂြိုဟ်သည် နေရောင်တွင် ပျောက်နေလေ့ရှိသည်။ တခါတရံ နေဝင်ပြီးနောက် တနာရီလောက်ကြာအောင်အထိ အနောက်ယွန်းယွန်း ကောင်းကင်ယံ၌ဖြစ်စေ၊ တခါတရံ နံနက်နေမထွက်မီ အရုဏ်တက်အချိန်တွင် အရှေ့ယွန်းယွန်း ကောင်းကင်ယံ၌ဖြစ်စေ၊ ယင်းကိုတွေ့မြင်ရတတ်ပေသည်။ ယင်းဂြိုဟ်၌လေ၊ သို့မဟုတ်လေထု မရှိချေ။ ထိုဂြိုဟ်သည် ဝင်ရိုးပေါ်၌ တပတ်လည်ရန် မည်မျှကြာသည်ကို အငြင်းပွားလျက် ရှိကြသည်။ သို့ရာတွင် နေကိုလှည့်ပတ်စဉ် မိမိဝင်ရိုးပေါ်၌ တပတ်လည်သည်ကိုမူ တွေ့ရ၏။ နေဖက်သို့လှည့်နေသော အပိုင်း၏ မျက်နှာပြင် အပူချိန်သည် ၆၅၀ ဒီဂရီ ဖာရင်ဟိုက်ခန့် ဖြစ် သည်။ အခြားဖက် အပိုင်း မှာမူ အလွန်အေးသည်။

ဗီးနပ်သည် အလွန်တရာတောက်ပသောကြောင့် ယင်းကို ကောင်းကင်တွင် အခြားဂြိုဟ်များထက် လွယ်ကူစွာမြင်ရသည်။ နေနှင့်လတို့ကလွဲလျှင် ဗီးနပ်သည်အထွန်းလင်းဆုံး

ဖြစ်၏။ လကဲ့သို့ပင် ပုံသဏ္ဍာန်ပြောင်းသည်။ ပြည့်ဝန်းနေချိန်တွင် ဗီးနပ်သည် ကမ္ဘာနှင့်အလွန်ဝေးသောကြောင့် အလွန်သေးငယ်စွာမြင်ရသည်။ လခြမ်းပုံဖြစ်နေချိန်တွင်မူ ဗီးနပ်သည် အထွန်းလင်းဆုံးဖြစ်၏။ ဗီးနပ် ဂြိုဟ်လုံး၏ အချင်းမှာ ၇၇၇၅ မိုင် ခန့်ရှိသောကြောင့် အရွယ်အားဖြင့် ကျွန်ုပ်တို့ကမ္ဘာနီးပါးမျှ ရှိသည်။ ထိုဂြိုဟ်၏ပတ်ဝန်းကျင်၌ အလွန်ထူထပ်သော လေထုရှိသည့်အတွက် မှန်ပြောင်းဖြင့် ကြည့်သောအခါ ဂြိုဟ်၏ မျက်နှာပြင်ကိုမမြင်ရချေ။

ဗီးနပ်ဂြိုဟ်ကို တိမ်တောင်တိမ်လိပ်များ အမြဲဖုံးအုပ်နေသောကြောင့် ထိုဂြိုဟ်၌ လေရှိမည်မှာ သေချာသည်။ နေမှရရှိသောအပူရှိန်သည် လည်း သက်ရှိသတ္တဝါ တမျိုးမျိုး တို့နေနိုင်ရန်အတွက် လုံလောက်သည်ဟု ယူဆနိုင်စရာအကြောင်းရှိသည်။ သို့သော် လူတို့နေနိုင်ရန်အတွက် အောက်ဆီဂျင်၊ နိုက်ထရိုဂျင်၊ ရေခိုးရေငွေ့တို့ လုံလောက်စွာရှိ မရှိကိုကား မည်သူမျှသေချာစွာ မပြောနိုင်ချေ။

မားသည် အရွယ်အားဖြင့် ကမ္ဘာ၏တဝက်မျှသာရှိသည်။ ထိုဂြိုဟ်သည် အချို့အချက်များတွင် ကမ္ဘာနှင့်ဆင်တူသည်။ မားဂြိုဟ်သည် ဝင်ရိုးပေါ်၌ တပတ်လည်ရာတွင် ကမ္ဘာကဝင်ရိုးပေါ်၌ တပတ်လည်သလောက်ပင် ကြာမြင့်သည်။ ထိုအချိန်မှာ ၂၄ နာရီ ၃၇ မိနစ်ဖြစ်၏။ ကမ္ဘာ၏ဝင်ရိုးစောင်းသလောက် မား၏ဝင်ရိုးလည်း စောင်းသည်။ ကမ္ဘာဂြိုဟ်၌ ဖြစ်ပေါ်သော ရာသီဥတုမျိုး မား၌လည်း ဖြစ်ပေါ်သည်။ သို့ရာတွင် မား၌ဖြစ်သော ရာသီဥတုတို့သည် ကမ္ဘာ၌ဖြစ်သော ရာသီဥတုတို့ထက် အချိန်ကာလအားဖြင့် ၂ ဆပို၍ကြာသည်။ မားဂြိုဟ်၏ မျက်နှာပြင်သည် ကမ္ဘာ၏မျက်နှာပြင်ထက် ပို၍ပြေပြစ်သည်။ ကမ္ဘာပေါ်၌ရှိသော ကုန်းမြင့်များ၊ တောင်တန်းကြီးများ မားပေါ်၌ မရှိချေ။ မား၏ဝင်ရိုးစွန်းအရပ်များ၌ ဖြူနေခြင်းမှာ နှင်းများ ဖုံးအုပ်ထားသောကြောင့်ဟု ယူဆရသည်။ မားပေါ်တွင် ချောင်းများမြောင်းများ ရှိသည်။ သက်ရှိသတ္တဝါများ ကျန်ရှိသည်ဟူ၍မူ မည်သူမျှ မဆိုနိုင်သေးချေ။ မားပေါ်တွင် လေထုရှိသည်ဟု ဆိုရသော်လည်း ကမ္ဘာ၏လေထုလောက် ထူထပ်သိပ်သည်းခြင်း မရှိချေ။ မား၏ဆွဲအားသည်လည်း ကမ္ဘာ၏ဆွဲအားလောက် မကြီးချေ။ ကမ္ဘာပေါ်တွင် ၆ ပေခုန်နိုင်သူသည် မားပေါ်၌ ၁၆ ပေမျှ ခုန်နိုင်ပေမည်။ ပျမ်းမျှအပူချိန်သည် ရေခဲသည့်အပူချိန်ထက် နည်းမည်ဟု ခန့်မှန်းရသော်လည်း ရှည်လျားသောနွေရာသီတွင်မူ ထိုထက်ပူလိမ့်မည်ဟု ယူဆရသည်။

ဂျူပီတာသည် ဂြိုဟ်များတွင်အကြီးဆုံးဖြစ်သော ကြာသပတေးဂြိုဟ်ကို ခေါ်သည့် အမည်ပင်ဖြစ်၏။ ထိုဂြိုဟ်ကြီးသည် ကျွန်ုပ်တို့ကမ္ဘာမှ မိုင်ပေါင်း ၆၀၀,၀၀၀,၀၀၀ ကွာဝေး၍ ပမာဏအားဖြင့် ကျွန်ုပ်တို့၏ကမ္ဘာထက် အဆပေါင်း



နက္ခတ် မျှော်စင်တွင် ဤကဲ့သို့ အလွန်အားကောင်းသော တယ်လီစကုပ်ဖြင့်ဂြိုဟ်များကိုလေ့လာကြသည်။

၁,၃၀၀ ရှိ၏။ သို့ရာတွင် အလေးချိန်အားဖြင့် ၃၁၇ ဆသာရှိသည်။ ဝင်ရိုးစွန်းတခုမှ တခုသို့ အချင်းမိုင်ပေါင်း ၈၂,၉၀၀၊ အီကွေတာ (အလယ်ရစ်) ၌ အချင်းမိုင်ပေါင်း ၈၈,၇၀၀ ရှိသည်ဟု ဆိုလေသည်။ ဂျူပီတာသည် ဗီးနပ်ခေါ်သောကြာဂြိုဟ်မှတပါး၊ အထွန်းလင်းဆုံး ဂြိုဟ်ကြီးဖြစ်၍၊ တောက်ပသော အရံဂြိုဟ် ၁၁ လုံး ခြံရံလျက်ရှိသည်။ နေမှ အကွာအဝေးအလိုက် ဆိုရလျှင်၊ ဂျူပီတာသည် ပဉ္စမမြောက် ဂြိုဟ်ကြီးဖြစ်၍၊ နေကို ၁၂ နှစ်ခန့်တွင်မှ တပတ် ပတ်မိအောင် လှည့်လည်ရသည်။ မိမိဝင်ရိုးပေါ်တွင် တပတ်လည်ရန်မှာ ၉ နာရီ ၅၅ မိနစ်ကြာသည်။

ဂျူပီတာကို မှန်ပြောင်းဖြင့် ကြည့်သောအခါတွင်မည်း၍ တောက်ပြောင်သော အစင်းကြောင်းများကိုတွေ့ရသည်။ အမည်းစက်များလည်း တခါတရံ ပေါ်ပေါက်လာတတ်၏။ ထိုအမည်းစက်များသည် တဖြည်းဖြည်းမှိန် သွားကြပြီးလျှင် ကွယ်ပျောက်သွားတတ်ကြ၏။ ထိုအမည်းစက်များသည် ဂြိုဟ်အတွင်းမှထွက်လာသော ဓာတ်ခိုးဓာတ်ငွေ့များ ဖြစ်တန်ရာသည်ဟု နက္ခတ္တဗေဒပညာရှင်တို့က ယူဆကြလေသည်။ နေမှ ဂျူပီတာအကွာအဝေးသည် နေမှ ကမ္ဘာအကွာအဝေးထက် ၅ ဆမျှရှိသည်။ ထိုကြောင့် အပူချိန်သည် ဖာရင်ဟိုက် ဒီဂရီ သုညအောက် များစွာကျရောက်

ပေမည်။ ဖာရင်ဟိုက် ဒီဂရီ — ၂၀၀ (သုညအောက်ဒီဂရီ ၂၀၀) လောက် အပူချိန်ရှိသည်ဟူ၍ခန့်မှန်းချက်ရှိသည်။ များမကြာမီကပင် နက္ခတ္တဗေဒပညာရှင်တို့သည် ဂျူပီတာဂြိုဟ်ပေါ်၌ အမ်မိုးနီးယား ဓာတ်ငွေ့နှင့် မက်သိန်း ဓာတ်ငွေ့တို့ ရှိကြောင်း သိရှိခဲ့ကြလေသည်။

ဆက်တန်ဂြိုဟ်သည် ဒုတိယအကြီးဆုံးဂြိုဟ်ဖြစ်သည်။ ထိုဂြိုဟ်တွင် ကွင်းများပါရှိသဖြင့် အလွန်ထူးဆန်းသည်။ ယခုအခါ ထိုကွင်းများကို ဒြပ်ဖြင့် တသားတည်း ပြီးနေသည်ဟု မယူဆတော့ဘဲ၊ ထိုဂြိုဟ်ကို အလွန်များပြားသော ဥက္ကာများက ဝန်းရံလှည့်ပတ်နေသောကြောင့် အဖြူရောင်ကွင်းများသဏ္ဌာန် ဖြစ်ပေါ်နေသည်ဟု ဆိုလေသည်။ ဆက်တန်ဂြိုဟ်၌ ကွင်း ၃ ကွင်းရှိသည်။ ထိုကွင်းတို့၏ အဝန်းသည် အလွန်ကျယ်ဝန်းကြီးမား၍ အတွင်းအကျဆုံးသောကွင်း၏ အနားမှ အပြင်ဖက်အကျဆုံးအနားသို့ မိုင်ပေါင်း ၄၁,၅၀၀ မျှကျယ်၏။ ထိုကွင်းတို့၏အထုမှာ ၁၀ မိုင်ခန့် ရှိမည်။ ဆက်တန်ဂြိုဟ်သည် ဝင်ရိုးပေါ်၌ တပတ်လည်ရန် ၁၀ နာရီ ၁၄ မိနစ်ကြာသည်။ ဆက်တန်ဂြိုဟ်၏ကွင်းများသည် ၁၅ နှစ်ခန့်တွင် တကြိမ် ကမ္ဘာဖက်သို့ထောင်လိုက်တည့်တည့် ကျသဖြင့် ကမ္ဘာမှ ထိုကွင်းများကို အလွန်အားကောင်းသော တယ်လီစကုပ်ဖြင့်ကြည့်သော်ငြားလည်း မမြင်ရသလောက်ရှိသည်။

ယူရေးနပ်၊ နက်ပကျွန်းနှင့် ပလူတိုဂြိုဟ်တို့၏အကြောင်းကိုမူ အနည်းအကျဉ်းမျှသာ သိရှိရသေးသည်။ ကမ္ဘာမှ အလွန်တရာဝေးကွာလှသောကြောင့် အလွန်အားကောင်းသော တယ်လီစကုပ်ဖြင့် ကြည့်လင့်ကစား ထွန်းလင်းနေသော ကောင်းကင် တန်ဆာကလေးများအဖြစ်မှ လွဲ၍ အခြားမည်သည့် အကြောင်းအချက်များကိုမျှ မတွေ့မြင်ရပေ။ ဂျူပီတာ၊ ဆက်တန်တို့နှင့်နှိုင်းစာလျှင် ယူရေးနပ်နှင့် နက်ပကျွန်းတို့သည် သေးငယ်သော်လည်း ကမ္ဘာနှင့်နှိုင်းစာလျှင်ကား အလွန်ပင် ကြီးမားပေသည်ဟု နက္ခတ္တဗေဒပညာရှင်တို့ကယူဆကြသည်။

မာကျူရီ၊ ဗီးနပ်၊ ပလူတိုတို့မှလွဲ၍ အခြားဂြိုဟ်များ၌ အရံဂြိုဟ်များရှိသည်။ ပလူတို၌ အရံဂြိုဟ်မရှိတန်ရာဟု ယူဆထားသည်။ ကျွန်ုပ်တို့ကမ္ဘာကို လှည့်ပတ်နေသော လသည်ကမ္ဘာ၏အရံဂြိုဟ် ဖြစ်၏။ မား၌ အလွန်ငယ်သော အရံဂြိုဟ် ၂ လုံး ရှိသည်။ ဂျူပီတာ၌ အရံဂြိုဟ် ၁၁ လုံး၊ ဆက်တန်၌ ၉ လုံး၊ ယူရေးနပ်၌ ၅ လုံး၊ နက်ပကျွန်း၌ ၁ လုံး အသီးအသီးရှိကြသည်။

အာကာသလောကတွင် ပလူတိုကို လွန်၍ အခြားဂြိုဟ်များရှိကောင်းရှိပေဦးမည်။ ဂြိုဟ်သစ်များကို ရှာဖွေသောလုပ်ငန်းမှာ စတင်ခဲ့ပြီဖြစ်ရာ၊ နောင်အခါ မည်သို့သောဂြိုဟ်များကို ထပ်မံတွေ့ဦးမည်ကို စောင့်ကြည့်ရန်သာရှိပေသည်။

မြန်မာ့အခေါ်၌ ဂြိုဟ်ဟူသည်မှာအိမ်၊ သို့မဟုတ်ဗိမာန်ဟု အဓိပ္ပါယ်ရ၏။ နေကိုတနင်္ဂနွေဂြိုဟ်မင်းလကိုတနင်္လာဂြိုဟ်မင်းဟူ၍ သတ်မှတ်သည်။ အထက်ကပြဆိုခဲ့သော အင်္ဂါ၊ ဗုဒ္ဓဟူး၊ ကြာသပတေး၊ သောကြာ၊ စနေဂြိုဟ်တို့အပြင် ရာဟုဂြိုဟ်နှင့် ကိတ်ဂြိုဟ်ဟုလည်းရှိသေးသည်။

အောက်ပါဇယား၌ ဂြိုဟ်များကို သိပ္ပံပညာအရရင်း၊ သက္ကဋပါဠိ၊ ဟင်ဒီ၊ မြန်မာ အခေါ်များအရရင်း၊ အစဉ်အတိုင်းနှိုင်းယှဉ်၍ပြလိုက်သည်။

| သိပ္ပံပညာ | သက္ကဋ/ပါဠိ | ဟင်ဒီ | မြန်မာ |
|---|---|---|---|
| မာကျူရီ | ဗုဓ | ဗုဓ | ဗုဒ္ဓဟူးဂြိုဟ် |
| ဗီးနပ် | ရှုကြ | ရှုကြ | သောကြာ |
| ကမ္ဘာ | — | ပထွိ=ပထဝီ | — |
| မား | မံဂလ/အင်္ဂါရ | မံဂလ | အင်္ဂါ |
| ဂျူပီတာ | ဗြဟသ္ပတိ/ဂုရု | ဗြဟသ္ပတိ/ဂုရု | ကြာသပတေး |
| ဆက်တန် | ရှနိ | ရှနိ | စနေ |
| ယူရေးနပ် | — | ဝါရုဏ | — |
| နက်ပကျွန်း | — | ဟာရိဂြဟ (ဂြိုဟ်စိမ်း) | — |
| ပလူတို | — | ပီတဂြဟ | — |
| — | ရာဟု | — | ရာဟု |
| — | ကေတု | — | ကိတ် |
| — | နေ | — | တနင်္ဂနွေ |
| — | လ | — | တနင်္လာ |

**ဂြိုဟ်သိမ်ဂြိုဟ်မွှားများ။** ။ဂြိုဟ် သိမ်ဂြိုဟ်မွှား များဆိုရာ၌ နေစကြာဝဠာတွင် ဂျူပီတာဂြိုဟ်နှင့် မားဂြိုဟ်တို့သွားရာလမ်းကြောင်းနှစ်ခုစပ်ကြား မိုင် ၃၀၀,၀၀၀,၀၀၀ ကျယ်ပြောသော လဟာပြင်ကြီးရှိ ဂြိုဟ်ကလေးပေါင်းများစွာကိုဆိုသည်။ ယနေ့အထိ ဂြိုဟ်ကလေးပေါင်း ၁၅၀၀ ကျော်မျှကို နက္ခတ္တဗေဒပညာရှင်တို့တွေ့ရှိခဲ့ပြီးဖြစ်၍ နောက်ထပ်လည်း အခြားဂြိုဟ်ကလေးများကို ထပ်မံတွေ့ရှိနေရဆဲဖြစ်သည်။ ဂြိုဟ်ကလေးတို့သည် မည်မျှသေးငယ်ကြသနည်းဟူမူ အကြီးဆုံးကိုပင် သာမန်မျက်စိဖြင့်ကြည့်၍မမြင်နိုင်ချေ။ မှန်ပြောင်းနှင့်ကြည့်မှသာလျှင် မြင်နိုင်သည်။ အကြီးဆုံးသောဂြိုဟ်ကလေးမှာ ဆီးရိုးဖြစ်၍ အချင်း ၄၈၅ မိုင်ရှိ၏။ ဂြိုဟ်ကလေးအချို့၏အချင်းမှာ ၁၀ မိုင်အောက်ပင်ငယ်ကြသေးသည်။

အဆိုပါဂြိုဟ်ကလေးတို့သည် ဂြိုဟ်ကြီးတလုံးကြေမွသွားရာမှ ဖြစ်ပေါ်လာဟန်တူသည်ဟု ရှေးကယူဆခဲ့ကြသည်။ သို့ရာတွင် ယခုခေတ်နက္ခတ္တဗေဒပညာရှင်တို့က အောက်ပါအတိုင်းယူဆကြ၏။ ဂြိုဟ်ကလေးတို့သည် ယင်းတို့တည်




ကျောက်တုံးကျောက်ခဲသဏ္ဍာန်ရှိသော အီးရော့ဂြိုဟ်

ဂြိုဟ်များသည်လုံးဝန်းသောပုံသဏ္ဍာန်ရှိသည် ဟုထင်မြင်ကြပေမည်။ သို့ရာတွင်နက္ခတ္တဗေဒပညာရှင်တို့၏ စူးစမ်းချက်အရ အီးရော့ ခေါ်ဂြိုဟ်ကလေးသည် ကျောက်တုံး၊ ကျောက် ခဲကဲ့ သို့ ပုံသဏ္ဍာန်မပြေပြစ်သော အစိုင် အခဲဖြစ် ကြောင်း သိရှိရ သည်။ ထို့ကြောင့် အခြား ဂြိုဟ်သိမ် ဂြိုဟ်မွှား များ သည်လည်း အီး ရော့ဂြိုဟ်ကဲ့သို့ပင် ဖြစ် မည်ဟုအချို့ကယူဆကြသည်။ ယာဖက်ထောင့်စွန်ရှိပုံတွင်အီး ရော့ဂြိုဟ်သွား ရာလမ်းကြောင်းသည်မားဂြိုဟ်၏လမ်းကြောင်း အတွင်းသို့ဖြတ်ကျော်လျက်ရှိသည်ကိုတွေ့နိုင်ပေသည်။ ထိုပုံတွင်ဂြိုဟ်များကို နေ နှင့် အနီးအဝေးအလိုက် စီစဉ်၍ပြထားပေသည်။

ရှိရာနယ် အတွင်း၌ ဆွဲအား ကောင်း သော မဟာ့ဂြိုဟ် တခုသာ အကယ်၍ရှိပါက ထိုမဟာ့ဂြိုဟ်၌စုပေါင်း၍ ဂြိုဟ်ကြီးတလုံးဖြစ်လာနိုင်ဖွယ်ရာရှိသည်။ မည်သို့ဆိုစေကာမူ ထိုဂြိုဟ်ကလေးများဖြစ်ပေါ် တည်ရှိနေပုံ၏ဇာစ်မြစ်ကိုကား မည်သူမျှအတိအကျအပြည့်အစုံမသိရသေးချေ။

ဂြိုဟ်ကလေးတို့သည် ဂြိုဟ်ကြီးများနည်းတူပင် နေကိုလှည့်ပတ်၍နေကြသည်။ နေကိုလှည့်ပတ်ရာ၌ ၃ နှစ်မှ ၁၀ နှစ်အထိအချိန်ကြာ၏။ ဂြိုဟ်ကလေးတို့သွားရာလမ်းကြောင်းများသည် ဘဲဥပုံသဏ္ဍာန်များဖြစ်ကြသည်။ လမ်းကြောင်း၏အစွန်းတဖက်သည် အခြားအစွန်းထက် နေနှင့်များစွာပိုမိုနီးကပ်လျက်ရှိသည်။

အီးရော့ခေါ် ဂြိုဟ်ကလေးသည် ၂၇ နှစ်တွင် တကြိမ်ကျ ကမ္ဘာနှင့် မိုင် ၁၃,၀၀၀,၀၀၀ ကွာဝေးသော နေရာသို့ ရောက်လာတတ်သည်။ ထိုဂြိုဟ်ကလေး ရွေ့ရှားနေပုံကို ကြည့်၍နက္ခတ္တဗေဒပညာရှင်တို့သည် ကမ္ဘာမှ နေ၏အကွာအဝေးကိုအကောင်းဆုံးနည်းဖြင့် တွက်ချက်ယူနိုင်ကြသည်။ ထိုဂြိုဟ်ကလေးကို ၁၈၉၈ ခုနှစ်တွင်ဘာလင်မြို့မှ ဗစ်ဆိုသူနက္ခတ္တဗေဒပညာရှင်တဦးက စတင် တွေ့ရှိခဲ့သည်။ အီးရော့သည် ကျွန်ုပ် တို့က မ္ဘာ ဂြိုဟ် ကဲ့ သို့ အလုံးပုံမဟုတ်ဘဲ၊ ကျောက်တုံးကျောက်ခဲကြီးကဲ့သို့ပုံပန်း မပြေပြစ် သည့် အစိုင်အခဲကြီးဖြစ်ကြောင်းကို ထူးဆန်းစွာ တွေ့ရလေသည်။ ဤအချက်ကိုထောက်သဖြင့် အခြားဂြိုဟ်ကလေး များ လည်း ဤအ တိုင်း ဖြစ်နိုင် စရာရှိသည်ဟု အချို့ကယုံကြည်ယူဆကြသည်။

**ဂွမြို့။** ။ဂွမြို့ သည် ရခိုင် တိုင်း သံတွဲ ခရိုင် ၏ တောင် ဖက် အ စွန် ဆုံး မြို့ နယ် ရုံး စိုက် ရာ ဒေသဖြစ်သည်။ ဂွမြစ်လကျာ်ဖက်ကမ်းတွင်တည်ရှိသည်။ ဂွမြို့မှမြောက်ဖက်သို့လားသော် မိုင် ၅၀ ခန့်တွင် ရှောက်ကုန်းရွာကျောက်ပုံရေးစခန်း၌ သံတွဲမြို့နယ်နှင့်ပိုင်းခြားထားသော နယ်ခြားကျောက်တိုင်ရှိသည်။ ဂွမြို့မှတောင်ဖက်သို့ ၁၂ မိုင်ခန့်လားသော် သာပေါင်းမြို့နယ်နိမိတ်နှင့်စပ်မိ၏။ အရှေ့ဖက်တွင်ရခိုင်ရိုးမတောင်ခြေ၊ အနောက်ဖက်တွင် ဗင်္ဂလားပင်လယ် အော်ရှိသည်။

ရခိုင် တိုင်း ကိုဗြိတိသျှ တို့သိမ်း ပိုက် ၍၊ သံတွဲ ခရိုင် ကို သတ်မှတ် စဉ် က၊ ဂွမြို့ နယ် သည် သံတွဲ ခရိုင် ၌ အပါအဝင် ဖြစ် သည်။ သို့သော်ခရစ် ၁၈၅၂ ခုနှစ် အင်္ဂလိပ် မြန်မာ ဒုတိယစစ်ပွဲအပြီးတွင် မြန်မာနိုင်ငံအောက်ပိုင်းကိုဗြိတိသျှတို့သိမ်းပိုက်လိုက်သောအခါ ဂွမြို့နယ်တွင်းရှိ ကျိန်တလီရွာအထိပါဝင်သောဒေသကို ပုသိမ်မြို့နယ်နှင့်ပေါင်းစပ်လိုက်သည်။ သို့သော်တဖန်ခရစ် ၁၈၆၄ ခုနှစ်သို့ရောက်သောအခါ၊ ယင်းနယ်ကိုသံတွဲခရိုင်သို့ပြန်လည်သွတ်သွင်းပြီးလျှင် ဂွမြို့နယ်ကိုယခင်ကအတိုင်းတည်ရှိစေခဲ့သည်။

ဂွမြို့နယ်၏အဓိကလုပ်ငန်းမှာ တံငါလုပ်ငန်းဖြစ်သည်။ သို့သော်ထိုလုပ်ငန်းသည် မြို့နယ်တွင်းဖူလုံမျှတရုံသာရှိသည်။ ယင်းမြို့နယ်မှ မျှင်ငပိအကောင်းစား ထွက်သော်လည်း၊ အခြားအရပ်သို့တင်ပို့ရောင်းချလောက်အောင် မထွက်ချေ။

ဆန်စပါးစိုက်ပျိုးသည်။ သစ်၊ ဝါး၊ အုန်းသီးပေါသည်။ ရောင်းရေးဝယ်တာအတွက် ဂွမြို့နှင့် ပုသိမ်မြို့တို့သည် ကတ္တရာ သမ္မန်ကြီးများဖြင့်အဆက်အသွယ်ရှိကြသည်။ ဂွမြို့မှမော်တင်စွန်းကိုကျော်၍၊ ငဝန်မြစ်အတိုင်းဆန်တက်လျှင်၊ ပုသိမ်မြို့သို့ရောက်နိုင်သည်။

**ဂွာတီမားလနိုင်ငံ။** ။ဂွာတီမားလနိုင်ငံသည် အမေရိကတိုက် အလယ်ပိုင်း တွင် အရေးအကြီး ဆုံး နှင့် လူဦးရေအများဆုံးနိုင်ငံဖြစ်လေသည်။ မူလကထိုနိုင်ငံသည် အမေရိကတိုက်အလယ်ပိုင်းပြည်နယ်များအဖွဲ့တွင် ပါဝင်ခဲ့သော်လည်း၊ ၁၈၃၉ ခုနှစ် ဧပြီလ ၁၇ ရက်နေ့တွင် သမတနိုင်ငံအဖြစ်ဖြင့် ကြေညာခဲ့လေသည်။ လက်ရှိအုပ်ချုပ်ပုံအခြေခံဥပဒေမှာ ၁၉၄၅ ခုနှစ်ကအတည်ပြုခဲ့သောဥပဒေဖြစ်သည်။

ဂွာတီမားလ နယ်မှာ မက္ကဆီကိုနယ်၏ တောင် ဖက် နှင့် အယ်ဆယ်လဗာဒေါနိုင်ငံနှင့် ဟွန်ဒူးရပ်နယ်တို့၏ မြောက်ဖက်တွင် တည်ရှိသည်။ မီးတောင်ငယ်အများအပြားပါဝင်သော ဆီယယ်ရာမက်ဒရီတောင်တန်းသည် ဂွာတီမားလနိုင်ငံကို ပစိဖိတ်သမုဒ္ဒရာအနီးမှအစပြု၍ အနောက်မြောက်ဖက်မှသည် အရှေ့တောင်ဖက်သို့ ဖြတ်သန်းလျက်တည်ရှိလေသည်။ ကျဉ်း မြောင်းသော အနောက်ပိုင်းဆင်ခြေလျှောဒေသမှာ မြေဩဇာထက်သန်၍ လူနေအများဆုံးဒေသဖြစ်သည်။ အတ္တလန္တိတ် ကမ်း ခြေဖက် တွင် တောင် များ ရှိ၍ မြောက်ဖက်တွင်ကား ပေတင် လွင်ပြင် ရှိသည်။ ဤနိုင်ငံတွင် ရေအိုင်များလည်းအများအပြားရှိသည်။




ဂွာတီမားလနိုင်ငံတည်နေရာပြမြေပုံ

ဂွာတီမားလနိုင်ငံ၏အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၄၂,၀၄၂ ရှိ၍ လူဦးရေမှာ ၁၉၅၀ ပြည့်နှစ်သန်ခေါင်စာရင်းအရ ၂,၇၈၇,၀၃၀ ဖြစ်သည်။ ပင်လယ်ကမ်းရိုးတန်းမှာ ကယ်ရစ်ဗျန်ပင်လယ်ဖက်တွင် မိုင် ၇၀ မျှရှည်လျား၍ ပစိဖိတ်သမုဒ္ဒရာဖက်တွင် မိုင် ၂၀၀ မျှရှည်လျားသည်။

ဂွာတီမားလနယ်ကို သဘာဝအပိုင်းအခြားအားဖြင့်(၁) ပစိဖိတ်ကမ်းခြေမြေနိမ့်ဒေသ (၂) ဆီယယ်ရာမက်ဒရီအရပ်ရှိ မီးတောင်ဒေသ (၃) မြောက်ပိုင်းတောင်ကုန်းဒေသ (၄) အတ္တလန္တိတ်ကမ်းခြေဖက်ရှိ တောင်တန်းဒေသနှင့် (၅) ပေတင်လွင်ပြင်ဟူ၍ ၅ ပိုင်းခွဲခြားနိုင်၏။

ရာသီဥတုမှာ ကျန်းမာရေးနှင့် သင့်တင့်သော ရာသီဥတုဖြစ်၏။ သို့ရာတွင်ကမ်းခြေပိုင်း၌ကား ရာသီဥတုအခြေအနေမှာ အနည်းငယ်ဆိုးရွားလေသည်။ နှစ်စဉ်ရွာသွန်းသောပျမ်းမျှမိုးရေချိန်မှာ ၆ လက်မဖြစ်၏။

ဂွာတီမားလနိုင်ငံမှာ မီးတောင်ပေါများသည့်ဒေသဖြစ်သောကြောင့် မြေဩဇာကောင်းမွန်၍ စိုက်ပျိုးရေးများစွာဖြစ်ထွန်း၏။ အချို့အရပ်ဒေသများတွင် ဂျုံကိုတနှစ်လျှင် ၂ သီး၊ ပြောင်းကိုတနှစ်လျှင် ၃ သီးအထိ စိုက်ပျိုးလုပ်ကိုင်ကြသည်။ ကော်ဖီပင်များကိုလည်း အကြီးအကျယ်စိုက်ပျိုးလုပ်ကိုင်သည့်ပြင် ကိုကိုး၊ ကြံ၊ ငှက်ပျော၊ ဗနီလာအမွှေးပင်တို့ကိုလည်း စိုက်ပျိုးကြသည်။

ဂွာတီမားလနိုင်ငံမှ ရွှေ၊ ငွေ၊ ခဲ၊ သံဖြူ၊ ကြေးနီ၊ ပြဒါး၊ လဈေးစသော ဓာတ်သတ္တုများလည်းထွက်၏။ သို့ရာတွင် သယ်ယူပို့ဆောင်ရေးအခက်အခဲများကြောင့် ဂွာတီမားလနိုင်ငံရှိသတ္တုတူးဖော်ရေးလုပ်ငန်းများမှာ ခရီးရောက်သင့်သလောက်မရောက်ခဲ့ချေ။ အခြားသောထွက်ကုန်များမှာကော်ဖီ၊ ပျားရည်၊ ငှက်ပျောသီး၊ သကြား၊ ဂျုံ၊ ဝါဂွမ်း၊ ကြက်ပေါင်စေး၊ သစ်၊ ပြောင်း စသည်တို့ဖြစ်လေသည်။ ၁၉၅၂ ခုနှစ်ကုန်သွယ်ရောင်း ဝယ်ရေး စာရင်း အရ ထွက်ကုန်ရာခိုင်နှုန်း ၈၂ မှာ ကော်ဖီဖြစ်လေသည်။ ဆပ်ပြာ၊ အိမ်ထောင်ပရိဘောဂနှင့် အိုးလုပ်ငန်းများမှာ ဂွာတီမားလ၏ လက်မှုလုပ်ငန်းရပ်များဖြစ်သည်။ ဂွာတီမားလ၏ရောင်းဝယ်ရေးဖောက်သည်မှာ အမေရိကန်နိုင်ငံပင်ဖြစ်သည်။

ဂွာတီမားလနိုင်ငံ၏ လူဦးရေရာခိုင်နှုန်း ၆၀ ကျော်ခန့်မှာ တိုင်းရင်းသား အရှေ့အိန္ဒိယလူမျိုးများဖြစ်၏။ ထိုလူမျိုးများ၏ ဒေသအလိုက်ပြောဆိုကြသော ဘာသာစကားမှာအမျိုးပေါင်း ၁၈ မျိုးခန့်ရှိ၍ အဝတ်အစား၊ ဓလေ့ထုံးစံတို့တွင်လည်း ကွဲပြားကြသည်။ အများဆုံး အသုံးပြုကြသောဘာသာစကားမှာ စပိန်



**အာဖရိကတိုက် တောင်ဖက်အစွန်းဖြစ်သော ဂွတ်ဒဟုပ်အငူကို အဝေးမှတွေ့မြင်ရပုံ**

စကားဖြစ်သည်။ ဂွာတီမားလနိုင်ငံသည် စပိန်လက်အောက်ခံပြည်နယ်ဘဝမှ ၁၈၂၂ ခုနှစ်တွင်လွတ်မြောက်ခဲ့၏။ ၁၈၄၇ ခုနှစ်တွင် အမေရိကတိုက်အလယ်ပိုင်းပြည်နယ်များ အဖွဲ့ကိုဖျက်သိမ်းလိုက်သောအခါ ဂွာတီမားလပြည်သည် သီးခြားသမတနိုင်ငံဖြစ်လာလေသည်။ ဂွာတီမားလနိုင်ငံ၏မြို့တော်မှာ ဂွာတီမားလမြို့တော်ဖြစ်၍ လူဦးရေမှာ ၁၉၅၀ ပြည့်နှစ်၏ သန်းခေါင်စာရင်းအရ ၂၉၃,၉၉၈ ဖြစ်လေသည်။ ဂွာတီမားလမြို့တော်ကို ၁၇၇၆ ခုနှစ်တွင် တည်ထောင်ခဲ့သော်လည်း ၁၉၁၇ ခုနှစ်တွင် မြေလျှင်လှုပ်သဖြင့် အကြီးအကျယ်ပျက်စီးသောကြောင့် အသစ်ပြန်၍တည်ရသည်။ ပစိဖိတ်သမုဒ္ဒရာမှမိုင် ၇၀ ဝေးသောမြေသြဇာကောင်းမွန်သည့်အရပ်တွင် ဂွာတီမားလမြို့သည်တည်ရှိ၍ ပင်လယ်ရေမျက်နှာပြင်မှ ပေပေါင်း ၅,၀၀၀ မြင့်သည်။ မြို့တော်တွင် အမျိုးသားတက္ကသိုလ်များရှိလေသည်။

**ဂွတ်ဒဟုပ်အငူ။** ။အာဖရိကတိုက်၏ တောင်ဖက်ဆုံးအဖျားရှိ အငူကြီးကို 'ဂွတ်ဒဟုပ်အငူ' ဟုခေါ်သည်။ ထိုအငူကြီးမှာ ကမ္ဘာ့ရာဇဝင်အားဖြင့် အထူးထင်ရှားကျော်စောလေရာ၊ ယင်းကိုအစွဲပြု၍၊ ယခင်က 'ကိပ်ကိုလိုနီ' တွင်ခဲ့သောနယ်ကိုပင် 'ကိပ်–အော့–ဂွတ်ဒဟုပ်' ဟုခေါ်ကြလေသည်။ ထိုနယ်မှာ တောင်အာဖရိကတိုက်ပြည်ထောင်စု၏ တစိတ်တဒေသဖြစ်၍ မူလကိုလိုနီနယ်၊ အရှေ့ဂရိကွာလင်နယ်၊ တင်ဗျူလန်နယ်၊ ထရန်စကေးနယ်၊ ဝေါလဗစ်ဗေးနယ်၊ ပွန်ဒိုလန်နယ်၊ ဗက်ချူအားနားလန်းနယ်စသောနယ်ပယ်တို့ပါဝင်ကြသည်။

ထိုနယ်သည် မြေသြဇာ အတော်အသင့်ကောင်းမွန်၍ သစ်သီးများကိုစိုက်ပျိုးနိုင်သည့်အပြင်၊ ကျယ်ပြန့်သောလွင်ပြင်များ၊ ကုန်းမြေမြင့်များရှိသောကြောင့်လည်း သိုးမွေးခြင်းလုပ်ငန်းနှင့် ကျွဲနွား၊ ဆိတ်တို့မှနို့၊ ဒိန်၊ ထောပတ်များ ထုတ်ယူခြင်းလုပ်ငန်းများ အကြီးအကျယ်လုပ်ကိုင်ကြ၏။

သတ္တုများလည်းထွက်၍ အဖိုးထိုက်တန်လှသောစိန်ကို ကင်ဗာလီခရိုင်မှ ရရှိလေရာ၊ ကင်ဗာလီစိန်တွင်းများမှာ ကမ္ဘာ့ကျော်ဖြစ်လေသည်။

အာဖရိကတိုက်တောင်ပိုင်းကို ဥရောပတိုက်သားများ တွေ့ရှိပြီးနောက် နှစ်ပေါင်း ၁၅၀ ခန့်ကြာသည့်တိုင်အောင် အာဖရိကတိုက်၏ တောင်ဖက်အစွန်ဆုံးဖြစ်သော ဤအငူကြီးအကြောင်းကို ကောင်းစွာမသိကြချေ။

ထိုနေရာတဝိုက်တွင် လေပြင်းမုန်တိုင်းများအလွန်ပေါများရကား မကြာမကြာပင်လှသင်္ဘောများသည် လေမုန်တိုင်းဒဏ်ဖြင့်ပျက်စီးကြရလေသည်။

ထိုအငူကြီးကို ခရစ် ၁၄၈၇ ခုနှစ်တွင် ပေါ်တူဂီလူမျိုးပင်လယ်ခရီးသွား ဗာတူးလူးမေယုဒီအတ်ဆိုသူက ပဌမဆုံးတွေ့ရှိ၍ သူသည် အငူကြီး၏ပတ်ဝန်းကျင်၌ ပြင်းထန်စွာ

တိုက်ခတ်သော ကြောက်မက်ဖွယ်ကောင်းလှသည့်လေမုန်တိုင်းများကိုအစွဲပြုကာ ထိုအငူကို 'လေမုန်တိုင်းအငူ' ဟု အမည်ပေးလေသည်။

ဤအကြောင်းများကိုမြေပုံနှင့်တကွ ပေါ်တူဂီနိုင်ငံဒုတိယဂျွန်ဘုရင်ထံဆက်သရာ ဘုရင်က၊ ဤအငူကြီးမှာ အရှေ့ဖက်တိုင်းကြီးပြည်ကြီးများနှင့် အိန္ဒိယနိုင်ငံသို့သွားရာဗဟိုစခန်းဌာနရှိသည့်အတိုင်း ဤအငူကိုတွေ့ရှိရခြင်းအားဖြင့် အရှေ့နိုင်ငံများမှပစ္စည်းဘဏ္ဍာရတနာရွှေငွေများသည်မိမိတို့တိုင်းပြည်တွင်းသို့ဝင်ရောက်ရန် မြော်လင့်ချက်များရှိကြောင်းဖြင့်နိမိတ်ကောင်းယူပြီးလျှင် လေမုန်တိုင်းအငူဟူသောအမည်ကိုပြင်၍ ကောင်းသောမြော်လင့်ချက်အငူ 'ကိပ်–အော့–ဂွတ်ဒဟုပ်' ဟု ပြောင်းလဲခေါ်တွင်စေခဲ့သည်။

၁၄၉၇ ခုနှစ်၌ ဗတ်ရှကူး သဂါမဆိုသူ ပေါ်တူဂီလူမျိုးခရီးလှည့်ပုဂ္ဂိုလ်ကြီးတယောက်သည် အာဖရိကတိုက်ကြီးကို ထိုအငူမှကွေ့၍ အိန္ဒိယနိုင်ငံရှိကာလိကတ်မြို့သို့ သွားရောက်နိုင်ခဲ့ရာ၊ ဥရောပတိုက်မှ အိန္ဒိယသို့ ဤအငူကိုပတ်လျက်သွားသည့်လမ်းတွင် သူသည်ပဌမဆုံးခရီးသည်ပင်ဖြစ်၏။

ငွမ်အ၊ ဝါ — ရှ။

**ဂျွန်ဆင်၊ဗင်** (ခရစ် ၁၅၇၃–၁၆၃၇)။ ။ဗင်ဂျွန်ဆင်ကား ဒေါက်တာဆယ်မျူယယ်ဂျွန်ဆင်မပေါ်ပေါက်မီ နှစ်ပေါင်း ၁၅၀ လောက်ကထွန်းကားခဲ့သောအင်္ဂလိပ်လူမျိုး စာရေးဆရာကြီးတဦးဖြစ်သည်။ သူသည်ရှိတ်စပီးယား၊ ဗိုးမွန့်၊ ဖလက်ချားစသော ကမ္ဘာကျော်ပုဂ္ဂိုလ်ကြီးများနှင့် ရေးဖေါ်ရေးဖက်တယောက်ဖြစ်သဖြင့် ဂျွန်ဆင်၏အရည်အသွေးကိုမှန်းဆနိုင်ပေ၏သည်။ ဤသို့ကမ္ဘာကျော်စာရေးဆရာကြီးတဦးဖြစ်သောဗင်ဂျွန်ဆင်ကား ပဌမ၌မထင်ရှားသောပုရန်သမားတဦးသာလျှင်ဖြစ်ခဲ့၏။

ဂျွန်ဆင်သည် ပုရန်အလုပ်ကိုလုပ်ကိုင်နေယင်း အားလပ်ချိန်များတွင်ဖတ်ရန် စာအုပ်တအုပ်ကို သူ့အိတ်တွင်အမြဲဆောင်ထားလေ့ရှိလေသည်။ သို့သော်ဗင်ဂျွန်ဆင်နာမည်ကျော်ကြားလာရခြင်းမှာ စာပေပညာတွင်ထူးချွန်သောကြောင့်သာမဟုတ်ဘဲ၊ မူလဓာတ်ခံပါရမီထူးခြားမှုနှင့် ဥပမိရှပ်ခန့်ညားမှုတို့ကြောင့်လည်းဖြစ်ပေသည်။ ငယ်ရွယ်စဉ်ကဆိုးတေခဲ့၍ အိမ်ပြေးအဖြစ်လေလွင့်နေရာမှ ဂျွန်ဆင်သည်စစ်ထဲသို့ဝင်ရောက်ခဲ့၏။ ထိုမှတဖန်ထောင်ကျခဲ့၏။ ငယ်ရွယ်သူတို့ဘာဝ သူနှင့်ပြိုင်ဖက်တဦးအား နှစ်ယောက်ချင်းထိုးခုတ်ပွဲ၌ အနိုင်ယူခဲ့ဘူးလေသည်။ သို့သော်လည်း ပညာပါရမီထူးချွန်သူဖြစ်သည့်အလျောက် နောင်တခေတ်တွင်နာမည်ကျော်ကဗျာဆရာ၊ ပြဇာတ်ဆရာ၊ စာရေးဆရာတယောက်ဖြစ်ခဲ့လေသည်။ ရှိတ်စပီးယားကဲ့သို့သောပြဇာတ်ဝိဇ္ဇာကြီးကပင် အရေးတယူပြုမှုဆက်ဆံခဲ့ရလေသည်။ ဂျွန်ဆင်ရေးသောပြဇာတ်တခုကိုရုံတင်ကပြရာတွင် ရှိတ်စပီးယားကိုယ်တိုင်ပါဝင်အသုံးတော်ခံခဲ့သည်။ ၁၆၀၃ ခုနှစ်တွင်လည်းရှိတ်စပီးယား၏ဝိုင်းတော်သားများသည် ဂျွန်ဆင်၏ပဌမဆုံးအလွမ်းဇာတ်လမ်းတခုဖြစ်သော 'ဆက်ဂျေနပ်' ခေါ်ပြဇာတ်ကို လန်ဒန်မြို့ဂလုပ်ရုံတွင်ရုံတင်ခဲ့ကြသည်။

ထိုနောက်တွင် ဂျွန်ဆင်သည် ကဗျာသီချင်းများကိုရေးသားခဲ့ရာ သူ၏သီချင်းများကိုလူကြိုက်များခဲ့၏။ စကားပြေအရေးအသားဖက်၌လည်းနာမည်ရသူဖြစ်၏။ ဂျွန်ဆင်သည်လူချစ်လူခင်များသောပုဂ္ဂိုလ်တယောက်ဖြစ်ပေသည်။ ထိုခေတ်က လန်ဒန်မြို့တွင် ထမင်းဆိုင်များ၌ ဝိုင်းဖွဲ့စားသောက်လေ့ရှိရာ၊ ထိုစားပွဲသောက်ပွဲများတွင် ဂျွန်ဆင်သည်ထင်ရှားခဲ့လေသည်။ လန်ဒန်မြို့ချိပဆိုက်ရပ်ကွက်ရှိရေသူမထမင်းဆိုင်သို့ ဂျွန်ဆင်သည်မကြာခဏသွားရောက်စကားပြောလေ့ရှိ၏။ ထိုအခါစာရေးဆရာလောင်းများသည် ဂျွန်ဆင်ကိုဂရုတစိုက်နားထောင်ကြ၏။ ဤထမင်းဆိုင်၌ပင် ဂျွန်ဆင်ကို ရှိတ်စပီးယား၊ ဗိုးမွန့်၊ ဖလက်ချားစသည့်စာရေးဆရာကျော်များနှင့်အတူ တွေ့မြင်နိုင်ပေသည်။



အင်္ဂလိပ်နန်းတွင်းစာဆိုကြီးဗင်ဂျွန်ဆင်

တခါသော်ဂျွန်ဆင်သည် စကော့လူမျိုးတို့အကြောင်းကိုစောင်းပါးရိပ်ခြေရေးသားခဲ့ရာ အလွန်ထိမိလှသဖြင့် ပဌမဂျိမ်းဘုရင်နှင့်အခြေအရံတို့သည် ဒေါသူပုန်ထကာဂျွန်ဆင်အားဖမ်းဆီး၍ ထောင်သွင်းအကျဉ်းချထားလေသည်။ သို့ရာတွင်မိတ်ဆွေသင်္ဂဟတို့ကူညီသဖြင့် မကြာမီပင်ထောင်မှလွတ်လာခဲ့သည်။ ထိုနောက်ဂျွန်ဆင်သည် ဘုရင်၏ယုံ

ကြည့်မှုကိုရရှိရန်ထပ်မံကြိုးစားခဲ့သဖြင့် နောက်ဆုံးတွင်နန်းတွင်းစာဆိုဘွဲ့ထူး နှင့်တကွ ရိက္ခာတော်အဖြစ် တနှစ်လျှင်ပေါင် ၂၀၀ ကိုချီးမြှင့်ခြင်းခံရလေသည်။

**ဂျွန်ဆင်, အေမီ** (ခရစ် ၁၉၀၄–၁၉၄၁)။ ။၁၉၃၀ပြည့်နှစ်တွင် အင်္ဂလန်ပြည်ကရွိုင်ဒန်လေယာဉ်ပျံကွင်းမှ ဩစတြေးလီးယားကျွန်းသို့ ဂျေဆင်ခေါ်လေယာဉ်ပျံဖြင့်ပျံသန်းခဲ့သူ အမျိုးသမီးအား တကမ္ဘာလုံးကအံ့သြခဲ့ကြလေသည်။ ထိုအမျိုးသမီးကား အေမီဂျွန်ဆင်ပင်ဖြစ်၏။ အေမီဂျွန်ဆင်ပျံသန်းခဲ့သော ခရီးမှာ မိုင်ပေါင်း ၁၀,၀၀၀ ကျော်မျှရှိ၍ အခက်အခဲအမျိုးမျိုးကို ကျော်လွှန်အောင် စွန့်စားရသောခရီးဖြစ်သည်။ ရာသီဥတုအခြေအနေဆိုးသောကြောင့် လမ်းစပျောက်၍ ရန်ကုန်မြို့သို့သက်ဆင်းခဲ့ရသေးသည်။ တခါတွင် မိုးသက်လေပြင်းမိသဖြင့် အေမီ၏ လေယာဉ်ပျံသည် ငမန်းများကျက်စားရာကျွဲဗားပင်လယ်ပြင်တွင် ရေနှင့်လွတ်ရုံမျှသာပျံသန်းခဲ့ရသည်။

ရာသီဥတု၏ဒဏ်ချက်ကြောင့် လေယာဉ်ပျံသည်လည်း အတော်အတန်ပျက်စီးလျက်၊ လူကိုယ်တိုင်မှာလည်းအသက်ဆံဖျားစွန့်စားရပြီးလျှင် ၁၉၃၀ ပြည့်နှစ် မေလ ၂၄ ရက်နေ့ (အင်္ဂလန်မှထွက်ခဲ့သည့်နေ့မှ ၁၉ ရက်အကြာတွင်) ဩစတြေးလီးယားတိုက် ဒါဝင်မြို့သို့ ဆင်းသက်နိုင်ခဲ့လေသည်။ ထိုသို့သက်ဆင်းခဲ့သဖြင့် အင်္ဂလန်မှဩစတြေးလီးယားတိုက်သို့ ၁၅½ ရက်ဖြင့်ပျံသန်းခဲ့သော ကမ္ဘာ့စံချိန်မှာ ကျိုးမသွားသော်လည်း၊ အေမီမှာ ကမ္ဘာကျော်အမျိုးသမီးလေသူရဲကောင်းအဖြစ် အသိအမှတ်ပြုခြင်းခံရလေသည်။

ကမ္ဘာကျော်အင်္ဂလိပ်အမျိုးသမီးလေသူရဲကောင်းအေမီဂျွန်ဆင်



ထိုလေသူရဲကောင်းအေမီဂျွန်ဆင်သည် ၁၉၀၄ ခုနှစ်တွင် ဖွားမြင်၍ ရှက်ဖီးတက္ကသိုလ်မှ ဝိဇ္ဇာဘွဲ့ရသူတဦးဖြစ်သည်။ သို့ရာတွင်အေမီကား စာပေနှင့်ဆိုင်သောလုပ်ငန်းများတွင် စိတ်မဝင်စားဘဲ စွန့်စားခြင်းကိုလိုလားသူ သတ္တိခဲအမျိုးသမီးဖြစ်ပေသည်။ ၁၉၃၁ ခုနှစ်တွင် အဖော်တဦးနှင့် ဂျပန်နိုင်ငံသို့အသွားအပြန်ပျံသန်းခဲ့၏။ ၁၉၃၂ ခုနှစ်တွင် လန်ဒန်မှကိပ်တောင်းမြို့သို့ အသွားအပြန်ခရီးကို ၄ ရက် ၆ နာရီဖြင့်စံချိန်ပြုခဲ့သည်။ ထိုနှစ်တွင်နာမည်ကျော် လေသူရဲ ဂျေ၊ အေ၊ မော်လီဆင်နှင့် ထိမ်းမြားလက်ထပ်သည်။ ၁၉၃၃ ခုနှစ်တွင် အေမီသည်မိမိချစ်လင်နှင့်အတူတကွ အတ္တလန္တိတ်သမုဒ္ဒရာကို ဖြတ်သန်းခဲ့လေသည်။

အေမီ၏ထူးချွန်သော ရဲစွမ်းသတ္တိကို ဘုရင်နှင့်မိဖုရားတို့ကိုယ်တိုင်နှုတ်ဖြင့်ချီးကျူးခဲ့ကြရုံမက အို၊ ဘီ၊ အီး၊ ဘွဲ့ကိုပင် ပေးအပ်ခဲ့ဘူး၏။ အေမီကား ကမ္ဘာ့အမျိုးသမီးလောကတွင် မှတ်တမ်းတင်ထိုက်အောင်ထူးခြားသော အမျိုးသမီးဖြစ်ခဲ့ပေသည်။ နောက်ဆုံး၌ ၁၉၄၁ ခုနှစ်တွင် လေယာဉ်ပျံပျက်ကျသဖြင့် သေဆုံးရလေသည်။

**ဂျွန်ဆင်, ဆယ်မျူယယ်** (ခရစ် ၁၇၀၉–၁၇၈၄)။ ။သာမန်လူများထက် အရပ်အမောင်းထွားကျိုင်း၍ မျက်နှာပေါက်ဆိုးပြီးလျှင် ပတ်ဝန်းကျင်လောကကြီးကို မထီမဲ့မြင်ပြုကာ ကြီးမားလှသောမိမိ၏ခန္ဓာကိုယ်ကို ခပ်ကြမ်းကြမ်းလှုပ်ချည် ရမ်းချည် သွားလာတတ်သူအား မြင်သူတိုင်းက မျက်စောင်းထိုးကြ၏။ နှာခေါင်းရှုံ့ကြ၏။ သို့ရာတွင် ထိုသူကား မည်သူ့ကိုမျှ ဂရုမစိုက်၊ သူ့စိတ်ကူးနှင့်သူ ပါးစပ်ကတတွတ်တွတ်ရွတ်ဆိုလျက် လမ်းလျှောက်ယင်းတွေ့ရသော ဝင်းတံခါးတိုင်ထိပ်များကို သူ၏လက်တံရှည်ကြီးဖြင့်လှမ်း၍လှမ်း၍ ပင်ပုတ်သွားတတ်၏။ တခါတရံတွင် လည်းလမ်းလျှောက်နေယင်းပင် စိတ်ကူးရကာ၊ မိမိရောက်ရှိသည့်နေရာမှ ဝင်းခြံတခု၏ တံခါးဝအထိ ခြေလှမ်းမည်မျှရှိမည်ကို ရေတွက်လျက် လျှောက်သွားတတ်လေသည်။ သူ၏အမူအကျင့်များကား ထူးဆန်းလှ၏။ ထူးဆန်းသည်ကိုလည်း သူကိုယ်တိုင်သိ၏။ သိလျက်နှင့်ပင် ထိုအကျင့်များကို သူမဖျောက်နိုင်ခဲ့ပေ။ ညနေချမ်းအချိန် လမ်းလျှောက်ထွက်

သည့်အခါ သူ၏ဘေးမှ ဖြတ်ကျော်၍သွားသော မြင်းရထားများပေါ်မှ မိန်းမပျိုအိုတို့သည် သူ့အားလူထူးလူဆန်းသဖွယ် ကြည့်၍သွားကြ၏။ သူ့လက်ထဲတွင်လည်း လက်ရိုက်ကဲ့သို့သော တုတ်ကြီးတချောင်းအမြဲလိုပင် ပါတတ်လေသည်။ ဤမျှထူးဆန်းသော အမူအကျင့်များရှိသည့် ပုဂ္ဂိုလ်ကြီးကား အခြားမဟုတ်၊ အင်္ဂလိပ်စာပေသမိုင်းတွင် ထင်ရှားကျော်ကြားသောစာရေးဆရာကြီးဒေါက်တာဆယ်မျူယယ် ဂျွန်ဆင်ပင် ဖြစ်လေသည်။

ဂျွန်ဆင်ကို ၁၇၀၉ ခု စက်တင်ဘာလ ၁၈ ရက်နေ့တွင် လစ်ချဖီးမြို့၌ ဖွားမြင်၏။ သူ၏ဖခင်ဖြစ်သူ မိုက်ခယ်ဂျွန်ဆင်မှာ စာအုပ်ကုန်သည်လည်းဖြစ်၏။ တရားသူကြီးလည်းဖြစ်၏။ ဂျွန်ဆင်၏ ကလေးဘဝကား ဝမ်းနည်းဖွယ်တို့ဖြင့်သာလျှင်ပြည့်နှက်ခဲ့၏။ နို့စို့အရွယ်တွင် တကိုယ်လုံးကျပ်နာများပေါ်ပေါက်ခဲ့ရာ မိခင်ဖြစ်သူက အမျိုးမျိုးပြုစုသော်လည်း မသက်သာသည့်အဆုံး၌ ကလေးကိုအန်ဘုရင်မကြီးထံသို့ ယူသွားကာ ဘုရင်မကြီး၏လက်ဖြင့် ကလေးအားပွတ်သပ်ပေးစေခဲ့၏။ ဘုရင်မကြီးကသူ့လက်ဖြင့် ကလေးအားပွတ်သပ်ပေးလျှင် ဤရောဂါမျိုးပျောက်ကင်းသည်ဟု ထိုခေတ်ကယုံကြည်ခဲ့ကြ၏။ သို့ရာတွင်ကလေး၏ကျပ်နာကား မသက်သာခဲ့ပေ။ ကလေး၏မျက်လုံးတဖက်ကွယ်သွားရုံမျှမက ကိုယ်လက်အင်္ဂါတို့လည်း အကြောဆွဲနေ၏။ ထိုကြောင့်ဂျွန်ဆင်လမ်းလျှောက်သည့်အခါ၌ သူ၏ခြေလက်တို့မှာလှုပ်ရမ်းနေ၏။ သို့သော်လည်းသူသည် ငယ်စဉ်ကပင်အခြားကလေးများထက် ထူးချွန်းလေသည်။



အင်္ဂလိပ်ကျမ်းပြုဆရာကြီးဒေါက်တာဆယ်မျူယယ်ဂျွန်ဆင်

ဂျွန်ဆင်သည် ကလေးအရွယ်ကပင် စာဖတ်ခြင်းကိုအထူးဝါသနာပါခဲ့၏။ စာဖတ်လွန်း၍ သူ၏ဆရာက အလင်းရောင်နည်းလျှင် စာမကြည့်နှင့်ဟု တားမြစ်ခဲ့ရဘူးသည်။ သူသည်ဖတ်သမျှကိုလည်း တလုံးမကျန်မှတ်သားမိသည်။ တခါကသူ့မိခင်ရှေ့တွင် စာပိုဒ်တပိုဒ်ကို တခေါက်မျှဖတ်ပြီးနောက် စာအုပ်ကိုပိတ်လိုက်ကာ ထိုစာအုပ်အတိုင်းပြန်၍ ရွတ်ဆိုပြခဲ့ရာ၊ မိခင်သည်သားဖြစ်သူ၏ ဉာဏ်ကောင်းပုံကို အံ့သြချီးကျူးခဲ့ရလေသည်။

ဖခင်၏စာအုပ်ဆိုင်ရှိစာအုပ်များကိုသာ ဂျွန်ဆင်သည် အချိန်ရှိသရွေ့ဖတ်ရှုခဲ့ရလေသည်။ နှစ်နှစ်မျှအကြာတွင် သူ့အား အောက်စဖို့တက္ကသိုလ်သို့ပို့ရန် စရိတ်ခံမည့်ပုဂ္ဂိုလ်ကြီးတဦးပေါ်ပေါက်သဖြင့် ထိုတက္ကသိုလ်သို့သွားရောက်လေသည်။ ဆင်းရဲသားပညာသင်အဖြစ်ဖြင့် တက္ကသိုလ်၌ အခလွတ်ပညာသင်ခွင့်ရခဲ့သည်။ ကြေးရည်တတ်လူကုံထံတို့သည် ဂျွန်ဆင်၏အဝတ်အစားများကိုကြည့်ကာ သရော်လှောင်ရှိကြသော်လည်း ဆရာများနှင့်ကျောင်းသားအများကပင် သူ့ကိုချစ်ခင်ကြ၏။

ဂျွန်ဆင်သည်ဆင်းဆင်းရဲရဲနေရသော်ငြားလည်း မာနရှိသူဖြစ်၏။ တခါကကြင်နာသောမိတ်ဆွေတဦးက သူ၏မာနကိုသိပြီးဖြစ်၍ သူ့အားကိုယ်ထိလက်ရောက်ပေးကမ်းလျှင်ငြင်းပယ်မည်စိုးသဖြင့် ဖိနပ်တရံကိုသူ၏အခန်းတံခါးဝ တွင်ချထားခဲ့ဘူးသည်။ ထိုဖိနပ်ကိုဂျွန်ဆင်တွေ့ရာတွင် စိတ်ဆိုးမာန်ဆိုးဖြင့်လွှင့်ပစ်လိုက်ဘူး၏။ သူသည်မည်သူ၏ကရုဏာသက်မှုကိုမျှမလိုလားခဲ့ချေ။ အားလပ်လျှင် စာဖတ်မည်။ စာဖတ်ခြင်း၌သာသူမွေ့လျော်ခဲ့သည်။ သို့သော်လည်းသူ၏ဖခင်မှာ စီးပွားပျက်သဖြင့် သူသည်တက္ကသိုလ်မှထွက်ခဲ့ရလေသည်။

ဂျွန်ဆင်၏ဖခင်သေဆုံးသောအခါ ကျန်ရစ်ခဲ့သော မိခင်မုဆိုးမကြီးကို ဂျွန်ဆင်ကဆင်းဆင်းရဲရဲဖြင့်လုပ်ကျွေးပြုစုခဲ့ရပေသည်။ ထိုကဲ့သို့ဆင်းရဲဒုက္ခရောက်နေသည့်အချိန်မှာပင် ဂျွန်ဆင်သည်သူ၏အိမ်၌လာရောက်နေထိုင်သူဒုက္ခသည် မိန်းမရွယ်တဦးကို စောင့်ရှောက်ထားခဲ့၏။ မစ္စက်အယ်လစ်ဇဗက်ပေါ်တာအမည်ရှိ ထိုမိန်းမမှာဂျွန်ဆင်ထက် အသက်ကြီး၍ မုဆိုးမဖြစ်သော်လည်း ဂျွန်ဆင်သည် မကြာမီပင် ထိုမိန်းမနှင့် လက်ထပ်လိုက်သည်။ ပရိယေသနဝမ်းစာအလို့ငှါ ကြံရာမရသည့်အဆုံး၌ အလွတ်ပညာသင်ကျောင်းတကျောင်းဖွင့်ခဲ့သော်လည်း မအောင်မြင်ခဲ့ချေ။ သို့ဖြင့် ဂျွန်ဆင်သည် လန်ဒန်မြို့ကြီးသို့တက်လာခဲ့သည်။ သို့သော်လည်း ထိုခေတ်အခါကလန်ဒန်မြို့ရှိစာရေးဆရာများ၏ဘဝမှာ ယခုခေတ်မြန်မာစာရေးဆရာများ၏ ဘဝအခြေအနေအတိုင်းပင်ဖြစ်လေသည်။

သာမန်စာရေးဆရာတယောက်သည် စာရေး၍ရသောဝင်ငွေအပေါ်၌သာမှီ၍မနေနိုင်ချေ။ ရံဖန်ရံခါကြေးရည်တတ်စာပေလိုက်စားသူတို့က မေတ္တာအလျောက်ပေးကမ်းခြင်းဖြင့်သောငွေကိုလက်ခံကြရသည်။ ဂျွန်ဆင်မှာမူကားထိုကဲ့သို့ပုဂ္ဂိုလ်များ၏အထောက်အပံ့ကို မာနကြီးစွာငြင်းပယ်လေ့ရှိသဖြင့် ချို့ချို့တဲ့တဲ့ပင်နေရရှာလေသည်။ သို့ရာတွင်ဇွဲနှင့်ဝီရိယကိုမလျှော့ဘဲ ကြိုးပမ်းလာခဲ့သဖြင့် တဖြည်းဖြည်းနာမည်ထင်ပေါ်လာခဲ့သည်။

၁၇၄၉ ခုနှစ်တွင် ဂျွန်ဆင်သည်မိမိစီစဉ်ရေးသားလိုက်သော 'အိုင်ရင်း' ပြဇာတ်အတွက် အထူးပင်မြှော်လင့်ချက်ထားခဲ့မိ၏။ သို့ရာတွင်ထိုပြဇာတ်ကိုရုံတင်သောအခါထင်သလောက်လူကြိုက်မများခဲ့ချေ။ သူ၏ကဗျာများမှာ အဆင့်အတန်းမနိမ့်လှသော်လည်း ဂျွန်ဆင်ကိုကဗျာဆရာတယောက်အဖြစ်ဖြင့် လူသိမများခဲ့ချေ။ သို့ရာတွင်ဂျွန်ဆင်သည် ဂျာနယ် ၂ စောင်ကိုတပတ်လျှင် ၂ ကြိမ်ကျထုတ်ဝေသောအခါ လွန်စွာပင်လူကြိုက်များခဲ့၏။

ဂျွန်ဆင်၏ဂုဏ်သတင်းသည် တဖြည်းဖြည်းပျံ့နှံ့လာခဲ့ရာ၊ စာအုပ်ထုတ်ဝေသူများနှင့် စာအုပ်ဆိုင်ရှင်များကလည်းဂျွန်ဆင်ကိုကောင်းစွာသိရှိလာကြသည်။ စာအုပ်ထုတ်ဝေသူတဦး၏တောင်းပန်ချက်အရ ဂျွန်ဆင်သည် ၁၇၅၅ ခုနှစ်တွင်အင်္ဂလိပ်အဘိဓာန်စာအုပ်တအုပ်ကို ပြုစုရေးသားလေသည်။ ထိုသို့ပြုစုရေးသားသည့်အတွက် ဥာဏ်ပူဇော်ခငွေပေါင်ပေါင်း ၁,၅၇၅ ရရှိခဲ့၏။ ထိုငွေမှာရုတ်တရက်သော်များသည်ဟုထင်ရ၏။ သို့ရာတွင် ဆယ်မျူယယ်သည်ထိုအဘိဓာန်ကို ၈ နှစ်တိုင်တိုင်ပြုစုရေးသားခဲ့ရသဖြင့် ထိုငွေနှင့်မလုံလောက်သောကြောင့် သူ၏လက်ထောက်များအားသူ၏အိတ်ထဲမှပင်စိုက်ထုတ်ပေးရသေးသည်။ ယခုခေတ်အမြင်နှင့်ကြည့်လျှင်ကား ဂျွန်ဆင်၏အဘိဓာန်မှာ ရှေးဆန်သည်ဟုဆိုရမည်ဖြစ်သော်လည်း ထိုခေတ်ကမူအတော်ပင်ကောင်းမွန်သော အဘိဓာန်တဆူဖြစ်ပေသည်။ ဤအဘိဓာန်ကျမ်းကြောင့်ပင် ဂျွန်ဆင်သည် အောက်စဖို့တက္ကသိုလ်မှဥပဒေပါရဂူဘွဲ့ကို ရရှိခဲ့လေသည်။

အဘိဓာန်ကျမ်းကြီးရေးသားပြုစုခဲ့ပြီးသည့်နောက် ဂျွန်ဆင်သည် 'ရမ်ဆဲလာ့' ခေါ် ဝတ္ထုတပုဒ်ကို ၁၇၅၉ ခုနှစ်တွင်ရေးသားခဲ့ပြန်၏။ ထိုဝတ္ထုကိုရေးရခြင်းအကြောင်းကား ဂျွန်ဆင်သည်သူ၏မိခင်ကြီးကွယ်လွန်ရာတွင် မိခင်ကြီး၏ရုပ်ကလာပ်ကိုသင်္ဂြိုဟ်ရန် စရိတ်ကြေးငွေလိုနေသောကြောင့်ဖြစ်လေသည်။

၁၇၇၃ ခုနှစ်တွင်ဂျွန်ဆင်သည် စကော့တလန်ပြည်ဟက်ဗရိဒီးကျွန်းစုသို့ နှစ်လကြာသွားရောက်လည်ပတ်ပြီးနောက် 'ဟက်ဗရိဒီးခရီးစဉ်' အမည်ဖြင့် ခရီးသွားမှတ်တမ်းကြီးတစောင်ရေးသားခဲ့လေသည်။

ဂျွန်ဆင်ရေးသမျှစာအုပ်တို့တွင် အကောင်းဆုံးစာအုပ်ကား 'ကဗျာစာဆိုတို့၏အတ္ထုပ္ပတ္တိ' ပင်ဖြစ်သည်။ ထိုစာအုပ်မှာ ၁၀ တွဲရှိသဖြင့် ၁၇၇၉ ခုနှစ်တွင်ပဌမ ၄ တွဲ၊ ၁၇၈၁ ခုနှစ်တွင်ကျန် ၆ တွဲထွက်လေသည်။ ဤကျမ်းကိုဖတ်ရှုရခြင်းအားဖြင့် ဂျွန်ဆင်သည်မည်မျှစာဖတ်များကြောင်း၊ ဗဟုသုတနှင့်ပြည့်စုံကြောင်းတို့ကို သိရှိနိုင်ပေသည်။

တတိယအရွယ်သို့ရောက်သည့်အချိန်၌ကား ဂျွန်ဆင်မှာစာပေလောကတွင် ထင်ရှားသောပုဂ္ဂိုလ်ကြီးတဦး အဖြစ်သို့ရောက်ရှိနေလေပြီ။ သူ့မိတ်သင်္ဂဟများမှာလည်း ပြဇာတ်မင်းသားမှအစ နိုင်ငံရေးခေါင်းဆောင်အထိ ပုဂ္ဂိုလ်အမျိုးမျိုးပင်ဖြစ်လေသည်။ သူသည်ဂစ်ဗန်၊ ဂိုးစမစ်အစရှိသောနာမည်ကျော်စာရေးဆရာကြီးများပါဝင်ကြသည့် စာပေအသင်းတခုကို ကိုယ်တိုင်ဦးစီးကာ တည်ထောင်ခဲ့၏။ သူ၏ထောက်ခံမှုဖြင့် စကော့လူငယ်တဦးဖြစ်သော ဂျိမ်းဗော့ဇဝဲသည်လည်း ထိုအသင်းသို့ဝင်ခွင့်ရရှိခဲ့လေသည်။ ဂျွန်ဆင်၏အာဝဇ္ဇန်းရွှင်မှုကြောင့် ထိုအသင်းမှာနောင်၌ 'ဂျွန်ဆင်အသင်း' ဟူ၍ခေါ်ဝေါ်ကြလေသည်။ ဗော့ဇဝဲသည် သူ၏ဆရာ ဂျွန်ဆင်၏အတ္ထုပ္ပတ္တိနှင့် စကားဆိုချက်များကိုရေးသားမှတ်တမ်းတင်ခဲ့ရာ ထိုစာအုပ်မှာ အင်္ဂလိပ်စာပေလောကတွင် အထူးပင်ကျော်ကြားခဲ့လေသည်။

ဂျွန်ဆင်သည် ၁၇၈၄ ခုနှစ် အသက် ၇၅ နှစ်အရွယ်တွင် အနိစ္စရောက်လေသည်။

**ဂျွန်ဘုရင် (အင်္ဂလိပ်)** (ခရစ် ၁၁၆၇–၁၂၁၆)။ ။အင်္ဂလန်နိုင်ငံသမိုင်းတွင် အဆိုးဆုံးဘုရင်တပါးဟု တွင်ခဲ့သော ဂျွန်သည် ဒုတိယဟင်နရီ၏မိဖုရားဖြစ်သူ အက်ကွီတိန်မင်းသမီး၊ အယ်လင်နာမှ ဖွားမြင်သော အထွေးဆုံး သားတော်ဖြစ်သည်။ ဂျွန်မင်းသားကို ၁၁၆၇ ခုနှစ် ဒီဇင်ဘာလ ၂၄ ရက်နေ့တွင် အောက်စဖို့မြို့၌ ဖွားမြင်သည်။ ငယ်စဉ်ကအခြားမင်းသားများကဲ့သို့ ခမည်းတော်ထံမှ မြေယာတစုံတရာမရရှိခဲ့၍၊ 'မြေယာမဲ့မင်းသား' ဟုတွင်လေသည်။ သို့သော် နောင်အခါတွင် အင်္ဂလန်နှင့် ပြင်သစ်နိုင်ငံ အနှံ့အပြား၌ ရဲတိုက်ကြီးများ၊ မြေယာအမြောက်အမြား ရရှိရုံမက ကြွယ်ဝသော ဒျူဘွဲ့ရဂလော့စတာစားကြီး၏ သမီးတော် အင်္ဇဗဲလားနှင့် လက်ဆက်ရသောကြောင့် မင်းသားထဲတွင် အကြွယ်ဝဆုံး ဖြစ်လာသည်။ ၁၁၈၅ ခုနှစ်တွင် အိုင်ယာလန်ပြည်သို့ သွားရောက်၍ အုပ်ချုပ်ရလေသည်။ သို့သော် မကြာမီ အင်္ဂလန်သို့ပြန်လာပြီးလျှင် ခမည်းတော်အားလုပ်ကြံရန် အားထုတ်နေသော နောင်တော်ရစ်ချတ်နှင့် ပြင်သစ်ဘုရင် ဖိလစ်အော်ဂပ်စတပ်တို့ထံသို့ဝင်ရောက်ပူးပေါင်းလေသည်။ သားတော်များ၏ အကြံအစည်ကို ဘုရင်ကြီးသိသောအခါ လွန်စွာ စိတ်နှလုံးမချမ်းမြေ့ သဖြင့်

အိပ်ရာ၌လဲလေတော့သည်။ ထိုရောဂါနှင့်ပင် ဟင်နရီဘုရင် နတ်ရွာစံလေသော် ရစ်ချတ်နန်းတက်၍ ဂျွန်အားမူလပိုင် နယ်အားလုံးကို ပြန်လည်အပ်နှင်းပြီး အသိအမှတ်ပြုသည်။ နောက်ထပ်လည်း များစွာချီးမြှင့်သေး၏။

များမကြာမီရစ်ချတ်ဘုရင်သည် တတိယကရူးဆိတ် စစ်ချီထွက်၍ နန်းစောင့်များထားခဲ့သည်တွင်၊ ဂျွန်မင်းသားအား မထည့်သွင်းဘဲထားရုံမက တူတော်ဖြစ်သော ဗရစ်တန်နီစား အာသာကိုနန်းလျာထားခဲ့လေသည်။ ထိုအခါ ဂျွန်သည် သူ ကိုယ်တိုင် ထီးနန်းရရှိရန် ကြံစည်အားထုတ်၏။ ရစ်ချတ်ဘုရင်ပြန်လာသောအခါတွင် အားလုံး ပိုနေမြဲ ကျား နေမြဲဖြစ်သွားရုံမက ဂျွန်နှင့်လည်းကျေအေးကာ ချစ်ကြည်စွာပင် နေထိုင်သွားကြသည်။ ထိုနောက် ၅ နှစ်ခန့် အကြာ ရစ်ချတ်ဘုရင် နတ်ရွာစံသောအခါတွင်လည်း အာသာအား နန်းလျာထားသည်ကို လျစ်လျူရှု၍ ဂျွန်အားထီးနန်းကို အပ်နှင်းခဲ့လေသည်။

ထိုအခါ ပြင်သစ်နယ်ကြီး ၂ နယ်၏အကူအညီဖြင့် အာသာမင်းသားထကြွသော်လည်း နောက်ဆုံးတွင်အရေးနိမ့်၍ ဂျွန်၏လက်တွင်းသို့ကျရောက်သွားသဖြင့် ကွယ်ပျောက်ခြင်းခံရလေသည်။ ဂျွန်ဘုရင်ထီးနန်းရသည်မှစ၍ တိုင်းသူပြည်သားများမှာ ကျေနပ်ဖွယ်ရာမရှိသော အကြောင်းများစွာတို့ကို တွေ့ကြရလေသည်။ ဂျွန်သည်မိဖုရားဖြစ်သူ ဂလော့စတာ မင်းသမီး အဇ္ဇဗဲလားကိုကွာရှင်း၍ အန်ဂူလမ်းမင်းသမီး အဇ္ဇဗဲလားအား လက်ထပ်ခြင်းကိုလည်း မှူးမတ်ပိုင်းမှမ ကျေနပ်ကြချေ။ အာသာမင်းသားကလေးကို သတ်လိုက်ခြင်းတွင်လည်း ဂျွန်မှာအပြစ်တင်စရာဖြစ်နေ၍ အန်ဇူ၊ နော်မန်ဒီစသည့်နယ်တို့ကမကျေမနပ်ဖြစ်ကြ၏။ သူ၏ကြမ်းတမ်းသောအုပ်ချုပ်မှုကြောင့် တိုင်းသူပြည်သားလူအများ လည်းငြိုငြင်ကြလေသည်။ ထိုအတောအတွင်း ပြင်သစ်ဘုရင်နှင့် စစ်မက်ဖြစ်ပွားရာ၌ ပြင်သစ်ရှိသူပိုင်ဆိုင်သောနယ်မြေများ စွာကိုဆုံးရှုံးရလေသည်။

ထိုနောက်တွင်ဂျွန်သည် ကန်တာဗာရီဂိုဏ်းချုပ်ခန့်ထားရေးနှင့်စပ်လျဉ်း၍ ပုပ်ရဟန်းမင်း တတိယအင်နိုဆင့်နှင့် မသင့်မတင့်ဖြစ်ပြန်၏။ သို့ရာတွင်လူအများက သူ့အား မကြည်ညိုခိုက်ဖြစ်၍ ရဟန်းမင်းကိုအာခံရန်မတတ်သာဘဲရှိခဲ့ရလေသည်။ ပြင်သစ်ဖက်ရှိ နယ်မြေများကိုပြန်လည်ရရှိရန်အတွက် အကြံအစည်ပြုလုပ်၍ အင်္ဂလန်မှဂျွန်ထွက်ခွာသွားခိုက်တွင် အင်္ဂလန်ရှိမှူးမတ်တို့ကရှေ့ဆောင်၍ တရားမျှတသောအုပ်ချုပ်မှုကို ရရှိရန်စိုင်းပြင်းကြလေသည်။ မှူးမတ်တို့အင်အားကောင်းလှ၍ ဂျွန်ဘုရင်လည်း တစုံတရာမတတ်နိုင်တော့ဘဲ၊ ၁၂၁၅ ခုနှစ်ဇွန်လ ၁၅ ရက်နေ့တွင် ရန်နီးမိအရပ်တွင် တွေ့ဆုံကာ မှူးမတ်တို့ရေးဆွဲသော မဂ္ဂနာကာတာခေါ် စာချုပ်ကြီးကိုတံဆိပ်ခတ်နှိပ်၍ အသိအမှတ်ပြုလိုက်ရလေသည်။ (မဂ္ဂနာကာတာ — ရှု။) သို့ရာတွင် ဂျွန်မှာအခဲမကျေနိုင်ဘဲ၊ စစ်တပ်စုဆောင်း၍ မှူးမတ်တို့ကို ရန်ရှာပြန်လေရာ၊ မှူးမတ်တို့လည်း ပြင်သစ်မင်းသား လူဝီကို အင်္ဂလန်ထီးနန်း၌တင်ရန်ခေါ်ယူလိုက်ကြလေသည်။ လူဝီလည်းစစ်တပ်ကြီးနှင့် ချီတက်လာကာ အင်္ဂလန်ပြည်နယ်အချို့ကိုသိမ်း၏။ လူဝီအားတွန်းလှန်ရန်အားထုတ်ခြင်းသည် ဂျွန်၏ဆောင်ရွက်ခဲ့သမျှတို့တွင် မှတ်သားစရာအကောင်းဆုံးဖြစ်လေသည်။ သို့သော်လည်းထိုအတောအတွင်း၊ ၁၂၁၆ ခုနှစ်အောက်တိုဘာလ ၁၉ ရက်နေ့၌ ဂျွန်ဘုရင်သည် နျူးအတ်မြို့တွင် အဖျားရောဂါကပ်ရောက်ပြီးနောက်ထိုရောဂါနှင့်ပင်ကွယ်လွန်လေတော့သည်။

ဂျွန်ဘုရင်တွင် ဒုတိယမိဖုရားဖြစ်သူ အန်ဂူလမ်းမင်းသမီးအဇ္ဇဗဲလားမှသား ၂ ယောက်၊ သမီး ၃ ယောက်မြင်သည်။ (တရားမဝင်သော သားတယောက်နှင့် သမီးတယောက်လည်းရှိ၏။) ယင်းတို့တွင် သားတော်အကြီးမှာတတိယဟင်နရီဖြစ်လာ၍၊ အငယ်မှာဒျူဘွဲ့ရကွန်းဝေါစားဖြစ်လေသည်။ သမီးတော်အကြီး ဂျိုအန်မှာ စကော့တလန်မိဖုရားဖြစ်၍ သမီးတော်အလတ်မင်းသမီးအဇ္ဇဗဲလား မှာ ဧကရာဇ်ဒုတိယဖရက်ဒရစ်၏ မိဖုရားဖြစ်လာသည်။ သမီးတော်အငယ် အယ်လင်နာမှာ ပင်ဗရုတ်မြို့စားကတော်ဖြစ်လေသည်။



အင်္ဂလန်ပြည့်ရှင်ဂျွန်ဘုရင်

သူသည် လူ့သမိုင်းတွင် ပြည်သူ့အခွင့် အရေးကိုပဌမဆုံးသတ်မှတ်ရာဖြစ်သော 'မဂ္ဂနာကာတာ' စာချုပ်ကြီးကိုလက်မှတ်ရေးထိုးခဲ့ရသည်။

**ဂျွမ်းထိုးငှက်**။ ။ဂျွမ်းထိုးငှက်ကို ကျေးသန္တာဟုလည်း ခေါ်သည်။ ပါဏဗေဒအမည်မှာ 'လော်ရီကူလပ် ဗာနာလီ' ဖြစ်သည်။ ကိုယ်လုံးစိမ်း၍တင်ပါးနီသည်။ ကြက်တူရွေးမျိုးတွင်ပါဝင်သော်လည်း အတွေ့အမြင်ရနည်းသည်။ ငှက်ဖို၏လည်တွင်အပြာမှတ်ပါရှိသည်။ ဂျွမ်းထိုးငှက်သည် ပျံရာတွင် အလွန်လျင်မြန်လှသည်။ အခြား ကြက်တူရွေးများနှင့်စာလျှင် တိတ်ဆိတ်စွာနေတတ်လေသည်။ စိုစွတ်ထိုင်းမှိုင်းသောတောတွင်ကျက်စားတတ်သည်။ လင်းနို့များကဲ့သို့သစ်ကိုင်းတွင် ဦးခေါင်းစောက်ထိုးထား၍ တွဲလွဲနေတတ်သည်။ ပန်း၊ သစ်သီးနှင့် ခွံမာသီးများကိုစားသည်။ မြန်မာနိုင်ငံရှိ တောတောင်ဒေသများတွင် ဂျွမ်းထိုးငှက်များကို အနည်းငယ်သာတွေ့ရ၏။


ကျေးသန္တာဟူ၍လည်းခေါ်သည့်ဂျွမ်းထိုးငှက်

**ဂျွမ်းသမား**။ ။ဂျွမ်းအတတ်ကို ရှေးအခါကပင် လေ့လာလိုက်စားခဲ့ကြ၏။ ဂျွမ်းဆိုသည်မှာမိမိကိုယ်ကို မြေမှလွတ်၍ ၂ ပတ် ၃ ပတ်လည်အောင်ခုန်ခြင်းပင်ဖြစ်၏။ အရာဝတ္ထုတခုကိုခုန်ကျော်၍ လွတ်အောင်ဂျွမ်းထိုးပြခြင်း၊ မြေပေါ်တွင်ရှေ့ဂျွမ်း၊ နောက်ဂျွမ်းပစ်ခြင်း စသည်တို့ကိုဂျွမ်းကစားသည်၊ ဂျွမ်းပစ်သည်၊ ဂျွမ်းရေးပြသည်ဟုခေါ်လေသည်။ ဂျွမ်းအတတ်သည် အားကစားလုပ်ငန်းတခုလည်းဖြစ်၍ ကျန်းမာသန်စွမ်းစေရန် အလေ့အကျင့်ပြုရသော အလုပ်ဖြစ်သည်။ ထို့ကြောင့်ရှေးအခါကရောမနှင့်ဂရိတို့ ကောင်းစားခဲ့စဉ် လူငယ်များကို စစ်သားကောင်းများဖြစ်လာရေးအတွက် ဂျွမ်းအတတ်ကိုအခြားအားကစားလုပ်ငန်းများနှင့်တွဲဖက်၍ လေ့ကျင့်ပေးခဲ့သည်။

ဂျွမ်းအတတ်ကိုလူအများအားညွှန်ပြလေ့ရှိသည်။ ရှေးခေတ်ဂရိနှင့်ရောမနိုင်ငံများတွင် ကြေးစားဂျွမ်းသမားများသည် ခေတ်စားခဲ့၏။ အလယ်ခေတ်တွင်ကား ဂျွမ်းသမားများသည် တရွာမှတရွာသို့လှည့်လည်က၊ မိမိတို့၏အတတ်များကို ပြသလေ့ရှိတတ်သည်။ ယင်းကဲ့သို့ရွာစဉ်လှည့်၍ပြသသည့်ဂျွမ်းသမားများသည် အင်္ဂလန်ပြည်၌ ဝိတိုရိယခေတ်အတွင်းအထူးပေါ်များခဲ့၏။ ယခုတိုင်ယင်းတို့ကို ကျေးလက်ပွဲလမ်းများတွင်တွေ့နိုင်သေးသည်။

ဂျွမ်းသမားများကို ပွဲလမ်းသဘင်၊ ဘုရားပွဲ၊ စစ်ချီတက်ရာ စသည်တို့၌ မြန်မာမင်းများလက်ထက်တော်အခါက သုံးခဲ့ဘူးသည်ကိုရင်း၊ ဇာတ်နိပါတ်များတွင် ဂျွမ်းသမားများ ပါဝင်သည့် အခမ်းအနားများကို ခင်းကျင်းခဲ့ကြပုံကိုရင်း အထောက်အထားများတွေ့ရသည်။

အင်းဝဒုတိယမင်းခေါင်သည် မိမိ၏ ကောင်းမှုတော်ဖြစ်သော မဟာမင်္ဂလာ စေတီတော်အတွက်၊ ဓာတ်တော်ကို ပင့်ဆောင်ရာတွင်၊ အခင်းအကျင်းအစီအစဉ်တို့၌ ရထား၏ရှေ့နောက်တွင် ဂျွမ်းသမားများကို ဂျွမ်းရေးပြစေကာ ပါဝင်လှည့်လည်ကြောင်း တန်တားဦးတည် မင်္ဂလာစေတီမော်ကွန်းတွင် ဖော်ပြထား၏။ ဝက်မစွတ်နဝဒေး၏ အာသံနိုင်မော်ကွန်းတွင်လည်း စစ်ချီတက်ရန် ပြင်ဆင်ကြရာ၌ ဂျွမ်းသမားများဖြင့် ပျော်ရွှင်ပွဲများ ကျင်းပပုံကိုတွေ့ရသည်။

မဟာဇနကပျို့တွင် နန်းတက်ပွဲ၌ သိုင်းကစားခြင်း၊ ကုလီရိုက် ခြင်းတို့နှင့် အတူ ဂျွမ်းရေးပြခြင်းများကိုရေးသားဖော်ပြထား၏။ ရာမရကန်တွင် မင်းသားတရာ ရောက်ခန်း၌တိုင်တက်ခြင်း၊ ဂျွမ်းထိုးခြင်းတို့ကို ခင်းကျင်းပြသကြောင်းဖတ်ရှုရ၏။ ဝိဓုရပျို့တွင် လက်ဝှေ့ လက်ပမ်းခတ်ခြင်းတို့နှင့်အတူဂျွမ်းထိုးခြင်းကိုပါ ပူးတွဲဖော်ပြထားလေသည်။ မန်လည်ဆရာတော်၏ မဃဒေဝလင်္ကာသစ်၊ ဉကင်တော်ဘွင့်၌ဂျွမ်းထိုးခြင်း၊ လက်ပမ်းပေါက်ခတ်ခြင်း စသည်တို့ကိုဖွဲ့ဆိုထား၏။ ကင်းဝန်မင်းကြီး၏ လန်ဒန်သွားမှတ်တမ်း၌ကား မိမိတို့အားညွှန်ခံရာ၌ ဂျွမ်းအမျိုးမျိုးပြသသော အစီအစဉ်အခင်းအကျင်းလည်း ပါဝင်ကြောင်းဖြင့်ဖော်ပြထားရာ ထိုအတတ်မျိုးမှာ အနောက်တိုင်းနိုင်ငံများ၌ ထိုစဉ်ကခေတ်စားခဲ့ကြောင်းသိရှိနိုင်ပေသည်။

ယခုခေတ်ဆပ်ကပ်ပွဲတို့၌ ဂျွမ်းအတတ်ပြသမှုသည် ဖြေဖျော်ရန်အစီအစဉ်တရပ်အဖြစ် အစဉ်ပါလာသည်ကို တွေ့ရှိရသည်။ မြန်မာဇာတ်ပွဲသဘင် များတွင်လည်း ညဦးပိုင်းကပြရာတွင် ဂျွမ်းသဘောသက်ဝင်သော အခင်းအကျင်းများ ထည့်သွင်းပြသတတ်သည်။ ယနေ့မြန်မာလူငယ်များ အနေနှင့်လေ့ကျင့်နေကြသော အားကစားလုပ်ငန်းများတွင်လည်း ဂျွမ်းအတတ်ကို အလေးဂရုပြု၍ လေ့ကျင့်လာကြသည်ကိုတွေ့ရှိရပေသည်။

ပဌမ ကမ္ဘာစစ်ပြီး ခေတ်တွင် မြန်မာပြည်၌ ဘားမယ်ကြော်ဟူသော ဇာတ်မင်းသမီးတဦးသည် ဂျွမ်းအတတ်ဖြင့် နာမည်ကျော်ကြား လူကြိုက်များခဲ့ဘူးသည်။



မြန်မာဗျည်း ၃၃ လုံးတွင် ဃ သည် ၄ ခုမြောက်အက္ခရာဖြစ်သည်။ က၊ ခ၊ ဂ၊ ဃ၊ င ဟူသော က ဝဂ်တွင်ပါဝင်၍ ဃ အသံ၏ ဖြစ်ရာ ဌာနမှာ ကဏ္ဌဌာန် လည်ချောင်းအရပ်ဖြစ်သည်။ ဂ ငယ်အက္ခရာ၏ အရွယ်နှင့် နှိုင်းစာ၍ 'ဃ ကြီး' ဟု အမည်တွင်သည်။ က ဃ ဏ ဠ ဟူသော ကြီးလေးကြီးတွင် ပါဝင်သည်။ ဃ ၏ အရေးအသား မူလမှာ ဗြာဟ္မီ အက္ခရာ ဖြစ်သည်။ ဗြာဟ္မီ မှ ကုသန ဂုတ္တ ကဒံဗ သို့ အဆင့်ဆင့် ပြောင်းလဲလာပြီးနောက် ကျောက်စာများတွင် နှင့် ပေစာများတွင် ဟု ရေးသားသည်ကို တွေ့ရသည်။ ဗြာဟ္မီ အရေးအသား ကို ဗယ်ညာထိပ်ညီညီတိပြီးနောက် ဗယ်ဖက်ထိပ်ကဦးခေါင်းတပ်ပေးသောအခါမြန်မာ ဃ ဖြစ်လာသည်။ ဃ အက္ခရာ၏ အဆင့်ဆင့်ဖြစ်ပေါ်လာပုံကို အောက်တွင်အစဉ်အတိုင်းယှဉ်တွဲ၍ဖော်ပြထားသည်။

**ဃနာနို့ဆွမ်း။** ။ဂေါတမမြတ်စွာဘုရားသည် ဘုရားအဖြစ်သို့ရောက်တော်မူမည့်နေ့တွင်၊ သူကြွယ်သမီး သုဇာတာသည် ဘုရားရှင်အား ဃနာနို့ဆွမ်းကို ဆက်ကပ်လှူဒါန်းလေသည်။ ရှေးရှေးသော ဘုရားတို့သည်လည်း ဤနည်းတူစွာ ဃနာနို့ဆွမ်းကိုအလှူခံရစမြဲဖြစ်၏။ ဃနာနို့ဆွမ်း ဟူသောဝေါဟာရတွင် 'ဃန' သဒ္ဒါသည် အစိုင်အခဲကို ဟောပေသည်။ ပါဠိဘာသာ အားဖြင့် ဃနာနို့ဆွမ်းကို ပါယာသဟုခေါ်သည်။ သုဇာတာနှင့် ဃနာနို့ဆွမ်း၏ အကြောင်းကို အပဒါန်အဋ္ဌကထာ၌ ဖော်ပြပါရှိပေသည်။ သုဇာတာသည် ဃနာနို့ဆွမ်းကို ဂေါတမမြတ်စွာဘုရား အလောင်းတော်အား ဆက်ကပ်လှူဒါန်းခဲ့သည့်အကြောင်းကား ဤသို့ဖြစ်လေသည်။

ဉရုဝေလတော၏အနီး သေနနိဂုံး၌၊ မဟာသေနအမည်ရှိသော သူကြွယ်၏ သမီး သုဇာတာသည် အရွယ်သို့ရောက်သောအခါ၊ တခုသော ညောင်ပင်ရင်းသို့ကပ်၍ 'ကျွန်ုပ်သည် အမျိုးတူသောယောကျ်ားနှင့်ပေါင်းဖက်ရ၍ သားဦး ယောကျ်ား ရပါက ညောင်ပင်စောင့်ရုက္ခစိုးအား တနှစ်လျှင် တသိန်းသောဥစ္စာတို့ကိုစွန့်၍ ပူဇော်ပါမည်' ဟု ကတိထား၍ ဆုတောင်း၏။ တောင်းသည့်ဆုအတိုင်းပြည့်လေသော်၊ ရုက္ခစိုးနတ်အား ပူဇော်ရန် နို့ဆွမ်းကိုစီမံ၏။ မဏိကုဏ္ဍလဝတ္ထုအရ နို့ဆွမ်းကိုစီမံပုံမှာ၊ နွားမ ၁၀၀၀ ကို နွယ်ချိုတောမှာကျောင်း၍ ထို ၁၀၀၀ သောနွားမတို့၏ နို့ရည်ကို နွားမ ၅၀၀ အားတိုက်၏။ တဖန် ထိုနွားမ ၅၀၀ မှနို့ရည်ကို ၂၅၀ သောနွားမတို့ကို တိုက်၏။ ဤသို့ဖြင့် ၂၅၀ သောနွားမတို့၏နို့ရည်ကို ၁၂၅ သောနွားမမှာတိုက်၊ ၁၂၅ သောနွားမတို့၏နို့ရည်ကို ၆၄ ကောင်သော နွားမတို့မှာ တိုက်၊ ၆၄ ကောင်သောနွားမတို့မှ နို့ရည်ကို နွားမ ၃၂ ကောင်မှာတိုက်၊ နွားမ ၃၂ ကောင်မှနို့ရည်ကိုနွားမ ၁၆ ကောင်မှာတိုက်ပြီး၊ ထိုနွားမ ၁၆ ကောင်မှ နို့ရည်ကို နွားမ ၈ ကောင်မှာ တိုက်သည်။ ထို ၈ ကောင်သောနွားမတို့မှ နို့ရည်ကို ခံယူ၍ ထူးကဲမွန်မြတ်သောအရသာ ဖြင့်ပြည့်စုံသည့်ဃနာနို့ဆွမ်းကို ချက်လေသည်။

ဇိနတ္ထပကာသနီကျမ်း၌မူကား နို့ဆွမ်းစီမံပုံကို ဤသို့ပြဆိုထား၏။ ၁၀၀၀ သောနွားကို ၅ စုပြု၍ ၈၀၀ သောနွားတို့၏ နို့ရည်ကို ၂၀၀ သောနွားတို့၌ တိုက်သည်။ ထို ၂၀၀ကို ၅ စုပြုပြန်၍ ၁၆၀ သောနွားတို့၏နို့ရည်ကို ၄၀ သောနွားတို့၌တိုက်သည်။ ထို ၄၀ ကို ၅ စုပြုပြန်၍ ၄ စုသောနွားတို့၏နို့ရည်ကို ၈ ခုသောနွားမတို့၌တိုက်သည်။ ထို ၈ ခုသော နွားတို့၏နို့ရည်ကို ဃနာနို့ဆွမ်းချက်သည် ဟူ၍လာရှိလေသည်။

ယင်းသို့ ထူးမြတ်သော နို့ဃနာကို ချက်ပြီးမှ အသပြာတသိန်းထိုက်သော ရွှေခွက်တွင်ထည့်၍ သုဇာတာသည် ရုက္ခစိုးအား ပူဇော်ရန် ညောင်ပင်သို့လာ၏။ ထိုနေ့သည် မဟာသက္ကရာဇ် ၁၀၃ ခု ကဆုန်လပြည့်နေ့ဖြစ်၏။ ဘုရားလောင်းသည် တင့်တယ်သောအသရေဖြင့် ညောင်ပင်ရင်းတွင် စံတော်မူသည်ကို သုဇာတာမြင်လျှင်၊ အထူးကြည်ညိုသောစိတ်ဖြင့် ဃနာနို့ဆွမ်းကိုရွှေခွက်နှင့်တကွပူဇော်၏။ ဘုရားလောင်းသည်လည်း ရွှေခွက်နှင့်တကွပင် အလှူခံယူတော်မူ၏။ သုဇာတာသူကြွယ်သမီး ပူဇော်သော ဃနာနို့ဆွမ်းကို ဘုန်းပေးပြီးသည့် အရှက်တက်တွင် ဂေါတမဘုရားလောင်းသည် လောကသုံးပါး၏ အထွတ်အထိပ်ဖြစ်သော ဘုရားမြတ် စင်စစ်အဖြစ်သို့ရောက်တော်မူလေသည်။



မြန်မာဗျည်း ၃၃ လုံးတွင် င သည် ၅ ခုမြောက်အက္ခရာဖြစ်သည်။ က၊ ခ၊ ဂ၊ ဃ၊ င ဟူသော ကဝဂ်တွင်ပါဝင်၍ င အသံ၏ဖြစ်ရာဌာနမှာ ကဏ္ဍဌာန် လည်ချောင်းအရပ်ဖြစ်သည်။ င အက္ခရာကို င ဟူ၍ပင် အသံထွက်သည်။ င အက္ခရာ၏အရေးအသားမူလမှာ ဗြာဟ္မီအက္ခရာ ᗯ ဖြစ်သည်။ ဗြာဟ္မီ ᗯ မှ ကုသန ᗯ ခင်ဗပျူ ᗯ မောင်းကန်ပျူ ᗯ သို့ အဆင့်ဆင့်ပြောင်းလာပြီး နောက်၊ ကျောက်စာများတွင် င နှင့် ပေစာများတွင် င ဟုရေးသားသည်ကိုတွေ့ရသည်။ ဗြာဟ္မီအရေးအသား ᗯ ကို အပြင်ဖက်သို့ခါးပိုင်းခပ်ကုန်းကုန်းနှင့် နှစ်ဖက်စများကိုအတွင်းသို့ခပ်ကွေးကွေး ရေးသောအခါ မြန်မာ င အက္ခရာဖြစ်ပေါ်လာသည်။

င အက္ခရာအဆင့်ဆင့်ပြောင်းလဲလာပုံကိုအောက်တွင်အစဉ်အတိုင်းယှဉ်တွဲ၍ဖော်ပြထားသည်။

ᗯ ᗯ ᗯ ᗯ င င

**ငကျီးကန်း**။ ။ငကျီးကန်းသည် ပင်လယ်ငါးမျိုးဖြစ်သည်။ ပါဏဗေဒအလိုအားဖြင့် 'ဒီကပ်တားရပ် ရပ်ဆဲလီ' ဟုခေါ်၍ 'ကာရင်ဂျီဒီ' မျိုးရင်းတွင်ပါဝင်သည်။ ထိုငါးမျိုး၏ကိုယ်သည် ရှည်လျား၍ခပ်ပြားပြားနေသည်။ မျက်လုံးများသည် ခေါင်း၏ဘေးဖက်တွင်ရှိ၍ ကြီးမားသည်။ ကျောဆူးတောင်နှင့် စအိုဆူးတောင်တို့သည် အမြီးသို့ထိအောင် ရှည်လျားကြသည်။ အမြီးခွရှည်သည်။ ကိုယ်နှင့်ပါးတို့အပေါ်တွင် အကြေးခွံများရှိသည်။ အရောင်မှာ ရွှေရောင်ငွေရောင်ဖြစ်သည်။ ပါးဟက်ဖုံးတွင် အမည်းစက်ပါတတ်သည်။ အရှည် ၁၂ လက်မအထိရှိသည်။ ထိုငါးမျိုးသည် အုပ်ဖွဲ့၍ တနေရာမှတနေရာသို့ လှည့်လည်ကျက်စားလေ့ရှိသည်။



ရွှေရောင်ငွေရောင်ရှိသောကျီးကန်း

**ငကျောက်**။ ။စပါး — ရှု။

**ငကျည်း**။ ။ငကျည်းသည် ငထွေမျိုးတွင်ပါဝင်သည်။ ပါဏဗေဒအရ 'ဟက်တာရိုနျူတိဖော့စိလိ' ဟုခေါ်သည်။ အသားစားငါးမျိုးဖြစ်သည်။ ငခူနှင့် ပုံသဏ္ဌာန်တူသော်လည်း ငခူလောက်မကြီးချေ။ ငရံ့၊ ငခူတို့ကဲ့သို့အောက်ဆီကျင်ကို တိုက်ရိုက်ရှူနိုင်သောအင်္ဂါပါရှိသဖြင့် ရေတင်နေသောလယ်ကွင်းများတွင် နေနိုင်သည်။ ငကျည်းကို လယ်ကွင်းများ၌ ဆောင်းများဖြင့်ဖမ်းယူလေ့ရှိသည်။ ငကျည်းသည် ငခူကဲ့သို့ ငပိလုပ်ရန်အသုံးမဝင်သော်လည်း ယင်းကို ငကျည်းခြောက်အဖြစ် ကျပ်တင်ရောင်းချလေ့ရှိကြသည်။

**ငကြောင်း**။ ။ငကြောင်းသည်ငသိုင်းမျိုးတွင်ပါဝင်သည်။ ပါဏဗေဒအရ 'စာရီနားမရိဂါးလား' ဟုခေါ်သည်။ ရေချိုနှင့်ရေငန်နှစ်ရပ်လုံးတွင် ကျက်စားနိုင်သည်။ ငကြောင်း၏အောက်မေးရိုးအလယ်၌ အဖုငယ်ရှိသည်။ နှုတ်ခမ်းကြားတွင် နှုတ်ခမ်းမွေး တိုတို တစုံရှိသည်။ ကိုယ်လုံးမှာရှည်၍ အမြီးခွစောက်နက်သည်။ အကြေးခွံကြီး၍ အကွက်ပေါ်လွင်၏။ ငကြောင်း၏အရောင်သည် ငွေရောင်ခပ်မှိုင်းမှိုင်းဖြစ်ပြီး ကျောတွင်ကြေးနီရောင်သန်းနေသည်။ ဆူးတောင်ရောင်သည် အမည်းအနည်းငယ်ရောစပ်နေသည့် လိမ်မော်ရောင်ဖြစ်သည်။ ဖေဖော်ဝါရီလ၊ မတ်လတို့တွင် ငကျည်း၊ ငမြစ်ချင်းတို့နှင့်အတူ မြစ်ကိုဆန်တက်သွားကြ၍ ဇူလိုင်လ၊ ဩဂုတ်လတို့တွင် သားပေါက်များနှင့်အတူ အောက်ပိုင်းမြေပြင်များသို့ ဆင်းလာလေ့ရှိကြသည်။ ငကြောင်းသည် အဆီများသောငါးဖြစ်၏။ ကိုယ်အရှည် ၃ ပေအထိရှိ၏။

**ကွန်းညှပ်**။ ။ငကွန်းညှပ်သည် ငပါးနှင့်အတူ 'အန်ချိုဗီ' ငါးမျိုးစုတွင်ပါဝင်သည်။ ငကွန်းညှပ်ကို ငါးထန်းရွက်ဟူ၍ရင်း၊ ငအုပ်ဖားဟူ၍ရင်း၊ ငပြားဟူ၍ရင်းခေါ်သည်။ ပါဏဗေဒ အမည်မှာ 'စက်တီပင်နာ တယ်လီရား' ဖြစ်သည်။ ငကွန်းညှပ်သည် ရှောက်အသင်း (ဝ၊) ငပါးနှင့်ဆင်တူသည်။ သို့သော် ငပါးထက် အရွယ်အနည်းငယ်ကြီး

သည်။ ကွန်းညှပ်သည် အလျား ၁၆ လက်မထိကြီးထွားသည်။ ကျောဖက်တွင် စိမ်းလဲ့လဲ့ရောင်ရှိ၍ ဝမ်းပိုင်းတွင် ငွေရောင်စင်း၊ ရွှေရောင်စင်းကလေးများရှိသည်။ ကျောဆူးတောင်နှင့် အမြီးဆူးတောင်တို့တွင်မူ အဝါရောင်အစင်းများရှိသည်။ ကွန်းညှပ်၏ကိုယ်မှာပြား၍ ဝမ်းပိုင်းတွင် လွှသွားကဲ့သို့အထစ်များရှိသည်။ ပါးဟက်ဝကျယ်သည်။ ဦးခေါင်း၏ဘေးဖက်တွင်မျက်စိရှိသည်။ မျက်ခွံ၌အဆီပြည့်ဝလျက်ရှိသည်။ နှုတ်ခမ်းမွေးမပါချေ။ ကိုယ်ပေါ်၌အကြေးခွံများညီညီညာညာရှိသည်။ ဦးခေါင်းတွင် အကြေးခွံမရှိ။ အသားနှင့်အရိုးနူးညံ့သောငါးမျိုးဖြစ်သည်။

**ကွန်းသျှပ်**။ ။ကွန်းသျှပ်သည် ကျီးကန်းမျိုးတွင်ပါဝင်သည်။ ပါဏဗေဒအမည်မှာ 'စကွမ်ဗာရှိုက်ဒီ၊ တူလူး' ဖြစ်သည်။ ကွန်းသျှပ်ကိုကင်းပါးဟူ၍လည်းခေါ် သည်။ အေပ်ပုံ၊ ကကတစ်၊ ကျီးကန်းတို့ကဲ့သို့ ကိုယ်ထည်အနည်းငယ်ရှည်၍ ခပ်ပြားပြားဖြစ်သည်။ ဦးခေါင်းဘေးနှစ်ဖက်တွင်မျက်စိရှိ၏။ ပါးဟက်ကြီး၏။ ဆူးတောင်များရှိ၏။ အကြေးခွံရှိ၏။ ကွန်းသျှပ်ကို ဟင်းလျာအဖြစ်စားကြ၍ ခြောက်လည်းလုပ်ကြသည်။

**ကျွဲ**။ ။စပါး — ၅။

**ခူ**။ ။ခူသည်အင်းငါးများတွင် လူသိများသောငါးဖြစ်သည်။ ပါဏဗေဒအရ 'ကလာရီယပ်ဗတရာချပ်' ဟူ၍ခေါ် သည်။ ခူ၏အရောင်မှာ နီညိုရောင် သို့မဟုတ်အနက်ရောင်ခပ်မှိုင်းမှိုင်းဖြစ်သည်။ ဝမ်းပိုင်းတွင် အရောင်အနည်းငယ်ဖျော့နေသည်။ ဦးခေါင်းမှာပြား၍ ကိုယ်အနည်းငယ်လုံးသည်။ ကျောဆူးတောင်သည် လည်ပင်းမှအမြီးရင်းအထိ အရိုးငယ်ပေါင်းများစွာဖြင့် ဆက်လျက်ရှိ၏။ အမြီးထိပ်မှာဝိုင်းနေ၏။ ရင်ဆူးတောင်မှာ လွှသွားကဲ့သို့ရှိသော်လည်း အရေတထပ်ဖုံးလျက်ရှိသည်။ ခူတွင်လေမှအောက်ဆီဂျင်ကိုရှူနိုင်သောအင်္ဂါ ပါရှိသဖြင့် ကုန်းပေါ်တွင်နာရီပေါင်းများစွာ အသက်ရှင်နေနိုင်သည်။ ခူသည်ကိုယ်အရှည် ၁၂ ပေခန့်အထိရှိတတ်၍ ရေချိုရေငန်နှစ်ရပ်လုံးတွင် ကျက်စားလေ့ရှိသည်။ မြန်မာနိုင်ငံတွင် ခူကိုဟင်းလျာအဖြစ်စားကြရုံမက ငပိကောင်လည်းလုပ်ကြသည်။ ခူငပိကောင်မှာ လူကြိုက်များသော ငပိကောင်များအနက် တမျိုးအပါအဝင်ဖြစ်သည်။

**ခုံးမ**။ ။ခုံးမမြီးနီ၊ ခုံးမမြီးကွက်၊ ခုံးမမြီးဖြူ၊ ငရစ်၊ ငတောင်နွယ်တို့သည်သိုင်းမျိုးတွင်ပါဝင်ကြသည်။ ခုံးမ၏ဆူးတောင်များမှာ ကြက်သွေးရောင်ရှိသည်။ သို့သော် မြီးဆူးတောင်အပြင်ဖက်ပိုင်းမှာမည်းနက်သည်။ အထက်မေးရိုးတွင် နှုတ်သီးမွေး ၂ ချောင်းရှိသည်။ မြီးဆူးတောင်အနားသည် ခွေးသွားစိတ်ကဲ့သို့ဖြစ်သည်။ ဦးခေါင်းမှလွဲ၍တကိုယ်လုံးတွင် ငွေရောင်အကြေးများဖုံးနေသည်။ ဝမ်းပိုင်းမှာလုံးသည်။ ခုံးမကိုငပိလုပ်ရာတွင်သုံးလေ့ရှိသည်။ ထိုငါးမျိုးကိုဟင်းလျာအဖြစ်လူကြိုက်မများချေ။

**ချိမ်**။ ။စပါး — ၅။

**ခွေးလျှာမျိုး**။ ။ခွေးလျှာမျိုးကို ပြေးမျိုးဟုလည်းခေါ်ကြသည်။ ခွေးလျှာသည် များသောအားဖြင့် ရေအောက်မြေပြင်ပေါ်၌ သွားလာ ကျက်စားလျက်နေတတ်သည်။ ရေအောက်ရှိရွှံ့နှံ့ရောင်နှင့် အလွန်တူသောကြောင့် ခွေးလျှာကိုမြင်နိုင်ရန်ခဲယဉ်းသည်။ ခွေးလျှာ၏အရောင်သည် တချိန်နှင့်တချိန်မတူဘဲ၊ ပြောင်းလဲလျက်ရှိသည်။ ညိုမည်းသောမြေပေါ်တွင်မူ ညိုမည်းသောအရောင်သို့ ပြောင်းလဲသည်။ ခွေးလျှာ၌ အထက်အောက်နှင့် ဘေးပတ်လည်ကိုမြင်နိုင်သော မျက်စိရှိသည်။

ခွေးလျှာသည် မြေကြီးပေါ်၌ အပြားလိုက်နေနိုင်၍ ကိုယ်အပေါ်ဖက်ပိုင်းသာ ရွှံ့နှံ့၏အရောင်နှင့်တူ၏။ အောက်ဖက်ပိုင်း၌ အဖြူရောင်ခပ်ဖျော့ဖျော့ရှိ၏။ အချို့လူများက ခွေးလျှာ၏အမည်းဖက်အပိုင်းမှာကျော၊ အဖြူဖက်အပိုင်းမှာ ဝမ်းပိုက်ဖြစ်သည်ဟု ထင်ကြ၏။ အမှန်မှာ ထိုအပိုင်းတို့ကား ခွေးလျှာ၏ညာဖက်ဘေးနှင့် ဗယ်ဖက်ဘေးများသာလျှင်ဖြစ်ပေသည်။

ကိုယ်တဖက်မည်း၊ တဖက်ဖြူရှိခြင်းထက် ထူးဆန်းသောအချက်မှာ ဦးခေါင်း၏ညာဖက်တဖက်တည်း၌ မျက်စိ ၂ လုံးစလုံးရှိခြင်းဖြစ်သည်။ ပါးစပ်မှာလည်း စောင်းလျက်ရှိ၏။ ခွေးလျှာသည် မွေးခါစ၌ ငါး၏ပုံပန်းသဏ္ဌာန်ရှိ၏။ မျက်စိမှာလည်း တဖက်တလုံးစီသာရှိ၏။ သို့သော်များမကြာမီ ဗယ်ဖက်မျက်စိသည် တဖြည်းဖြည်းအပေါ်သို့တက်လာပြီး၊ ညာဖက်သို့ရွှေ့သွားသည်။ ပါးစပ်မှာလည်းရွဲ့၍သွား၏။ အတန်ကြီးလာသောအခါ ခွေးလျှာသည် နေရောင်ခြည်ရနိုင်သောရေပြင်သို့ ရောက်လာသည်။ ထိုနောက်ရေအောက်သို့ဆင်းသွားသည်။

ခွေးလျှာမျိုးရင်းတွင် အမျိုးပေါင်း ၅၀၀ ခန့်ပါဝင်၏။ ထိုငါးတို့သည် များသောအားဖြင့် အဖိုးတန်သောငါးများဖြစ်ကြသည်။ ဆိုးလီးအား ဗာလဂါရစ်ခေါ် ဥရောပတိုက်မှခွေးလျှာသည် အလွန်အရသာရှိသောငါးဖြစ်၏။ မျိုးရင်းတခုလုံးရှိ ခွေးလျှာတို့တွင် ဟဲလဗတ်ငါးသည်အကြီးဆုံးဖြစ်သည်။ ခွေးလျှာအသည်းမှအဆီထဲတွင် ဗီတာမင်အေ နှင့် ဒီ အမြောက်အမြားပါရှိသည့်အတွက်ကြောင့်










၁၊ ကျေည်းခြောက်လုပ်ရန်အဖိုးတန်လှသောကျေည်း

၂၊ အဆီများ၍အရသာထူးကဲသောကြင်း

၃၊ အသားနှင့်အရိုးနူးညံ့သောကွန်းညှပ်

၄၊ ငခြောက်လုပ်ရန်ကောင်းသည့်ကွန်းသျှပ်

၅၊ ငပိကောင်အတွက်အလွန်သင့်လျော်သောငခူ

၆၊ တဖက်တည်း၌ မျက်စိ ၂ လုံးပါသောငခွေးလျှာ

၇၊ ငဇင်မျိုးတွင်ပါဝင်သည့်ငဇင်ရိုင်း






ဟဲလဗတ်ငါးများကို အနောက်နိုင်ငံများတွင် စီးပွားရေးအနေနှင့် အကြီးအကျယ်ဖမ်းယူကြလေသည်။

မြန်မာနိုင်ငံ၌ 'ပလာဂုရှ' နှင့် 'ဆိုးလီးအား' ဟူသောငခွေးလျှာမျိုးစုဝင် ငါးများကိုတွေ့ရှိရသည်။

**စေကာ၁**။ ။ဒီဗရစ်တို — ရှ။

**ဇစိန်**။ ။စပါး — ရှ။

**ငဆောင်းချမ်းတိုက်ပွဲ**။ ။ငဆောင်းချမ်းတိုက်ပွဲသည် ပုဂံမင်းဆက်နရသီဟပတေ့မင်းလက်ထက်မြန်မာသက္ကရာဇ် ၆၄၃ ခု (ခရစ် ၁၂၇၇ ခု) နှစ်၌ တာတာလူမျိုးတို့နှင့်မြန်မာတို့စစ်ဖြစ်၍ တိုက်ခိုက်သောတိုက်ပွဲဖြစ်သည်။ ငဆောင်းချမ်းအရပ်တွင် စစ်ပြိုင်ကြသည်ကိုအစွဲပြု၍ ငဆောင်းချမ်းတိုက်ပွဲဟုတွင်သည်။ ငဆောင်းချမ်းအရပ်သည် ဗန်းမော်မြို့၏အရှေ့ဖက် ပြည်ထောင်စုမြန်မာနိုင်ငံတော်နှင့် တရုတ်ပြည်သူ့သမတနိုင်ငံနယ်စပ်ဒေသလောက်တွင်ရှိ၏။

ထိုငဆောင်းချမ်းတိုက်ပွဲသည် မြန်မာနိုင်ငံ၏သမိုင်းလမ်းကြောင်းကို ပြောင်းလဲစေခဲ့သောတိုက်ပွဲဟုလည်း ဆိုနိုင်သည်။ ပဌမမြန်မာနိုင်ငံတော် ပျက်စီးရခြင်းအကြောင်းတရပ်မှာ မြန်မာနိုင်ငံသို့ တာတာခေါ် တရုပ်တို့ ချင်းနင်းဝင်ရောက်လာသောကြောင့်ဖြစ်၏။ ထိုတိုက်ပွဲဖြစ်ရခြင်းမှာ မြန်မာသက္ကရာဇ် ၆၄၃ ခု၊ နရသီဟပတေ့မင်းလက်ထက်တွင် တရုပ်ဦးတည်ဘွားက ရှေးယခင်မြန်မာမင်းတပါးသည် ရွှေထမင်းအိုး၊ ငွေထမင်းအိုး၊ ရွှေပေါင်းချောင်၊ ငွေပေါင်းချောင်၊ ရွှေယောက်မ၊ ငွေယောက်မ၊ ရွှေဟင်းချို၊ငွေဟင်းချိုတို့ကို ဆက်ဘူးသည်ဟူ၍ တရုပ်သံအဖွဲ့ဝင်အမတ်တကျိပ်နှင့် မြင်းသည် ၁၀၀၀ တို့ကိုစေ၍ တောင်းလာ၏။ ထိုသို့တောင်းဆိုလာခြင်းသည် အခြေအမြစ်မရှိ၊ မဟုတ်မမှန်ဘဲ စော်ကားရန်စသည်ဟု မြန်မာတို့ကယူဆနေစဉ်၊ တရုပ်သံတို့သည် မင်းကြီးရှေ့တော်တွင် မတော်မရော်မကျစ်မလစ်ပြုချေ၍ အမတ်တကျိပ်နှင့်မြင်းသည် ၁၀၀၀ ကို တယောက်မလွတ်သတ်လေ ဟူ၍ အမိန့်တော်ရှိ၏။ အမတ်တို့လည်း မင်းကြီး၏အာဏာကိုကြောက်၍ တယောက်မလွတ်သတ်လေ၏။ သံတို့အားသတ်လေသောအကြောင်းကို တရုပ်ဦးတည်ဘွားကြားလေသော် အမျက်ပြင်းစွာထွက်၍ မြင်းသည် ၆,၀၀၀,၀၀၀ ခြေသည် ၂၀,၀၀၀,၀၀၀ မျှလောက်သောစစ်အင်္ဂါတို့ကို စီရင်၍ချီလာ၏။ တရုပ်ဦးတည်ဘွားက စစ်သည်ချီလာပြီဟူ၍ နရသီဟပတေ့မင်းကြီးကြားတော်မူလေသော် စစ်သူကြီး အနန္တပစ္စည်း နှင့် ရန္တပစ္စည်း တို့အား ကြည်းရေ ၇,၀၀၀,၀၀၀ သောဆင်လုံးမြင်းရင်းနှင့် တကွချီတက်၍ ခုခံတိုက်ခိုက်စေသည်။

မြန်မာစစ်သည်တို့သည် ငဆောင်းချမ်းသို့ ရောက်သော် ရောက်နေနှင့်သောတရုပ်စစ်သည်တို့နှင့် အတန်ကွာဗန်းမော်မြစ်ငူတွင် ကျုံးမြောင်းလုပ်၍ နားနေသည်။ တရုပ်စစ်သည်တို့ကား မြန်မာစစ်သည်တို့ရောက်ကြောင်းသိသည်နှင့် တပြိုင်နက် သစ်ကြီးဝါးကြီးများဖြင့် ထူထပ်သောတောများရှိရာလွင်ပြင်သို့ ဆင်းသက်လာလေ၏။ တရုပ်စစ်သည်တို့ချီတက်လာလျှင်၊ မြန်မာစစ်သည်တို့သည် ဆင်တပ်ကိုရှေ့တွင်တင်ကာ ချီတက်တိုက်ခိုက်လေ၏။ မြန်မာတပ်များ၏တိုက်စည်၊ တိုက်မောင်းနှင့်စစ်သည်တော်တို့၏ကြွေးကြော်သံမှာ ပဲ့တင်ထပ်မျှရှိသည်။ တရုပ်စစ်သည်တို့၏မြင်းများမှာ စစ်ဆင်တို့ကိုမတွေ့ဘူးသည်အတွက် မြင်လျှင်ချက်ခြင်း ကြောင့်လန့်ခြင်းဖြစ်၍ တရုပ်စစ် တပ်ပျက်လေသည်။ တရုပ်စစ်ဗိုလ်လည်း စစ်ပရိယာယ်ကို တမျိုးပြင်၍ သူ၏စစ်သည်များအား မြင်းမှဆင်းစေပြီးလျှင်၊ ခြေလျင်ချီတက်ကာ မြားမိုးရွာစေသည်။ မြန်မာစစ်သည်တို့ကပြန်လည်ခုခံကြသော်လည်း တရုပ်တို့၏ မြားဒဏ်ပြင်းထန်လွန်းသည်ကို ဆင်များမခံနိုင်သဖြင့် ဆင်တပ်ပျက်ရလေသည်။ ဆင်တပ်ပျက်သည်ကို တွေ့ရသော တရုပ်တပ်တို့မှာ တအားတက်ကာ၊ မြင်းတပ်ကိုဖွဲ့စည်း၍ စုပေါင်းတိုက်ခိုက်လေသည်။ မြင်းနှင့်ခြေလျင်တပ်မှ မြန်မာစစ်သည်တို့လည်း ရဲရဲဝံ့ဝံ့ခုခံတိုက်ခိုက်၏။ ထိုသို့တဖက်နှင့်တဖက်လေးမြားများဖြင့်ပစ်ခတ်တိုက်ခိုက်ရာတွင် မြန်မာတို့သည် တရုပ်စစ်သည်တို့ကဲ့သို့ သံချပ်အင်္ကျီများဝတ် ဆင်ထားခြင်းမရှိသဖြင့် အထိအခိုက်များလေသည်။ နှစ်ဖက်စစ်သည်တို့သည် မြားကုန်ကြသောအခါ၊ ရရာဓား၊ လှံ၊ လက်နက်တို့ဖြင့် ထိုးခုတ်တိုက်ခိုက်ကြ၏။ နှစ်ဖက်စလုံးတွင် စစ်ကူများ အဆက်မပြတ်ရောက်လာသည်နှင့် အမျှ တိုက်ပွဲမှာပြင်းထန်ရကားနှစ်ဖက်လုံးမှ အကျအဆုံးများ လှလေသည်။ စစ်မြေပြင်အလုံးတွင် လူနာ၊ မြင်းနာ၊ လူသေ၊ မြင်းသေကောင်တို့ဖြင့်ဖုံးလွှမ်းနေတော့သည်။ ဤသို့အပြင်းအထန် တိုက်ပွဲမှာနံနက်မှသည်မွန်းတည့်ထိကြာလေသည်။ နောက်ဆုံးတွင် မြန်မာတို့လက် ခြေပန်းသဖြင့် တရုပ်တို့မြစ်ကိုကူးနိုင်သောကြောင့်ငဆောင်းချမ်းပျက်လေသည်။

ဤငဆောင်းချမ်းတိုက်ပွဲနှင့်စပ်လျဉ်း၍ ပုဂံမင်းနန်းသွင်ရွှေလေးထောင့်ကန်မြောက်ကျောင်းကျောက်စာတွင် 'အနန္တပစ္စည်းလေငဆောင်းချမ်းမြို့နေရလေ၏။ ပြည်ထဲပျက်စီးသည်ဖြစ်ခဲ့၏။' ဟုရေးထိုးထားသည်ကိုတွေ့ရသည်။ တရုပ်တို့သည် ဆက်လက်ချီတက်ရာ၊ အနန္တပစ္စည်း၊ ရန္တပစ္စည်း၊ စစ်သူကြီးနှစ် ယောက်သည် ဆုတ်ခဲ့ကြ၍ မန်လည်တောင်ရဲ့အရှေ့၌မြို့ ၂ မြို့တည်၍ ခံပြန်၏။ ထိုမြို့တွင် အနန္တပစ္စည်းကျဆုံးသဖြင့်တရုပ်တို့သည်တရုပ်မော်သို့တိုင်အောင် ချီတက်လေသည်။ ပုဂံပြည့်ရှင်နရသီဟပတေ့ကား အောက်မြန်မာ


ငှက်န်မြို့၏ဆိပ်ကမ်းကို ဤသို့ရှုမော့ဖွယ်တွေ့မြင်ရသည်။

နိုင်ငံအရောက် စုန်၍ပြေးသည်ကို အစွဲပြု၍ တရုပ်ပြေးမင်းဟုတွင်သည်။

ယင်းသို့မြန်မာပြည် တွင်းသို့ ချင်းနင်းဝင် ရောက်လာ၍၊ ငဆောင်းချမ်းတိုက်ပွဲတွင် တရုပ်စစ်သည် တို့၏ မြားစွမ်းပြနိုင်ခဲ့ပုံကို မြင်းစိုင်းငါးစီးရှင် သီဆိုသည့်မြင်းစိုင်းမြို့ဘွဲ့ ကာချင်းတွင်၊ 'တရုပ်လာသည်၊ ရိုင်ရိုင်လော၊ ရိုင်ရိုင်။ မြားမိုးရွာသည်၊ ဖြိုင်ဖြိုင်လော၊ ဖြိုင်ဖြိုင်။ လင်းပြင်ပြည့်မျှ၊ ငှက်လင်းတ၊လတိုင်းလော၊လတိုင်းလတိုင်း။ မြင်းသည်သိန်းသန်း၊ များစွာလွန်းသည်။ ထက်ဝန်းရံသ၊ မနိုင်မနိုင်။' ဟုတွေ့ရှိရလေသည်။

**ငဇင်။** ။ငဇင်ဟုခေါ်သောငါးမျိုးတွင် ငဇင်ရိုင်း (မိစတပ်တန်ဂါးရား)၊ ငဇင်ရိုင်းကျဲ (မိစတပ်ဗလီကာရီ)၊ ငဇင် (မိစတပ်လီဂူလီယို)၊ ငဇင်ရိုင်းကြက်ချေး (မိစတပ်ဗစ်တားတပ်) စသောငါးများပါဝင်သည်။ တခါတရံမိစတပ်ကာဗာစီယပ် ကိုပင် ငဇင်ရိုင်းဟူ၍ လည်းခေါ် သေးလေသည်။ မိစတပ်မျိုးရင်းတွင်ပါဝင်ကြသောငါးများ၌ နှုတ်သီးမွေးလေးစုံပါရှိသည်။ အထက်မေးရိုးရှိနှုတ်သီးမွေးသည် တင်ဆူးတောင်ထိအောင်ပင်ရှည်လျားသည်။ နှာတံမှာဆောက်ပုံသဏ္ဌာန်ရှိ၍ ကိုယ်သည်သေးသွယ်၍ရှည်လျား၏။ တင်ဆူးတောင်၏နောက်ဖက်မှစ၍အမြီးပိုင်းတိုင်အောင် ကိုယ်သည်ချိုင့်ဝင်လျက်ရှိသည်။ အမြီးဆူးတောင်မှာခွသဏ္ဌာန်ရှိသည်။ ခွအထက်ပိုင်းသည် အောက်ပိုင်းထက် အနည်းငယ်ရှည်ထွက်နေ၏။ အရွယ်အားဖြင့်ငဇင်သည်အတော်အတန်ကြီးထွား၏။ တွေ့မြင်နေကျအရွယ်မှာ လက်မ ၂၀ ခန့်ရှိသည်။ ငဇင်သည်များသောအားဖြင့် ရေချိုရေငန်နှစ်ဌာနတွင်ကျက်စားသည်။

**ငှက်န်မြို့။** ။ငှက်န်မြို့သည် မစ်ကိုင်းခရိုင်အတွင်း မြင်းမူမြို့နှင့် စစ်ကိုင်းမြို့တို့အကြား ဧရာဝတီမြစ်၏ တောင်ဖက်ကမ်းပေါ်တွင် တည်ရှိသည်။ သင်္ဘောဆိပ်ကမ်းမြို့ဖြစ်သည့်အပြင် ငှက်န်မြို့နယ်၏ မြို့ပိုင်ရုံးစိုက်ရာလည်းဖြစ်သည်။ တောင်ဖက်ရှိ မြို့သာမြို့နှင့် ကားလမ်း အဆက်အသွယ်ရှိ၍ အရောင်းအဝယ်အသင့်အတင့်စည်ကားသည်။

မြို့နယ်၏အကျယ်အဝန်းမှာ ၅၇ စတုရန်းမိုင်မျှရှိသည်။ မြန်မာနိုင်ငံ၌ကျော်ကြားသောငှက်န်ထေပတ်မှာ ငှက်န်မြို့ကိုအစွဲပြု၍ခေါ်သောထေပတ်ဖြစ်သည်။ စိုက်ပျိုးကြသောသီးနှံများမှာပဲ၊ ပြောင်း၊ ဆေး၊ ရေတ်စသည်တို့ဖြစ်၍ စပါးကိုလည်းအနည်းငယ်စိုက်ပျိုးသည်။

ငှက်န်ဟုအမည်တွင်ရခြင်းမှာ ငမ်းစွန်ဟူသောအမည်မှပြောင်းလဲလာခြင်းကြောင့်ဖြစ်သည်ဟုအဆိုရှိသည်။ ငမ်းစွန်ဆိုသည့်အမည်ကား၊ ဤဒေသသည် လယ်ယာမြေငမ်းတို့၏ အစွန်အဖျားတွင်တည်ရှိခြင်းကြောင့် ထိုအမည်တွင်ခြင်းဖြစ်ကြောင်း၊ ငမ်းစွန်၏အနီးတွင် ယခင် 'ငမ်းမြား' ယခု 'ငမြာ' ဟူသောဒေသလည်းရှိ၍ ငမ်းမြားမှာလယ်ယာမြေငမ်းအများ အပြားရှိရာဒေသဖြစ်ခြင်းကြောင့် ယင်းသို့အမည်တွင်ရကြောင်းနှင့်ဆိုလေသည်။

**ငတန်။** ။ငတန်သည်ငထွေမျိုးတွင်ပါဝင်၍ သားစားငါးမျိုးဖြစ်သည်။ ငတန်ကိုသိပ္ပံအမည်အားဖြင့် 'ဂါဂေးတားဂါဂေးတား' ဟုခေါ်သည်။ ထိုငါးမျိုး၌နှုတ်သီးမွေးပါသည်။ ကိုယ်အကြေးခွံမရှိချေ။ ကျောရိုးဆူးတောင်တွင် အရိုးနုတချောင်းသာပါရှိသည်။ ရေချိုရေငန်နှစ်ရပ်လုံး၌တွေ့ရသောငါးမျိုးဖြစ်သည်။ ငန်ချောင်သည် ငတန်နှင့်မျိုးချင်းနွယ်သောငါးဖြစ်သည်။

**ငတံခွန်။** ။ငတံခွန်သည် ငသံရှည်မင်းကြားနှင့်အတူ 'တြိုင်ကီရီဒီ' မျိုးရင်းတွင်ပါဝင်သည်။ ပါဏဗေဒအမည်မှာ 'တြိုင်ကီးရပ်ဟော်မဲလား' ဖြစ်သည်။ ငတံခွန်၏ကိုယ်မှာ သေး၍ကြိုးပြားပုံသဏ္ဌာန်မျိုးရှိသည်။ ဆူးတောင်သည် တဆက်တည်းဖြစ်သည်။ မေးရိုးမှာရှည်၍ချွန်ထွက်လျက်ရှိသည်။ မြီးဆူးတောင်မရှိဘဲအမြီးသည်ဆံခြည်ကဲ့သို့သေးသေးမျှင်မျှင်ဖြစ်သည်။ ပါးဟက်ဝကျယ်သည်။ ဦးခေါင်းဘေးတွင် မျက်စိရှိသည်။ ကိုယ်၌အကြေးခွံများ ရှိသည်။

အရောင်မှာ ငွေရောင်ရှိပြီး၊ ဆူးတောင်များမှာ ဝါကြန့်ကြန့် အရောင်ရှိသည်။ ငတံခွန်သည်အရှည် ၅ ပေအထိကြီးထွား သည်။ ငတံခွန်ကိုအခြောက်လုပ်၍ရသည်။

**ငထိး။** ။ငထိးသည်အံ့သြစရာကောင်းသော ရေသတ္တဝါ တမျိုးဖြစ်သည်။ သို့သော်ငါးမဟုတ်ပေ။ ငထိး၏တကိုယ် လုံး၌ ကော်ရည်တမျိုးဖြင့်ကျိချွဲနေသည်။ ငထိးသည် ရေထဲ၌နေစဉ် ထီးသဖွယ်ကိုယ်ဝိုင်းကြီးကိုပိတ်ချည်ဖွင့်ချည် ပြုကာ သွားလာလျက်နေသည်။ ပင်လယ်ကမ်းခြေတွင် နေပူမိနေသောငထိး သည် ရိုးရိုးရေထဲတွင် ရှိသော ငထိးနှင့် ပုံသဏ္ဌာန်ချင်း အလျင်းမတူတော့ချေ။ နေပူ၌ငထိးသည် တဖြည်းဖြည်းအရည်ပျော်တတ်သည်။

ပင်လယ်၌ငထိးများကို မျက်စိမဆုံးနိုင်အောင် တသိတ တန်းကြီးတွေ့ရတတ်ပေသည်။ သို့ရာတွင်ငထိးကိုရုတ်တရက် မမြင်နိုင်ပေ။ သေချာစွာဂရုတစိုက်ကြည့်ရှုမှသာ အ ကောင်အထည်ကွဲပြားစွာတွေ့မြင်နိုင်ပေသည်။ ထုတ်ချင်း ပေါက်နီးပါး မျှမြင် နိုင် သော ခန္ဓာကိုယ် ကလေး များ သည်



အသားစားငါးမျိုးဖြစ်သည့်ငတန်

အရောင်အမျိုးမျိုးရှိ၍လှပသည်။ ငထိးတို့သည်နေပူရှိန် ပြင်းသော နေ့အခါ များတွင် အခြားသော ရေသတ္တဝါများ နည်းတူ ရေအောက်ရှိမြေသို့ဆင်းလေ့ရှိကြသည်။ နေဝင် သောအခါမှ ပင်လယ်ပြင်သို့တက်လာတတ်ကြသည်။

ငထိးအမျိုးအတော်ပင်များပြားသည့်အလျောက်အရွယ် မှာလည်းအစားစားရှိလေသည်။ အချင်း ၇ ပေခန့်အထိ ကြီးသော ငထိးကြီးများကစ၍ မှန်ဘီလူးဖြင့်ကြည့်မှသာ မြင်နိုင်သောငထိးငယ်ကလေးများအထိ အရွယ်အမျိုးမျိုး ရှိသည်။ အချို့ငထိးတို့၌ ထီးသဖွယ်ပြန့်ကားနေသောကိုယ် ရှိလျက်၊ အချို့မှာမူ ခေါင်းလောင်းပုံသဏ္ဌာန်ကိုယ်ရှိသည်။ ထီးကဲ့သို့ဖြစ်သော ခန္ဓာကိုယ် တဝိုက် တွင် ဦးမှင်အမြောက် အမြားတွဲလောင်းကျလျက်ရှိသည်။ ထိုဦးမှင်များ၌ ရန် သူကိုတုပ်နိုင်သောအင်္ဂါများပါရှိသည်။ အချို့ငထိးကြီး များသည် လူကိုကျွန်ုပ်တို့ထင်သလောက် ရန်မူခြင်းမရှိပေ။ အကယ်၍မတော်တဆအတုပ်ခံရလျှင်လည်း ထိုဝေဒနာမှာ ၁ နာရီ ၂ နာရီအတွင်းပြေသွားတတ်သည်။ သေးငယ်နုနယ်သော ရေသတ္တဝါကလေးများမှာမူ ငထိး၏အတုပ်ကိုခံရလျှင် မည်သို့မှပြန်လည်ခုခံရန်မတတ်နိုင်ကြဘဲ နောက်ဆုံး၌ငထိး ၏ခံတွင်းသို့သက်ဆင်းကြရသည်။ အချို့ငထိးတို့သည် မိမိ တို့ထက်ကြီးမားသောငါးကြီးများကိုပင် ဖမ်းယူစားသောက် နိုင်ကြလေသည်။

ငထိးကြီးများသည် အချို့ငါးကလေးများကို မိမိတို့ကိုယ် အောက် တွင် ခိုအောင်း လျက် နေ စေ သည် မှာ အံ့သြဖွယ် ကောင်း၏။ မြောက်ပင်လယ်၌ ငထိးကြီး များ၏ ကိုယ် အောက် တွင် ငါးအုပ်များမှီခိုနေ ကြသည် ကို မကြာခဏ တွေ့ ရတတ် သည်။ ဘေး အန္တရာယ် တခုခုကို ရှောင် တခင် ကြုံတွေ့ရသည့်အခါ ထိုငါးကလေးများသည်ငထိး၏ ကိုယ် အဝိုင်းကြီးထဲသို့ ပြေးဝင်ခိုအောင်းနေတတ်ကြလေသည်။ ခံတွင်းဝသို့အဆင်သင့်ရောက်လာသော ငါးကလေးများကို ငထိးကြီးက စားမည်ဆိုလျှင် လွယ် ကူစွာစား နိုင် ပေ၏။ သို့ရာတွင်ငထိးသည်မည်သို့မှရန်မမူသည်မှာလည်း အံ့သြစ ရာပင်ဖြစ်ပေသည်။

ငထိးကိုနေ့အခါ၌ ကြည့်လျှင် ထင် ရှား စွာ မြင် ရခဲသော် လည်း၊ ညဖက်တွင် မူအထူးပင်ထင်ရှားစွာမြင် နိုင်ပေသည်။ အချို့ အကောင် ကြီး များ သည် အမှောင်ထဲတွင်မီးလုံးကြီး များကဲ့သို့ ထွန်းတောက်ပြောင်လက်နေသည်။ အချို့ငထိး သည် အရောင် အမျိုးမျိုး တောက် နေသောကြောင့် ရေထဲ တွင်အတော်ကြည့်၍ကောင်းပေသည်။ အချို့အကောင် များသည် တကိုယ်လုံးပြိုးပြိုးပြောင်ပြောင်တောက်ပလျက် ရှိကြသည်။ အချို့မှာမူ ဦးမှင်အနီး အနားတဝိုက် နှင့် ကိုယ် အဝိုင်းကြီးပေါ်၌သာထွန်းလင်းတောက်ပလျက်ရှိကြသည်။ ညအခါတွင်စုန်းမီးများကဲ့သို့ ပြိုးပြိုးပြက်ပြက်ရှိပြီး တခါ တရံမူ ရွှေရောင်များဖြာထွက်နေသည်ကိုပင် တွေ့ရတတ်၏။ ငထိးများရေထဲ၌ ဟိုဟိုသည်သည်သွားလာကူးသန်းနေနိုင် ခြင်းမှာ အများအားဖြင့် ပင်လယ်ရေစီးကြောင်းက သယ်



ငခြောက်လုပ်ရသည့်ငတံခွန်




ထီးပေါက်ပွားလာပုံ

အတွေ့ရများသော ဩရီးလီယားထီးမျိုး မည်ကဲ့သို့ ပေါက်ပွားပြောင်းလဲလာသည်ကို ဤပုံတွင်ပြထားသည်။ ပဌမတွင် ထီးဥသည်ရေထဲတွင် ရွေ့ရှားနေရာမှသစ်ပင်ငယ်များကဲ့သို့ မြေ၌ တွယ်ကပ်ကာကြီးထွားလာ၏။ ဒုတိယအရွယ်တွင် ခွက် သဏ္ဍာန်ရှိသောဥ၏ အပေါ်ပိုင်းမှ လက်တံများထွက်လာသည်။ မကြာမီအောက်ဖက်တွင်ခွက်သဏ္ဍာန်ရှိအဆစ်အပိုင်းများ ၁၃ ဆင့်အထိဆင့်ကဲဖြစ်ပေါ်လာပြီးနောက် အပေါ်ဆုံးအပိုင်းသည်သီးခြားခွဲထွက်၍ ထီးလောင်းကောင်ဖြစ်လာလေသည်။ ဤနည်းအတိုင်း ထီးလောင်း ၁၃ ကောင်အထိခွဲထွက်ကြပြီးလျှင် ကာလကြာမြင့်သော်အင်္ဂါစုံထီးများဖြစ်လာကြလေသည်။

ဆောင်သွားသောကြောင့်ဖြစ်သည်။ ငထိုးတို့ရေကူးပုံမှာ အခြားရေသတ္တဝါများရေကူးပုံနှင့်မတူဘဲ ခေါင်းလောင်းပုံ သို့မဟုတ်ထီးပုံရှိသောကိုယ်ကို ရှုံ့ချည်ပွချည်ပြု၍ကူးကြ၏။ ငထိုးရိုးရိုးတို့အပြင် ဆန်းကြယ်သောငထိုး များ လည်းရှိ သေး၏။ ထိုငထိုးတို့သည် 'ဆိုင်ဖွန်နိုဖိုရာ' ခေါ်မျိုးစုကြီး တွင်ပါဝင်၍ အအုပ်လိုက် ပင်လယ်ထဲ၌နေတတ်ကြသည်။ 'ဖီဆယ်လီယား' ငထိုးမျိုး၏ကိုယ်တွင် တွဲလောင်းကျနေ သောဦးမှင်တမျိုးရှိ၏။ ထိုဦးမှင်နှင့်ထိမိသောသတ္တဝါတို့ မှာ သေကြေပျက်စီးကြသည်။ ဤအကောင်မျိုး၏အဆိပ် မှာ ပြင်းလှသဖြင့်လူကိုပင်သေစေနိုင်လောက်ပေသည်။

**ငထွေ**။ ။ငထွေသည်ကမ္ဘာ့အရပ်ရပ်တွင် အနှံ့အပြား တွေ့ရှိရသော ကြောင်ငါးအမျိုးအစားတွင်ပါဝင်လေသည်။ 'ကြောင်ငါး' ဟုအင်္ဂလိပ်အမည်ဖြင့်မှည့်ခေါ်ခြင်းမှာ ပါး စပ်ဘေးတွင်ကြောင်နှုတ်ခမ်းမွေးနှင့်တူသောအမျှင်များ ပါ ရှိခြင်းကြောင့်ဖြစ်လေသည်။ ငထွေသည်ကြည့်ရအရုပ်ဆိုး သော်လည်း စား၍အရသာရှိသောငါးဖြစ်သည်။ ငထွေ သည်အသားစားငါးမျိုးဖြစ်သည်။ ငထွေ၏ဦးခေါင်းသည် ကိုယ်နှင့်မလိုက်အောင်ကြီးမား၏။ ဆူးတောင်များသည် ဖြောင့်တန်း၏။ မေးရိုး၌ရှည်ပြီးကောက်သောသွားများ စီတန်းလျက်ပေါက်သည်။ ငထွေ၏အရောင်မှာမီးခိုးရောင် ဖြစ်သည်။ ကိုယ်အလေးချိန်ပေါင် ၁၀၀ ကျော်စီးသော ငထွေများရှိ၏။ ကြောင်ငါးအမျိုးအစားတွင်ပါဝင်သော ငါးမျိုးများစွာမြန်မာနိုင်ငံတွင်တွေ့ရှိရသည်။ ဦးခင်။

**ငဒုပ်**။ ။ပါဏဗေဒအလိုအားဖြင့်ဒုပ်ကို 'ဗာဗပ်တိုး'ဟု ခေါ်သည်။ ထိုငါးသည်သိုင်းမျိုးဖြစ်၍ 'စိုင်ပရီနီဒီ' မျိုး ရင်းတွင်ပါဝင်သည်။ ကိုယ်သည်ရှည်၍အနည်းငယ်ပြား သည်။ ဦးခေါင်းသည်ချွန်ထွက်နေသည်။ စအိုဆူးတောင်၏ နောက်ဖက်တွင် အမြီးသည်သေးသွားသည်။ ပါးစပ်မှာ ကျဉ်းသည်။ နှုတ်ခမ်းများမှာအသားထူသည်။ အရောင် မှာဒေသကိုလိုက်၍ပြောင်းလဲ၏။ တခါတရံဒေသတခုထဲ၌ ပင်အရောင်ကွဲပြားခြင်းရှိသည်။

**ငဓားရှည်**။ ။ပါဏဗေဒအရငဓားရှည်ကို 'ခိုင်ရိုစင်တြပ်ဒို ရဗ်' ဟုခေါ်သည်။ ငဓားရှည်၏ကိုယ်သည်ရှည်လျား၍ ပြားသည်။ ဝမ်းပိုင်းစောင်းထက်သော်လည်း ငသလောက် မှာကဲ့သို့ လွှသွားနှင့်တူသောအထစ်များမရှိချေ။ ပါး ဟက်ဝကျယ်သည်။ မျက်စိများသည်အဆီဖြင့်ပြည့်ဝသော မျက်ခွံတို့ဖြင့် ဖုံးအုပ်လျက်ရှိသည်။ နှုတ်သီးမွေးမပါချေ။ ပါးစပ်သည်စောင်း၍စောက်နက်သည်။ အောက်မေးရိုး သည်အထက်မေးရိုးထက်ရှေ့သို့ငေါ်ထွက်နေသည်။ ကျော ဆူးတောင်ငယ်ငယ်တခုရှိ၍ ယင်းသည်ကိုယ်၏နောက်ပိုင်း ကျကျတွင်တည်ရှိသည်။ စအိုဆူးတောင်ရှည်လျားသည်။ စအိုဆူးတောင်၏အရှေ့ဖက် ဝမ်းပိုင်းစောင်းတလျှောက်လုံး တွင် ဆံပင်မွေးနှင့်တူသောဆူးမျှင်များရှိသည်။ အကြေး ခွံတို့သည်ပါးလွှာ၍သေးငယ်၏။ ငဓားရှည်သည်အကြေး ခွံလဲတတ်သောငါးမျိုးဖြစ်သည်။ ကျောဖက်တွင်စိမ်းပြာ ပြာရောင်ရှိ၍ ဘေးဖက်နှင့်ဝမ်းပိုင်းတွင်ငွေရောင်သန်းလျက် ရှိသည်။ ငဓားရှည်သည်အလျား ၁၂ လက်မခန့်ထိကြီး ထွားပေသည်။

**ငနုသန်း**။ ။ငနုသန်းသည်ငထွေမျိုးတွင်ပါဝင်သည်။ သိပ္ပံ အမည်အားဖြင့် ငနုသန်းကို 'ကယ်လီခရောက်ပက်ပဒါး' ဟူ၍၎င်း၊ 'ကယ်လီခရောက်ပါဗို' ဟူ၍၎င်း၊ 'ကယ်လီခ ရောက်ဗိုင်မာကျူလေးတပ်' ဟူ၍၎င်းခေါ်သည်။ ထိုငါး များ၌နှုတ်သီးမွေးပါသည်။ အကြေးခွံမပါချေ။ ကျော ဆူးတောင်တွင်အရိုးနုတချောင်းသာရှိသည်။ ရေချိုရေငန် ၂ ရပ်စလုံး၌ တွေ့ရသောငါးမျိုးဖြစ်သည်။ ငနုသန်းကို ငခြောက်လုပ်ကြသည်။

**ငနက်ပြာ**။ ။ငနက်ပြာကိုငနံဟူ၍လည်းခေါ်သည်။ ငနက် ပြာသည်ငမြစ်ချင်း၊ ကြောင်း၊ ငဒုပ်တို့နှင့်အတူသိုင်းမျိုး တွင်ပါသည်။ ပါဏဗေဒအလိုအားဖြင့် 'လေဗီအိုကဲဗား စူး' ဟုခေါ်၍ 'စိုင်ပရီနီဒီ' မျိုးရင်းတွင်ပါဝင်သည်။ ငနက် ပြာသည်ကိုယ်ထည်တောင့်တင်းသည်။ ပါးစပ်ပေါက်ကျဉ်း သည်။ နှာတံနှင့်အထက်နှုတ်ခမ်းတို့တွင်အပေါက်ကလေး များရှိသည်။ နှုတ်သီးမွေး ၂ စုံပါရှိသည်။ အမြီးခွဲစောက် နက်သည်။ ငမြစ်ချင်းနှင့် ကွာခြားချက်မှာ ငနက်ပြာ၏ ကျောရိုးဆူးတောင်တွင် ဆူးတက်များပို၍ပါရှိခြင်းပင်ဖြစ် သည်။ အရောင်မှာမည်းသည်။ ဆူးတောင်များ၏ အရောင်မှာလည်းမည်းသည်။ တခါတရံအမြီးဆူးတောင်၏ အထက်ခြမ်းအဖျားတွင် အဖြူရောင်ရှိတတ်သည်။ ငအုံးတုံ နှင့်ငဒိန်တို့လည်း ငနက်ပြာနှင့် မျိုးချင်းနွယ်သောငါးများ ဖြစ်ကြသည်။

**ငနှပ်**။ ။ပါဏဗေဒအလိုအရ ငနှပ်သည် 'စကိုပယ်လီဒေး' မျိုးရင်းတွင်ပါဝင်သည်။ သိပ္ပံအမည်အားဖြင့် ငနှပ်ကို 'ဟာပိုဒွန်နေဟေးရီးယပ်' ဟုခေါ်သည်။ ငနှပ်ကိုယ်သည် ရှည်လျား၍ အနည်းငယ်ပြား၏။ ဦးခေါင်းတိုတုတ်သည်။ နှာတံသည်ကျယ်၍ထိပ်ဝိုင်းသည်။ ပါးစပ်ပေါက်အလွန် ကျယ်သည်။ မေးရိုး ၂ ခုလုံးတွင်ထက်သောသွားများရှိ သည်။ ဦးခေါင်းနှင့်ဆူးတောင်တို့သည်အလင်းပေါက်လုနီး ဖြစ်သည်။ ဝမ်းပိုင်းနေရာမှလွဲ၍ ကျန်ကိုယ်ပိုင်းသည်လည်း









၁၊ အမေရိကန်တံငါသည်တဦးဖမ်းမိသောငထွေကြီး
၂၊ ဒေသကိုလိုက်၍အရောင်ပြောင်းတတ်သောငဒုပ်
၃၊ အကြေးခွံလဲတတ်သောဓားရှည်
၄၊ နက်ပြာသောအရောင်ရှိသည့်ငနက်ပြာ
၅၊ ဟင်းလျာအတွက်လူသိများသောငနုသန်း
၆၊ အာပဲ့ခြောက်လုပ်ရသောငနှပ်
၇၊ ရှောက်အသင်း ခေါ် ငပါး
၈၊ စိမ်းစားငပိလုပ်ရသည့်ပုဇွန်ဆိတ်ကလေးများ



အလင်းပေါက်လုနီးဖြစ်သည်။ တကိုယ်လုံးတွင်မည်းနက်သောအစက်အပြောက်များရှိသည်။ ဝမ်းပိုင်းမှာငွေရောင်သန်းလျက်ရှိသည်။ အကြေးခွံသည်သေးငယ်၍ အလင်းပေါက်သဖြင့်လတ်ဆတ်သောငနုပ်တွင် အကြေးခွံကိုခွဲခြား၍သိနိုင်ရန်ခဲယဉ်း၏။ ငနုပ်သည်အလျား ၁၆ လက်မထိရှိသည်။ ငနုပ်ခြောက်ကို အသုပ်ခြောက်ဟူ၍ခေါ်ကြ၏။

**ပေါး။** ။ပေါးသည်အုပ်ဖားနှင့်အတူ 'အန်ချိုဗီ' ငါးမျိုးစုတွင်ပါဝင်သည်။ ပေါးကိုရွှေရာက်အသင်းဟူ၍လည်းခေါ်သည်။ သိပ္ပံအမည်မှာ 'တြစ်စော့ကလီပါရေးဗား' ဖြစ်သည်။ ပေါးတွင်ဆူးတောင်တို့သည် ကြီးထွားဖွံ့ဖြိုးသည်။ အမြီးခွရှည်သည်။ အကြေးခွံများသည်အလျားလိုက် ညီညီညာညာရှိသည်။ ကျောဆူးတောင်နှင့်စအိုဆူးတောင်တို့အောက်ခြေတွင် အကြေးခွံငယ်များစီတန်းလျက်ရှိသည်။ ပါးစပ်ပေါက်အလွန်ကျယ်သည်။ မေးရိုး ၂ ခုလုံးတွင် သွားများပါရှိသည်။ ပေါးသည် ၁၂ လက်မခန့်အထိ ကြီးထွားသည်။ အရောင်မှာငွေရောင်ဖြစ်၍ ကျောတွင် အပြာရောင်ဦးခေါင်းတွင် ရွှေရောင်ထလျက်ရှိသည်။ ကျောဆူးတောင်နှင့်အမြီးဆူးတောင်တို့၌ ဝါကြန့်ကြန့်အရောင်ရှိသည်။ အခြားဆူးတောင်တို့၌ အရောင်မရှိချေ။ ပေါးသည် အသားနှင့်အရိုး နူးညံ့သောငါးမျိုးဖြစ်သည်။ ရခိုင်ကမ်းရိုးတန်းတွင် အများအပြားတွေ့ရသည်။

# မြန်မာ့အဓိကအာဟာရ

**မြန်မာတိုင်းရင်းသားတို့အဖို့ ငပိပါမှထမင်းမြိန်သည်။ အားရတင်းတိမ်သည်။ ကျွန်ုပ်တို့သည် ငပိကိုအမျိုးမျိုးပြုပြင်ကြော်ချက်၍ နေ့စဉ်စားသုံးနေကြသော်လည်း၊ ငပိတွင် မည်သည့် အာဟာရဓာတ်များပါရှိသည်ကိုမူ များစွာ ဂရုမထားမိကြချေ။ ဤအကြောင်းရပ်တွင် ငပိလုပ်ပုံ လုပ်နည်းအပြင် အာဟာရတန်ဖိုးမည်မျှပါရှိကြောင်းကိုပါ ဖော်ပြထားပေသည်။**

**ငပိ။** ။မြန်မာတို့၏အစားအစာတွင် ထမင်း၊ ဟင်း၊ ဟင်းချို၊ ငပိနှင့်တို့စရာတို့သည် အခြေခံဖြစ်ပေသည်။ ထမင်းကိုဟင်းနှင့်တွဲဖက်၍ မစားရစေကာမူ၊ ငပိ၊ တို့စရာတို့နှင့်တွဲဖက်၍ မစားရလျှင်၊ ပြည့်ပြည့်ဝဝစားသောက်ရသည်ဟု မြန်မာတို့ကမယူဆကြချေ။ အထူးသဖြင့် တောင်သူလယ်သမားနှင့် အလုပ်ကြမ်းသမားတို့အဖို့ ငပိသည် အဓိကအာဟာရပင်ဖြစ်သည်။

ငါးအစိုကို ဆားဖြင့်အထပ်ထပ်သိပ်ထားလျှင် သော်၎င်း၊ ငါး၊ ပုဇွန်၊ ကနန်းစသည်တို့ကို ဆားပက်နေလှန်း၍၊ ဆုံဖြင့်ထောင်းထားလျှင်သော်၎င်း ငပိဟုခေါ်လေသည်။ ငပိကို မြန်မာတို့သာမက၊ ယိုးဒယားလူမျိုးများလည်း စားသုံးတတ်ကြသည်။ ငပိကိုယိုးဒယားဘာသာစကားဖြင့် ကပိဟူ၍ခေါ်သည်။ ယိုးဒယားငပိလုပ်နည်းနှင့် မွန်မြန်မာငပိလုပ်နည်းမှာ အတူတူပင်ဖြစ်သည်။

မြန်မာနိုင်ငံတွင် နေ့စဉ်စားသုံးသောငပိကို အကြမ်းအားဖြင့်စိမ်းစားငပိ၊ မျှင်ငပိ၊ ဒမင်းငပိ၊ ရေကျိုငပိနှင့် ငပိကောင်ဟု ခွဲခြားနိုင်သည်။

စိမ်းစားငပိကို ပုဇွန်ဆိတ်ကလေးများမှလုပ်သည်။ တခါတရံ ပုဇွန်ဆိတ်များသည် ငါးကလေးများနှင့် ရောနေတတ်သည်။ ဤသို့ဖြစ်လျှင်၊ စိမ်းစားငပိကို ပုဇွန်ဆိတ်နှင့်ငါးကလေးများမှလုပ်ရသည်။ ယင်းတို့ကို နေပူတွင် ၃၊ ၄ ရက်မျှလှန်း၍၊ အတန်ဖော်ခြောက်လာသောအခါ ဆုံတွင်ထည့်၍ထောင်းရသည်။ အတန်ညက်လေမှု၊ ဆားထပ်ထည့်၍၊ ထပ်ထောင်းရပြန်သည်။ ဆားသမသွားသည့်အခါ၊ ငပိကိုမြေအိုးတွင် အနည်းဆုံး ၃၊ ၄ လမျှသိပ်ထားရသည်။ ထိုအခါငါး၊ ပုဇွန်တို့၏အခွံနှင့် အရိုးများသည် ကြေပြိုဖြစ်၍၊ ငပိမှာစားသုံးရန် အသင့် ဖြစ်လာသည်။ စိမ်းစားငပိကို မြိတ်နှင့်ထားဝယ်နယ်များတွင်လုပ်ကိုင်ကြ၍၊ ဒေသကိုအစွဲပြုကာမြိတ်စိမ်းစား၊ ထားဝယ်စိမ်းစားဟုခေါ်ဝေါ်ကြလေသည်။

မျှင်ငပိကို ကျောက်ပုဇွန်ဆိတ်ကလေးတမျိုးမှလုပ်သည်။ လုပ်နည်းမှာစိမ်းစားငပိလုပ်နည်းနှင့် အတူတူပင်ဖြစ်သည်။ မျှင်ပိုက်နှင့်ဖမ်း၍ရသော မျှင်များကိုအစွဲပြု၍ မျှင်ငပိဟုခေါ်ခြင်းဖြစ်သည်။ မျှင်ထဲတွင် အထက်ပါကျောက်ပုဇွန်ဆိတ်အပြင်၊ ကနန်းကလေး၊ ငါးကလေးများလည်းပါဝင်သည်။ မျှင်ငပိမှာ ဘိုကလေး (ဖျာပုံနယ်)၊ လပွတ္တာ (မြောင်းမြနယ်)၊ သင်္ကယ်သောင် (ပုသိမ်နယ်) တို့မှ အများအားဖြင့်ထွက်သည်။

ဒမင်းငပိမှာ ဒမင်းထောင်၍ဖမ်းရသောငါးကလေးအမျိုးမျိုးတို့ကိုနေလှန်း၊ ဆားပက်၍ ထောင်းယူရသောငပိဖြစ်သည်။ ငါးပေါသည့်အရပ်တိုင်း၌ ဒမင်းငပိလုပ်ကြသည်။

ရေကျိုငပိမှာ အရည်ကျို၍စားရသောငပိမျိုးဖြစ်သည်ဟုဆိုသည်။ အချို့ကလည်း ရေချိုငပိဟုခေါ်ကြသည်။ သို့သော်ရေကျိုငပိလုပ်သောငါးမှာ ရေချိုရေငန်နှစ်ဌာနမှရသောငါးများဖြစ်သည်။ ထိုငါးများမှာ များသောအားဖြင့် အကောင်လတ်၊ အကောင်ကြီးများဖြစ်သည်။ ယင်းတို့ကိုခါးကျိုးရုံမျှထောင်း၍ ငပိလုပ်ရသည်။ ရေကျိုငပိထဲတွင်၊ သုံးဦးစပ်ငပိမှာထင်ရှားသည်။ များသောအားဖြင့်ရံ့၊ ဖယ်နှင့်ငပြေမ ငါးသုံးမျိုးကိုစပ်၍လုပ်သောငပိကို လူကြိုက်များသည်။ ထိုအပြင် ဆုံထုံးငပိဟူ၍လည်း



ဗုဒ္ဓနိဆိတ်များကို ဆားကူး၊ နေလှန်းပြီးနောက်ပိဖြစ် စေရန်ဆုံတွင် ဤသို့ထောင်းရသည်။

ရှိသေးသည်။ ဆုံထုံးပိမှာ အင်းမှရသောခါးချိုးပြီးငါး များကို ဆုံတွင်ထည့်ထောင်းရာ၊ မညက်တညက် လုံးထွေး ထွေးအခြေ၌ရှိသောငပိဖြစ်သည်။ ထိုထက်ညက်အောင် ဆက်ထောင်းလျှင်၊ ထောင်းသားငပိဟုခေါ်ပြန်သည်။ ငါး အသေးစား များမှလုပ်သော ငပိကိုနှပ်ငပိဟုခေါ်ကြ၏။ ယင်းသည်လည်းသုံးဦးစပ်ငပိ၌ အပါအဝင်ဖြစ်သည်။

ငါးကိုအကောင်လိုက်ဆားပက်၍ကုပ်နှိပ်ထားသောငပိကို ငပိကောင်ဟုခေါ်သည်။ ငပိကောင်လုပ်နည်းမှာ မျှင်ငပိ၊ ဒမင်းငပိ၊ ရေကျိုငပိလုပ်နည်းနှင့်မတူချေ။

မိလာသောငါးများကို ငပိလုပ်ရန်ငါးနှင့် ငပိကောင်လုပ်ရန်ငါးဟူ၍ ရွေးချယ်ရသည်။ ထိုနောက်ငပိကောင်လုပ်ရန် ငါးများကို ရေစင်တင်ရသည်။ ရေစင်တင်သည်ဟူသည်မှာ ငါးကိုရေစင်ပေါ်၌တင်၍ ဆေးကြောခြင်းပင်ဖြစ်ပေသည်။ ရေစင်တင်ငါးများမှာ အူအသည်းထုတ်ပြီး၊ ခေါင်းဖြတ်ပြီး ငါးများဖြစ်သည်။ ထိုနောက်ငါးများကို ရိုင်ပတ်ထဲတွင် ထည့်၍၊ အပေါက်ဖောက်ထားသည့်ယောက်မနှင့် မွှေရ၏။ သို့မှသာအကြေးစင်သည်။ ထိုနောက်တဖန်ရေစင်တင်ပြီး လျှင်၊ အညီနှင့်အရိအရွဲများကျဆင်းစေရန် ဆားပက်ပေး ရသည်။ ယင်းကိုရေထုတ်ဆားပေါက်ခြင်းဟုခေါ်သည်။ ထိုနောက်ထွန်ခြစ်၊ ခက်ရင်းတို့ဖြင့်ဆွပေးရသည်။ ဤသည် ကိုခါးချိုးသည်ဟုခေါ်သည်။ ရေစစ်၍သွားသောအခါ ငါးများကိုရေစင်မှချ၍၊ အသားတွင်းသို့ဆားဝင်စေရန်ဆား ဖြူးပေးရသည်။ ဤသည်ကို ဆားကူးသည်ဟုခေါ်သည်။ ပြီးလျှင်စည့်သို့သွင်းကာ အသားတထပ်၊ ဆားတထပ်သိပ်ရ သည်။ ယင်းသို့ငပိသိပ်ရာ၌ သစ်သားခုံဖိနပ်ဖြင့်နင်း၍၊ သစ်သားတုံးနှင့် ဆောင့်ပေးရသည်။ ငပိစည့်မှာအိမ်ခေါင် ပက်လက်ပုံ ဆောက်လုပ်ထားသည်ဖြစ်၍၊ ငပိမှကျသော ငံပြာရည်သည် ရေတန်လျှောက်မှတဆင့် ငံပြာရည်အိုး ထဲသို့စီးဆင်းလေသည်။ (ငံပြာရည် — ရှု။)

ထိုနောက်ငပိကောင်ကို စည့်မှထုတ်၍နေသတ်ရသည်။ နေသတ်ခြင်းမှာ စည့်အတွင်း၌သိပ်ပြီးငါးကိုအပြင်ထုတ်၍ နေပူလှန်းခြင်းဖြစ်သည်။ ထိုနောက်ဆားပြန်ကူးပြီး၊ စည့် ပြန်သိပ်ရသည်။ အကယ်၍အငန်ရည်စစ်သွားလျှင်၊ ထပ်၍ ဆားဖြူးပေးရသည်။ အငန်လွန်လျှင်မူကား ဆန်မှုန့်ကိုဖြစ် စေ၊ ထောင်းပြီးသားပြုတ်ဆန်ကိုဖြစ်စေ၊ ဆန်ကွဲပြုတ်ကို ဖြစ်စေရောပေးရသည်။

## ငပိ၏အာဟာရဓာတ်များ

ငပိတွင်ရေ၊ ပရိုတင်းနှင့် တွင်းထွက်သတ္တုဓာတ်များပါရှိ သည်။ တွင်းထွက်သတ္တုဓာတ်များအနက်ဆားအပြင်ကယ် လဆီယမ်နှင့် ဖော့စဖောရပ်ခေါ် ဒြပ်စင်များလည်းပါသည်။ ထိုပြင်သွေးကောင်းရန်အတွက် သံဓာတ်လည်းပါသည်။ ငပိ တွင်ရေရာခိုင်နှုန်း ၄၀ မှ ၅၀ အထိ၊ ပရိုတင်းရာခိုင်နှုန်း ၂၀ မှ ၃၀ အထိ၊ အဆီရာခိုင်နှုန်း ၃ မှ ၄ အထိပါဝင်သည်။ စိမ်းစားနှင့်မျှင်ငပိတွင်ဆားရာခိုင်နှုန်း ၁၀ မှ ၂၅၊ ရေကျို ငပိ၊ ဒမင်းငပိနှင့်ငပိကောင်များတွင်ဆားရာခိုင်နှုန်း ၂၀ မှ ၃၀ အထိပါဝင်ကြသည်။ အသားနှင့်အဆီများပါသော ကြောင့်ငပိသည်အခြားအသားများကဲ့သို့ အပူဓာတ်ကိုပေး



အလုပ်တွင်ကျယ်စေရန်ကြိတ်စက်ဖြင့်ငပိကြိတ်နေပုံ

သည်။ ငပိအမျိုးအစားကိုလိုက်၍၊ ငပိတအောင်စလျှင် အပူခတ် ၃၁ ကယ်လိုရီမှ ၄၇ ကယ်လိုရီအထိ ပေးနိုင်သည်။ ဤအချက်တွင် ငပိသည်အမဲသား၊ ဆိတ်သားနှင့်ဝက်သား လောက်ပင်အာဟာရတန်ဖိုးရှိသည်။

ငပိတွင် ကယ်လဆီယမ်ဓါတ်စင်သည် ၁.၅ မှ ၂.၅ ရာခိုင်နှုန်းအထိပါသည်။ ဖော့စဖောရပ်မှာမူ ၀.၇၅ မှ ၁.၂၅ ရာခိုင်နှုန်းအထိပါသည်။ အစားအစာများတွင် ကယ်လဆီယမ် ရာခိုင်နှုန်းများသည် အောက်ပါအတိုင်းဖြစ်သည်။

| | |
|---|---|
| နို့ | ၀.၁၂% |
| ကြက်သွန်ဖြူ | ၀.၃၀% |
| နှမ်း | ၁.၄၅% |
| ဒန့်သလွန်ရွက် | ၀.၄၄% |
| တရုပ်နံနံရွက် | ၀.၂၃% |
| ပူဒီနာ | ၀.၂၀% |

အထက်ပါရာခိုင်နှုန်းနှင့်ယှဉ်ကြည့်သော်၊ ငပိသည် ကယ်လဆီယမ်များစွာပါသည့်အစာဟု ဆိုနိုင်သည်။

## ငပိများများစားရန်လိုသည်

လူ့ခန္ဓာကိုယ်သည် ကယ်လဆီယမ်ဓာတ်လုံလောက်စွာမရလျှင် ရောဂါအမျိုးမျိုးစွဲကပ်တတ်သည်။ လူကြီးတယောက်အတွက် တနေ့လျှင် ကယ်လဆီယမ် ၀.၆၇ ဂရမ်လောက်လိုသည်။ ကျွန်ုပ်တို့သည် ငပိကိုနေ့စဉ်စားပေးခြင်းအားဖြင့် ခန္ဓာကိုယ်ကလိုအပ်သည့် ကယ်လဆီယမ်ဓာတ်ကို ပေါပေါနှင့်ဖြည့်စွက်ပေးနိုင်သည်။ ကယ်လဆီယမ်နှင့် ဖော့စဖောရပ်နှစ်မျိုးစလုံးပင် ခန္ဓာကိုယ်ရှိအရိုးများကို ခိုင်မာစေသည်။ ထိုဓာတ်နှစ်မျိုးကို ခန္ဓာကိုယ်ကလုံလောက်စွာမရသော် ရစ်ကက်ရောဂါ စွဲကပ်တတ်သည်။ လူကြီးတိုင်းနေ့စဉ် ဖော့စဖောရပ် ၁ ဂရမ်လောက်လိုသည်။ ငပိတွင် ကယ်လဆီယမ် ၂ ဆပါလျှင်၊ ဖော့စဖောရပ် ၁ ဆပါသည်။ သို့ရာတွင်ကယ်လဆီယမ် ၁ ဆနှင့်ဖော့စဖောရပ် ၂ ဆပါမှ သာအာဟာရ လုံလောက်သည်။ ကံအားလျော်စွာ၊ ကျွန်ုပ်တို့နေ့စဉ်စားသောဆန်တွင် ဖော့စဖောရပ်သည် ကယ်လဆီယမ်ထက်ပို၍ပါသည်။ စက်ကြိတ်ဆန်၏ကယ်လဆီယမ်နှုန်းမှာ ၀.၀၁% ဖြစ်၍ဖော့စဖောရပ်နှုန်းမှာ ၀.၁၅ % ဖြစ်ရာငပိနှင့်ထမင်းစားခြင်းသည် အာဟာရဖြစ်စေသည်။

**ငပုတောမြို့။** ။မြစ်ဝကျွန်းပေါ်ဒေသ အနောက်တောင်စွန်းရှိ ပုသိမ်ခရိုင်၊ ငပုတောမြို့သည် ပုသိမ်မြို့မှတောင်ဖက်သို့ ၁၆ မိုင်ကွာဝေး၍ ငဝန်မြစ်၏အရှေ့ဖက်ကမ်းတွင် တည်ရှိသည်။ မြို့ပိုင်ရုံးစိုက်ရာမြို့ဖြစ်၍ မြို့နယ်မှာ ၁၄၁၉ စတုရန်းမိုင်ကျယ်ဝန်း၏။ မြို့နယ်၏အနောက်နှင့် တောင်ပိုင်းသည် ပင်လယ်နှင့်ဆက်စပ်လျက်ရှိသည်။ နေထိုင်ကြသောသူများသည် ဗုဒ္ဓအယူဝါဒီ မြန်မာလူမျိုးများဖြစ်ကြ၍ ၁၉၅၃ ခုနှစ်သန်ကောင်စာရင်းအရ လူဦးရေ ၂,၆၇၃ ယောက်ခန့်ရှိသည်။ ဒုတိယအကြိမ်အင်္ဂလိပ်တို့က ပဲခူးစသောမြန်မာနိုင်ငံအောက်ပိုင်းကို သိမ်းပိုက်လိုက်သောအခါ ပုသိမ်ခရိုင်ထဲတွင်ကျိန်တလီ အပါအဝင်ဖြစ်သော ချောင်းသာမြို့နယ်



တရုပ်ရုပ်သို့တင်ပို့ရန်အဆင်သင့်ဖြစ်နေသောငပိခြင်းများ

ဟူ၍ရှိသည်။ ထိုနောက်ယင်းမြို့နယ်ကို ပယ်ဖျက်၍၊ ငန်ချောင်းနှင့် ငရုတ်ကောင်းတိုက်နယ်နှစ်နယ်ကို ပေုတောမြို့နယ်ထဲသို့သွတ်သွင်းခဲ့သည်။ ထိုနောက်၌ကား ပေုတောမြို့နယ်၏နယ်နိမိတ်သည် အကြိမ်ကြိမ်အဖန်ဖန် ပြောင်းလဲခဲ့သည်။ ပေုတောဟူသောအမည်မှာ ရှေးအခါကပေုအမည်ရှိမုဆိုးတယောက်နေထိုင်ခဲ့သော တောဖြစ်၍ ပေုတောဖြစ်လာကြောင်းအဆိုရှိသည်။ မုဆိုးပေုသည် သားကောင်များကိုပစ်ခတ်ဖမ်းဆီး၍ ထိုသားကောင်များ၏အရိုးများကို စုပုံထားရာအရပ်သည် 'အရိုးထားရွာ' ဟူ၍၎င်း၊ သားကောင်များကို ကျပ်တင်သောစင်ရှိရာအရပ်သည် 'ကျပ်စင်ချောင်းရွာ' ဟူ၍၎င်း ခေါ်တွင်ကြောင်းဖြင့်ဆိုလေသည်။ ယင်းအရိုးထားရွာနှင့် ကျပ်စင်ချောင်းရွာများမှာ ပေုတောမြို့တောင်ဖက်တွင်ရှိကြသည်။ ပေုတောမြို့သည် ပုဂံခေတ်အတွင်း၌ ဆပဒရွာဟုအမည်တွင်ကြောင်း၊ ပုဂံနရပတိစည်သူမင်းလက်ထက် သီဟိုဠ်ကျွန်းသို့ကြွရောက်သီတင်းသုံးပြီးနောက် ပုဂံပြည်သို့ပြန်အရောက်တွင် ပစ္ဆိမသဃ်ာဂိုဏ်း သီးခြားတည်ထောင်သောဆပဒမထေရ်မှာ ထိုရွာသားပင်ဖြစ်ကြောင်းအဆိုရှိလေသည်။

ပေုတောမြို့နယ်အတွင်း ဆန်စပါး၊ ဆား၊ သစ်နှင့်ငပိငခြောက်လုပ်ငန်းများရှိသည်။ ထိုပြင်ကျောက်ပွင့်ခူးခြင်းနှင့် ငမန်းဖမ်းသောလုပ်ငန်းများလည်းရှိ၏။ မြို့နယ်အတွင်းရှိ ပြင်ခရိုင်ကျေးရွာသည် ငပိလုပ်ငန်းဖြင့်နာမည်ကြီး၍၊ မိန်းမလုကျွန်းသည် လိပ်ဥများစွာထွက်သောလိပ်သောင်အဖြစ်ထင်ရှားသည်။ အထက်ပါထွက်ကုန်များကို ပုသိမ်နှင့် ရန်ကုန်မြို့များသို့တင်ပို့ရောင်းချကြသည်။

ရွှေမြင်တင်စေတီနှင့် ရဟန္တာသိမ်တို့မှာ ပေုတောမြို့၏ထင်ရှားသောအဆောက်အအုံများဖြစ်သည်။ အလောင်းဘုရားဦးအောင်ဇေယျ လက်ထက်က မြန်မာများ၏လက်ချက်ဖြင့် ကိုလိုနီတည်ထောင်သူအင်္ဂလိပ်များသုတ်သင်ခြင်းခံခဲ့ရသော နေရာဖြစ်သည့်ဟိုင်းကြီးကျွန်းမှာ ပေုတောမှ မော်တင်ဘုရားသို့ သွားရာလမ်းတွင်ရှိသည်။ အလောင်းစည်သူမင်းကြီးတည်ထားခဲ့သည်ဆိုသော မော်တင်ဘုရားမှာ ပေုတောနယ်၌ထင်ရှားသော စေတီတော်ဖြစ်သည်။ မော်တင်ဘုရားသည် ပေုတောမြို့မှမိုင် ၄၀ ခန့်ကွာဝေးသော မော်တင်စွန်းအနီးတွင် တည်ရှိ၍ ဘုရားပွဲကို နှစ်စဉ်တပေါင်းလ၌ သိုက်မြိုက်စည်ကားစွာကျင်းပသည်။ ပေုတောမြို့နယ်နှင့် တကွ ပုသိမ်၊ မြောင်းမြ၊ ဂွ စသော မြို့နယ်များမှ ဘုရားပွဲတော်သို့လာကြသည်။ မော်တင်စွန်းသည် လှိုင်းတံပိုးများ၊ ခရုများဖြင့် သာယာသော ပင်လယ်ကမ်းခြေရှုခင်းဖြစ်သဖြင့် စာဆိုတော်ဦးကြင်ဥသည် မော်တင်စွန်းအကြောင်းကို 'ကြုံစဖူးမြင်ဘူးမှယုံစဖွယ်' အစချီသော လေးဆစ်ချိုးကိုစပ်ဆိုခဲ့ဘူးသည်။

**ငပုဏ္ဏား**။ ။ငပုဏ္ဏားကိုပါဠာဗေဒအရ 'ပိုလီနီမပ်၊ ပါရာဒီစိအပ်' ဟုခေါ်သည်။ ငပုဏ္ဏားသည်မြန်မာနိုင်ငံတွင်ဟင်းလျာအဖြစ် အသုံးများသောပင်လယ်ငါးမျိုးဖြစ်၏။ ကိုယ်ပြား၍အမြီးပိုင်းကျဉ်း၏။ မျက်စိငယ်၏။ နှာတံဝိုင်း၍ကျယ်ပြန့်၏။ ပါးစပ်ပေါက်ကျယ်၏။ အမြီးခွ စောက်နက်၏။ ရင်ဆူးတောင်ရှိ ဆူးမျှင်များသည်တခုနှင့်တခုဆက်နေကြသည်။ ထိုဆူးတောင်ရင်း၌ဆူးမျှင်အလွတ် ၇ ချောင်းရှိသည်။ ထိုဆူးမျှင်များအနက် အပေါ်ဆုံး ၃ မျှင်သည် အသန်ဆုံးနှင့်အရှည်ဆုံးဖြစ်သည်။ ယင်းတို့သည် ငါးကိုယ်ထက်ပင်နှစ်ပြန်လောက်ရှည်ကြသည်။ ကိုယ်လုံး၌ ရွှေရောင်ရှိ၍ ကျောပိုင်းတွင်မွဲပြာရောင်သန်းနေ၏။ ဆူးတောင်ရောင်မှာလည်း ရွှေရောင်ပေါက်နေသည်။ ငပုဏ္ဏား၏ကိုယ်အရှည်မှာ ၆ လက်မခန့်အထိရှိသည်။ ထိုငါးမှာ အရသာရှိ၍အသားနူးညံ့သည်။



အထက်ပုံ၊ ဟင်းလျာအတွက်အသုံးများသောငပုဏ္ဏား

အောက်ပုံ၊ အသားစားငါးမျိုးဖြစ်သောပေတ်

**ပေတ်**။ ။ပေတ်သည်မြန်မာနိုင်ငံပင်လယ်ကမ်းရိုးတန်း၌၎င်း၊ မြစ်၊ ချောင်း၊ အင်း၊ အိုင်များ၌၎င်း ကျက်စားသည့်အသားစားငါးမျိုးဖြစ်သည်။ ပါဠာဗေဒအရ 'ဝေါလာဂိုးနီးယားအတ္တူ' ဟုခေါ်သည်။ အသားစားကြူးလှသဖြင့် ပေတ်ကိုငမန်းနှင့်နှိုင်း၍ 'ရေချိုငမန်း' ဟုခေါ်ကြသည်။ ပေတ်ကိုယ်သည်ရှည်၍ ပြား၏။ ကျောသည်တဖြောင့်တည်းရှိ၍ နှာတံမှာရှည်၏။ ပါးစပ်ပေါက်ကျယ်၍အောက်မေးသည်ရှေ့သို့အနည်းငယ်ငေါ်ထွက်နေ၏။ နှုတ်ခမ်းမွေးလေးပင်ပါရာ အထက်နှစ်ပင်သည် အောက်နှစ်ပင်ထက်ပို၍ရှည်၏။ တခုတည်းရှိသောကျောဆူးတောင်သည်ရှေ့ကျ

ကျဉ်ပေါက်၍ ယင်း၌ဆူးရိုးမပါချေ။ စအိုဆူးတောင်သည် အလွန်ရှည်ပြီး၊ အမြီးရင်းနားတွင်အဆုံးသတ်သည်။ အမြီးထိပ် ၂ ခုမှာဝိုင်းနေသည်။ ငပတ်၏အရောင်မှာနှာထိပ်မှအမြီးတိုင်အောင် ကျောရိုးတလျှောက်တွင်မဲ့ပြာရင့်ရောင်ဖြစ်၍၊ အောက်ပိုင်းတွင် မူအရောင် အနည်း ငယ် ဖျော့သွားသည်။ ငပတ်၏ကိုယ်အရှည်သည် ၆ ပေအထိရှိသည်။ ငပတ်ကို ဟင်းလျာအဖြစ် စား သုံး ကြသည့်အပြင် ငပိလုပ်ရန်လည်းအသုံးချကြသည်။



မြိတ်၊ ထားဝယ်နယ်များတွင်တွေ့ရသောငပျံတမျိုး

**ငပျံ။** ။ငပျံသည် 'အိပ်ဇိုစီတီဒေး' ငါးမျိုးရင်းတွင် ပါဝင်သည်။ ငပျံ၏ရင်ဆူးဟောင်သည်အလွန်ကြီး၍ အမြီးဆူးတောင်၏အောက်ခွမှာအလွန်ရှည်သည်။ ငပျံသည်အမြီးနှင့်ပြင်းထန်စွာရေကိုရိုက်ခတ်၍ အပေါ်သို့ခုန်ပြီးလျှင် ရင်ဆူးတောင်ကိုငှက်တောင်များသဖွယ်ဖြန့်၍ လေဟုန်စီးနိုင်သည်။ ဤနည်းဖြင့်ကိုက် ၂၀၀ အဝေးအထိပင် ပျံနိုင်၏။ ပျံသန်းသည်မှာငမန်း၊ လင်းပိုင်စသောရန်သူတို့၏ ဘေးမှလွတ်မြောက်ရန် ဖြစ်ကောင်းဖြစ်မည်ဟုယူဆကြသည်။

ငပျံအမျိုး ၅၀ ခန့်ရှိသည်။ ငပျံကိုနွေးသောပင်လယ်များတွင်တွေ့ရသည်။ အာဖရိကတိုက်ရှိရေချိုပိုင်း၌တွေ့ရသော ပင်တိုဒန်ခေါ်ငါးသည်ငပျံတမျိုးဖြစ်၏။ ထိုငပျံသည် တောင်အမေရိက မြစ်များရှိ 'ဂက်စတရိပီလီးကပ်' ခေါ် ငပျံလောက်မပျံသန်းနိုင်ပေ။ ထိုငပျံ၏ဝမ်းပိုက်သည် သဘော်ဝမ်းနှင့်တူ၍ ပျံလိုသောအခါရင်ဆူးတောင်များဖြင့် ရေကိုရိုက်ခတ်ကာ အပေါ်သို့တက်လေသည်။ ကာလီဖိုးနီးယားပြည်နယ်တောင်ပိုင်း၌ တွေ့ရသော ငပျံတမျိုး သည် ၁၈ လက်မခန့်ပင်ရှည်၍ ကြီးသောရင်ဆူးတောင်၊ ဝမ်းဆူးတောင်တို့ဖြင့် ဝေးလံစွာပျံသန်းနိုင်သည်။

**ငပြေမ။** ။ငပြေမကိုပါဠိဗေဒအရ 'အနာဗတ်တက်စတူဒိနီယပ်' ဟုခေါ်သည်။ ထိုငါးမျိုးကိုချောင်း၊ မြောင်း၊ အင်း၊ အိုင်များတွင်တွေ့ရပေသည်။ ငပြေမ၏ကိုယ်သည် ပြား၍ဦးခေါင်းမှာကျယ်သည်။ အကြေးခွံများသည်ကြီး၍ ညီညာသည်။ ငါး၏အရောင်မှာအစိမ်းပုပ်ရောင်ဖြစ်၍ ဝမ်းပိုက်ပိုင်းတွင် အရောင်ဖျော့တော့တော့နေသည်။ ကိုယ်အရှည် ၈ လက်မခန့်အထိရှိသည်။

ငပြေမငါးမျိုးသည်သွားလာသည့်အခါ အုပ်ဖွဲ့၍သွားလာလေ့ရှိသည်။ ရေထဲရှိပိုးမွှားများကိုငှင်း၊ ဗုဇွန်ဆိတ်ကလေးများကိုငှင်းဖမ်းယူ၍စားတတ်ကြသည်။ အရွယ်ကြီးလာသောငပြေမသည် ရွယ်တူအခြားငါးများနှင့်ရော၍အစာရှာလေ့ရှိသည်။ သားငယ်များဖြစ်သောငါးပေါက်စကလေးများကို ဂရုမစိုက်ဘဲလျစ်လျူရှုထားတတ်သည်။

ငပြေမသည်ငရံ့နှင့်မျိုးချင်းမတူသော်လည်း ငရံ့ကဲ့သို့ပင် လေမှအောက်ဆီဂျင်ကို တိုက် ရိုက် ရှူနိုင်သော အင်္ဂါရှိလေသည်။ ထို့ကြောင့်ထိုငါးနှစ်မျိုးစလုံးသည် ကုန်းပေါ်တွင် အချိန်အတန်ကြာအောင် အသက်ရှင်နေနိုင်ကြ၏။ စွတ်စိုသည့်မြေပေါ်တွင် အမြီးကိုထောက်၍ ခရီးအတန်ဝေးဝေး သွားနိုင်ကြလေသည်။

**ငဖီးမ။** ။ငဖီးမကိုငါးတံငါဟူ၍လည်းခေါ်သည်။ ရခိုင်တိုင်း၌ယင်းကို ငါးဥကြီးဟူ၍သိကြသည်။ ပါဠိဗေဒအလိုအားဖြင့် 'လေအိုနေးသပ်စပလင်ဒန်' ဟုခေါ်သည်။ ကိုယ်ပြား၍ ပါးစပ်အရှေ့သို့ငေါ်ထွက်နေသည်။ အရောင်မှာငွေရောင်တောက်နေသည်။ ဆူးတောင်များသည် သန်မာ၍ကြီးထွားသည်။ အမြီးခွသည်ရှည်၏။ ကျောရိုးဆူးတောင်နှင့်နှာတံပေါ်၌ အမည်းကွက်များပါရှိသည်။ အရှည် ၅ လက်မ၊ ၆ လက်မအထိရှိသည်။





အထက်ပုံ၊ ငပြေမ။ အောက်ပုံ၊ ငဖီးမ

**ငဖယ်**။ ။ငဖယ်သည်ရေချိုရေငန် ၂ ရပ်လုံးတွင် ကျက်စားသောငါးမျိုးဖြစ်သည်။ ပါဠိဗေဒအရ 'နိုတော့တာရပ်၊ ချီတာလာ' ဟုခေါ်သည်။ ငဖယ်၏ကိုယ်သည်ပြား၍ ဝမ်းပိုင်းသည်ဓားသွားကဲ့သို့ရှိသည်။ ကျောအရှေ့ပိုင်းခုံး၍ အနောက်ပိုင်းဖြောင့်သည်။ ကျော၌အလွန်သေးသောဆူးတောင်တခုသာရှိသည်။ စအိုဆူးတောင်သည်ဝမ်းမှအမြီးတိုင်အောင် ကိုယ်၏ ၃ ပုံ ၂ ပုံခန့်တဆက်တည်းရှိသည်။ ဦးခေါင်းငယ်၍ နှာတံအနည်းငယ်ချွန်သည်။ တကိုယ်လုံးတွင် ပါးလွှာသောအကြေးများ တခုပေါ်တခုထပ်ကာဖုံးအုပ်လျက်ရှိသည်။ ငဖယ်၏အရောင်သည် ကျောပိုင်းတွင်အနည်းငယ်နက်ပြီး ကျန်အပိုင်းတွင်ဖြူသည်။ ကိုယ်အရှည် ၁ ပေမှ ၁½ ပေအထိရှိသည်။ ငဖယ်ကိုချက်ပြုတ်စားကြသည့်အပြင် ငပိလည်းလုပ်ကြသည်။

**ငဖယ်အောင်း**။ ။ငဖယ်အောင်းသည်သိုင်းမျိုးတွင်ပါဝင်သည်။ ငါးအလတ်စားမျိုးဖြစ်သည်။ ပါဠိဗေဒအလိုအားဖြင့်ငဖယ်အောင်းကို 'ရိုးတီးဗီလင်ဂါရီ' ဟုခေါ်သည်။ ကိုယ်မှာခပ်ပြားပြားရှိပြီး၊ ဦးခေါင်းမှလွဲ၍ တကိုယ်လုံးတွင်အဖြူရောင်အကြေးများဖြင့် ဖုံးလျက်ရှိသည်။ ကျောရိုးဆူးတောင်တခုတည်းသာရှိသည်။ နှာတံတွင်အပေါက်ကလေးများရှိသည်။ ထိုငါးမျိုးကိုငပိကောင်လုပ်လေ့ရှိ၏။

**ငဖဲမြို့**။ ။မင်းဘူးခရိုင်၊ ငဖဲမြို့နယ်၏ရုံးစိုက်ရာမြို့ဖြစ်သည်။ ရခိုင်ရိုးမတောင်ခြေရင်း မန်းချောင်းအနီးတွင်တည်ရှိ၍မင်းဘူးမြို့မှ ကားလမ်းဖြင့် မိုင် ၄၀ ခန့်ကွာဝေးသည်။ အိမ်ခြေ ၃၀၀ ခန့်ရှိ၍၊ လူဦးရေ ၁,၆၀၀ ခန့်ရှိလေသည်။

ငဖဲမြို့သည်စေတုတ္တရာနှင့် ၈ မိုင်ကွာဝေး၍ပတိမ်းနှင့် ၆ မိုင်ခန့်ဝေးသည်။ ထိုမြို့သည်ကျောက်ဖြူခရိုင်နှင့်မင်းဘူးခရိုင် ကုန်ကူးသန်းရောင်းဝယ်ရေးအတွက် အချက်အခြာဖြစ်သည်။ ငဖဲမြို့ဖက်မှရခိုင်တိုင်းသို့ နွားဝန်တင်နှင့်ကူးသန်းရာတွင် အမ်းတောင်ကြားလမ်းကိုအသုံးပြုကြသည်။

ငဖဲမြို့တွင်နေထိုင်ကြသောလူမျိုးများမှာ ချင်းလူမျိုးနှင့်မြန်မာလူမျိုးတို့ဖြစ်ကြသည်။ ငဖဲမြို့နယ်အတွင်း၌ ရခိုင်ရိုးမတောင်ခြေသစ်တောများလည်း ပါဝင်နေသဖြင့် စိုက်ပျိုးနိုင်သောမြေနေရာမှာကျဉ်းမြောင်းသည်။ ငဖဲမြို့နယ်၏အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၃၆၂ မိုင်ရှိရာတွင်ဆည်ရေသောက်စိုက်ပျိုးမြေမှာ စတုရန်း ၅ မိုင်မျှသာကျယ်ဝန်းသည်။ ငဖဲမြို့မှထွက်သောသီးနှံများမှာ နှမ်း၊ ပဲ၊ စပါး၊ ပြောင်း စသည်တို့ဖြစ်၏။

ငဖဲမြို့၏အမည်ရင်းမှာမဖဲမြို့ဖြစ်သည်။ ငဖဲမြို့နယ်ရှိလူကြီးပိုင်းသည် ယခုတိုင် ဤအမည်ဖြင့် ခေါ်ဝေါ်သုံးစွဲလျက်ရှိကြ၏။ မဖဲဟုခေါ်ရခြင်းအကြောင်းမှာ မန်းချောင်းသည် ရခိုင်ရိုးမပေါ်မှ စီးဆင်းလာပြီးလျှင် ထိုမြို့အနီးတွင် လွဲဖယ်သွားသောကြောင့် 'မန်းဖယ်' ဟုတွင်ခဲ့ရာမှ ကာလရွေ့လျောသဖြင့် မဖဲ၊ ထိုမှတဆင့် ငဖဲ ဖြစ်သည်ဟု အဆိုရှိ၏။

မြန်မာမင်းများလက်ထက်က မင်းဘူးခရိုင်ကိုနယ်သုံးနယ်ခွဲ၍ ဝန်သုံးပါးအုပ်ချုပ်စေခဲ့ရာမှ ငဖဲတွင်လည်း ဝန်တပါးကြီးစိုး၍ စစ်ကဲ၊ နားခံ၊ စာရေးကြီး၊ မြို့သူကြီးစသောရာထမ်းမှုထမ်းများဖြင့်အုပ်ချုပ်ခဲ့လေသည်။

ငဖဲမြို့တွင် သီရိဓမ္မာသောကမင်းကြီး တည်ထားခဲ့သည်ဆိုသော ပျက်စီးနေသည့်စေတီပုထိုးအများရှိလေသည်။

**ငဖောင်ရိုး**။ ။ပါဠိဗေဒအလိုအရ ငဖောင်ရိုးသည် 'စကွမ်ဗရီစိုစီဒေး' မျိုးရင်းတွင် ပါဝင်သည်။ ငဖောင်ရိုး သည်လုံးလုံးရှည်ရှည် ပုံသဏ္ဌာန်ရှိသည်။ ကျောဆူးတောင်တခုတည်းရှိ၍ ယင်း၌ရိုးနုများပါရှိသည်။ မေးရိုးသည်ရှည်လျား၍ ငှက်နှုတ်သီးကဲ့သို့ချွန်ထွက်နေ၏။ ငတောင်ညင်း၊ နှုတ်သီးထိုးတို့သည် ငဖောင်ရိုးနှင့် မျိုးချင်းနွယ်သောငါးများဖြစ်ကြလေသည်။

**ငဖျံ**။ ။ငဖျံသည်အပူပိုင်းဒေသကငါးကလေးတမျိုးဖြစ်သည်။ ထိုငါး၏ရှေ့ဖက်ဆူးတောင်များသည် ပင်လယ်ဖျံများ၏ရေယက်များကဲ့သို့ကြီးထွားကြသည်။ ထိုငါးသည်ကုန်းသို့တက်ကာ ဒီရေ အတက် အကျရှိသည့် နေရာများ၌ကျက်စားတတ်သည်။ ကျောက်ဆောင်များ၊ သစ်ပင်အမြစ်များ ပေါ်သို့ နှံကောင် ကဲ့သို့ ခုန် တက်၍ ပိုးကောင်ကလေးများကို ရှာဖွေစားသောက်တတ်သည်။ ဩစတြေးလီးယားတိုက်ရှိ ကျောက်တန်းများတွင် တွေ့ရသော ငဖျံတမျိုးမှာ လေသက်သက်ကိုသာရှူနိုင်သောငါးမျိုးဖြစ်ရာ၊ ရေအောက်တွင်ထားလျှင်မွန်း၍သေဆုံးတတ်သည်။

ငဖျံကို အိန္ဒိယနိုင်ငံအရှေ့ပိုင်းရှိမြစ်များတွင်တွေ့ရသည်။ ငဖျံမျိုးများကို ဩစတြေးလီးယား တိုက် ဂရိတ်ဗရီးယားရီခေါ် ကျောက်သန္တာတန်း၌လည်းတွေ့နိုင်သည်။ အမေရိကတိုက် အပူပိုင်းဒေသ၌ မျက်စိ ၄ လုံးနှင့်ငဖျံမျိုးရှိသည်ဟုဆိုသည်။ မျက်စိ ၄ လုံးဟုဆိုရာတွင် ထိုငဖျံ၏မျက်လုံး၌အထက်ပိုင်း၊ အောက်ပိုင်း ခွဲခြား လျက်ရှိခြင်း ကိုပင်ဆိုလိုသည်။ ငဖျံသည်ရေထဲ၌သွားသောအခါ မျက်လုံးအောက်ပိုင်းကို ရေထဲ၌ထား၍ မျက်လုံး အထက်ပိုင်း ကို ရေပေါ်၌ထား၍သွား၏။ ထို့ကြောင့် ရေထဲကပိုးကောင်ကိုသော်၎င်း၊ ရေပေါ်ကပိုးကောင်ကိုသော်၎င်း မြင်နိုင်ခြင်းဖြစ်၏။

**ငဖြင်းသလက်**။ ။ပါဠိဗေဒအလိုအားဖြင့် ငဖြင်းသလက်ကို 'ကိုလိုင်ဆာဖက်စီးအေးတပ်' ဟုခေါ်သည်။ မျိုးရင်းမှာ 'အော့ (စ) ဖရိုမင်နီဒီ' ဖြစ်၍၊ နယ်သာလန်ကျွန်း

စုတွင်ရှိသော ဂူရာမိငါးနှင့်မျိုးရင်းချင်းတူသည်။ မြန်မာနိုင်ငံမြစ်ဝကျွန်းပေါ်ရှိ အင်းများ၌အများအပြားဖမ်းဆီးမိသည်။ ဖြင်းသလက်ကို ပေါလုပ်လေ့ရှိသည်။ တခါတရံ ခြောက်လည်းပြုလုပ်တတ်သည်။

**ဘေဘွဲ့ငန်**။ ။ဘေဘွဲ့ငန်သည်သလေလောက်မျိုးတွင်ပါဝင်သည်။ ပါဏဗေဒအရ ဘေဘွဲ့ငန်ကို 'စာဒီနဲလာဖင်ဗရီယေးတား' ဟုခေါ်သည်။ အုပ်ဖွဲ့၍ပင်လယ်ကမ်းရိုးတွင် ကျက်စားတတ်သောငါးမျိုးဖြစ်သည်။ ဘေဘွဲ့ငန်၏ကိုယ်သည်ပြား၍ ဝမ်းပိုင်းတွင်ခွေးသွားစိတ်ကဲ့သို့ အထစ်များပါရှိသည်။ ပါးဟက်ပေါက်မှာကျယ်သည်။ ဦးခေါင်း၏ဘေးဖက်တွင်မျက်စိရှိ၍ မျက်ခွံ၌အဆီပြည့်ဝလျက်ရှိသည်။ နှုတ်သီးမွေးမပါချေ။ ကိုယ်ပေါ်တွင်အကြေးခွံများ ညီညီညာညာရှိသည်။ သို့သော် ဦးခေါင်းတွင်အကြေးခွံမရှိချေ။ ကျောဆူးတောင်အနားအလယ်တွင် ခွက်နေ၏။ အမြီးခွဆောက်နက်၍ အမြီးပေါ်တွင် အကြေးခွံများရှိလေသည်။ အကြေးခွံတို့သည်လွှသွားကဲ့သို့ရှိကြသည်။ ဘေဘွဲ့ငန်သည်အလျား ၇ လက်မအထိရှိသည်။ ကျောဖက်တွင်စိမ်းပြာပြာရောင်သန်းနေသည်။ ဘေဘွဲ့ငန်ကိုမြန်မာနိုင်ငံ ပင်လယ်ကမ်းရိုးတန်းတလျှောက်တွင်တွေ့ရသည်။

**ငမုတ်**။ ။မြန်မာနိုင်ငံရှိအရသာကောင်းသောငါးများတွင် ငမုတ်ပါဝင်သည်။ ငမုတ်ကိုရခိုင်ကမ်းခြေနှင့်တနင်္သာရီကမ်းခြေတို့၌ အများဖမ်းဆီးရမိသည်။ ငမုတ်ဖြူ (ကွန်ဒရိုပလိုက်ချိုင်နန်ဆစ်)၊ ငမုတ်ငွေရောင် (ပမ်ပပ်အာဂျင်တီယပ်) နှင့် ငမုတ်မဲ (ပါရာစတြိုမာတီယပ်နိုင်ဂါ) ဟူ၍ငမုတ် ၃ မျိုးရှိရာ ရခိုင်နှင့် တနင်္သာရီကမ်းရိုးဒေသတို့တွင် ငမုတ်ဖြူနှင့် ငမုတ်မဲကိုသာတွေ့ရ၍ ငမုတ်ငွေရောင်ရှိမရှိကိုကား တပ်အပ်သေချာစွာမသိရချေ။ ငမုတ်မျိုးသည်အရွယ်ငယ်ပြီး၊ ကိုယ်ပြားသောငါးမျိုးဖြစ်သည်။

ငမုတ်ဖြူသည်ငမုတ် ၃ မျိုးအနက် အရသာအရှိဆုံးသောငါးဖြစ်၏။ ရခိုင်တိုင်းတွင်ယုဇနဟူ၍၎င်း၊ တနင်္သာရီတိုင်းတွင်ငမုတ်ဟူ၍၎င်းခေါ်ကြသည်။ ကိုယ်အလွန်ပြား၍ကျယ်ပြန့်၏။ အမြီးခွဆောက်နက်၏။ အရောင်မှာအဖြူဖြစ်သော်လည်း ကျောတလျှောက်တွင်မွဲပြာရောင်သန်းနေ၏။

ငမုတ်မဲကိုတနင်္သာရီတိုင်းတွင် ငမုတ်ဟူ၍ပင်ခေါ်သည်။ ရခိုင်တိုင်းတွင်မူယုဇနသမ္မာဟူ၍ခေါ်ကြသည်။ ငမုတ်ဖြူနှင့်အသွင်ချင်းတူပြီးအရောင်သာလျှင်ကွဲပြားလေသည်။ ငမုတ်မဲ၏အရောင်မှာ အညိုရင့်ရောင် သို့မဟုတ် မွဲပြာရင့်



၁၊ ငဖယ်။ ၂၊ ငဖယ်အောင်း။ ၃၊ ငဖောင်ရိုး။

၄၊ ငပျံ။ ၅၊ ဘေဘွဲ့ငန်။ ၆၊ ငမုတ်မဲ။

ရောင်ဖြစ်သည်။ ဆူးတောင်များ၏အရောင်မှာ အညိုရောင်ဖြစ်သည်။ အမြီး၏အရောင်သည်ဝါ၍အညိုရောင်ကန့်လန့်စင်း ၃ ကြောင်းရှိသည်။ ငမုတ်မဲသည် ငမုတ်ဖြူကဲ့သို့ အရသာမရှိချေ။

**ငမန်း**။ ။ကမ္ဘာ့အရပ်ရပ်ရှိငမန်းတို့တွင် တတောင်သာသာမျှသာကြီးသော ငမန်းငယ်မျိုးမှ ကိုယ်ထည်ကြီးမားသောငမန်းကြီးမျိုးအထိ အမျိုးများစွာရှိသည်။ ငမန်းတို့သည် လိပ်ကျောက်များနှင့်အတူ 'ဆီလာချီး' မျိုးစဉ်တွင်ပါဝင်ကြသည်။ ငမန်းကြီးမျိုးသည် ပေ ၄၀ မှ တခါတရံ ပေ ၆၀ လောက်အထိပင် ကြီးမားသည်။ ငမန်းကိုအေးသောအရပ်ဒေသများမှာထက် ပူသောနေရာဒေသများတွင်ပို၍တွေ့မြင်ရသည်။ ငမန်းတို့သည်ခရီးဝေးဝေးသွားလာကာ ကျက်စားတတ်သည်။ ကမ္ဘာ့မြောက်ဖက်ဝင်ရိုးစွန်းရှိ ဂရင်းလန်းကျွန်းအနီးမှငမန်းတို့သည် ပြင်သစ်နိုင်ငံ ကမ်းခြေသို့ပင် ရောက်အောင် ဆင်းလာ၍ ကျက်စားတတ်ကြသည်ဟုဆိုသည်။

အပုံအမူအလေ့အကျင့်ကိုလိုက်၍ ငမန်းတို့တွင်အမျိုးနှစ်မျိုးကွဲပြားသည်။ တမျိုးမှာပင်လယ်အောက်ခြေတွင်ကျက်စားတတ်သောငမန်းမျိုးဖြစ်၍ အခြားတမျိုးမှာ ရေမျက်နှာပြင်အနီးတွင်သာ ကျက်စားတတ်သော ငမန်းမျိုးဖြစ်သည်။ ပဌမငမန်းမျိုးသည် လူသတ္တဝါများကိုအလျှင်းအန္တရာယ်မပြုတတ်ပေ။ ထိုငမန်းတို့၏ဦးခေါင်းသည် ခုံးတုံးတုံးဖြစ်ပြီး သွားများမှာမာကျော၍ဝိုင်းနေလေသည်။ ထိုသွားမျိုးရှိသော ငမန်းမျိုးသည် ငမန်းတို့တွင် အလွန်ရှားပါး၍ ရှေးလည်းအကျဆုံးဖြစ်၏။ ဒုတိယငမန်းမျိုးသည် လူသတ္တဝါများကို အလွန်အန္တရာယ်ပေးတတ်ကြသည်။ ဝေလငါးကြီးများကိုပင် အသားတုံးကြီးများပဲ့၍ ပါသွားအောင် ကိုက်ဖြတ်တတ်ကြ၏။

ငမန်းတို့ကို မြန်မာနိုင်ငံကမ်းရိုးအလွန် ဗင်္ဂလားပင်လယ်ထဲတွင်လည်း အနှံ့အပြားတွေ့ရှိရ၏။ ပင်လယ်ကမ်းရိုးဒေသတို့မှတပါး အခြားဒေသတို့တွင် ငမန်းကို ဟင်းလျာအဖြစ်စားလေ့မရှိသော်လည်း အသုံးအဆောင်ပစ္စည်းများပြုလုပ်ရန်အတွက်မူ အသုံးပြုကြသည်။ မြန်မာနိုင်ငံတွင်ငမန်းရေကို မားရိုးဖုံးရန်အသုံးပြု လေ့ရှိသည်။ အမြီးမှတပါးငမန်း၏ဆူးတောင်ကို နိုင်ငံခြားသို့အမြောက်အမြားတင်ပို့ရောင်းချရသည်။ တရုပ်နိုင်ငံတွင်မူ ထိုဆူးတောင်များကိုစားသုံး၍ ယင်းမှကော်တမျိုးပြုလုပ်ယူလေသည်။ ငမန်းအသည်းမှရသော အဆီတွင် ဗီတာမင် အေဓာတ်များ စွာပါရှိသဖြင့် ငါးကြီးဆီအစားငမန်းဆီကို ချက်လုပ်ရောင်းချလေ့ရှိကြ၏။

ငမန်းမျိုးတွင် ငမန်းခေါင်းဝိုင်း၊ ငမန်းတောင်မဲ၊ ငမန်းငှက်ပျံ၊ ငမန်းနီ၊ ငမန်းကျဲ၊ ငမန်းသံဝတ်၊ ငမန်းပြောက်၊ ငမန်းစွယ်သည်၊ ငမန်းကား၊ လိပ်ကျောက်၊ လိပ်ကျောက်တံခွန်၊ လျှပ်စစ်လိပ်ကျောက် စသည်တို့ပါဝင်သည်။

**ငမန်းကား**။ ။ငမန်းကား (ရိုင်နိုဗတော့အော့တျူဆပ်) သည် ငမန်းမျိုးဝင်ဖြစ်သည်။ အရှည် ၆ ပေအထိရှိသည်။ သာမန်ငမန်းနှင့်အသွင်ချင်းတူသော်လည်း ခေါင်းပိုင်းသည်အလွန်ပြားပြီးသပ်နှင့်သဏ္ဌာန်တူ၏။ ကျောပိုင်းသည် မွဲပြာရောင်ရှိပြီး ဝမ်းပိုက်ပိုင်းသည် အဖြူရောင်ရှိ၏။ ကိုယ်လုံးနှင့် ရင်ဆူးတောင်များတွင် အဖြူရောင်အပြောက်ငယ်များရှိသည်။ ငမန်းကားသည်ငယ်စဉ်၌ ပင်လယ်ကမ်း



ရက်စက်ကြမ်းကြုတ်သောရေသတ္တဝါများ
(၁) ငမန်းခေါင်းဝိုင်း (၂) ငမန်းပြောက် (၃) ငမန်းကျဲ

စပ်ရေတိမ်ရာတွင်သာ ကျက်စားလေ့ရှိပြီး ကြီးလာသောအခါမှရေနက်ရာသို့ ရွှေပြောင်းကျက်စားတတ်သည်။

**ငမန်းစွယ်သည်။** ။ငမန်းစွယ်သည် (ပရစ်တစ် မိုက်ကရိုဒွန်) သည် ငမန်းမျိုးဝင်ပင်ဖြစ်သည်။ ယင်း၏ထူးခြားချက်မှာ အမြီးသည်ခတ်တက်သဏ္ဌာန်မဟုတ်ဘဲ၊ သာမန်ငါးမြီးနှင့်တူ၍ ဦးခေါင်းတွင်လည်း လွှနှင့်တူသည့် အစွယ်ရှည်ပါရှိခြင်းဖြစ်သည်။ ရခိုင်တိုင်း ကမ်းရိုးတန်း တလျှောက်၌



ဖမ်းဆီးရမိထားသည့်လွှစွယ်ပါသောငမန်းစွယ်သည်များ

ထိုငမန်းကိုငမန်းစွယ်သည်ဟုခေါ်သော်လည်း၊ မြန်မာနိုင်ငံတောင်ပိုင်းကမ်းရိုးတန်းဒေသတို့တွင် စွယ်ငမန်း (တနည်း) ငမန်းစွယ်ဟူ၍၎င်း၊ ခုတ်ငမန်းဟူ၍၎င်းခေါ်၏။ အစွယ်မှာ ၆ ပေခန့်ရှည်၍ လွှကဲ့သို့အသွားများရှိသည်။ ငမန်းစွယ်သည်၏ကိုယ်သည် ၁၄ ပေအထိရှည်တတ်သော်လည်း တခါတရံ ပေ ၂၀ ကျော် အထိရှည်သည်ကိုပင် တွေ့ရလေသည်။ ထိုအစွယ်ဖြင့် ဘေးတိုက်ခုတ်တတ်သဖြင့် လွန်စွာပင်ကြောက်မက်ဖွယ်ကောင်းလှပေသည်။ ငမန်းစွယ်သည်၏ဦးခေါင်းသည်ရှည်၍ပြားလေသည်။

**ငမျက်ဆန်ကျယ်။** ။ငမျက်ဆန်ကျယ်သည်ငသလောက်မျိုးတွင်ပါသည်။ ငမျက်ဆန်ကျယ်ကိုငသိုင်းကြီးဟူ၍လည်းခေါ်သည်။ ငမျက်ဆန်ကျယ်၏ သိပ္ပံအမည်မှာ 'ဟစ်ရှာအီလောင်ဂေးတား' ဖြစ်သည်။ ငမျက်ဆန်ကျယ်၏ကိုယ်



အလွန်ပြား၍သပ်နှင့်တူသောဦးခေါင်းရှိသည့်ငမန်းကား

မှာပြား၍ ဝမ်းပိုင်းတွင် လွှသွား ကဲ့ သို့ အထစ်များရှိသည်။ ပါးဟက်ပေါက်ကျယ်သည်။ ဦးခေါင်းဘေးဖက်တွင်မျက်စိရှိ၍မျက်ခွံ၌အဆီပြည့်ဝလျက်ရှိသည်။ နှုတ်သီးမွေးမပါချေ။ တကိုယ်လုံး အကြေးခွံများညီညာစွာရှိ၏။ ပင်လယ်ကမ်းရိုးတန်းတွင်ကျက်စားသောငါးမျိုးဖြစ်သည်။

**ငမြင်း။** ။ငမြင်း၏ပါဏဗေဒအမည်မှာ 'ပရန်တြိုပီအစ်ခသစ် တက္ကရီ' ဖြစ်သည်။ အသွင်အားဖြင့်ငမြင်းသည် ငမြင်းက ကလောင် နှင့်တူ၏။ သို့သော်ငမြင်းကကလောင်ထက်ပိုရှည်၍ ဦးခေါင်းသည်လည်းပိုချွန်၏။ အထက်မေးရိုးနှင့် အောက် မေးရိုးတို့ရှိ နှုတ်သီး မွေးများ သည် ငမြင်းကကလောင် မှာ ထက် ပိုရှည် လေ ၏။ စအိုဆူး တောင်သည် အမြီး ဆူး တောင် နှင့် ထိလုနီး ပါး ရှည် လျား၏။ ငသံချိတ် ငမြင်းအုပ်ဖါးတို့မှာ ငမြင်းနှင့် အမျိုးတူအမည်ကွဲဖြစ်၏။

**ငမြင်းကကလောင်။** ။ပါဏဗေဒအလိုအရ ငမြင်းကကလောင် သို့မဟုတ် ငကလောင်ကို 'ယူတြိုပီအစ် ခသစ် ဗာချား' ဟုခေါ်သည်။ ငမြင်းကကလောင်၏ကိုယ်သည် ပြား၍ရှည်လျား၏။ ဦးခေါင်းကိုပျော့သောအရေပြားဖြင့် ဖုံးအုပ်ထားသည်။ ပါးစပ်သည် အထက်ဖက်သို့နှာတံထိအောင်ကွဲနေသည်။ မျက်စိသည်ဦးခေါင်း၏ဘေးဖက်တွင်ရှိသည်။ ပြန့်ကျယ်သောမျက်ခွံ၌အဆီရှိသည်။ နှာတံနှင့်အထက်မေးရိုးတို့တွင်နှုတ်သီးမွေးတစုံစီရှိသည်။ အောက်မေးရိုးတွင် နှုတ်သီးမွေး နှစ်စုံပါရှိသည်။ မေးရိုးတွင် ထက်သောသွားများရှိသည်။ ရင်ဆူးတောင်တွင်ဆူးတချောင်းပါရှိလေသည်။ စအိုဆူးတောင်သည်အမြီးဆူးတောင်နှင့်အတော်ကွာလှမ်း၏။ အမြီးဆူးတောင်သည်စောက်နက်နက်ခွနေ၍ အဖျားတွင်ချွန်နေသည်။ နောက်ကျောဆူးတောင်၌အဆီပြည့်ဝလျက်ရှိသည်။ ကိုယ်ရောင်မှာငွေရောင်သန်း၍နေ၏။ ဦးခေါင်းနှင့်ဝမ်းပိုင်းတွင်ဟင်းသပြဒါးရောင်ကွက်များပါရှိသည်။ ငကျောဖက်တွင်ညိုမှိုင်းမှိုင်းအရောင်ရှိသည်။ အလျား ၁၅ လက်မခန့်ရှိ၍ ပျမ်းမျှအလေးချိန် ၅၅ ကျပ်သားခန့်စီးသည်။




**ငမြင်းရင်း။** ။ငမြင်းရင်း၏ပါဏဗေဒအမည်မှာ 'ဆူဒူတြိုပိယပ်ဂွန်ဂဝါရီ' ဖြစ်သည်။ အသွင်အားဖြင့်ငမြင်းရင်းသည် ငမြင်းနှင့်ဆင်တူယိုးမှားဖြစ်သည်။ ငမြင်းရင်းကိုယ်သည်ငမြင်းကဲ့သို့ငမြင်းကကလောင် ကိုယ်ထက်ပို၍ရှည်သည်။ ဦးခေါင်း သည် လည်း ငမြင်း ကကလောင် ၏ ဦး ခေါင်း ထက် ပို၍ချွန်သည်။ ယင်း၏ စအိုဆူးတောင်သည် လည်း အမြီးဆူးတောင်နှင့် ထိလုနီးပါး ပင် ရှည် လျား သည်။ ငသံချိတ်ဖား၊ ငါးသက္ကလတ်တို့သည် ငမြင်း ရင်း နှင့် မျိုး ချင်း နွယ်သောငါးများဖြစ်ကြပေသည်။

**ငမြစ်ချင်း။** ။ငမြစ်ချင်းသည်ငသိုင်းမျိုးဖြစ်၍ 'စိုင်ပရီနီဒီး' မျိုးရင်းတွင်ပါဝင်သည်။ ပါဏဗေဒအလိုအားဖြင့်ငမြစ်ချင်းကို 'လေဗီအို ရိုဟိတာ' ဟုခေါ်သည်။ ငါးကိုယ်သည်ရှည်လျား၍အမြီးဖက်သို့ရှူးသွားသည်။ နှာတံမှာမချွန်ဘဲထိပ်လုံးဖြစ်၍ မေးရိုးအရှေ့သို့အနည်းငယ်ထွက်နေသည်။ နှုတ်ခမ်းမှာထူ၏။ နှုတ်သီးမွေးတိုတို ၂ စုံပါရှိသည်။ အမြီးခွသည်ရှည်ထွက်နေသည်။ အရောင်မှာကျောဖက်တွင်ပြာလဲ့လဲ့သို့မဟုတ်အညိုရောင်ရှိပြီး၊ဘေးနှင့်အောက်ဖက်တွင်ငွေရောင်ရှိသည်။ အချို့ငမြစ်ချင်းများတွင်အကြေး၌အစက်တခုစီပါရှိသည်။ ဆူးတောင်များမှာ အနီရောင်သို့မဟုတ် အမည်းရောင် ရှိ သည်။ ငမြစ်ချင်း သည် အရှည် ၃ ပေ သို့မဟုတ် ၃ ပေကျော်ကျော်အထိကြီးထွားသည်။

**ငမြွထိုး။** ။ပါဏဗေဒအလိုအားဖြင့် ငမြွထိုးမျိုးပေါင်းအမြောက်အမြား ရှိသည်။ ငမြွထိုး၏ ပုံသဏ္ဍာန်သည်ငရှဥ့်သေးသေး၏ပုံသဏ္ဍာန်နှင့်တူသည်။ ငရှဥ့်နှင့်ကွဲပြားချက်မှာ ကျောဖက်နှင့်စအိုဆူးတောင်အရှေ့နား၌ ချွန်ထက်သောဆူးတောင်များပါရှိခြင်းဖြစ်သည်။ ထိုငမြွထိုးမျိုး၏သိပ္ပံအမည်မှာ 'ရင်ကော့ဒဲလား အိုစိုင် လေတား' ဖြစ်သည်။ ထိုငမြွထိုးမျိုးနှင့်တူသော အခြားငမြွထိုးတမျိုးလည်းရှိသေးသည်။ ထိုငမြွထိုးမျိုးမှာ ပို၍တောက်ပသော အရောင် ရှိ သည်။ ကျောဖက်တွင် အစိမ်းနှင့် အဝါပြောက်များရှိ၍ ဘေးဖက်တွင်အပြာရောင်အစင်းပေါင်း ၂၅ ခုခန့်ပါရှိသည်။ ဆူးချောင်းများမှာ ကျောရိုးဆူးတောင်ရှေ့တွင် ၂၉ ချောင်း၊ စအိုဆူးတောင်ရှေ့တွင် ၃ ချောင်းနှင့်ပါးဟက်ဖုံးပေါ်တွင် ၃ ချောင်းပါရှိသည်။ ထိုငမြွထိုးမျိုး၏သိပ္ပံအမည်မှာ 'မက်စတာကမ်ဗလပ်' ဖြစ်သည်။ အများအားဖြင့်ငမြွထိုးကို ငပိခြောက်လုပ်လေ့ရှိသည်။

(၁) အဆီများသောငမြင်း။ (၂) ငမြင်းကကလောင်ခေါ် ငကလောင်။ (၃) ငမြင်းနှင့် ဆင် တူယိုး မှား ဖြစ် သောငမြင်း ရင်း။ (၄) ငသိုင်းမျိုးဝင်ဖြစ်သောငမြစ်ချင်း။ (၅) ငရှဥ့်သေးသေးနှင့်တူသောငမြွထိုး။ (၆)ထူးခြားသောဆူးတောင်များရှိသည့်ငယုတ်။

**ယေုတ်**။ ။ယေုတ်သည် 'အေးရိယပ်' ခေါ် ပင်လယ်ငါးမျိုး စုတွင်ပါဝင်သည်။ ပါဏဗေဒအမည်မှာ 'အေးရိယပ် အက္ကျုတိ ရော့စတြစ်' ဖြစ်သည်။ ယေုတ်၏ဦးခေါင်း သည်ပြား၏။ အထက်မေးရိုးသည်ရှေ့သို့ငေါ်ထွက်နေ၏။ ပဌမကျောဆူးတောင်သည် အထက်ဖက်သို့ထိုးထွက်နေ၏။ ထိုဆူးတောင်၏အရှေ့တွင် ခွေးသွားစိတ် အနားများ ရှိသော ဆူးရှည်ရှည်တချောင်းရှိသည်။ ဒုတိယကျောဆူးတောင် သည် အဆီဖြင့်ပြည့်ဝလျက်ရှိသည်။ အမြီးဆူးတောင် သည် နှစ်ခွကွဲလျက် ရှိသည်။ ငရင်ခုံနှင့် ငရောင်တို့သည် ငယေုတ်နှင့်မျိုးချင်းနွယ်သောငါးများဖြစ်ကြသည်။

**ရေမန်ကာန်း**။ ။ရေမန်ကာန်းသည်အနော်ရထာမင်းက မွန်၊ မြန်မာနှင့် ပျူအင်အားစုများကို ပေါင်းစည်း၍တည် ထောင်ထားခဲ့သော ပုဂံနိုင်ငံတော်ကို ပြိုကွဲအောင်ကြံစည် ခဲ့သူဖြစ်သည်။ ရေမန်ကာန်းသည် စောလူးမင်း၏ အထိန်း တော်သား ဖြစ်သည်။ အနော်ရထာမင်းနတ်ရွာစံ၍ စော လူးမင်းနန်းတက်သောအခါ နို့စို့ဖက်ဖြစ်ဘူးသူရေမန်ကာန်း အား ယုံကြည် ချစ်ခင်သည့်အလျောက် ပဲခူးမြို့ကိုစားစေ သည်။ ပဲခူးမြို့သည် ထိုစဉ်ကဆိပ်ကမ်းမြို့ကြီးဖြစ်၍၊ အလွန် စည်ပင် ဝပြော ချမ်းသာသော မြို့ကြီးဖြစ်လေသည်။ မွန် နှင့်မြန်မာတို့ ရောနှောနေထိုင် စီးပွားရှာသောမြို့လည်းဖြစ် သည်။ ထိုကဲ့သို့ပင် နိုင်ငံ၏မြို့တော်ဖြစ်သော ပုဂံ၌လည်း မွန်များ၊ ပျူများ၊ မြန်မာများ ရောပြွမ်း၍နေထိုင်ကြ ကြောင်းကို မွန်၊ မြန်မာ၊ ပျူစာများဖြင့် ကျောက်စာထိုး ထားခဲ့သည်တို့ကို ထောက်၍သိနိုင်သည်။

ရေမန်ကာန်းသည် ချမ်းသာကြွယ်ဝ၍ စည်ပင်သာယာ သော ပဲခူးမြို့ကို အုပ်ချုပ်ရသည့်မှစ၍ လောဘရမ္မက် တက် လာကာ၊ ပိုင်နိုင်စွာ မင်းလုပ်လိုဟန်တူ၏။ လူအင်အား၊ ပစ္စည်းအင်အား တောင့်တင်းလှသော ပဲခူးမြို့ကို အားကိုး ပြု၍ ပုန်ကန်ရန်အကြံရှိ၏။ တခါသော် စောလူးမင်းနှင့် ရေမန်ကာန်းတို့ အန်ကစားကြရာတွင် ရေမန်ကာန်းနိုင်၍ မလန်းပေါက် (လက်ပမ်းပေါက်) ထ၍ခတ်၏။ စောလူး မင်းက အန်တပွဲမျှနိုင်သည်ကို မလန်းပေါက်ထ၍ခတ်သည်၊ ယောကျ်ားဟုတ်နိုးသော် ပဲခူးနှင့် ပုန်စားလေဟု ရေမန် ကာန်းအား မိန့်တော်မူသည်။ ရေမန်ကာန်းလည်း မူလ ကပင် အကြံရှိသူဖြစ်၍၊ ပဲခူးသို့သွားပြီးသော်၊ ရဲမက်ဗိုလ်ပါ စုရုံးလျက် ရေအားကြည်းအားဖြင့် ပုဂံသို့ချီလာလေ၏။

ရေမန်ကာန်းတပ်သည်ပြည်တော်သာကျွန်း(မိကျောင်းရဲ အောက်ရှိ ကျွန်းတောကျွန်း) သို့ ရောက်သော် ခေတ္တစခန်း ချ၏။ ထိုသတင်းကိုကြားလျှင် ရဲမက်ဗိုလ်ပါ ဆင်လုံးမြင်း ရင်း အများနှင့် ကျန်စစ်သားကို တပ်ဦးချီစေပြီး စောလူး မင်းသည် နောက်တပ်ပြုလျက် လိုက်၏။ ကျန်စစ်သား၏ စစ်အရာ၌လိမ်မာသည်ကို သိသဖြင့် ရေမန်ကာန်းသည်အကြံ ပြု၍ကျွံသို့စီရင်သည်။ ရွံ့ညွန်ထူပြော၍ ဆင်ခင်း မြင်းခင်း မသာသော အရပ်တွင် ဆင်စီး၍ စစ်ဆင်ဟန် အရုပ်ပြုလုပ် ထား၏။ စောလူးမင်းစစ်သည်တို့မိုးချုပ်မှ ရောက်လာရာ၊ ရေမန်ကာန်းသည် လရောင်ဝိုးဝါးတွင် တိုက်စစ်ဆင်လေ သည်။ စောလူးမင်းသည် အရုပ်ကိုအကယ်ထင်မှတ်၍ တိုက်လေသော် စီးတော်ဆင် ရွံ့သို့ကျ၍ကျွံချေ၏။ စော လူးမင်းလည်း ဆင်ထက်မှဆင်းသက်ပြေးရကာ စစ်တပ်ပျက် လေသည်။ ကျန်စစ်သားလည်း ပုဂံသို့ဆုတ်ရ၏။ ရေမန် ကာန်းလည်း စောလူးမင်းနှင့်ကျန်စစ်သားကိုမရလျှင် မမေ့ မလျော့ မနေကောင်းဟု စစ်သည်ဗိုလ်ပါတို့နှင့် အလုံအခြုံ တပ်မြို့ပြုကာနေလေသည်။

ရေမန်ကာန်းသည် စောလူးမင်းအား ပုန်းအောင်းနေရာ ကိုသိရှိဖမ်းမိလျှင်၊ အကျဉ်းချထားလျက် ရေအားကြည်း အားဖြင့်ဆန်တက်လေသည်။ ပုဂံတောင် မြင်းကပါအရပ် တွင် တပ်ကြီးတည်၍ စခန်းချစဉ် ကျန်စစ်သားသည် ရေမန် ကာန်းတပ်တွင်းသို့ဝင်ရောက်၍ စောလူးမင်းအား ခိုးယူရာ မအောင်မြင်ချေ။ ရေမန်ကာန်းကား စောလူးမင်းကို ပျူ မင်းထီး ငှက်ကြီးခေါင်းမြုပ်ရာအနုရာဓမည်သောအရပ်တွင် ကွပ်မျက်လိုက်၏။ ယင်းသို့ကွပ်မျက်ပြီးနောက် ပုဂံတွင်မင်း ပြုရန် ရေအား ကြည်းအားဖြင့် မြို့သို့ချဉ်းကပ်လေသည်။ ထိုအခါမှူးမတ်တို့က ကျန်စစ်သားသည် လယ်တွင်းတဆွဲ တရွာကိုချုပ်၍ မင်းပြုနေသဖြင့် ကျန်စစ်သားကိုစစ်ထိုး၍ အောင်မှ မင်းပြုပါဆိုလျက် မြို့တံခါးမဖွင့်ဘဲအခိုင်အလုံနေ ကြ၏။ ရေမန်ကာန်းသည် ကျန်စစ်သားကို လုပ်ကြံဦး မည်ဟု ရေအားကြည်းအားဖြင့် ဆန်တက်၍အင်းဝတည်ရာ အရပ်၌ တပ်တည်နေလေသည်။ ထိုအခါ ကျန်စစ်သား သည်အင်းဝအရပ်သို့ချီ၍ရေမန်ကာန်းကိုတိုက်၏။ အင်းဝ စစ်ပွဲ၌ ရေမန်ကာန်း အရေးနိမ့်သဖြင့် မြင်းကပါသို့ ဆုတ်ရ လေသည်။ ကျန်စစ်သားလည်း ရွှေစည်းခုံတောင်တွင် တပ်တည်၍ နေ၏။ တဖန် မြင်းကပါ၌ တိုက်ပွဲဖြစ်ပြန်ရာ ရေမန်ကာန်း တပ်ဆုတ်ရပြန်လေသည်။ ရေမန်ကာန်း စုန် ပြေးကြောင်းကို ကျန်စစ်သားသိလျှင်၊ မဆိုးစေဥ္စကိုလိုက်၍ လုပ်ကြံစေ၏။ မဆိုးစေဥ္စလည်း ရေမန်ကာန်းကို ရွာသာ အောက်တွင်မှီ၍ရေသဖန်းပင်ထက်မှသာယာလှသောငှက်၏ အသံကဲ့သို့မြည်၏။ ရေမန်ကာန်းလည်း ရှေ့ပေါင်တံခါးကို ဖွင့်၍ သာယာသောအသံရှင် ငှက်ကို ကြည့်စဉ် ချောင်းနေ သောစေဥ္စက လေးနှင့်ပစ်ရာ၊ မျက်စိကိုမှန်၍ အသက်ဆုံးရ လေသည်။ ထိုစဥ္စကူးအရပ်တွင် ရေမန်ကာန်းဆုံးလျှင် သူ၏တပ်ပျက်လေသည်။ မွန်၊ မြန်မာ၊ ပျူတို့၏ ပုဂံနိုင်ငံ တော်ကြီး လည်း ပြိုကွဲခြင်းအန္တရာယ်မှ လွတ်ခဲ့လေသည်။ (ကျန်စစ်သားမင်း၊ စောလူးမင်း — လည်းရှု။)

ငရဲ။ ။ဤကမ္ဘာလောက၌ မှီတင်းနေထိုင်ကြသော လူမျိုးအသီးသီးတို့တွင်အဆုံးအမအသီးသီးရှိကြကုန်၏။ ထိုအဆုံးအမတို့ကို ယေဘုယျအားဖြင့် အခြေအမြစ်ရှာကြည့်လျှင်၊ ကောင်းသောအမှုကိုပြုသူတို့သည် ချမ်းသာ၏။ မကောင်းသောအမှုကို ပြုသူတို့သည် ဆင်းရဲ၏။ ကောင်းမှုပြုသူတို့သည် ချမ်းသာသောဘုံ၌စံရ၍၊ မကောင်းမှုပြုသူတို့ကား ဆင်းရဲသောဘုံ၌ခံရသည်။

ရှေး ဂရိလူမျိုးများ၏ အယူဝါဒတွင် သေသောသူတို့၏ တမလွန်ဘဝတည်ရာ ဌာနသည် ဟေးဒီးဖြစ်သည်ဟူ၏။ နောင်မှပေါ် ပေါက်လာကြသော ခရစ်ယန်တို့က ထိုဟေးဒီးအားငရဲဘုံဟုယူဆကြ၏။ ယဟူဒီလူမျိုးများကမူ ငရဲကို ဂီဟင်းနားဟုခေါ် သည်။ ပါးရှင်းလူမျိုးတို့ ကိုးကွယ်သော ဇိုရိုအက်စတာ အယူဝါဒတွင်မူ ငရဲသည် အပြစ်ကျူးလွန်ဆိုးသွမ်းသူများကို ခေတ္တဒဏ်ခတ်ရာ ဘုံဖြစ်၍၊ နောက်ဆုံးကယ်တင်ရှင်ကြီးပေါ် ထွက်လာသည့်အခါ၊ ငရဲပျောက်ပျက်သွားလိမ့်မည်ဟု ယုံကြည်ကြသည်။ ခရစ်ယန်အယူဝါဒတွင် ငရဲဘုံသည် အပြစ်ကျူးလွန် ဆိုးသွမ်းသူများ သွားရာဘုံဖြစ်၍၊ ငရဲသို့လားသူများမှာ လွတ်မြောက်ရာလမ်းမရှိချေ။ ခရစ်ယန်ငရဲတွင် မည်သို့မည်ပုံ ငရဲခံရသည်ကိုမူ ခရစ်ယန်ဂိုဏ်းများကွဲပြားသလောက်ယူဆပုံအမျိုးမျိုးကွဲပြားသည်။

ဗရင်ဂျီဂိုဏ်းဝင် ခရစ်ယန်များကမူ ငရဲဘုံအပြင်၊ ပါဂါထရီခေါ် သောဘုံ ရှိသေးကြောင်း၊ ထာဝရဘုရား သခင်အားပစ်ပယ်ခြင်းမဟုတ်ဘဲ ယုံကြည်အားထားလျက်နှင့်ပင် ပြစ်မှုအငယ်စားကျူးလွန်သူများသည် ကွယ်လွန်သော် အဆိုပါ ပါဂါထရီဘုံတွင် ပဌမအပြစ်ဒဏ်ခံရပြီးမှ၊ ကောင်းကင်ဘုံသို့ ရောက်နိုင်ကြောင်း၊ ပါဂါထရီဘုံတွင် ခံစားနေရခိုက်၊ လူ့ဘုံတွင်ကျန်ရစ်သူများက ဆုတောင်းခြင်း၊ ကွယ်လွန်သူအတွက် ဘုရားရှိခိုးခြင်း ပြုလုပ်ပါက အပြစ်ဒဏ်ခံစားရမှု လျော့ပါးကြောင်းဖြင့် ယုံကြည် ကြ၏။ ထို့အပြင် ခရစ်တော်မပေါ်ခင်က ကမ္ဘာတွင်နေ ထိုင် ခဲ့ သူ လူများအနက်၊ သူတော်ကောင်းများ သည် ကောင်းကင် ဘုံ သို့ မဝင် နိုင် ခဲ့သော်လည်း၊ ငရဲဘုံသို့မရောက်ဘဲ၊ ငရဲနှင့်မနီးမဝေး လင်းဗိုးခေါ်သောဘုံတွင် နေခဲ့ ကြရကြောင်း၊ ခရစ်တော် သေခြင်းမှ ပြန်၍အသက်ရှင်ကာ ကောင်းကင်ဘုံသို့ တက်သောအခါမူ ထိုလင်းဗိုး၌ နေရသူများအား ကောင်းကင်ဘုံသို့ ကယ်တင်သွားကြောင်းဖြင့် လည်း ခရစ်ယန် ဝါဒပေါ် စ ခေတ်ဦးက ယုံကြည် ခဲ့ ကြ သည်။ မွေး ခါစ သေ သော ကလေး များ၊ ရေဖျန်း၍ ခရစ်ယန်သာသနာသို့ မသွင်းခင် သေဆုံးသော ကလေး များ မှာ လည်း၊ ကောင်း ကင်ဘုံ၏ ချမ်း သာ ခြင်း လည်းမရ၊ ဆင်းရဲညှဉ်းပန်း ခြင်း လည်း မခံရသော လင်းဗိုး ဘုံသို့ရောက်သည် ဟုယူဆ ခဲ့ ကြသည်။ ဤအယူကိုဗရင်ဂျီခရစ်ယန်ဂိုဏ်းသည်ယခုအထိလက်ခံကြ၏။

ခရစ် ၁၂၆၅ ခုနှစ်၌မွေး၍ ၁၃၂၁ ခုနှစ်တွင်ကွယ်လွန်သော ဣတလီလူမျိုး ဒန်တီခေါ် ကဗျာဆရာတဦးက သူ၏ ဝိညာဉ်သည်ငရဲ၊ ပါဂါထရီနှင့် ကောင်းကင်ဘုံများသို့ အနှံ့အပြားလှည့်ပတ်ကြည့်ရှုခဲ့ကြောင်းကို ဣတလီဘာသာဖြင့် လင်္ကာစပ်၍ 'ဒီဗိုင်းကော်မဒီ' ခေါ် ကဗျာရှည်ကြီးကို ရေးသားခဲ့ရာ၊ ငရဲနှင့် ပါဂါထရီဘုံများကို စာဖတ်သူစိတ်စွဲစေလောက်အောင် ဖော်ပြနိုင်သဖြင့် အလွန်နာမည်ကျော်ကြားသွားလေသည်။ နေမိဘုံခန်းပျို့နှင့် နှိုင်းရှည့်ဖတ်ရှုနိုင်လေသည်။ သိုးဆောင်းစာပေတွင် ထိုဒန်တီ၏ကဗျာပါ ငရဲခန်း၊ ပါဂါထရီခန်းတို့မှ သရုပ်ဖော်အကွက်များကို အကြိမ်များစွာ ကိုးကား ဖော်ပြခြင်းများကို တွေ့နိုင်ပေသည်။ ထိုကဗျာရှည်ကြီးကို အနောက်နိုင်ငံ ဘာသာစကား အရပ်ရပ်များသို့ ပြန်ဆိုထားပေသည်။ (ဒန်တီ, အလီဂျာရီ — ရှု။)

ဗုဒ္ဓသာသနာ အဆုံးအမ၌တည်ကြသောသူတို့က ငရဲဘုံကို ချမ်း သာမရှိ၊ ဆင်းရဲ အတိပြီး သော အရပ် ဖြစ် သည် ဟု ယူဆကြ၏။ ငရဲဟူသောဝေါဟာရမှာ အဘိဓမ္မာအလိုအားဖြင့် နိရိယဟူသော ပါဠိမှဆင်းသက်လာသည်ဟုဆို၏။ ပုဂံကျောက်စာ၌ ဆိုဝ်ငြယ်ဟုရေး၏။ ဆိုးသော ငရဲဟု အဓိပ္ပါယ်ရ၏။ အဘိဓမ္မာအလို ဘုံ ၃၁ တွင် ကာမ ၁၁ ဘုံဟုရှိ၏။ ထိုကာမဘုံတွင် အပါယ်လေးဘုံရှိ၏။ ထိုအပါယ်လေးဘုံတို့ကား ငရဲ၊ တိရစ္ဆာန်၊ ပြိတ္တာ၊ အသူရကာယ်ဘုံတို့ဖြစ်ကြ၏။ ယခုကျွန်ုပ်တို့လူအများနေရာ ဇမ္ဗူဒီပါ တောင်ကျွန်း၏ အောက်ဆုံးအထပ်၌ ဆင်းရဲအတိပြီးသော အရပ်ကြီးရှစ်ပါးရှိသည်ဟု ဆို၏။ ယင်းကို ငရဲကြီးရှစ်ထပ်ဟုခေါ် ကြသည်။

၁၂၆၃ ခုနှစ်တွင် ဘီးလင်းမြို့နေ စစ်ကဲတော်ကြီး ဦးရွှေနော်စီရင်သော အာဒိကပ္ပ ကမ္ဘာဦးကျမ်း အလိုအားဖြင့် ငရဲဘုံတည်ဖြစ်ခြင်းအကြောင်းမှာ ဤသို့တည်း။

'ကမ္ဘာတည်ဖြစ်ခြင်းနှင့်တပြိုင်နက်ဖြစ်သော အပါယ်ငရဲရှစ်ထပ်တို့၏ တည်ရာအရပ် အစောက်သည်ကား၊ အပေါ် ပဌမဖြစ်သော သိဉ္ဇိုဝ်းငရဲ၏တည်ရာဌာနသည်ကား ယူဇနာရှစ်ထောင့်ခြောက်ရာရှိ၏။ ယင်းအောက် ဒုတိယဖြစ်သော ကာလသုတ်ငရဲ တည်ရာဌာနသည်ကား ယူဇနာရှစ်ထောင့်ရှစ်ရာရှိ၏။ ယင်းအောက် တတိယဖြစ်သော သင်္ဃာတငရဲ တည်ဌာနသည်ကား ယူဇနာကိုးထောင်ရှိ၏။ ယင်းအောက် စတုတ္ထငရဲဖြစ်သောရောရုဝ ငရဲတည်ရာဌာနသည်ကား ယူဇနာ ကိုးထောင့်နှစ်ရာရှိ၏။ ယင်းအောက် ပဥ္စမဖြစ်သော မဟာရောရုဝ ငရဲ တည်ရာဌာန သည်ကား ယူဇနာ ကိုးထောင့်လေးရာရှိ၏။ ယင်းအောက် ဆဋ္ဌဖြစ်သော တာပန ငရဲသည်ကား ယူဇနာ ကိုးထောင့်ခြောက်ရာရှိ၏။ ယင်းအောက် သတ္တမဖြစ်သော မဟာတာပန ငရဲတည်ရာဌာနသည်ကား ယူဇနာ ကိုးထောင့်ရှစ်ရာရှိ၏။ ယင်းအောက်



ဣတလီလူမျိုးကဗျာဆရာဒန်တီ၏ 'ဒိဗိုင်းကော်မဒီ' ခေါ်ကဗျာမှ ငရဲခန်းကိုသရုပ်ဖော်ထားပုံ

အင်္ဂမဖြစ်သော မဟာအဝီစိငရဲ တည်ရာဌာနသည်ကား ယူဇနာ တသောင်းရှိ၏။ ထိုငရဲတဘုံနှင့် တဘုံ အခြား အကွာ ယူဇနာ ခုနှစ်ရာစီချည်း နှင်နှင်ခြားကွာ၏။ ထိုငရဲရှစ်ထပ်တို့၌ တခဲနက်သံမြေခံကုန်၏။ နံရံလေးဖက်သည်လည်း တခဲနက်သံမြေပင်ကာရံလျက်ဖြစ်၏။ အထက်အပေါ်ကလည်းထို့အတူ တခဲနက်သံမြေ လွှမ်းမိုး၏။ ထိုငရဲရှစ်ထပ်နှင့် တပြိုင်နက်တည်ရာ အသူရကာယ်တို့သည် ဝေဟပ္ဖိုလ်ဗြဟ္မာ့ဘုံမှ၊ မိမိတို့ကုသိုလ်ကံကုန်သည်ဖြစ်၍၊ မိမိတို့ပြုခဲ့ဘူးသော ကုသိုလ်ကံ တိုက်တွန်းသဖြင့်၊ ကမ္မဇွာယစုတေခြင်းဖြင့်စုတေခဲ့ပြီးလျှင်၊ မိမိတို့အကုသိုလ် ကံနှင့် လျော်သင့်ရာ၊ နှစ်ကြိမ် သုံးကြိမ် ကာလ အခြားမရှိ၊ စုတိပဋိသန္ဓေဖြစ်၍၊ သိဉ္ဇိုဝ်း၊ ကာလသုတ်၊ သင်္ဃာတ၊ ရောရုဝ၊ မဟာရောရုဝ၊ တာပန၊ မဟာတာပန၊ မဟာအဝီစိ ဟူသောငရဲကြီးရှစ်ထပ်တို့၌ အသူရကာယ်ဖြစ်သော ငရဲသူတို့သည် ရွှေအဆင်းကဲ့သို့ချည်းနှင်နှင် အသီးအသီး များစွာဖြစ်ကြကုန်၏။ ထိုနှင့်တပြိုင်နက် ဘုံနန်းဗိမာန်၊ ရေကန်ဥယျာဉ်၊ သစ်ပင်နွယ်ကြိမ်၊ တောအုံချုံမြက်၊ အိုင်အင်း တောင်ကမ်းနှင့်တကွ ဓား၊လှံ၊ ခက်ရင်း၊ ရဲတင်းပုဆိန်၊ သံတံကျင်၊ သန်လျက်၊ သနတည်းဟူသော အသုံးအဆောင်မျိုးတို့သည် ဖြစ်ကြကုန်၏။ အဝန်းယူဇနာကိုးဆယ်၊ အစောက်ယူဇနာသုံးဆယ်ရှိသော တခဲနက်သံအိုးကင်းကြီးတခု၊ ယင်းသံအိုးကင်းကြီးတခုကို အဝန်းယူဇနာ သုံးဆယ်၊ အစောက်ယူဇနာတဆယ်၊ တခဲနက်ပြီးသော သံအိုးကင်းငယ် တဆယ့်ခြောက်လုံးစီရံလျက်၊ ငရဲကြီးတထပ် တထပ်တို့ ဖြစ်ကြကုန်၏။ ထိုပြင် ထိုငရဲကြီးရှစ်ထပ်တို့တွင် တထပ်တထပ်မှာ ရှစ်မျက်နှာ၊ ရှစ်မျက်နှာတို့၌ အငယ်ဖြစ်သောဥဿဒ္ဒရက်ငရဲ၊ တမျက်နှာကို နှစ်လုံး နှစ်လုံးစီ၊ ယူဇနာတထောင့်ငါးရာစီ ခြားလျက်ရှိ၍ ဖြစ်ကြကုန်၏။'

ငရဲကြီးရှစ်ထပ်တို့တွင် မည်သို့ပင်သတ်ဖြတ် ညှဉ်းဆဲသော်လည်း၊ ကံမကုန်သမျှအဖန်ဖန်အသက်ရှည်၍ ခံရသောငရဲကား၊ သိဉ္ဇိုဝ်းငရဲတည်း။ မည်းနက်သောတမျဉ်းကြိုးဖြင့် ချတိုင်း၍ သစ်ရွေသကဲ့သို့ တကိုယ်လုံး ခုတ်ရွေ လှီးဖြတ်ခြင်းခံရသောငရဲကား ကာလသုတ်ငရဲတည်း။ သံတောင်သံခဲကြီးတို့ဖြင့် အဖန်ဖန် လိုမ့်မွှေကြိတ်ချေညှဉ်းဆဲခြင်းခံရသော ငရဲကား သင်္ဃာတ ငရဲတည်း။ မီးတောက်မီးလျှံတို့ဖြင့် အဖန်ဖန် လောင်ကျွမ်းနှိပ်စက်ခံရ၍၊ ကျယ်လောင်စွာ အော်ဟစ်မြည်ကြွေးသောအသံရှိသည့်ငရဲကား ရောရုဝငရဲတည်း။ မီးခိုးမီးအုံတို့ဖြင့် ပိတ်ဖုံးနှိပ်စက်ခံရ၍၊ ကယ်ပါယူပါ မြင်းစွာ အော်မြည်နေရသောငရဲကား၊ မဟာရောရုဝတည်း။ သံတံကျင်ကြီးတို့ဖြင့် ထိုးဖောက်ခြင်းကို ခံရ၍၊ တကိုယ်လုံးမီးလျှံစွဲအောင်သံတွေခဲထဲ၌ အမြဲကင်ပုတ်ခံနေရသောငရဲကား တာပနငရဲတည်း။ အလျှံရဲပြောင်နေသော သံတောင်ကြီးပေါ်သို့ ရိုက်နှက် မောင်းတင်ခြင်းခံနေရ၍ မြေထက်၌ စိုက်ထောင်ထားသော လှံသွားများပေါ်သို့ ဦးခေါင်းပြောင်းပြန်ကျသောငရဲကားမဟာတာပနတည်း။ မီးလျှံနှင့် ငရဲသားပါ ဆင်းရဲဒုက္ခနှင့်အတူ အကြားမရှိပြည့်နှက်သော ငရဲကားမဟာအဝီစိငရဲတည်း။

ဒေဝဒူတသုတ်အရ၊ ငရဲကြီးရှစ်ထပ်တွင်၊ တထပ် တထပ်၌ လေးမျက်နှာစီရှိရာ၊ တမျက်နှာလျှင် ဥဿဒ္ဒရက်ငရဲငယ် ငါးမျိုးစီ ခြံရံနေရကား၊ ငရဲကြီးတထပ်၏ ပတ်ဝန်းကျင်၌ ငရဲငယ်ပေါင်း ၂၀ ရှိလေသည်။ ထိုငရဲငယ်ငါးမျိုးကား၊ ဂူထပုတိက ခေါ်ဘင်ပုတ်ငရဲ၊ ကုက္ကုလုဏှခေါ် ပြာပူငရဲ၊ သိမ္ဗလိခေါ် လက်ပံတောငရဲ၊ အသိပတ္တခေါ် သန်လျက်တောငရဲ၊ ခါရောဒကခေါ် ကြိမ်ပိုက်မြစ်ငရဲဟူလေသည်။

မန်လည်ဆရာတော်ဘုရား၏ မဃဒေဝလင်္ကာစကားအရ တနည်းအားဖြင့် ငရဲငယ် ဆယ်ပါးရှိ၏။ ယင်းတို့ကား သားငါးတို့ကို ကျိုဘိသကဲ့သို့သော လောဟကုမ္ဘီခေါ် ကြေးနီအိုးငရဲ၊ သင်ဓုန်းဓားဦးဖျားကဲ့သို့ အဆူးရှိသောလက်ပံငရဲ၊ သန်လျက်ဖြင့်ဖြတ်ဆကဲ့သို့သော အသိခနငရဲ၊ ပွက်ပွက်လျှံဝေ၊ ကြေးနီရေဖြင့်လောင်းသကဲ့သို့သော တမ္ဗောဒကငရဲ၊ မီးကျီလျှံသို့ပူသော အယောဂုဠငရဲ၊ သံမီးရောင်ထသော ကျောက်တောင်ကဲ့သို့သော သေလပဗ္ဗတငရဲ၊ ဆူပွက်သည့် မြစ်ချောင်းကဲ့သို့ သော ဘုသနဒီငရဲ၊ ရိုးတွင်းခြင်ဆီ ချင်းအောင်အေးသော သီတနဒီငရဲ၊ ခွေးဘီလူးတို့ ကိုက်ခဲသော

ခွေးငရဲ၊ သွေးချောင်းစီးသောယန္တပါသာငရဲဟူသတည်း။

သိုးဆောင်းစာပေတွင် ဒန်တီ၏ ငရဲခန်းသည် ထင်ပေါ်ကျော်ကြားသကဲ့သို့ မြန်မာစာပေတွင် မြန်မာသက္ကရာဇ် ၉၀၀ ခန့်က ရှင်အဂ္ဂသမာဓိ ရေးသားသော နေမိငရဲခန်းပျို့သည် ထင်ပေါ်ကျော်ကြားပေသည်။ ရှင်အဂ္ဂသမာဓိသည် နေမိဇာတ်တော်ကိုနိက္ခမခန်း (နေမိမဂ္ဂစိုးခန်း) ပျို့၊ ငရဲခန်းပျို့၊ ဘုံခန်းပျို့ဟူ၍ သုံးပိုင်းခွဲကာ ပျို့သုံးစောင် စီရင်ခဲ့ရာ၊ ယင်းပျို့သုံးစောင်စလုံးသည် မြန်မာစာပေသမိုင်းတွင်ဥဒါန်းတွင် ရစ်ခဲ့ပေသည်။ အထူးသဖြင့် ငရဲခန်းပျို့ နှင့် ဘုံခန်းပျို့တို့ကို 'ငရဲခန်းကချောက်လှန့်သည်၊ ဘုံခန်းကမြှောက်လှန့်သည်' ဟုမြန်မာတို့ဆိုစမှတ်ပြုကြကုန်၏။ သို့သော် ရှင်အဂ္ဂသမာဓိ၏ ရည်ရွယ်ချက်ကား ငရဲခန်း၌ သတိသံဝေဂ ရကြစေ၍၊ ဘုံခန်း၌ ကောင်းမှုကုသိုလ်ဖြင့် ကောင်းမြတ်ရာသုဂတိသို့လားကြရန်ရည် သန်ရင်းဖြစ်လေရာ၊ အထူးသဖြင့်ငရဲခန်းကို ထိတ်လန့်၍ကြက်သီး မွေးညှင်း ထလောက်သော စကားတို့ဖြင့် ဖွဲ့နွဲ့စပ်ဆိုခဲ့လေသည်။ ငရဲ၏ဒုက္ခကို လူတို့စိတ်၌ ကွင်းကွင်းကွက်ကွက် ပေါ်လေအောင်ဖွဲ့နွဲ့ရာ၌ 'မျက်ဆန်ခါတုတ် လေ၏တည်း၊' 'အရေခွာဆုတ် လေ၏တည်း၊' 'လွှေလွှေသတ်ပုတ် လေ၏တည်း၊' 'ဦးခေါင်းဖြတ်ခုတ်လေ၏တည်း၊' 'ဆင်းရဲ အလှေအလှောင်းတည်း၊' 'ကြေးဟာစ်ငိုကြ သောင်းသောင်းတည်း၊' ဟူသော သာမန်အရပ်သူ အရပ်သားတို့ အဓိပ္ပါယ် သိလွယ်မြင်လွယ်သော စကားတို့ကို သုံးနှုန်းထားလေရာ၊ လူ၏စိတ်ကို များစွာထိခိုက်စေလေသည်။ ယင်းသို့ သံဝေဂတရား ပွားများစေသောစိတ်ကို နှိုးဆွပြီးမှ၊

'ထွေထွေပြားပြား၊ မှတ်သားကုန်ပါ၊ လူတကာတို့၊ ဇရာမရဏ၊ အနိစ္စသည်၊ မြဲမတည်တည့်၊ လူ့ပြည်နတ်ရွာ၊ ဗြဟ္မာမလွတ်၊ ဖြစ်ပျက်တတ်၏။ လူနတ်ဗြဟ္မာ၊ သတ္တဝါတို့၊ ခန္ဓာဟူသည်၊ အတည်မရ၊ မရဏတည့်၊ ဒုက္ခရောက်မည်၊ အမှတ်တည်၍၊ ရွှေပြည်နိဗ္ဗာန်၊ ချမ်းသာမွန်သို့၊ အမှန်ရောက်ကြောင်း၊ ဘုန်းသစ်လောင်း၍၊ ကောင်းကောင်းကျင့်ကုန်ရာ၏တည်း။' ဟု သံသရာဝဋ်ဆင်းရဲ အပေါင်းမှ လွတ်ကင်းရာ လွတ်ကင်းကြောင်းကို ညွှန်ပြလေသည်။ (ရှင်အဂ္ဂသမာဓိ — ရှု။)

**ငရဲမီး။** ။မြန်မာ့အခေါ်အားဖြင့် ငရဲမီးသည် ဝတ္ထုပစ္စည်းများကိုစားနိုင်သော အက်ဆစ် များကိုဆိုလိုသည်။ အက်ဆစ်အမျိုးမျိုးရှိကြသော်လည်း ယင်းတို့အားလုံးကို ငရဲမီးဟူ၍ မခေါ်ကြပေ။ အထူးအားဖြင့် ဆာလဖျူရစ်အက်ဆစ်၊ နိုက်ထရစ်အက်ဆစ်၊ ဟိုက်ဒရိုကလောရစ် အက်ဆစ်တို့သည် ဝတ္ထုပစ္စည်းများကိုစားနိုင်ကြသဖြင့် ယင်းတို့ကို ငရဲမီးဟု ခေါ်လေ့ရှိသည်။

နိုက်ထရစ်အက်ဆစ်သည် ကြေးနီ၊ သွပ်၊ သံ၊ ငွေသတ္တု၊ ပြဒါး ကဲ့သို့သော သတ္တုများကို စားနိုင်သည်။ ထို့ပြင် နိုက်ထရစ်အက်ဆစ် တဆကို ဟိုက်ဒရိုကလောရစ်အက်ဆစ် ၃ ဆနှင့် ရောလိုက်လျှင် ရွှေ၊ ပလက်တီနမ်၊ တိုင်တေးနီယမ်၊ တန်တလမ်ကဲ့သို့သော အဖိုးတန်သတ္တုများကိုပင်လျှင် စားပစ်နိုင်သည်။ နိုက်ထရစ်အက်ဆစ်နှင့်ဟိုက်ဒရိုကလောရစ် အက်ဆစ်အရောကို လက်တင်ဘာသာအားဖြင့် အက်ကွာရီဂျီးယား ဟုခေါ်သည်။ ဟိုက်ဒရိုကလောရစ် အက်ဆစ်တမျိုးတည်းကလည်း ကြေးနီ၊ ငွေသတ္တု၊ သွပ်ကဲ့သို့သော သတ္တုများကို စားပစ်နိုင်သည်။ အထူးသဖြင့် ဟိုက်ဒရိုကလောရစ်အက်ဆစ်ကို ဂဟေဆက်ရာတွင် အသုံးပြုကြသည်။ ဗလောက်လုပ်သူများသည်လည်း ထိုအက်ဆစ်ကို များစွာ အသုံးပြုကြလေသည်။

နိုက်ထရစ်အက်ဆစ်သည် သတ္တုများကိုသာ မဟုတ်သေး၊ အသားအရေနှင့်အသီးအနှံများကိုလည်း စားနိုင်ပေသည်။ ဆာလဖျူရစ်အက်ဆစ်ကလည်း မက်ဂနီဇီယမ်၊ သွပ်၊ ခဲ၊ ကြေးနီ၊ ပြဒါး၊ ငွေကဲ့သို့သောသတ္တုများကို စားနိုင်သည်။ ထို့ကြောင့် ထိုငရဲမီးများကို စက်မှု လက်မှု လုပ်ငန်းများတွင် အမြောက်အမြား အသုံးပြုကြလေသည်။ မြန်မာ



ပြည်သူပိုင် ကန့်ငရဲမီးစက်ရုံ

ကမာရွတ်နှင့် ကြည့်မြင်တိုင်အကြား လှိုင်မြစ်ကမ်းပေါ်တွင် တည်ရှိ၍ မြန်မာအမျိုးသား ဒေါက်တာအုန်းတင်က ၁၉၅၃ ခုနှစ်တွင် တည်ဆောက်ခဲ့သည်။ ၁၉၆၈ ခုနှစ်တွင် ပြည်သူပိုင် သိမ်းယူခဲ့သည်။



အသီးပုငရုတ်ပင်



အသီးရှည်ငရုတ်ပင်

ဝေါဟာရ၌ သေနတ်ကျည်ဆန်၏ နောက်ပိတ်ယမ်းခွက်ကိုလည်း ငရဲမီးဟုဆိုလိုသည်။ (ဆာလဖျူရစ်အက်ဆစ်၊ နိုက်ထရစ်အက်ဆစ်၊ ဟိုက်ဒရိုကလောရစ်အက်ဆစ်—လည်းရှု။)

**ငရုတ်။** ။ငရုတ်ပင်ကို ရုက္ခဗေဒအလိုအားဖြင့် 'ကက်ဆီကမ်းအန်နျူအမ်း' ဟုခေါ်သည်။ ငရုတ်စေ့များကို ဖေပြီလမှဇွန်လအထိပျိုးခင်းများ၌ကြဲပေးရသည်။ စတုရန်း ၁ဝ ပေတွင် ငရုတ်စေ့ ၅ အောင်စ ကြဲလျှင်သင့်၏။ အပင်ကလေးများထွက်လာ၍လေးလက်မခန့်မျှမြင့်လျှင် ပြောင်း၊ ရွှေ့၍ အတန်းလိုက်တပင်နှင့်တပင်ကို ၁၂ ပေခန့် ခြားကာစိုက်ပေးသင့်သည်။

မြေဩဇာကောင်းသောနေရာ၌ ငရုတ်ပင်စိုက်ပျိုးလျှင် ဖြစ်ထွန်းသည်။ ဆောင်းတွင်းအတွက် မြေဩဇာထည့်ပေးပြီးသားဖြစ်လျှင် နောက်ထပ်ထည့်ပေးရန်မလိုချေ။ သို့ရာတွင် လွန်ခဲ့သည့်ခြောက်လအတွင်းမှာ မြေဩဇာမထည့်ရသေးလျှင် ငရုတ်ပင်များကိုမစိုက်မီ မြေဩဇာထည့်ပေးသင့်သည်။ ရာသီဥတုခြောက်သွေ့နေပါက ၇ ရက်တပတ်လျှင် တကြိမ်ကျ ရေလောင်းပေး သင့်သည်။ ပေါင်းသင်ပေးမှ အပင်များ သန်စွမ်းနိုင်သည်။

မိုးတွင်းနှင့်ဆောင်းတွင်းတွင်အသီးများရင့်မှည့်ကြသည်။ ငရုတ်သီးသည် အရှည် ၁ လက်မနှင့် ၁½ လက်မခန့်ရှိသည်။ အတွင်း၌အစေ့ပြားကလေးအများရှိသည်။ ငရုတ်သီးသည် အလွန်စပ်ပြီး သနပ်၊ လက်သုတ်စုံ စသည်တို့တွင် အနံ့အရသာအတွက်အသုံးပြုကြသည်။ ငရုတ်သည် ဆေးများဖော်စပ်ရာ၌လည်း အသုံးဝင်သည်။ ငရုတ်ကာလီ၊ ငရုတ်ဖရုံ၊ ငရုတ်မိုးမျှော်နှင့် ငရုတ်ရွှေအပ်ဟူ၍ငရုတ်အမျိုးမျိုးရှိသည်။

**ငရုတ်ကောင်းပင်။** ။ငရုတ်ကောင်းပင်သည် သစ်ပင်များကို နွယ်၍ပေါက်တတ်သော နွယ်ပင်မျိုးဖြစ်သည်။ ရုက္ခဗေဒအရ 'ပိုက်ပါနီဂရမ်' ဟုခေါ်သည်။ အသီးကိုမရင့်မှည့်မီခူး၍ အခြောက်လှန်းပြီး ကြိတ်လျှင် ငရုတ်ကောင်းအမည်းမှုန့်ကိုရသည်။ အသီးမှည့်ကိုဖြစ်စေ၊ အသီးနက်အခွံခြောက်ကိုဖြစ်စေ ကြိတ်လျှင် ငရုတ်ကောင်းအဖြူမှုန့်ကို ရသည်။

ငရုတ်ကောင်းပင်၏ မူလပေါက်ရောက်ရာအရပ်မှာ အိန္ဒိယနိုင်ငံဖြစ်သည်။ ထိုနိုင်ငံမှတဆင့် ဂျားဗားကျွန်း၊ ဆူမတြားကျွန်း၊ ဗော်ညိုကျွန်း၊ ဖိလစ်ပိုင်ကျွန်း၊ မလ္လာယုကျွန်းဆွယ်၊ ယိုးဒယားနိုင်ငံနှင့် အနောက်အိန္ဒိယကျွန်းစုအစရှိသောအရပ်ဒေသများသို့ ရောက်သွားသည်။ ငရုတ်ကောင်းအမြောက်အမြား တင်ပို့ရောင်းချသောအရပ်မှာ စက်ဘပူမြို့ဖြစ်သည်။

ရှေးခေတ်အခါက ဥရောပတိုက်သားကုန်သည်ကြီးများသည် ငရုတ်ကောင်းကို စမဲအမွှေးအကြိုင်အဖြစ် တန်ဖိုးထားကာ ယင်းကိုရလို၍ အိန္ဒိယနိုင်ငံနှင့် ကုန်ကူးသန်းခဲ့ကြသည်။ ယင်းသို့ ကုန်ကူးသန်းခဲ့ကြရာမှ ပေါ်တူဂီလူမျိုးတို့သည် ဥရောပတိုက်မှ အာဖရိကတိုက် တောင်ဖက်စွန်းကိုလှည့်ပတ်၍ အိန္ဒိယနိုင်ငံသို့ ရောက်ရှိနိုင်သောရေလမ်းခရီးကို တွေ့ရှိခဲ့သည်ဟုဆိုသည်။

ပိတ်ချင်းခေါ် ငရုတ်ကောင်းတမျိုးလည်း ရှိသေးသည်။ ရုက္ခဗေဒအမည်မှာ 'ပိုက်ပါလောင်ဂမ်' ဖြစ်၍ ငရုတ်



ငရုတ်ကောင်းရွက်နှင့်အသီးပုံ

ကောင်းအရည်မျိုးဖြစ်လေသည်။ ပိတ်ချင်းကို ဘယဆေး ဖော်စပ်ရာ၌ အသုံးပြုကြသည်။ အိန္ဒိယနိုင်ငံတောင်ပိုင်း၊ အာသံပြည်နယ်၊ သီဟိုဠ်ကျွန်းနှင့် မြန်မာနိုင်ငံတို့တွင် အများအပြားစိုက်ပျိုးကြသည်။

**ငရံ့**။ ။ငရံ့မျိုးတွင်ငရံ့အောက်၊ ငရံ့ဒိုင်း၊ ငရံ့ခေါင်းတို၊ ငရံ့ပနော်၊ ဒေအုံးမတို့ပါဝင်သည်။ ထိုငရံ့မျိုးတို့သည် 'အိုဖီယိုဆီဖာလီဒေး' ငါးမျိုးရင်းတွင်ပါဝင်ကြ၏။ တမျိုးနှင့်တမျိုးပုံသဏ္ဌာန်ချင်းတူကြသော်လည်း အရောင်အဆင်းမှာမူကားကွဲပြားခြားနားကြသည်။ ကိုယ်အရှည် ၃ ပေအထိရှိသည်။ မြန်မာနိုင်ငံ၌မြေပြန့်ရာအရပ်များတွင် ငရံ့တို့ကိုတွေ့ရှိရသည်။

ငရံ့ကိုယ်သည်ခပ်လုံးလုံးရှိ၍ အမြီးဖက်သို့ရှူးသွားသည်။ ခေါင်းသည်မြွေခေါင်းကဲ့သို့ပြားသည်။ အမြီးထိပ်သည် ဝိုင်း၏။ ကိုယ်ဘေးကြောင်းသည် ထင်ရှားပေါ်လွင်၏။ အညိုစင်းများနှင့်အကွက်များသည် တကိုယ်လုံး၌ထင်ရှားလျက်ရှိ၏။ ကျောဆူးတောင်နှင့် ဝမ်းဆူးတောင် တို့တွင် အဆူးများသည်တခုနှင့်တခုဆက်နေကြသည်။

ငရံ့သည် ငပြေမကဲ့သို့ လေထဲမှ အောက်ဆီဂျင်ကိုတိုက်ရိုက်ရှူနိုင်၏။ စွတ်စိုသောကုန်းမြေ၌ ခရီး အတန်ဝေးဝေးသွားနိုင်၏။ ငရံ့ကိုချက်ပြုတ်စားကြသည့်အပြင် ငပိငခြောက်လည်းလုပ်ကြသည်။

**ရှဉ့်**။ ။ရှဉ့်သည်ရှည်လျား၍ ချောသည်။ ရုတ်တရက်ကြည့်လိုက်လျှင် ငါးဟုမည်သူမှ မထင်ဘဲ၊ ရေမြွေတမျိုးဟု



အထက်ပုံ။ ။ငခြောက်လုပ်ရန်အသုံးဝင်လှသည့်ငရံ့

အောက်ပုံ။ ။မြွေနှင့်တူသော်လည်းရေချိုငါးမျိုးဝင်ဖြစ်သည့်ရှဉ့်

ထင်မှတ်မှားကြသည်။ ရှဉ့်သည်စင်စစ်ရေချိုငါးသာဖြစ်၍ ချောင်း၊ မြောင်း၊ အင်းအိုင်များမှာ ရှဉ့်တို့၏မူလနေရပ်များဖြစ်သည်။ ဆောင်းဦးပေါက်လာလျှင် ရှဉ့်တို့သည် မြစ်ချောင်းများမှ ပင်လယ်သို့ဆင်းလာကြသည်။ ယင်းသို့ဆင်းရာ၌ ညဖက်တွင် ခရီးပို၍ သွားကြသည်။ နေ့အခါတွင် တစုတအုပ်တည်းရေအောက်ရှိ ရွှံ့နွံထဲတွင်ပုန်းလျှိုး၍နေလေ့ရှိကြသည်။ ညမှောင်စ အချိန်သို့ရောက်သည်နှင့် ခရီးဆက်သွားကြပြန်သည်။ ပင်လယ်သို့ရောက်သောအခါ ကမ်းခြေတလျှောက်တွင်သာမက ရေနက်သောနေရာများ၌လည်း ကျက်စားကြသည်။

ရှဉ့်တို့သည် ပင်လယ်ထဲတွင် ဥအုကြပြီး၊ ပင်လယ်ထဲမှာပင်သေကြေပျက်စီးကြသည်။ ရှဉ့်ဥများသည် အကာအကွယ်ကင်းလျက် ထိုမှဤမှမျောနေလေ့ရှိသည်။ ရှဉ့်ဥပေါင်းများစွာကို ပင်လယ်သတ္တဝါအမျိုးမျိုးက စားပစ်လိုက်ကြသည်။ ကျန်ရစ်သောဥများမှ အချိန်တန်သောအခါ ရှဉ့်ကလေးများပေါက်လာကြသည်။

ရှဉ့်ကလေးများသည် ဥမှပေါက်လာသည့်အခါတွင်သေးငယ်ပြီး၊ ပြားသောပုံသဏ္ဌာန်ရှိကြသည်။ ပဌမ နှစ်လခန့်တွင် ရှဉ့်ကလေးသည် ၃ လက်မခန့်ရှိသည်။ ထိုနောက် အနည်းငယ်မျှပြန်၍ငယ်သွားကြသည်။ အရောင်လည်း အညိုရောင်သို့ ပြောင်းသွားသည်။ ထိုအခါမှ ရှဉ့်နှင့်ပုံပန်းသဏ္ဌာန် တူလာတော့သည်။ သာမန်ရှဉ့်၌ ကျဉ်းမြောင်းသောဦးခေါင်း၊ တိုသောမေးရိုးနှင့် ရှည်လျားသောကိုယ်ရှိသည်။ လည်မျိုနားတွင်လည်း ဆူးတောင် ၂ ခုပါရှိသည်။ ထိုဆူးတောင် ၂ ခု အပြင် နောက်ကျောအလယ် အမြီးနားတဝိုက်လောက်ဆီမှ အစာအိမ် အလယ်ပိုင်း လောက်အထိ တဆက်တည်းဖြစ်နေသော ဆူးတောင်တမျိုးသည်လည်း ရှိသေးသည်။

ရှဉ့်ငယ်သည် ရှဉ့်ကြီးအဖြစ်သို့ ပြောင်းလဲသွားသည်နှင့်တပြိုင်နက်ရေချိုရပ်များသို့စတင်ခရီးထွက်တော့သည်။ ရေချိုဒေသများဖြစ်သည့် ချောင်းမြောင်း၊ အင်းအိုင်တို့သို့ ရောက်လျှင် ရှဉ့်သည်ထပ်မံကြီးထွားလာသည်။ ပင်လယ်မှ ရေချိုဒေသသို့ခရီးထွက်ရာတွင် လမ်းခရီး၌မကျော်ဖြတ်နိုင်သော ရေတံခွန်၊ ချောက်စသည်တို့နှင့်တွေ့လျှင် ရှဉ့်သည် ရေထဲမှထွက်လာကာ မြက်စိုများရှိရာအရပ်ကို ကျော်ဖြတ်၍ အလိုရှိသော ချောင်းမြောင်းများရှိရာအရပ်သို့ အရောက်သွားလေ့ရှိသည်ဟုအဆိုရှိလေသည်။

ရှဉ့်တို့သည် အစုအအုပ်နှင့်ချီ၍ တနေရာမှ တနေရာသို့ သွားတတ်သဖြင့် အစုလိုက် အအုပ်လိုက် ဖမ်းဆီးရမိရန် များစွာလွယ်ကူသည်။ ရိုးရိုးရှဉ့်မှာ အလျား ၂ ပေမှ ၃ ပေအထိရှိသည်။ ပင်လယ်ထဲ၌နေသော ရှဉ့်ကြီးများမှာ ၆ ပေကျော်အထိရှည်လျားသည်။

မြန်မာနိုင်ငံ၌ တွေ့ရသောရှဉ့်မျိုးတို့မှာ ငရှဉ့် (အမ်ဖီနပ်ကုချီယား)၊ ငမြီးထောင် (အင်္ဂလိပ်လားဗင်ဂလန်ဆစ်)၊ ငရှည်ကျား (အင်္ဂလိပ်လားဗိုင် ကာလာ) ဖြစ်ကြသည်။ ပဌမနှစ်မျိုးသည် ရေချိုငရှဉ့်မျိုးဖြစ်၍ တတိယအမျိုးမှာ ပင်လယ်ငရှဉ့်မျိုးဖြစ်သည်။ ငရှဉ့်အသားမှာ အရသာရှိ၏။ မြန်မာတို့သည်ငရှဉ့်ကိုကင်၍၎င်း၊ ချက်၍၎င်းစားကြသည်။



မြိတ်မြို့အနီးပင်လယ်ပြင်မှဖမ်းဆီးရမိသောလိပ်ကျောက်

**လေိပ်ကျောက်။** ။လေိပ်ကျောက်သည် ငမန်းနှင့်အတူမျိုးစဉ်တခုတည်းဝင်ပင် ဖြစ်သော်လည်း ငမန်းနှင့်အသွင်ကွဲ၏။ ကိုယ်ရောခေါင်းပါပြားရုံမက ရင်ဆူးတောင် များသည်လည်းပြားပြီး ဘေးတဖက်တချက်သို့ ကားထွက်နေသည်။ ပုံသဏ္ဌာန်အားဖြင့်လေိပ်ကျောက်သည် ကစားစရာစွန်နှင့်သော်၎င်း၊ ယပ်တောင်နှင့်သော်၎င်းတူ၏။ အခြားငမန်းများနှင့်မတူသောထူးခြားချက်မှာ ယင်း၌ကျောပွတ်နှင့်တူသည့်အမြီးပါရှိခြင်းဖြစ်သည်။ ယင်းကိုလိပ်ကျောက်မြီးဟုခေါ်သည်။ ကျောဆူးတောင်သည်အမြီးရင်းနားတွင်ရှိ၍ စအိုဆူးတောင် အလျှင်းမရှိချေ။ လိပ်ကျောက်မျိုးဝင်ဖြစ်သော လိပ်ကျောက်တံခွန်၏ အမြီး၌ ရန်သူကိုပြင်းထန်စွာ အဆိပ်တက်အောင် ထိုးနိုင်သော လိပ်ကျောက်ဆူးရိုးတချောင်းဖြစ်စေ၊ နှစ်ချောင်းဖြစ်စေပါရှိသည်။ လိပ်ကျောက်ဆူးကို မြန်မာတို့ဆေးဖော်ရန်အသုံးပြုကြ၏။

လိပ်ကျောက်မျိုးတွင် လိပ်ကျောက်တံခွန်၊ လိပ်ကျောက်တင်မဲ၊ လိပ်ကျောက်နှာမောင်းတို၊ လိပ်ကျောက်ထမင်းနဲ့၊ လိပ်ကျောက်စွန်၊ လိပ်ကျောက်စွန်မောင်ရှင်၊ လိပ်ကျောက်စွန်မီးသောက် တို့ပါဝင်ကြသည်။

လျှပ်စစ် လိပ်ကျောက် ဟူသော လိပ်ကျောက်မျိုး၏ထူးခြားချက်မှာ ရန်သူကိုသော်၎င်း၊ စားမည့် သားကောင်ကိုသော်၎င်း၊ လျှပ်စစ်ဓာတ်လိုက်သွားအောင်ပြုနိုင်ခြင်းဖြစ်သည်။ လျှပ်စစ်လိပ်ကျောက်မှလွှတ်သောလျှပ်စစ်ဓာတ်အားသည် လူတယောက်ကိုပင်သေစေနိုင်လောက်သည်။

**လျှောင်တိုင်းကရိယာ။** ။ဆိဆမိုဂရပ်ခေါ် လျှောင်တိုင်းကရိယာဆိုသည်မှာ မြေလျှောင်လှုပ်ခြင်းကို တိုင်းတာသောကရိယာဖြစ်၏။ ဤကရိယာကိုအသုံးပြု၍ လျှောင်မည်သည့်အချိန်၌လှုပ်သည်၊ မည်သည့်နေရာ၌လှုပ်သည်၊ မည်မျှပြင်းထန်စွာလှုပ်သည် တို့ကို သိရှိနိုင်ပေသည်။ ထိုကရိယာသည် မြေလျှောင်လှုပ်သည့်နေရာနှင့် ခရီးမိုင်ပေါင်းများစွာကွာဝေးစေကာမူ မည်သည့်အရပ်တွင်စတင်၍ လျှောင်လှုပ်ကြောင်းကို အတိအကျပြသနိုင်ပေသည်။ ရှေးအကျဆုံးလျှောင်တိုင်းကရိယာသည် အေဒီ ၁၃၂ ခုနှစ်က ချန်ဟိန်းဆိုသူတရုပ်ပညာရှိကြီးတီထွင်သော ကရိယာဖြစ်သည်။ ထိုကရိယာတွင် ချိန်သီးတခုပါရှိ၍ ထိုချိန်သီးကို အရပ်ရှစ်မျက်နှာသို့လှုပ်ရှားနိုင်စေရန် လမ်းကြောင်းများ လုပ်ထား၏။ ထိုလမ်းကြောင်းများပေါ်တွင် သတ္တုလုံးများတင်ထား၏။ ချိန်သီးက လာ၍ရိုက်သောအခါ ထိုသတ္တုလုံးတို့သည် အောက်ခံခွက်ထဲသို့ သူ့လမ်းကြောင်းအတိုင်းကျဆင်းကုန်၏။ ဤသို့ဖြင့် လျှောင်လှုပ်သောအရပ်မျက်နှာကို သိနိုင်အောင်စီမံထားလေသည်။

လျှောင်တိုင်းကရိယာ အမျိုးမျိုးရှိ၏။ ယင်းတို့၏အခြေခံသဘောမှာ ချိန်သီး၏ သဘောမျိုးပင်ဖြစ်သည်။ လျှောင်တိုင်းကရိယာတွင် ဘောင်နှင့်ချိန်သီးပါရှိ၏။ ချိန်သီးကို



ဆိဆမိုဂရပ်ခေါ် လျှောင်တိုင်းကရိယာ



လျှင်တိုင်းကရိယာအတွင်းရှိ အရေးပါသောအစိတ်အပိုင်းများ

ဘောင်တွင် တွဲလောင်းဆွဲထားသည်။ လျှင်လှုပ်သောအခါ ဘောင်သာလျှင်လှုပ်ရှား၍ ချိန်သီးမှာမူမလှုပ်ရှားဘဲ တည်ရှိနိုင်၏။ ချိန်သီးထိပ်တွင်ခြစ်တံတခုတပ်ထား၍ ထိုခြစ်တံသည် မြေကြီးနှင့်အတူလိုက်၍ လှုပ်နေသောစက္ကူပေါ်၌ မျဉ်းကောက်ကိုထင်စေ၏။ စက္ကူသည် ဘီးလုံးပေါ်တွင် ရစ်ပတ်လျက်ရှိသည်။ ထိုဘီးလုံးသည် လည်ပတ်နိုင်၍ ရွေ့သို့လည်းရွေ့ရှားနိုင်၏။ ဤသို့ဖြင့် ခြစ်တံသည် စက္ကူပေါ်၌ မျဉ်းကြောင်းကို အဆက်မပြတ် ထင်စေနိုင်သည်။

ပို၍ကောင်းမွန်သော အမှတ် အသားများကို ရရှိစေရန် ရိုးရိုးစက္ကူကိုမသုံးဘဲ ဓာတ်ပုံကူးစက္ကူကို အသုံးပြုရသည်။ ခြစ်တံအစား ကြည့်မှန်မှ ရောင်ပြန်ဟပ်သော အလင်းရောင်ကို အသုံးပြုသည်။ ထိုပြင် ကြည့်မှန်ကို ချိန်သီးတွင်တိုက်ရိုက်မတပ်ဆင်ဘဲ၊ လှုပ်ရှားမှုကို အကြီးချဲ့ပေးနိုင်သော မောင်းတံများတွင် တပ်ဆင်ထား၏။ ဤသို့ဖြင့် သာမန်မသိရှိနိုင်သော လှုပ်ရှားမှုများကိုပင် အကြီးချဲ့၍ သိရှိနိုင်ပေသည်။ ယခုအခါ လျှင်တိုင်းကရိယာများကို လျှပ်စစ်ဓာတ်ဖြင့် စီမံထားရာ လျှင်လှုပ်ခြင်းကို ပို၍တိကျအောင် တိုင်းတာယူနိုင်ကြပေပြီ။

**လျှင်လှုပ်ခြင်း။** ။လျှင်လှုပ်ခြင်းသည် ကမ္ဘာမြေပြင်တုန်ခြင်း ခါခြင်းဖြစ်သည်။ မီးရထားနှင့် လေးလံသောယာဉ်များ သွားလာသောအခါ အနီးအနားကမြေပြင်သည် တုန်သွားတတ်သည်။ သို့ရာတွင် ယင်းသို့တုန်ခြင်းကို လျှင်လှုပ်သည်ဟု မဆိုပေ။ ခရီးဝေးလံစွာ ပျံ့နှံ့သွားသော သဘာဝအလျောက် မြေကြီးလှုပ်ရှားမှုမျိုးကို သာလျှင် လျှင်ဟူ၍ ဆိုပေသည်။ ကမ္ဘာမြေ၏ အပေါ်ယံတွင် ကျောက်ထပ်ကျောက်လွှာများရှိကြသည်။ ထိုကျောက်ထပ်ကျောက်လွှာတို့သည် တခုကိုတခုအားကြီးကြီးဖြင့်ဖိကြတိုက်ကြသောအခါကွဲပြတ်ကုန်ကြသည်။ ယင်းသို့ကျောက်တို့ကွဲပြတ်ရာမှ ဖြစ်ပေါ်သောတုန်ခါမှုသည် ခရီးမိုင်ထောင်ပေါင်းများစွာသို့ ပျံ့နှံ့သွားနိုင်သည်။ လျှင်လှုပ်ရှားခြင်းသည် မီးတောင် ပေါက်ကွဲ လှုပ်ရှားခြင်းကြောင့်လည်းဖြစ်နိုင်၏။ သို့သော် မီးတောင်ပေါက်ကွဲခြင်းမှာ သေးငယ်သောအကြောင်း တခုသာလျှင်ဖြစ်၏။ (မီးတောင် — ရှု။)

လျှင်လှုပ်သောအခါ လျှင်လှိုင်းများဖြစ်ပေါ်လေသည်။ ထိုလျှင်လှိုင်းများသည် ကျောက်ထုလွှာတွင် အမြန်နှုန်းအမျိုးမျိုးဖြင့် ပတ်ဝန်းကျင်သို့ ပျံ့နှံ့သွားကြသည်။ ရပ်ဝေးသို့ ပဌမဦးဆုံးရောက်သော လှိုင်းသည် ကမ္ဘာမြေကြီး၏ အလယ်ဗဟိုသို့ ကွေ့ကောက်၍ ဆင်းသောလှိုင်းဖြစ်သည်။ ကမ္ဘာမြေကြီး၏ အလယ်ဗဟိုတွင် ကျောက်ထုများ သဖြင့် လျှင်လှိုင်းသည် ထိုဒေသ၌ ပို၍လျင်မြန်စွာ သွားနိုင်၏။ ထိုလျှင်လှိုင်းကို သုံးမျိုးခွဲထားသည်။ ပဌမလှိုင်းမျိုးသည် လှိုင်းသွားရာလမ်းတွင် အလျားလိုက်တုန်ခါ၍ သွားသည်။ ထိုလှိုင်းကြောင့် မြေကြီးထဲက ကျောက်တို့သည် လက်နှစ်ဖက်ဖြင့် ကိုင်ထားသော သားရေကြိုးကို အလယ်မှရိုက်ပေးလိုက်သောအခါ တုန်ခါသကဲ့သို့ တုန်ခါကြသည်။ ထိုလှိုင်း၏အမြန်မှာ တစက္ကန့်လျှင် ၅ မိုင်ဖြစ်သည်။ ဒုတိယလှိုင်းမျိုးမှာ လှိုင်းသွားရာလမ်းကို ကန့်လန့်ဖြတ်တုန်ခါ၍သွား၏။ ထိုလှိုင်းကြောင့် ကျောက်တို့သည် သားရေကြိုးကို မရိုက်ဘဲ လိမ်ပေးလိုက်သောအခါ တုန်ခါသကဲ့သို့ တုန်ခါကြသည်။ ထိုလှိုင်း၏အမြန်မှာ တစက္ကန့်လျှင် ၃ မိုင်မျှရှိ၏။ တတိယလှိုင်းမျိုးမှာ ကမ္ဘာမြေပြင်၌သွားသော လှိုင်းမျိုးဖြစ်သည်။ ထိုလှိုင်းမျိုးသည် ရေထဲ၌ ခဲတလုံးချလိုက်သောအခါ ဖြစ်ပေါ်သော လှိုင်းများနှင့်တူသည်။ ယင်း၏အမြန်မှာ တစက္ကန့်လျှင် ၂ မိုင်မျှရှိ၏။ အဓိကအားဖြင့် လျှင်ကြောင့် ပျက်စီးမှုများသည် ထိုတတိယလှိုင်းမျိုးကြောင့်ဖြစ်သည်။

သမုဒ္ဒရာအောက်တွင်လှုပ်သောလျှင်များလည်းရှိသည်။ ထိုလျှင်မျိုးကို ဂျပန်လူမျိုး လျှင်ပါရဂူများက ဆုနာမိဟု ခေါ်ကြ၏။ ထိုရေအောက်လျှင်များကြောင့် အမြင့်ပေပေါင်း ၄၀ မျှရှိသော လှိုင်းလုံးကြီးများ ဖြစ်ပေါ်၏။ ထိုလှိုင်းကြီးများသည် ကုန်းပေါ်သို့တက်၍ အဆောက်အအုံများနှင့် အသက်ပေါင်းများစွာကို ဖျက်ဆီးပစ်နိုင်သည်။

လျှင်လှုပ်ခြင်း အကြောင်းရပ်များကို လေ့လာသော ပညာကို ဆိဆမိုလိုဂျီ ဟုခေါ်သည်။ လျှင်ကိုတိုင်းသော ကရိယာကို ဆိဆမိုဂရပ်ဟုခေါ်သည်။ (လျှင်တိုင်းကရိယာ — ရှု။) ထိုလျှင်တိုင်းကရိယာကို ကမ္ဘာအရပ်ရပ်တွင်

ထား၍ တနှစ်အတွင်း နေ့စဉ်လှုပ်ရှားသော ငလျင်များကို မှတ်သားနိုင်၏။ ကမ္ဘာမြေကြီးသည် ဘယ်သောအခါမှ တည်ငြိမ်ခြင်းမရှိဘဲအမြဲပြောင်းလဲလျက်ရှိသဖြင့် နေ့စဉ်လိုပင် ငလျင်လှုပ်ရှားခြင်းရှိ၏။ အချို့ငလျင်မှာ အားပျော့လွန်းသဖြင့် အလွန်တရာသိမ်မွေ့သော ကရိယာဖြင့်သာ တိုင်းတာနိုင်ပေသည်။ အချို့ငလျင်မှာမူ ပြင်းထန်လှသဖြင့် အသက်အိုးအိမ်များစွာဆုံးရှုံး ပျက်စီးကြရသည်။

ငလျင်လှုပ်သဖြင့် ကမ္ဘာမြေမျက်နှာပြင်သည် ပြောင်းလဲသွားနိုင်၏။ ငလျင်ကြောင့် အချို့ဒေသများတွင် ပပ်ကြားအက်ကြောင်းကြီးများ ဖြစ်ပေါ်လာ၏။ အချို့ဒေသတွင် အဆောက်အအုံများ ပြိုကျ၍ မီးအကြီးအကျယ်လောင်၏။ ပင်လယ်ကမ်းစပ်ရှိ ဒေသတို့တွင် ပင်လယ်မှလှိုင်းလုံးကြီးများ တက်လာ၍ လွှမ်းမိုးသွား၏။ အချို့ဒေသတွင် ရှိရင်းစွဲအင်းအိုင်များ ပျောက်၍ အင်းအိုင်သစ်များဖြစ်ပေါ်၏။ အချို့ဒေသတွင် မြေမျက်နှာပြင် ကျုံ့ဝင်သွား၏။ အချို့ဒေသတို့တွင် မြစ်စီးကြောင်း၊ ရေခဲမြစ်စီးကြောင်း များ ပြောင်းလဲသွားကြ၏။

ငလျင်အများဆုံး လှုပ်လေ့ရှိသောဒေသများမှာ ပစိဖိတ်သမုဒ္ဒရာ ကမ်းရိုးတန်းတလျှောက်၊ အာရှတိုက်တောင်ပိုင်း၊ မြေထဲပင်လယ်ဒေသတဝိုက်တို့ဖြစ်သည်။ ကမ္ဘာ၌ငလျင်အကြီးအကျယ်လှုပ်၍ အပျက်အစီး အသေအပျောက်များခဲ့သောဒေသအချို့မှာ ပေါ်တူဂီနိုင်ငံ၊ လစ္စဗွန်းမြို့၊ (ခရစ် ၁၇၅၅ ခုနှစ်)၊ တရုပ်နိုင်ငံ၊ ကန်ဆုနယ် (ခရစ် ၁၉၂၀ ပြည့်နှစ်)၊ ဂျပန်နိုင်ငံ၊ တိုကျိုမြို့ (ခရစ် ၁၉၂၃ ခုနှစ်)၊ အိန္ဒိယနိုင်ငံ၊ ကွက်တာမြို့ (ခရစ် ၁၉၃၅ ခုနှစ်)၊ ဣတလီနိုင်ငံ မက်ဆီနာမြို့ (ခရစ် ၁၉၀၈ ခုနှစ်) တို့ဖြစ်ကြသည်။

မြန်မာနိုင်ငံတွင်လည်း ငလျင်ကြောင့်အိုးအိမ်အဆောက်အအုံများနှင့် စေတီပုထိုးများပင် ပျက်စီးခဲ့ရဘူးလေသည်။ အင်းဝမြို့တွင် ခရစ် ၁၈၃၉ ခုနှစ်မတ်လ ၂၃ ရက်နေ့က ငလျင်ကြောင့် မင်းကွန်းစေတီတော်ကြီးပျက်စီးခဲ့ရသည်။ ၁၇၃၉ ခုနှစ် ဇွန်လိုင်လ ၅ ရက်‌နေ့တွင် ပဲခူးမြို့၌ငလျင်ကြောင့် ရွှေမော်ဓောဘုရားကြီး ပျက်စီးခဲ့ရသည်။ တဖန် ပဲခူးမြို့၌ပင် ၁၉၃၀ ပြည့်နှစ် မေလ ၅ ရက်နေ့၌ ငလျင်လှုပ်ပြန်ရာ လူပေါင်း ၅၀၀ နှင့် အဆောက်အအုံပေါင်း မြောက်မြားစွာ ပျက်စီးခဲ့ရ၏။ ထိုငလျင်ဒဏ်ကြောင့် ရန်ကုန်မြို့၌လည်း အဆောက်အအုံများ ပျက်စီး၍ လူအသေအပျောက်ပင် ရှိခဲ့ဘူးလေသည်။

**ဝေဲရောင်။** ။ပါဠိဗေဒအလိုအားဖြင့် ဝေဲရောင်ကို 'ဆူဒိုဆီအင်နာ ဒိုင်အာကင်သပ်' ဟုခေါ်သည်။ ဝေဲရောင်ကို တနင်္သာရီကမ်းရိုးတန်းနှင့် ရခိုင်ကမ်းရိုးတန်းတလျှောက်၌ တွေ့ရသည်။ ဝေဲရောင်၏နှာတံမှာ အနည်းငယ်ပွ၏။ နှာတံအရင်းတွင် အပေါက်ကလေး ၃ ခုပါရှိ၏။ ထိုအပြင် အောက်မေးရိုးအောက်ဖက်တွင်လည်း အပေါက်ကလေး ၅ ခုပါရှိ၏။ အမြီးဆူးတောင်သည် သပ်ပုံသဏ္ဍာန်ရှိသည်။ ထိုငါးအရောင်မှာ ညိုမှိုင်းမှိုင်းဖြစ်၍ ကျောဖက်တွင်ငွေရောင်ရှိသည်။ ဆူးတောင်များ၌ ရွှေရောင်ရှိသည်။ ဝေဲရောင်ကလေးများတွင် အရောင်အမျိုးမျိုးရှိ၍ ထောင်လိုက်အစင်း



၁၉၂၃ ခုနှစ်ငလျင်ဒဏ်ကြောင့် ဂျပန်နိုင်ငံ တိုကျိုမြို့ကြီးတွင် အဆောက်အအုံများ ဤသို့ပျက်စီးခဲ့ရသည်။

များလည်း ပါရှိတတ်သည်။ ငဝဲရောင်အကောင်ကြီးများသည် အရှည် ၅ ပေအထိကြီးထွားကြသည်။
ငဝဲရောင်မှ ငါးစည်ဖောင်းကော် ရရှိသည်။ ငပုတ်သင်၊ ငါးစားဖား၊ ကျောက်ငရုံ့တို့သည် ငဝဲရောင်နှင့်မျိုးချင်းနွယ်သော ငါးများဖြစ်ကြသည်။

**ဝေက်**။ ။ဝေက်သည် ကကတစ်မျိုးတွင်ပါဝင်၍ မျိုးရင်းအမည်မှာ ‘ပါစီဒေး’ ဖြစ်သည်။ ထိုငါးကိုယ်သည် အနည်းငယ်ရှည်၍ ပြားသည်။ ပါးဟက်ပေါက်မှာကျယ်သည်။ မျက်စိသည် ဦးခေါင်းဘေးဖက်တွင် ရှိသည်။ မေးရိုး၌ သွားများရှိသည်။ ကျောဆူးတောင် ၂ ချောင်းပါသည်။ ကိုယ်မှာ အကြေးများဖုံးလျက်ရှိသည်။ ဝေက်နှင့် မျိုးချင်းနီးစပ်သော ငါးများမှာ ဝေက်ပန်းနီ၊ ဝေက်စပ်နှင့် ငဇင်စပ်များဖြစ်ကြသည်။

**သလဲထိုး**။ ။သလဲထိုးသည် သိုင်းမျိုးတွင် ပါဝင်၏။ ပါဏဗေဒအလိုအားဖြင့် ထိုငါးကို ‘လက်ပီဒိုကက်ဖဲလပ် (စ) ဗတ်မိုရိ’ ဟု ခေါ်သည်။ ငါးအကောင်မှာ သေးသည်။ ငမြွထိုး အသေးစားနှင့် တူသည်။ အရောင်မှာညိုသည်။ သဲထဲထိုး၍နေတတ်သည်။ သလဲထိုးအကောင်ရှင်များကို အုန်းနို့ သို့မဟုတ် နွားနို့ ထဲထည့်၍ သေကုန်ပြီးမှချက်စားလျှင် ပို၍အရသာထူးသည် ဟုဆိုသည်။



(အထက်) ကကတစ်ငါးမျိုးဝင်ဖြစ်သောဝေက်

(အလယ်) ရေချိုရေငန် ၂ ရပ်လုံးတွင်နေနိုင်သည့်သလောက်

(အောက်) အရိုးများသော်လည်းအရသာရှိသောသိုင်း

**သလောက်**။ ။သလောက်ကို ပါဏဗေဒအမည်ဖြင့် ‘ဟီလဆာအလီရှား’ ဟု ခေါ်သည်။ အရသာရှိသောငါးအဖြစ် အသိများသည်။ ရေချိုရေငန်နှစ်ရပ်လုံးတွင်နေနိုင်သည်။ မိုးတွင်းအခါ၌ ဥအုရန် ပင်လယ်မှ မြစ်ထဲသို့ဆန်တက်လာလေ့ရှိသည်။ အုပြီးသလောက်သည် ကြုံလှီသွားကာ အရသာပျက်သွားတတ်သည်။ သလောက်၏ကိုယ်သည် ပြား၍ ပြက်အနည်းငယ်ကျယ်သည်။ ကျောဆူးတောင် အထက်နားသည် အလယ်၌ခွက်နေ၏။ အမြီးခွသည် စောက်နက်၍ အဖျားနှစ်ခုသည် ဘေးသို့ကားထွက်နေသည်။ အကြေးများသည် ခေါင်းမှအမြီးတိုင်အောင် ညီညီညာညာရှိကြသည်။ အရောင်မှာ ရွှေရောင်သန်းလျက်ရှိ၍ တခါတရံ ကန့်လန့်အမည်းစင်းများ ထင်နေတတ်သည်။ အထူးသဖြင့် သလောက်ငယ်များတွင် ကျောပိုင်း၌ ကန့်လန့် အမည်းစင်းများ ပါလေ့ရှိသည်။ ကိုယ်ရှည် ၁ ပေမှ ၁½ ပေအထိရှိတတ်၏။ သလောက်ကို ဟင်းလျာအဖြစ် သုံးကြရုံမက ငပိဆားနယ်အဖြစ်လည်း သုံးကြသည်။

**သိုင်း**။ ။သိုင်းသည် အရိုးများသော်လည်း အရသာရှိသောရေချိုငါးဖြစ်သည်။ ပါဏဗေဒအရ ‘ကက်တလာ ကက်တလာ’ ဟု ခေါ်သည်။ ဦးခေါင်းအနည်းငယ်ကြီး၍ ကိုယ်လုံးမှာ မူအနည်းငယ်ပြားသည်။ အမြီးခွစောက်နက်သည်။ ပါးစပ်ပေါက်ကျယ်၍ အောက်မေးရိုး ထင်ရှားပေါ်လွင်သည်။ အောက်နှုတ်ခမ်းသည် အပြင်သို့လန်ထွက်နေ၏။ အထက်နှုတ်ခမ်းမရှိ။ နှုတ်ခမ်းမွေးလည်း မပါချေ။ သိုင်း၏အရောင်သည် ကျောပိုင်းတွင် မဲပြာရောင်ဖြစ်ပြီး ဘေးဖက်တွင် ငွေရောင်ပေါက်နေ၏။ ဝမ်းပိုက်ပိုင်းသည် ဖြူ၏။ ဆူးတောင်များသည် မည်းနက်၏။ ဝမ်းပိုက်ပိုင်းမှအပ အခြားနေရာရှိ အကြေးများတွင် အလယ်၌ ပန်းရောင်သော်၎င်း၊ ကြေးနီရောင်သော်၎င်း ပေါက်နေတတ်သည်။ သိုင်းသည် ကိုယ်အရှည် ၄ ပေခန့်အထိရှိ၍ အလေးချိန် ၂၂ ပိသာခန့် အထိစီးသည်။

**သိုင်းချောင်းမြို့**။ ။ပုသိမ်ခရိုင် သိုင်းချောင်းမြို့သည် ပုသိမ်မြို့မှအရှေ့မြောက်ဖက် ၄၇ မိုင်ခန့် ကွာဝေးသော ငဝန်မြစ်၏ အရှေ့ဖက်ကမ်းတွင်တည်ရှိသည်။ မြို့နယ်မှာ ၃၄၅ စတုရန်းမိုင်ကျယ်ဝန်းသည်။



သိုင်းချောင်းမြို့၊ ရွှေတောင်တန်းရပ်ကွက်ရှိစေတီနှင့်ကားလမ်းကို ဤသို့တွေ့မြင်ရသည်။

၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ မြို့၏လူဦးရေမှာ ၈,၁၃၂ ယောက်ခန့်ဖြစ်၍ များသောအားဖြင့်ဗုဒ္ဓအယူဝါဒီမြန်မာများဖြစ်ကြ၏။ သိုင်းချောင်းမြို့တည်ရာအရပ်မှာ မြေနိမ့်ပိုင်းဖြစ်၍ မိုးရာသီတွင် မြစ်ရေလျှံတက်ခြင်းဘေးမှ ကာကွယ်ရန် မြင့်မားသော တာများပြုလုပ်၍ ထားကြရသည်။ တာအချို့သည် မြို့တွင်းသို့ပင် ဖြတ်သန်းလျက်ရှိသဖြင့် တာကြီး တန်း ဟူသောရပ်ကွက်ပင်ရှိသည်။ တာတန်းသည် ဝေန်မြစ်ကမ်းနဖူးမှနေ၍ မြို့ကိုပတ်ရံထားသည့်ပြင် ဟသာတသို့တိုင်အောင် ရှည်လျားသည်။ ၁၉၂၃ ခုနှစ်၌ သိုင်းချောင်းမြို့ အထက် ၃ မိုင်ခန့်တွင် အဆိုပါတာကျိုးပေါက်ခဲ့သဖြင့် သိုင်းချောင်းမြို့မှာ ရေဘေးနှင့်ကြုံခဲ့ရဘူးလေသည်။

သိုင်းချောင်းမြို့သည် ဟသာတ၊ ပုသိမ်ရထားလမ်းတွင်ရှိသော ရေကြည်မြို့နှင့် ၆ မိုင်ကွာဝေးသည်။ ရေကြည်၊ ကျုံပျော်၊ ကျောင်းကုန်း၊ ဓနုဖြူမြို့များသို့ မော်တော်ကားလမ်းပေါက်သည့်အပြင် ဟသာတ၊ လေးမျက်နှာ၊ သာပေါင်း၊ ပုသိမ်မြို့များသို့လည်း ရေလမ်းခရီးပေါက်သည်။ သိုင်းချောင်းမြို့အထက်တွင် ဝေန်မြစ်မှအနောက်ဖက်သို့ခွဲထွက်သော ချောင်းငယ်တခုပေါ်၌ ကျောက်ချောင်းရွာရှိ၏။ ထိုရွာမှအနောက်ရိုးမတောင်ကိုဖြတ်ကျော်လျှင် ရခိုင်ကမ်းရိုးတန်းရှိ ဂွမြို့သို့ရောက်နိုင်သည်။ ဆန်စပါး၊ ပဲအမျိုးမျိုး၊ ဆေးရွက်၊ ပြောင်းဖူးတို့မှာ သိုင်းချောင်းမြို့နယ်၏ထွက်ကုန်များဖြစ်ပေသည်။ ရခိုင်ပြည်ဖက်မှအုန်းသီးနှင့်အနောက်ခြောက်ခေါ် အမဲခြောက်များကို ကုန်းလမ်းခရီးဖြင့် သိုင်းချောင်းမြို့သို့ တင်ပို့ရောင်းချကြ၏။ သိုင်းချောင်းမြို့အစွန်မှနေ၍ အနောက်ဖက်သို့လှမ်းမျှော်၍ကြည့်လိုက်လျှင် မှိုင်းမှိုင်းညို့ဆိုင်းနေသော ရခိုင်ရိုးမတောင်တန်းကို တွေ့မြင်နိုင်ပေသည်။

၁၉၂၃ ခုနှစ်ခန့်တွင် သိုင်းချောင်းမြို့မှ တရားရုံးတော်ကို ရေကြည်မြို့သို့ ပြောင်းရွှေ့ရုံးစိုက်လေသည်။ သိုင်းချောင်းမြို့တွင် တရားရုံးပင်မရှိသော်ငြားလည်း ရဲဌာန၊ ဆေးရုံ၊ တန်းမြင့်စာသင်ကျောင်း၊ မျူနီစီပယ်ရုံး စသည်တို့ဖြင့်စည်ကားလျက်ရှိ၏။ ထိုမြို့၏အရှေ့တောင်ဖက်၌ လောကမာရဇိန်စေတီတော်ကြီးတည်ရှိ၍ စေတီ၏ထက်ဝန်းကျင်တွင် မှန်ကျောင်း၊ ရွှေရေးဆောင်ကျောင်း စသောခမ်းနားတင့်တယ်လှသည့် ဗုဒ္ဓသာသနာ့ကျက်သရေဆောင်ဘုန်းကြီးကျောင်းတိုက်များရှိကြ၏။

သိုင်းချောင်းမြို့နယ်အတွင်း ထင်ရှားသော ပွဲတော်မှာ သိုင်းချောင်းမြို့၏အနောက်မြောက်ဖက်ရှိ ကုန်းပြင်ရွာကြီးတွင် နှစ်စဉ်ကျင်းပသည့် သီတာဘုရားပွဲဖြစ်သည်။ အဆိုပါရွာရှိ ဥာဏ်တော်ပေ ၅၀ ခန့်မြင့်သောမြေစိုက်စေတီ သီတာဘုရားနှင့် သီတာမောင်နှမနတ်ကွန်းတို့ကို အကြောင်းပြု၍ နှစ်စဉ်တော်သလင်းလဆန်း ၁၄ ရက်မှစ၍ ၃ ရက်တိုင်တိုင်ကျင်းပသော ထိုဘုရားပွဲဈော်သို့ သိုင်းချောင်းမြို့နှင့် အနီးတစိုက် မြို့ရွာ ကျေးလက်များမှ လှေငယ်တက်စင်းတို့ဖြင့် လာရောက်ကြသည်။

**ဟောစ်**။ ။ပါဏဗေဒအလိုအရဟောစ်သည်'အာဒီဒေး'မျိုးရင်းတွင်ပါဝင်သောငှက်ဖြစ်သည်။ ဟောစ်အမျိုးမျိုးရှိသည့်အနက် ထင်ရှားသော ၂ မျိုးမှာ 'အာဒီဆိနာရီရက်တီရော့စထြစ်' နှင့် 'အာဒီပါပြူရီမယ်နီလန်ဆစ်' တို့ဖြစ်ကြ၏။

ဟောစ်၏ကိုယ်ခန္ဓာသည် သေးသွယ်ရှည်လျားလေသည်။ ဖြောင့်စင်းသောနှုတ်သီးနှင့် ရှည်လျားသောခြေတံရှိသောကြောင့် ဥဗျိုင်းနှင့်တူသည်။ အလျား ၃၈ လက်မခန့်ရှိသည်။ လည်တိုင်တွင်အမည်းပြောက်အစင်းကြောင်းများပါရှိသည်။ ဦးခေါင်းနှင့်လည်တိုင်မှာ သံချေးရောင်ကဲ့သို့နီယောင်ယောင်ရှိသည်။ ကိုယ်အောက်ပိုင်းမှာမည်းနက်၍သစ်ကြားခွံရောင်ရှိသည်။ ဟောစ်အမနှင့် အထီးတို့၏အရောင်အဆင်းမှာအတူတူပင်ဖြစ်သည်။

ဟောစ်သည် ကျူတော၊ ကိုင်းတောများ ပေါက်ရောက်သည့်မြစ်၊ ချောင်း၊ အင်း၊ အိုင်၊ ကမ်းပါးများတွင် ကျက်စားလေ့ရှိသည်။ ပျံကာစနှင့်ပျံသန်းနေစဉ်တွင် ကျယ်လောင်စူးရှစွာ အော်မြည်တတ်သည်။ ပျံမည်ပြုသောအခါလည်တိုင်ကိုရှေ့သို့ဆန့်၍ အတောင်ကိုတအားခတ်ကာ တွဲလွဲကျနေသော ခြေတံရှည်တို့ဖြင့် ကိုယ်ကိုထိန်း၍ ပျံတက်သွားတတ်သည်။ ထို့ကြောင့် ပျံကာစတွင် ဟောစ်ကိုတွေ့ရသည်မှာ ပြေပြစ်ခြင်းမရှိလှပေ။ အရှိန်ရသည်နှင့်တပြိုင်နက် ခြေတံများကို အမြီးအောက်သို့ ရုပ်သိမ်းလိုက်သည်။ ဦးခေါင်းကိုလည်း ပခုံးနှစ်ဖက်ကြားသို့ ရောက်အောင်လည်တိုင်ကိုကွေးထားတတ်သည်။ ငါးများဖားများကိုအများအားဖြင့် စားသောက်လေ့ရှိသည်။ ထို့ပြင် ရေတွင် နေတတ်သော အင်းဆက်ပိုးကောင်များ၊ ခရုမျိုး၊ ဗုဇွန်ကနန်းမျိုးများကို လည်းစားသောက်လေ့ရှိလေသည်။



ဥဗျိုင်းနှင့်တူသောဟောစ်ငှက်

မိုးရာသီတွင် ဟောစ်ငယ်များ ဥမှပေါက်ကြသည်။ သာမန်အားဖြင့် ဟောစ်တို့သည် တကောင်တည်းနေလေ့ရှိကြသော်လည်း၊ ရွှေဘိုနယ်၌တွေ့ရသောဟောစ်တို့မှာ အုပ်ဖွဲ့၍နေတတ်ကြသည်။ အသိုက်ကို ကျူပင်များပေါ်၌ရင်း၊ သစ်ပင်များပေါ်၌ရင်း တုတ်ချောင်းများဖြင့် ပြုလုပ်သည်။ အသိုက်၏အချင်းမှာ တပေခန့်ရှိ၍၊ စောက် ၇ လက်မခန့်ရှိသည်။ တမြုံလျှင် ဥ ၃ လုံးမှ ၅ လုံးအထိရှိ၏။ ဥအရောင်မှာအစိမ်းနုဖြစ်သည်။

ဟောစ်ကို အာဖရိကတိုက်၊ ဥရောပတိုက် တောင်ပိုင်းနှင့် အာရှတိုက်တောင်ပိုင်း တို့တွင်တွေ့ရသည်။ မြန်မာနိုင်ငံ၊ အိန္ဒိယနိုင်ငံ၊ သီဟိုဠ်ကျွန်းတို့တွင်လည်းဟောစ်ကိုတွေ့ရသည်။

**ဒအုံး**။ ။ဒအုံးသည်ကကတစ်မျိုးတွင်ပါဝင်သည်။ ပါဏဗေဒအလိုအားဖြင့် ဒအုံးကို 'အန်သီယပ် (စ) မာလတီဒင်' ဟုခေါ်သည်။ ထိုငါး၏ကိုယ်မှာ အနည်းငယ်ရှည်၍ပြားသည်။ ပါးဟက်ပေါက်ကျယ်၍ ဦးခေါင်းဘေးတွင် မျက်စိရှိသည်။ မေးရိုး၌ သွားရှိသည်။ ကျောဆူးတောင် ၂ ခုရှိသည်။ ဆူးတောင်ကလေးများလည်း ရှိသည်။ ကိုယ်၌ အကြေးများ ဖုံးလျက်ရှိသည်။

**အေပ်ပုံ**။ ။ပါဏဗေဒအလိုအရ အေပ်ပုံသည် 'စကွမ်ဗရီဒေး' မျိုးရင်းတွင်ပါသည်။ သိပ္ပံအမည်အားဖြင့် အေပ်ပုံကို 'ရက်စတြဲလီဂျားကနာဂါးတား' ဟုခေါ်သည်။ ရခိုင်ပြည်နယ်တွင် အေပ်ပုံကို ခေါင်းကြီးဟုခေါ်သည်။ ကိုယ်တို၍ကျယ်သည်။ ဦးခေါင်းကြီးသည်။ အမြီးပိုင်းရှူးသည်။ ပါးစပ်ပေါက်နက်ရှိုင်း၍ အောက်မေးရိုးထက် အနည်းငယ်ရှည်ထွက်နေသည်။ မေးရိုး ၂ ခုလုံးတွင် သွားများရှိသည်။ ရင်ဆူးတောင်၏ အောက်ပိုင်းတွင် အခြားနေရာများမှာထက် ပိုမိုကြီးမားသော အကြေးခွံများရှိသည်။ ဒုတိယကျောဆူးတောင်နှင့် အမြီးဆူးတောင်တို့၏ကြားတွင် ကျောဆူးတောင်ငယ် ၅ ခုညီညီညာညာရှိသည်။ စအိုဆူးတောင်နှင့်အမြီးဆူးတောင်တို့၏ အကြားတွင်လည်း ဝမ်းဆူးတောင်ငယ် ၅ ခု ညီညီညာညာရှိ၏။ အမြီးဆူးတောင်ခွသည် ရှည်၍ အထက်ပိုင်းနှင့် အောက်ပိုင်းတို့သည် ကားပြီး ချွန်ထွက်နေကြ၏။ အေပ်ပုံ၌လှသောအရောင်များရှိ၏။ ကျောသည်စိမ်းလဲ့လဲ့နေ၍ ကျောဆူးတောင်၏ အောက်နားတွင်အပြောက် ၁၆ ခု စီတန်းလျက်ရှိသည်။ ဦးခေါင်းတွင် ခရမ်းရောင်အပြောက်အစက်များရှိသည်။ ကိုယ်နှင့်ဘေးဖက်တွင် အရောင်စင်းများရှိသည်။ ကိုယ်ဘေးကြောင်းတလျှောက်တွင် ရွှေရောင်အစင်းကြောင်း ၂ ခုရှိသည်။ အမြီးဆူးတောင်နှင့် ရင်ဆူးတောင်တို့သည် ဝင်းဝါ နေကြသည်။

ကျောဆူးတောင်မှာမူ အဝါရောင်ဖျော့ဖျော့ရှိ၏။ ဤဆူးတောင်တို့တွင် မည်းနက်သော အစင်းများ ရှိကြသည်။ သေသွားသောအခါ အေပ်ပုံ၏အရောင်မှာ အစိမ်းရောင် သို့ ပြောင်း၏။ အေပ်ပုံသည် အုပ်ဖွဲ့လျက် ရေမျက်နှာပြင်အောက်တွင် ကူးသန်းသွားတတ်သည်။ အေပ်ပုံသည် ၁၀ လက်မမှ ၁၂ လက်မထိရှိသည်။ အေပ်ပုံ ၃ ကောင်လျှင် ပျမ်းမျှအလေးချိန် တပေါင်စီးသည်။ ပေစင်းသည် အေပ်ပုံနှင့် မျိုးရင်းချင်းနွယ်သော ငါးဖြစ်သည်။

# ကျောရိုးရှိရေသတ္တဝါများ

**ငါးများမည်ကဲ့သို့အသက်ရှူကြသနည်း။ မည်ကဲ့သို့အစာစားကြသနည်း။ အသံကိုကြားနိုင်သလော။ အနံ့ကိုခံနိုင်သလော။ ငါးများတွင်ရန်သူကိုတိုက်ဖျက်ရန်မည်ကဲ့သို့သောလက်နက်များရှိပါသနည်း။ ယင်းအချက်အလက်များအပြင်ငါးနှင့်စပ်လျဉ်း၍ အခြားမှတ်သားဖွယ်ရာဗဟုသုတကိုလည်း ဤအကြောင်းရပ်တွင်ဖော်ပြထားသည်။**

ငါး။ ။ရေနေသတ္တဝါ အများအပြားရှိသည့်အနက် ငါးသည်ရေ၌နေသားအကျဆုံးသော ရေနေသတ္တဝါဖြစ်သည်။ ကမ္ဘာတွင် ရေသတ္တဝါသည် ကုန်းသတ္တဝါထက် ဦးစွာပေါ်လာခဲ့သဖြင့် ငါးသည် လူထက်အလျှင်ကျသော ရေသတ္တဝါတမျိုးဖြစ်သည်ဟု ဆိုသည်။ ငါးတို့၏ ကျောက်ဖြစ်ရုပ်ကြွင်းများကို ကျောရိုးရှိကုန်းသတ္တဝါများမပေါ်မီ ရှေးနှစ်ပေါင်း အသိန်းအသန်းကဖြစ်သော ကျောက်ထပ်များတွင် တွေ့ရှိရသည်။

ငါးသည်ကမ္ဘာအရပ်ရပ်ရှိ ပင်လယ်၊ မြစ်၊ ချောင်း၊ အင်း၊ အိုင်များတွင် အမျိုးအစား မြောက်မြားစွာပင် ရှိသော်လည်း တိရစ္ဆာန်လောက တခုလုံးတွင်ရှိသော တိရစ္ဆာန်ဦးရေနှင့် နှိုင်းရှည့်လျှင် ငါးဦးရေမှာ မပြောပလောက်ချေ။

ငါး၏ပုံပန်းသည် ရေတွင်ကျက်စားနိုင်ရန် သဘာဝက အကောင်းဆုံး ဖန်တီးပေးထားသော ပုံပန်းဖြစ်ပေသည်။ အဘယ်ကြောင့်ဆိုသော် ငါး၏ပုံပန်းသည် ရေတွင်သွားလာလျက်ရှိသော လှေသဖွယ် ရှည်လျားသေးသွယ်ပြီး ဦးပိုင်းသည် ချွန်လျက်ရှိသောကြောင့်ဖြစ်သည်။ ငါးသည်နို့တိုက်သတ္တဝါများကဲ့သို့ သွေးပူသတ္တဝါမဟုတ်၊ သွေးအေးသတ္တဝါဖြစ်၏။ ပါးဟက်များဖြင့် အသက်ရှူကြ၍ အမြီး၊ ဆူးတောင်များဖြင့်လိုရာသို့ သွားလာနိုင်ကြပေသည်။ ဆူးတောင်များကို အရိုးများကပဲထီးတံသဖွယ် အောက်ကပင့်မထား၏။ လည်ပင်းဟူ၍လည်း သီးသန့်မရှိချေ။ တက်မသဖွယ် ပြားချပ်နေသောအမြီးက လိုရာသို့သွားလာနိုင်ရန် မတ်ပေးသည်။

များသောအားဖြင့် ငါးသည် မိမိလောက်အားမရှိသော သတ္တဝါကလေးများကို စားသောက်ခြင်းဖြင့် အသက်ရှင်သည်။ ရေသတ္တဝါကလေးများကို ဖမ်းယူနိုင်ရန်ရင်း၊ ငါးကြီးများ၏ခံတွင်းမှ ရှောင်ကွင်း လွတ်မြောက်နိုင်ရန်ရင်း လျင်မြန်ဖို့လိုသဖြင့် ငါး၏ခန္ဓာကိုယ်သည် ပါးပါးလျားလျားရှိရသည်။ သို့ရာတွင်မြန်ခြင်းကိုအားမကိုးသည့် ရေအောက်မြေပြင်တွင် နေကြသော ငါးမျိုးများလည်းရှိသေးသည်။ ထိုငါးမျိုး၏ ပုံသဏ္ဌာန်သည် အချို့၌လုံး၍နေသည်ကိုတွေ့ရသည်။ အချို့ငါးများမှာ ချော မွတ်သော အရေပြားများဖြင့်ရင်း၊ အချို့တွင်မူ မာကျောသောအရေပြားများဖြင့်ရင်း ဖုံးလျက်ရှိကြသည်။

ငါး၏စကယ်လီတန်သည် မှတ်သားဖွယ်ကောင်းလှသည်။ ကျောရိုးအဆက်သည် ချောင်နေသဖြင့် ယင်းကို အလိုရှိသလို လှည့်ပတ် တွန့်လိမ်၍ ရပေသည်။ အမြီးနှင့် ဆူးတောင်တို့၏လှုပ်ရှားမှုကို ကြွက်သားများက ထိန်းထား၏။ ငါး၏ထူးဆန်းသည့်အင်္ဂါတခုမှာ ငါးစည်ဖောင်းခေါ်သော လေအိတ်ဖြစ်သည်။ ထိုလေအိတ်ရှိခြင်း၏ အကြောင်းရင်းကို ယခုတိုင် တပ်အပ်သေချာစွာ မသိနိုင်သေးချေ။ ငါး၏ကိုယ်ခန္ဓာကို ချိန်သားတကျရှိစေရန် စီစဉ်ပေးသော အင်္ဂါအစိတ်အပိုင်းဖြစ်သည်ဟူ၍သာ ယူဆရသည်။ အဆုတ်ပါသောငါးသည် လေအိတ်ကို အဆုတ်သဖွယ်လည်းအသုံးပြုတတ်ပေသည်။ ငါးတွင် နှလုံးမှ သွေးများကို ခန္ဓာကိုယ်အတွင်းသို့ ပျံ့နှံ့စေခြင်း၌ အမြင့်တန်းစားသတ္တဝါများမှာကဲ့သို့ပင် ဖြစ်သည်။ ရေထဲရှိ အောက်ဆီဂျင်၏ အစွမ်းဖြင့် သွေးကို ပါးဟက်အတွင်းတွင် သန့်စင်စေသည်။ တခါတရံ ရေသည်ညစ်ပတ်၍နေတတ်ရာ ထိုအခါ၌ငါးသည် ရေမျက်နှာပြင်ပေါ်သို့ တက်လာကာ လေကို အားရစွာရှူသည်။ သို့ရာတွင် ငါး၏ကိုယ်အင်္ဂါအစိတ်အပိုင်းများသည် ရေထဲရှိ အောက်ဆီဂျင်ကို လွယ်ကူစွာမယူနိုင်ကြချေ။ ငါးသည် ရေကိုပါးစပ်အတွင်းသို့သွင်းယူလိုက်ပြီးနောက် ပါးဟက်မှုအထုတ်လိုက်ခြင်းဖြင့် အောက်ဆီဂျင်ကို ရနိုင်ကြပေသည်။

ငါးကို အကြမ်းအားဖြင့် ရေချိုငါးနှင့် ရေငန် သို့မဟုတ် ပင်လယ်ငါးဟု နှစ်မျိုးခွဲခြားနိုင်၏။ ငါးမှန်လျှင် ဟင်းသီးဟင်းရွက်စားဟူ၍မရှိလှချေ။ အသားစားသာ များသည်။

အချို့ငါးများသည်မိမိတို့နေထိုင်ရာ ပတ်ဝန်းကျင်၏ အရောင်များနှင့်လိုက်အောင် မိမိတို့၏အရောင်ကို ပြောင်းလဲပေးတတ်သည်။ ထိုကြောင့် ရန်သူများက ရုတ်တရက်မမြင်နိုင်၍ အသက်ဘေးမှချမ်းသာရာ ရကြလေသည်။ ငါးတို့သည် အများအားဖြင့် ဥများကိုအုပြီးနောက် ပစ်ထားတတ်ကြသည်။ သို့ရာတွင် မိမိဥများကို အသက်နှင့်လဲ၍




ရေနေလောကမှထူးဆန်းသောငါးအချို့

(၁) သမုဒ္ဒရာအောက်၌ပါးစပ်ကိုဖွင့်ဟလျက်ငါးကလေးများကို အာရုံမှင်များဖြင့်မြူဆွယ်ဖမ်းဆီးလေ့ရှိသောငါးမျိုး။ (၂) ကြီးမားမာကျော သောဦးခေါင်းရှိ၍ ရင်ဆူးတောင်ကြီးများမှထွက်သောရောင်ခြည်ဖြင့် ပင်လယ်အောက်တွင်သွားလာကျက်စားလေ့ရှိသောငါးမျိုး။ (၃) နေ ရောင်ခြည်မထိုးပေါက်နိုင်သောရေနက်ပိုင်းတွင်သာကျက်စားလေ့ရှိသည့်ငါးမျိုး။ (၄) ကိုယ်ခန္ဓာ၏နံဘေး၌လျှပ်စစ်ဓာတ်ဖြစ်ပေါ်စေနိုင် သောဆဲများပါရှိသည့်လျှပ်စစ်ရှဉ့်။ (၅) လေထဲတွင်ကိုက် ၂၀၀ ကျော်မျှပျံသန်းသွားလာနိုင်၍တခါတရံပင်လယ်ကူးသင်္ဘောကြီးများ၏ ကုန်းပတ်ပေါ် သို့ပင်ရောက်အောင်ပျံတက်နိုင်သောငပျံ။ (၆) မိမိနေထိုင်ရာရေအိုင်၌ရေခန်းခြောက်လာလျှင်နေရာသစ်ရှာဖွေရန်ကုန်းပေါ် သို့တက်၍ခရီးသွားတတ်သောငါးမျိုး။ တခါတရံသစ်ပင်များပေါ် သို့ပင်တက်၍သွားတတ်သည်။ (၇) ကမ်းခြေအနီးရေတိမ်၌အုပ်ဖွဲ့၍ကျက် စားလေ့ရှိသောငမန်းပြောက်မျိုး။ ယင်းတို့ကြောင့်အခြားငါးများကြောက်လန့်၍ထွက်ပြေးတတ်သဖြင့်တံငါများ၏ရန်သူဖြစ်သည်။

ကာကွယ်စောင့်ရှောက်တတ်သော ငါးမျိုးအချို့လည်း ရှိသေးကြောင်းကိုလေ့လာသိရှိရပေသည်။

ငါးများတွင် အမြင့်တန်းစား သတ္တဝါများမှာကဲ့သို့ မျက်နှာ၊ ပါးစပ်၊ နှာခေါင်း၊ မျက်စိစသည်တို့ပါရှိကြသည်။ မျက်ခွံများမရှိသဖြင့် ငါးတို့သည်ဘေးဖက်သို့ ကျယ်ကျယ်ဝန်းဝန်းမြင်နိုင်ကြပေသည်။ သို့ရာတွင် အလွန်ဝေးသော အရပ်များသို့ကား ထွင်းဖောက်၍မမြင်နိုင်ကြချေ။ ရေနက်သောပင်လယ်များရှိ ငါးတို့တွင် အလွန်သေးငယ်သော မျက်လုံးများရှိကြ၏။ ငါးတွင် အနံ့ကိုကောင်းစွာခံစားနိုင်သော သတ္တိမရှိကြောင်းကို တွေ့ရသည်။ နှာခေါင်းဖြင့် အနံ့ခံနိုင်သည်မှန်သော်လည်း အာရုံကို ကောင်းစွာမသိနိုင်ချေ။ ငါး၌အခြားတိရစ္ဆာန်များမှာကဲ့သို့ လှုပ်ရှားနိုင်သော လျှာမျိုး မရှိ။ လျှာသည်ထူ၍ ကြမ်းတမ်း၏။ တခါတရံအစာကိုထက်ပိုင်းပိုင်း၍ စားလေ့ရှိသည်။ တခါတရံတွင် မိနေသောသားကောင်သည် အဆမတန်ကြီးထွားနေလျှင်ယင်းကို တခါတည်းပင် မျိုချတတ်လေသည်။ နားဖြင့် အာရုံကိုကောင်းစွာမခံစားနိုင်သော်လည်း အတွေ့အာရုံမှာမူ လွန်စွာကောင်းပေသည်။

ငါးတို့၏ပါးစပ်သည် တကောင်နှင့် တကောင် မတူချေ။ အချို့ငါးတို့တွင် ပါးစပ်သည် ပါးဟက်တခုနှင့် တခုအကြားတွင် ကန့်လန့်ဖြတ်လျက်ရှိတတ်သည်။ အချို့ငါးများတွင် ပါးစပ်များသည် အလွန်သေးငယ်ပြီး ဝိုင်းနေတတ်သည်။ အချို့ငါးများတွင် ပါးစပ်သည် နှုတ်သီးရှည်ကြီးကဲ့သို့ဖြစ်နေတတ်သည်။ ပါးစပ်သည် ငါးတမျိုးနှင့်တမျိုးမှာ မတူသကဲ့သို့ မေးရိုးသည်လည်း တမျိုးနှင့်တမျိုးမှာ မတူချေ။ အချို့ငါးမျိုးရှိ မေးရိုးများသည် ဆန့်ထုတ်နိုင်သော အကြောမျှင်များဖြင့် ဖွဲ့စည်းထားသဖြင့် မိမိထက်ကြီးမားသော ငါးများကိုပင် မျိုနိုင်ကြသည်။ အချို့ငါးမျိုး၏မေးရိုးသည် ပြွန်သဖွယ်ဖြစ်နေသဖြင့် အစာကိုမျိုချနိုင်သည်မှာ အံ့ဩစရာပင်ဖြစ်သည်။ အထူးသဖြင့် ရေနက်သော ပင်လယ်များ၌နေသောငါးများသည် မေးရိုးကို အဆမတန်ဆန့်ထုတ်နိုင်ကြသည်။

ငါးများ၏အသွေးအရောင်သည်ပတ်ဝန်းကျင်၏ အရောင်နှင့်လိုက်အောင် ပြောင်းလဲတတ်ကြောင်းဆိုခဲ့ပြီ။ ပူအိုက်သောဒေသများတွင် တောက်ပြောင်သော ပင်လယ်ရေညှိပင်များပေါက်ရာ၊ ထိုအရပ်ရှိငါးများ၌လည်း တောက်ပြောင်သော အရောင်များရှိကြသည်။ သမုဒ္ဒရာရှိ ငါးတို့သည် ကျောက်မီးသွေးတမျှမည်းနက်ကြပေသည်။ ရေနက်ရာ၌နေသော 'ပင်လယ်ဓာတ်ငါ' ခေါ် ငါးတို့တွင်ထွန်းလင်းသော အရောင်များ ထူးဆန်းစွာရှိသည်။ ထိုငါးတို့သည် မိမိတို့ထံမှထွက်သောအလင်းရောင်ကို အသုံးပြုကာ အခြားငါးများကို ဖမ်းယူစားသောက်ကြသည်။

များသောအားဖြင့် ငါးသည်အသားစားသတ္တဝါများဖြစ်သော်လည်း အချို့ငါးများမှာ ရေတွင်ပေါက်သော အပင်ငယ်လေးများကို စားတတ်ကြသည်။ ငါးကြီးများက ငါးကလေးများကိုစား၍ ငါးကလေးများကတဖန် ငါးဥများနှင့် ရေသတ္တဝါကလေးများကို စားသောက်ကြသည်။

ငါးတမျိုးတမျိုးသည် တရာသီတွင် ဥပေါင်း ၅,၀၀၀,၀၀၀ မှ ၉,၀၀၀,၀၀၀ အထိ ဥတတ်သဖြင့် ထိုငါးဥများ မှ အောင်မြင်စွာပေါက်လာကြမည်ဆိုလျှင် ရေလောကကြီးတခုလုံးတွင် ငါးများဖြင့်ပြည့်ကျပ်နေပေလိမ့်မည်။ သို့ရာတွင် ဥဘဝ၌ရင်း၊ ငါးပေါက်စဘဝ၌ရင်း၊ ငါးကြီးများ၏ ရန်ကြောင့်ပျက်စီးဆုံးပါးခြင်းရှိသဖြင့် ဥပေါင်း၉,၀၀၀,၀၀၀ အုပ်မှ တကောင်တလေသာအဖတ်တင်သည်။

ငါးအမျိုးမျိုး ရှိသဖြင့် ငါးများ၏ အကျင့်သည်လည်း အမျိုးမျိုးရှိကြသည်။ အချို့ငါးများသည် ရာသီအလိုက် ပင်လယ်များကိုစွန့်ကာ မြစ်ချောင်းများကိုဆန်တက်ပြီး၊ဥများကိုဥတတ်ကြ၏။ အချို့ငါးမျိုးသည် ငါးကလေးများကိုအကောင်လိုက်မွေးတတ်ကြသည်။ ထိုငါးပေါက်စကလေးများသည် အများအားဖြင့် အမိ၊ အဖဖြစ်သောငါးကြီးများနှင့် ပုံပန်းတူ၏။ ကိုယ်အရွယ်နှင့်အချိုးအစား၌သာလျှင် ကွာခြားကြသည်။ အချို့ငါးများမှာ အံ့ဩဖွယ်ပင် အသက်ရှည်ရှည်နေနိုင်ကြသည်။ သို့ရာတွင် အချို့ငါးမျိုးသည် ဥအုပြီးနောက်မကြာမီအတွင်းသေကုန်ကြသည်။

ငါးသည်ရေသတ္တဝါဖြစ်၍ လေထဲတွင်ကြာရှည်ထားလျှင် သေတတ်၏။ ညစ်ပတ်နေသောရေထဲတွင်လည်း ကြာရှည်အသက်မရှင်တတ်ချေ။ သို့ရာတွင် လေထဲတွင်အတန်ကြာအောင် အသက်ရှူနေနိုင်သော ငါးမျိုးလည်းရှိသေးသည်။ ထိုငါးမျိုး၌အဆုတ်ရှိသည်။ ယင်းတို့သည် ရေအတော်အတန် ခန်းခြောက်နေသော ရွှံ့ထဲတွင် တာရှည်နေနိုင်သည်ကိုတွေ့ရပေသည်။ ဆောင်းရာသီတွင် ရေခဲထဲ၌မြုပ်၍ နွေဦးချိန်တွင် ရေခဲအရည်ပျော်သောအခါ အသက်ရှင်လျက် ပြန်ထွက်လာသောငါးမျိုးလည်းရှိသေးသည်။

ဟင်းသီးဟင်းရွက်စား ငါးများသည် ပါးစပ်ကျဉ်း၍ သွားလာရာတွင်လည်း မဖျတ်လတ်ကြချေ။ အသားစားငါးများသည် အများအားဖြင့် ပါးစပ်ကျယ်၍အသွားမြန်သည်။

ငါးအမျိုးပေါင်း ၁၃,၀၀၀ ကျော်ခန့်ရှိသည်။ ထိုမျှများပြားသောငါးမျိုးတို့တွင် ပုံအမျိုးမျိုး၊ အရောင်အမျိုးမျိုး၊ အကျင့်အမျိုးမျိုးရှိကြသည်။ အချို့ငါးမျိုးသည် မြွေကဲ့သို့ ရှည်လျားလျားဖြစ်သည်။ အချို့သည်ပုဝိုင်းဝိုင်းဖြစ်၍ အချို့ငါးမျိုးတွင်နှုတ်သီးချွန်များရှိကြသည်။ ငပျံခေါ် ငါးမျိုးသည် လေထဲတွင်ကိုက် ၂၀၀ မျှအထိ ပျံသန်းသွားနိုင်ပေသည်။ တခါတရံ ပင်လယ်ကူးသင်္ဘောကြီးများ၏ ကုန်းပတ်ပေါ် သို့ပင် ရောက်အောင်ပျံနိုင်သည်။ ထိုငါးမျိုးကဲ့သို့




အထက်ပုံ။ သေိုင်း၏ကိုယ်ဘွင်းအင်္ဂါများ ပ — ပါးဟက်။ န — နှလုံး။ မ — အူ။ အ — ဥအိမ်များ။ အ' — ဥပြွန်။ ဝ၊ ဝ' — စအိုဝ။

အလယ်ပုံ။ ပြေမနှင့်အမျိုးတူပါ (ချ) ငါး၏စကယ်လိတန် (အရိုးသရုပ်) က — ရှေ့နှုတ်ရိုး။ ခ — နှုတ်ရိုး။ ဂ — အောက်မေးရိုး။ ဃ — အာခေါင်ခုံး။ င — ဦးထိပ်ခွံ။ စ — ပါးဟက်ဖုံးအတွင်းရိုး။ ဆ၊ ဆ' — ကျောရိုးတိုင်။ ဇ — ရင်ဆူးတောင်။ ဈ — ဝမ်းဆူးတောင်။ တ၊ ထ — ကျောဆူးတောင်။ ဒ — စအိုဆူးတောင်။ ဓ၊ ဓ' — အမြီးဆူးတောင်။

အောက်ပုံ။ ။ငါးတကောင်၏ကိုယ်တွင်းအင်္ဂါအစိတ်အပိုင်းများ။

အံ့ဖွယ်ကောင်းသော ငါးတမျိုးမှာ သစ်ပင်တက်နိုင်သည့် ငါးမျိုးဖြစ်၍ အိန္ဒိယနိုင်ငံတွင် အတွေ့ရများသည်။ ထိုငါးမျိုးသည် ရေအိုင်၌ရေခန်းခြောက်လာလျှင် နေရာသစ်ရှာဖွေရန် ကုန်းပေါ်သို့တက်၍ ခရီးသွားတတ်သည်။ ခရီးသွားရာတွင် ညနှင့်နံနက်စောစော၌သာ သွားတတ်သည်။ ခရီးလမ်းတွင် သစ်ပင်များနှင့် ဆိုင်မိလျှင် နောက်ဆုတ်လေ့မရှိ။ သစ်ပင်ပေါ်သို့တက်သွားတတ်သည်။ ညနှင့်နံနက်၌သာ ခရီးသွားလာခြင်းမှာ ထိုအချိန်များ၌ နှင်းကျသဖြင့် မြေကြီးမှာ အတန်ငယ်စိုစွတ်နေတတ်သောကြောင့် ပင်ဖြစ်လေသည်။

ထိုမျှများပြားသော ငါးမျိုးများတွင် မိမိတို့ကိုယ်ကိုကာကွယ်ရန်ရင်း၊ ရန်သူကိုတိုက်ဖျက်ရန်ရင်း လက်နက်သဖွယ်ပါရှိသော ငါးမျိုးများကိုတွေ့ရပေသည်။ ထိုငါးမျိုးများ အနက် အချို့တွင် အလွန်ထက်သောသွားစွယ်များရှိ၍ အချို့တွင် နှုတ်သီး ချွန်ကြီးများ ရှိကြသည်။ လျှပ်စစ်ဓာတ်ကို လွှတ်နိုင်သည့် ငါးမျိုးလည်းရှိသေးသည်။ လျှပ်စစ်ဓာတ်ကိုအပြင်းထန်ဆုံး လွှတ်နိုင်သည့်ငါးများကို ဗရာဇီးနိုင်ငံရှိမြစ်ချောင်းများနှင့် တောင်အမေရိကတိုက်ရှိ တိုင်းပြည်များတွင် အတွေ့ရများသည်။ အချို့ငါးများ၏ကိုယ်ထည်တခုလုံးတွင် ဆူးများရှိသဖြင့် ရန်သူများ၏ဘေးရန်ကို ကာကွယ်နိုင်ကြပေသည်။

ငါးများတွင် ပေါ်လွင်သောအရောင်အမျိုးမျိုးရှိသည်။ ဗတ်တာဖလိုင်းငါးခေါ် ငါးတမျိုး၌ အနက်နှင့်အဝါရောင်များရှိ၏။ မြေထဲပင်လယ်ကမ်းခြေနှင့် အိန္ဒိယသမုဒ္ဒရာ၌တွေ့ရသော ပဲရော့ငါးခေါ် ငါးမျိုးတွင် အနီ၊ အစိမ်း၊ ခရမ်းရောင်များရှိသည်။ ငါးမျိုးပေါင်းမြောက်မြားစွာတွင်အိမ်၌အလှမွေးသောရွှေငါး ငွေငါးများလည်းပါဝင်လေသည်။

ငါးသည် အခြားတိရစ္ဆာန်များနည်းတူ သွားလာလှုပ်ရှားနေကြသော်လည်း အခြားတိရစ္ဆာန်များကဲ့သို့ အသံမပြုနိုင်ချေ။ သို့ရာတွင် ငါးများမှ ထူးခြားသော အသံတမျိုးကိုကြားရတတ်သည်။ ထိုအသံမှာ အခြားတိရစ္ဆာန်များ၌ဖြစ်ပေါ်သော အသံမျိုးကဲ့သို့မဟုတ်ဘဲ သွားတိုနှစ်ချောင်းကို တခုနှင့်တခု မတော်တဆကြိတ်မိခြင်းကြောင့် ဖြစ်ပေါ်လာသော အသံဟုဆိုသည်။ တခါတရံ၌ သီချင်းဆိုသံကဲ့သို့ အသံမျိုးကိုလည်းကြားရတတ်သည်။ ထိုအသံမျိုးသည် ဝမ်းတွင်းရှိ လေအိတ်မှ ဖြစ်ပေါ်လာသည်ဟုသိပ္ပံပညာရှင် အချို့ကယူဆကြသည်။

အသီးအနှံတို့မှလွဲလျှင် လူတို့၏အဓိကအစာမှာ ငါးဖြစ်သည်။ ငါး၏အသားတွင် ကျန်းမာရေး(?)

သည်။ ငါး၏အသားတွင် ကျန်းပ်တို့ကိုယ်ခန္ဓာအတွက်လိုအပ်သော ပရိုတင်း၊ အဆီ၊ တင်းထွက်ဓာတ်၊ ဗီတာမင်တို့ ပေါများစွာပါရှိသည်။ ကျွန်ုပ်တို့သုံးစွဲနေသော ဗီတာမင်အေ နှင့်ဗီတာမင် ဒီ သည် ငါးအသည်းမှရသော ဆီကိုဖော်စပ်ယူသော ပစ္စည်းများဖြစ်သည်။

ငါးသည် ဘေးပြုတတ်သောပိုးကောင်များကို ဖျက်ဆီးပစ်ခြင်းဖြင့် လူတို့အတွက် အသုံးဝင်သေးသည်။ အထူးသဖြင့် ငါးသည် ခြင်ကိုအဖျက်ဆီးနိုင်ဆုံး ဖြစ်သည်။ ငှက်ဖျားရောဂါ၊ အဝါဖျားရောဂါတို့ကို ကူးစက်ပြန့်ပွားစေတတ်သော ခြင်တို့၏အကြီးဆုံးရန်သူမှာ ငါးပင်ဖြစ်သည်။

**ငါးကြီးအန်ဖတ်။** ။တခါတရံ ရေမျှော်တွင် ပါရှိသော အမွှေးအကြိုင်ကို စပယ်ပန်း၊ နှင်းပန်း စသည်တို့မှပေါင်းခံမယူဘဲငါးကြီးအန်ဖတ်ခေါ် ဝေလငါး၏အူအတွင်းမှရရှိသောပစ္စည်းတမျိုးမှ ပေါင်းခံယူကြသည်။ ထိုပစ္စည်း၌သွေးပြန်ကြောများပါရှိခြင်းကြောင့် အရောင်မှာညစ်ပုပ်ပုပ်ဖြစ်သည်။ ပင်လယ်တွင် ငါးကြီးအန်ဖတ်များကို အစုလိုက်အပြုံလိုက် မျောနေသည်ကိုတွေ့ရတတ်၏။ အတ္တလန္တိတ်သမုဒ္ဒရာတွင် ပေါင် ၂၀၀ ကျော်မျှအလေးချိန်စီးသော ငါးကြီးအန်ဖတ်များကို တွေ့ရသည်။ တခါတရံ ငါးကြီးအန်ဖတ်ကို ဗရာဇီးနိုင်ငံ၊ မက်ဒါဂက်စကာကျွန်း၊ အာဖရိကတိုက်နှင့် အရှေ့တိုင်းနိုင်ငံတို့၏ကမ်းခြေများတွင် တွေ့ရလေသည်။ အစိမ်းလိုက်တွေ့ရသော ငါးကြီးအန်ဖတ်များတွင် မနှစ်မြို့ဖွယ်ကောင်းသော အနံ့ရှိ၏။ ငါးကြီးအန်ဖတ်ကို အယ်လကိုဟောနှင့် အငွေ့ပျံဆီများတွင်ဖျော်၍ အမွှေး



(ဝဲ) မပြုပြင်ရသေးသောငါးကြီးအန်ဖတ်များနှင့် (ယာ) ပြုပြင်ပြီးငါးကြီးအန်ဖတ်

အကြိုင်များတွင် အနည်းငယ်ထည့်ပြီး အသုံးပြုကြသည်။ အချို့နိုင်ငံများတွင် အစားအစာကိုမွှေးကြိုင်အောင် ငါးကြီးအန်ဖတ် အနည်းအကျဉ်းထည့်၍ သုံးဆောင်တတ်ကြသည်။ ငါးကြီးအန်ဖတ်သည် အလွန်အဖိုးတန်၏။ တခါက ပေါင် ၂၆၀ ရှိသော ငါးကြီးအန်ဖတ်ကို ရွှေဒင်္ဂါးပေါင် ၆၆,၀၀၀ ပေး၍ ပြင်သစ်ရေမွှေးကုမ္ပဏီတခုက ဝယ်ယူခဲ့ဘူးသည်။

**ငါးစည်ဖောင်းကော်**။ ။ငါးစည်ဖောင်းကော်သည် ငါးအမျိုးမျိုး၏ စည်ဖောင်းမှရရှိသော ကော်တမျိုးဖြစ်သည်။ အရောင်မှာဖြူ၏။ အလင်းမပေါက်တပေါက်ရှိ၍မှာသည်။ ထိုကော်၌ဂျယ်လတင်း ၈၆ ရာခိုင်နှုန်းမှ ၉၃ ရာခိုင်နှုန်းအထိ ပါသည်။ (ဂျယ်လတင်း—လည်းရှု။) တခါတရံထိုထက်ပင် ပါရှိသေး၏။ ရုရှနိုင်ငံက စတားဂျင် ခေါ် ငါးမျိုးမှရသော ငါးစည်ဖောင်းကော်သည် အကောင်းဆုံးဟုအဆိုရှိလေ၏။ အရက်ကိုကြည်လင်လာအောင်ပြုလုပ်ရာ၌ ငါးစည်ဖောင်းကော်ကို အသုံးပြုကြသည်။ ကျောက်ကြောနှင့်ဟင်းချိုတို့၌ ဂျယ်လတင်းကို အသုံးချသကဲ့သို့ ငါးစည်ဖောင်းကော်ကိုလည်း အသုံးချရလေသည်။

**ငါးပါးသီလ**။ ။ငါးပါးသီလသည် ဗုဒ္ဓမြတ်စွာ၏ ဆုံးမသြဝါဒဖြစ်၍ လူတို့စောင့်ထိန်းအပ်သော ကိုယ်ကျင့်တရား ငါးပါးဖြစ်၏။ သီလ၏အနက်ကို ကိုယ်၊ နှုတ်၊ စိတ်အမူအရာတို့ကို ငြိမ်သက်စွာထားခြင်းဟုရင်း၊ ကုသိုလ်တရားတို့ကိုဆောင်ခြင်းဟုရင်း၊ ဝိသုဒ္ဓိမဂ်အဋ္ဌကထာတွင် ဖွင့်ဆိုလေသည်။ တနည်းအားဖြင့် သီလသည်ဦးခေါင်းနှင့် တူသောအနက်၊ အေးမြချမ်းအေးခြင်းအနက်၊ အကုသိုလ်တို့မဝင်ရအောင် ပိတ်ပင်တားမြစ်ခြင်းအနက်၊ ဒုစရိုက်အကျင့်ပျက်၏ အိပ်စက်ကြောင်းအနက်တို့၌ထင်ပေသည်။ အချုပ်အားဖြင့်ဆိုသော် သီလ၏အနက်မှာ အကျင့်၊ အလေ့သဘောဟုဖြစ်လေသည်။

ငါးပါးသီလကို အင်္ဂုတ္တရ ပါဠိတော်၌ 'ပဉ္စဟိဘိက္ခဝေ၊ ဓမ္မေဟိသမန္နာဂတောဃထာဘတံ၊ နိက္ခိတ္တောဝေံနိရိယေ၊ ကတမေဟိပဉ္စဟိ။

၁။ ပါဏာတိပါတီဟောတိ၊
၂။ အဒိန္နာဒါယီဟောတိ၊
၃။ ကာမေသုမိစ္ဆာစာရီဟောတိ၊
၄။ မုသာဝါဒီဟောတိ၊
၅။ သုရာမေရယ၊ မဇ္ဇပမာဒဋ္ဌာယီဟောတိ၊

ဣမေဟိခေါဘိက္ခဝေ ပဉ္စဟိဓမ္မေဟိ သမန္နာဂတောဃထာဘတံနိက္ခိတ္တော ဧဝံနိရိယေ' ဟုပါရှိ၏။ အနက်ကား၊ 'ရဟန်းတို့ တရားငါးပါးနှင့် ပြည့်စုံသောသူသည် ပြုလုပ်ဆောင်ရွက်သည့်အတိုင်း ငရဲသို့ကျရာ၏။ ထိုတရားငါးပါးတို့ကား

(၁) သူ့အသက်သတ်ခြင်းတပါး၊
(၂) သူ့ဥစ္စာခိုးယူခြင်းတပါး၊
(၃) ကာမတို့၌အမှားကျင့်ခြင်းတပါး၊
(၄) လိမ်လည်ပြောဆိုခြင်းတပါး၊
(၅) အရက်သေစာသောက်ခြင်းတပါး၊

ဤငါးပါးတို့တည်း။ ထိုငါးပါးကို စောင့်ထိန်းပါက ငါးပါးသီလစောင့်ရာရောက်၍ လူ၊ နတ်၊ နိဗ္ဗာန် သုံးတန်သောအကျိုးကိုရနိုင်၏။'

ငါးပါးသီလကိုဆောက်တည်ရာ၌ မြတ်စွာဘုရား ရုပ်ပွားဆင်းတု၊ စေတီပုထိုးများ၌ရင်း၊ ရဟန်းသံဃာတော်များ၌ရင်း၊ အဟံဘန္တေ တိသရဏေနသဟ ပဉ္စသီလံဓမ္မံယာစာမိ အနုဂ္ဂဟံကတွာ သီလံဒေထမေဘန္တေဟု တကြိမ် နှစ်ကြိမ် သုံးကြိမ်တိုင်အောင်သရဏဂုံသုံးပါးနှင့်တကွ ငါးပါးသီလကိုပေးသနားရန် လျှောက်ထားရသည်။ ထိုနောက် ဘုရားသခင်ကို ရှိခိုးကြောင်းဖြစ်သည့် နမောတဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿကို သုံးကြိမ်၊ ထိုနောက်ဗုဒ္ဓံသရဏံဂစ္ဆာမိ၊ ဓမ္မံသရဏံဂစ္ဆာမိ၊ သံဃံသရဏံဂစ္ဆာမိ တည်းဟူသောသရဏဂုံသုံးပါးကိုလည်း သုံးကြိမ်တိုင်တိုင်ရွတ်ဆိုရသည်။ ထိုနောက်ငါးပါး သီလခံယူဆောက်တည်ကြောင်းကို ဖော်ပြသည့် သူ့အသက်ကိုသတ်ခြင်းမှ၊ သူ့ဥစ္စာကိုခိုးခြင်းမှ၊ ကာမတို့၌အမှားကျင့်ခြင်းမှ၊ လိမ်လည်ပြောဆိုခြင်းမှ၊ အရက်သေစာသောက်စားမူးယစ်ခြင်းမှ၊ ရှောင်ကြဉ်ကြောင်းအကျင့်ကို ကောင်းစွာ ဆောက်တည်ပါသည် ဟု အောက်ပါအတိုင်းရွတ်ဆိုဆောက်တည်ရလေသည်။

၁။ ပါဏာတိပါတာ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ၊
၂။ အဒိန္နာဒါနာ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ၊
၃။ ကာမေသုမိစ္ဆာစာရာ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ၊
၄။ မုသာဝါဒါ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ၊
၅။ သုရာမေရယ မဇ္ဇပမာဒ ဋ္ဌာနာ ဝေရမဏီ သိက္ခာပဒံ သမာဒိယာမိ၊

သရဏဂုံသုံးပါးနှင့်တကွ ငါးပါးသီလ၏အနက်သဘောကို သိရှိပါက ပါဠိလိုရင်း၊ မြန်မာလိုရင်း၊ အချိန်အခါမရွေး ငါးပါးသီလကို ခံယူဆောက်တည်နိုင်သည်။ ငါးပါးသီလကို ဆောက်တည်ရာ၌ နှုတ်မှရွတ်ဆိုသည်ထက် အနက်အဓိပ္ပါယ်



သံဃာတော်အရှင်မြတ်၏ရှေ့၌သီလခံယူနေပုံ

ကိုသိရှိနားလည်၍ လိုက်နာကျင့်သုံး ဆောက်တည်မှုသာလိုရင်းဖြစ်လေသည်။

ငါးပါး သီလတွင် ဆောက်တည်ရာ၌ သိက္ခာပုဒ်တိုင်းလုံခြုံရပေလိမ့်မည်။ သိက္ခာပုဒ်လွန်ကျူးချိုးဖောက်ပျက် စီးရာ၌ သိက္ခာ ပုဒ် တပါးတပါး စီ တွင် ကံမြောက်ရာကံမြောက်ကြောင်း အင်္ဂါပယောဂအသီးသီးရှိကြသည်။ ထိုအင်္ဂါပယောဂအသီးသီးကို အကျဉ်းချုပ် ရမည်ဆိုသော်၊ ဇော၊ စေတနာ၊ ဥဿာဟဟူ၍ ၃ ပါးရ၏။ ထို ၃ ပါး ပြည့်စုံလျှင် ကံမြောက်သည်။ ကံမြောက်ပါမှလည်း သုဂတိ ဒုဂ္ဂတိဘုံများသို့ကျရောက်စေသောအကျိုးကို ပေးလေသည်။

ငါးပါးသီလဟူသည် နိစ္စသီလမျိုးဖြစ်၍ သာသနာတော်အတွင်း၌သာမဟုတ် သာသနာပ ကာလ၌လည်း တည်ရှိလေသည်။ ငါးပါးသီလသည် လူ့ကျင့်ဝတ်၌ အခြေခံတရားဖြစ်ပေသည်။

**ငါးမွေးကန်။** ။ငါးမွေးကန်ဆိုရာ၌ အိမ်တွင်းအလှအပပစ္စည်းအဖြစ်ဖြင့်သော်၎င်း၊ ငါးအကြောင်း ဗဟုသုတ ရှာမှီးနိုင်ရန်အတွက်သော်၎င်း၊ ငါးများကို မွေးထားသောကန်ကိုဆိုလိုသည်။ ရှေးအခါကပင် အိမ်တွင်းအိမ်ပြင်၌ ငါးများကိုမွေးမြူသော ငါးမွေးကန်အမျိုးမျိုးရှိခဲ့သည်။ ရောမလူမျိုးတို့သည် အိမ်ပြင်၌ ကန်များပြုလုပ်၍ ငါးများကိုအစာအလို့ငှာ မွေးမြူခဲ့ကြသည်။ တရုပ်နိုင်ငံနှင့် ဂျပန်နိုင်ငံတို့၌လည်းရှေးနှစ် ပေါင်းများစွာကပင် ရွှေငါးများကို အင်တုံ သို့မဟုတ် ဖန်ပေါင်းချောင်များတွင် ထည့်၍အိမ်တွင်းအလှအပ ပစ္စည်းအဖြစ်ဖြင့်မွေးမြူခဲ့ကြလေသည်။

ယခုအခါ ကမ္ဘာပေါ်ရှိ တိုင်းပြည်တိုင်း၌လိုပင် ငါးမွေးခြင်းကို ဝါသနာပါ၍ ငါးအမျိုးမျိုးမွေးနေသူ အမြောက်အမြားရှိပေသည်။ တတိုင်းပြည်၌ မရှိသော ငါးများကို အခြားတတိုင်းပြည်တွင် ဝယ်ယူ၍ အထူးတလည်မွေးမြူကြကုန်၏။ တခါတရံ အချို့လူများ သည် လူသူမရောက်ဘူးသော နေရာများသို့ပင် သက်စွန့်ကြိုးပမ်းသွားရောက်ကာ ငါးအထူးအဆန်းများကို ရှာ၍မွေးမြူကြလေသည်။

အများအားဖြင့် အိမ်တွင်းငါးမွေးကန်များကို ပြုလုပ်ရာ၌ ဘောင်များကို သတ္တုဖြင့်ပြုလုပ်၍ အကာများကို မှန်ဖြင့်ပြုလုပ်တတ်ကြ၏။ သို့မှသာ ငါးမွေးကန်ထဲတွင် မွေးထားသောငါးများ၏ သဘာဝအခြေအနေကို ကောင်းစွာမြင်နိုင်ကြပေမည်။ ခေတ်မီသော တိုင်းပြည်များတွင် တိရစ္ဆာန်ရုံများ၌ ကမ္ဘာအရပ်ရပ်က ငါးအမျိုးမျိုးကိုထိုငါးတို့နှင့်သင့်သော အခြေအနေများဖန်တီးကာမွေးမြူထားတတ်ကြ၏။

ငါးမွေးကန်များထဲတွင် ငါးများကိုသာမဟုတ်သေး ခရု၊ ပက်ကျိ၊ ကနန်း၊ ဖား၊ ဗုဇွန်ကဲ့သို့သော အခြားရေသတ္တဝါများကိုလည်း မွေးထားတတ်ကြသည်။ အချို့တိုင်းပြည်များတွင် ရေငန်သတ္တဝါများကိုပင် မွေးမြူထားတတ်ကြပေသည်။ ပင်လယ်ငါးကဲ့သို့သော ရေငန်သတ္တဝါများကို မွေးရာ၌ ပင်လယ်ရေနှင့်တူသောရေကို ဖန်တီးပေးရန်မလွယ်ကူသဖြင့် ထိုငါးမွေးကန်များကို ပင်လယ်ကမ်းခြေအနီးအနားတွင် အုတ်ဖြင့်ဆောက်လုပ်ကြ၍ ပင်လယ်ထဲမှ ရေငန်ကို ထိုငါးမွေးကန်ထဲသို့ စက်ဖြင့် စုတ်သွင်း ထည့်ထားကြသည်။ ထိုရေငန်ငါးမွေးကန်များတွင် ဘဲ၊ ကင်းမွန်၊ ငထိုးစသော ရေငန်သတ္တဝါများကို မွေးထားတတ်ကြသည့်ပြင် ပင်လယ်၌ပေါက်တတ်သောအပင်များကိုလည်းထည့်ထားတတ်ကြ၏။ ထိုကန်များတွင် ရေငန်သတ္တဝါများသွားလာနေကြသည်မှာ ပင်လယ်အောက်ရေနက်၌ သဘာဝအလျောက် သွားလာနေကြသကဲ့သို့ ထင်မှတ်ရ၏။ ယင်းတို့ကို ကြည့်ရှုနိုင်ရန်နှင့် ဓာတ်ပုံရိုက်ကူးနိုင်ရန် ကန်၏ဘေးဖက်တွင် မှန်ပေါက်များဖောက်လုပ်ထားကြသည်။

ငါးမွေးကန်အတွင်းသို့ ရေထည့်ရာတွင် ငါးများကိုစားတတ်သော ရေသတ္တဝါများနှင့် ရောဂါဖြစ်စေတတ်သော



အိမ်တွင်အလှထားသည့်ငါးမွေးကန်အတွင်းမှရွှေငါးကလေးများ

ပိုးမွှားများမပါအောင် ရေကိုစစ်ပေးရ၏။ ငါးများသည် အသက်ရှူရန်အတွက်လိုသော အောက်ဆီဂျင်ကို ရေထဲမှရရှိကြရာ၊ ရေကိုပါးစပ်မှသွင်း၍ ပါးဟက်မှပြန်ထုတ်ပစ်ကြသည်။ ရေထဲကအောက်ဆီဂျင်ကို အသုံးပြုပြီးသော အခါ ကာဗွန်ဒိုင်အောက်ဆိုက်ကို ထုတ်ပစ်လိုက်ကြသည်။ ဤသို့ဖြင့် ရေထဲ၌ ကာဗွန်ဒိုင်အောက်ဆိုက် အချိုးအစားများ လာ၍အောက်ဆီဂျင်အချိုးအစားနည်းသွားတတ်ပေသည်။ ထိုရေထဲ၌ ငါးများသည်အောက်ဆီဂျင်ကိုလုံလောက်စွာမရရှိကြသဖြင့် မကြာခဏ ရေပြင်သို့တက်၍ လေထဲမှအောက်ဆီဂျင်ကို တိုက်ရိုက်ရှူကြရသည်။ တခါတရံ ငါးများသည် အောက်ဆီဂျင်ကို လုံလောက်စွာမရရှိကြသဖြင့် သေဆုံးကြသည်။ လေထဲက အောက်ဆီဂျင်သည် ရေထဲသို့ရေမျက်နှာပြင်မှ ဝင်ရသဖြင့် ငါးမွေးကန်များဆောက်လုပ်ရာ၌ ငါးမွေးကန်၏ရေမျက်နှာပြင်ကို ကျယ်နိုင်သမျှ ကျယ်အောင် စီစဉ်ရ၏။ ရေအနက်ကိုမူ သင့်တော်ရုံထားတတ်ကြ၏။

ငါးမွေးကန်အတွင်း၌ အပင်များကို စိုက်ပေးခြင်းအားဖြင့် မျှတသောသဘာဝကို ဖြစ်စေနိုင်၏။ အပင်များသည် ငါးတို့ထုတ်ပစ်သောကာဗွန်ဒိုင်အောက်ဆိုက်ကို အသုံးပြု၍ အောက်ဆီဂျင်ကိုထုတ်ပေးကြသည်။ တဖန် ငါးတို့သည် အပင်များက ပြန်ထုတ်ပေးသောအောက်ဆီဂျင်ကို အသုံးပြု၍ ကာဗွန်ဒိုင်အောက်ဆိုက်ကို ထုတ်ပစ်ကြပြန်သည်။ ဤသို့ဖြင့် ငါးနှင့်အပင်တို့သည် တဦးအပေါ်တဦး အပြန်အလှန် အမှီသဟဲပြုနေကြပေသည်။ ထို့ပြင် ငါးများမှစွန့်ပစ်လိုက်သော အညစ်အကြေးများသည် အပင်များအဖို့ မြေဩဇာဖြစ်၏။ ငါးမွေးကန်ထဲ၌ ငါးအကောင်ရေ အဆမတန် များနေသော အခါ၌ဖြစ်စေ၊ ကာဗွန်ဒိုင် အောက်ဆိုက် အချိုးအစားများ နေသော အခါ၌ဖြစ်စေ၊ အေအီးရေတာခေါ် လေမှုတ်စက်ဖြင့် ရေထဲသို့ လေမှုတ်သွင်း ပေးကြရသည်။ ဤသို့ဖြင့် ငါးမွေးကန်ထဲရှိ ရေကိုအောက်ဆီဂျင်နှင့် ပြည့်ဝအောင်လုပ်ပေးနိုင်လေသည်။

ငါးမွေးကန်ထဲရှိ ငါးများကို အစာကျွေးရာ၌ ယင်းတို့စားသောက်လောက်ရှိသော အစာကိုရှာ၍ ကျွေးရ၏။ အစာကိုအဆမတန်မကျွေးကြရပေ။ အစာကို အဆမတန်ကျွေးလျှင် ငါးများသေဆုံးတတ်ကြသည်။ ယခုအခါ အသင့်ပြုလုပ်ပြီး ရောင်းသော ငါးအစာအမျိုးမျိုးရှိသည်။ ငါးမွေးကန်ထဲသို့ ငါးအစာအများအပြားထည့်ပေးလျှင်၊ ငါးတို့မစား၍ ကြွင်းကျန်သော အစာများသည် ရေကိုပုပ်သိုးစေတတ်သည်။ ပုပ်သိုးသော ရေသည် ငါးတို့အတွက်မကောင်းပေ။ ထို့ကြောင့် ဤသို့ မဖြစ်ရလေအောင် အစာအကြွင်းအကျန်များကို သုတ်သင်ပေးသော ခရု၊ ပက်ကျိ၊ ငရှဉ့် စသော အကောင်များကို ငါးမွေးကန်များတွင် ထည့်မွေးထားတတ်ကြသည်။

ငါးမွေးကန်ထဲ၌ ငါးအမျိုးမျိုးကိုမွေးထားနိုင်၏။ မွေးမည့်ငါးအမျိုးများကို ရွေးချယ်ရာ၌ တဦးနှင့်တဦးသင့်မြတ်စွာနေနိုင်မည့် ငါးများကိုသာရွေးချယ်ကြ၏။ ရန်မူတတ်သောငါးများကိုမူ သီးသန့်ငါးမွေးကန်များ၌ မွေးကြ၏။ ငါးအကောင်ကလေးများ ဥမှပေါက်ချိန်၌ ငါးဥနှင့်ငါးအကောင်ကလေးများကို ငါးကြီးတို့မှ သီးသန့် ထားပေးကြရသည်။ ဤသို့ပြုလုပ်မပေးလျှင် ငါးအကောင်ကြီးများသည် ငါးဥများနှင့်ငါးငယ်ကလေးများကို စားပစ်တတ်ကြ၏။ ငါးအတော်အတန် ကြီးထွားလာမှ ငါးကလေးများကို ငါးအကောင်ကြီးများနှင့် ရောထားရပေသည်။ ငါးများမွေးမြူရာ၌ မျိုးခြားငါးများကိုတမျိုးနှင့်တမျိုး စပ်ပေးခြင်းအားဖြင့် အသွင်မတူ ထူးခြားသောငါးမျိုးများကို ရရှိနိုင်ပေသည်။

ကမ္ဘာအရပ်ရပ်ရှိ အပူပိုင်း၊ အအေးပိုင်း၊ သမပိုင်းဒေသတို့မှ ငါးအမျိုးမျိုးကို တိုင်းပြည်အသီးသီး၌ မွေးသောအခါ ထိုငါးတို့နှင့်သင့်လျော်မည့်ရေအပူချိန်ကို ဖန်တီးပေးကြရသည်။ အပူပိုင်းဒေသမှ ငါးများကို အအေးပိုင်းဒေသ၌ မွေးမြူလို လျှင် အပူပိုင်းဒေသက ရေအပူချိန်လောက် နွေးလာအောင်ပြုလုပ် ပေးကြရသည်။ ဤသို့ပြုလုပ်ရာ၌

သာမိုစတတ်ခေါ် ကရိယာကိုအသုံးပြုကြ၏။ အအေးပိုင်းဒေသမှငါးများကို အပူပိုင်းဒေသ၌ မွေးမြူလိုလျှင် လည်း အအေးပိုင်းဒေသက ရေအေးသလောက် ငါးမွေးကန်ထဲရှိ ရေကို အေးအောင်ပြုလုပ်ပေးရ၏။ ဤသို့ပြုလုပ်ပေးရာ၌ အအေးသေတ္တာများကိုအသုံးပြုကြသည်။

အစာအလို့ငှာ ငါးမွေးမြူရာ၌ ငါးမွေးကန်များကို အုတ်ဖြင့်ဆောက်လုပ်ရသည်။ တနည်းအားဖြင့် မြေကြီးထဲတွင် ကန်တူး၍လည်း ပြုလုပ်ရသည်။ တခါတရံ အင်းအိုင်များကို ငါးမွေးကန်များအဖြစ်ဖြင့် အသုံးပြုရ၏။ ငါးများကို မွေးမြူရာတွင် ဥများကိုသော်၎င်း၊ ငါးပေါက်စကလေးများကို သော်၎င်း စုဆောင်း၍မွေးမြူကြရ၏။ ကောင်းစွာကြီးထွားလာမှ ငါးများကို ဖမ်း၍စားကြ၏။ တခါတရံ ငါးရှားပါးသောမြစ်၊ ချောင်း၊ အင်း၊ အိုင် များထဲသို့ ငါးပေါက်စကလေးများကို မျိုးအဖြစ်ထည့်ပေးလေ့ရှိကြသည်။ ဤသို့ဖြင့်ငါးများပေါများလာအောင် စီမံယူကြသည်။ တခါတရံ မွေးမြူရန်သင့်တော်မည့် ငါးများကို နိုင်ငံခြားမှ ဝယ်ယူ၍မွေးမြူကြသည်။ မြန်မာနိုင်ငံ၌ ကြောင်း၊ သိုင်း၊ ငရုံ့စသောငါးများကို ငါးမွေးကန်များတွင် အစာအတွက် ကောင်းစွာမွေးမြူနိုင်ကြပေသည်။ ထို့ပြင် အိမ်တွင်းငါးမွေးကန်များဖြင့် မွေးမြူနိုင်သော ငါးအထူးအဆန်းများလည်း မြန်မာနိုင်ငံ၌ အမြောက်အမြားရှိပေသည်။

**ငါးမျှားခြင်း။** ။မြေပြင်၌တောလိုက်သူသည် မိမိလိုက်လံပစ်ခတ်သည့် သားကောင်များ၏အကြောင်း၊ တော၏အကြောင်းကို သိထားရပြီးလျှင် မိမိအသုံးပြုသောသေနတ်အစရှိသောလက်နက်များကို ကျွမ်းကျင်နိုင်နင်းစွာ ပစ်ခတ်ကိုင်တွယ်တတ်ရန်လိုသကဲ့သို့ ငါးမျှားသူတို့သည်လည်း မိမိရှာဖွေ ဖမ်းဆီးရမည့် ငါးအကြောင်း၊ အင်း၊ အိုင်၊ ချောင်း၊ မြောင်း အကြောင်းတို့ကို နားလည်ထားပြီးလျှင် မိမိကိုင်တွယ်မည့်ငါးမျှားတံ၊ ငါးမျှားကြိုး၊ ငါးမျှားချိတ်စသည်တို့ကိုလည်း ကောင်းမွန်နိုင်နင်းစွာ ကိုင်တွယ်အသုံးပြုတတ်ရန် လိုပေသည်။

ငါးမျှားရာတွင် ၁၁ ပေမှ ၁၃ ပေအထိရှည်သော ငါးမျှားတံ၌ ခိုင်မာပျော့ပျောင်းသောကြိုးကိုတပ်ပြီးလျှင် ထိုကြိုးအဖျား၌တဖန် ငါးမျှားချိတ်ကို တပ်ရ၏။ ထိုငါးမျှားချိတ်တွင် ငါးကိုမျှားရန်အတွက် အစာတပ်၍ရေ၌ချထားရသည်။ ရေ၌ချရာတွင် ရေ၏ အတိမ်အနက်ကိုချင့်၍ မိမိ၏ငါးမျှားချိတ်ရောက်စေလိုသောနေရာနှင့် ရေမျက်နှာပြင်အကွာအဝေးလောက်တွင် ရေပေါ်၌ ပေါလောပေါ်နေသော ဖော့များတပ်၍ ငါးဟပ်သည်မဟပ်သည်ကို စောင့်ကြည့်နေရလေသည်။ ငါးစာအဖြစ်ဖြင့် တီကောင်၊ ယင်ကောင်နှင့် အခြားပိုးမွှားများ၊ ငါးငယ်ကလေးများကို အသုံးပြုနိုင်သည်။ စံနစ်တကျ ပြုလုပ်ထားသည့် ငါးမျှားတံတွင်ကြိုးအတိုအရှည်ကို လိုသလောက်ရစ်ယူနိုင်ရန် ရစ်လုံးငယ်တခုကို အရင်းတွင်တပ်ဆင်ထားသည်။

ငါးမျှားရာတွင် အချုပ်အားဖြင့်မြစ်ချောင်းအစရှိသည့်ရေချို၌ မျှားခြင်း၊ ပင်လယ်၌မျှားခြင်းဟူ၍ နှစ်ပိုင်းခွဲခြားထား၏။ ရေချို၌ငါးမျှားခြင်းတွင် (၁) ရေမျက်နှာပြင်ပေါ်၌မျှားခြင်း (၂) ရေမျက်နှာပြင်နှင့် ရေအောက်ခြေ၏အလယ်၌မျှားခြင်း (၃) ရေအောက်ခြေ၌မျှားခြင်းဟူ၍ သုံးမျိုးခွဲထားပြန်သည်။ ရေမျက်နှာပြင်ပေါ်၌ မျှားခြင်းတွင် အစာတပ်ထားသောငါးမျှားချိတ်ကို ရေမျက်နှာပြင်၌ရှိနေစေခြင်းဖြစ်၍ အသုံးပြုရသောငါးစာမှာ ယင်ကောင်နှင့် အခြားပိုးမွှားများ ဖြစ်သည်။ ငါးများသည်ရေပေါ်၌ကျနေသောပိုးမွှားများကိုဟပ်၍ စားတတ်သဖြင့် ထိုကဲ့သို့ရေမျက်နှာပြင်ပေါ်၌ အစာတပ်ငါးမျှားချိတ်ချသောနည်းသည် ငါးအများကို ဖမ်းမိတတ်သောနည်းဖြစ်သည်။

ဒုတိယနည်းဖြစ်သော ရေလယ်၌မျှားနည်းတွင် ဆိုခဲ့သည့်နည်းအတိုင်း အစာတပ်ထားသည့်ချိတ်ကို ရေလယ်၌ထားခြင်းဖြစ်၍ အသုံးပြုသောအစာမှာ ရေသတ္တဝါအငယ်စားကလေးများဖြစ်သည့် ငါးငယ်၊ ရေပိုးမွှားငယ်ကလေးများဖြစ်သည်။ ငါးတို့သည် ရေ၌တွေ့သောမိမိနိုင်နင်းသည့်သတ္တဝါမှန်သမျှကို ဟပ်မျို၍ စားတတ်သောကြောင့် ငါးမျှားချိတ်များ၌မိတတ်လေသည်။ အောက်ခြေ၌မျှားရာတွင် ငါးမျှား



ရေစီးသန်သောချောင်းငယ်တွင်း၌ငါးမျှားစနှုံ



အနောက်နိုင်ငံများတွင်၊ငါးများသူများသည်ငါးများတံ၌မိနေသောငါးကိုပိုက်ဖြင့်ဤသို့ခံယူလေ့ရှိသည်။

ချိတ်ကို ရေအောက်ခြေအထိ ချ၍များခြင်းဖြစ်၏။ အသုံးပြုသည့်ငါးစာမှာ တီကောင်ဖြစ်၏။ တီကောင်ကို စားတတ်သောငါးများသည် ရေအောက်ခြေ၌သာအစာရှာကြပေမည်။ ထိုကဲ့သို့ရေ၏အနေအထားနှင့်ရေသတ္တဝါများ၏သဘောကို သုံးသပ်ကာ နည်းအမျိုးမျိုးဖြင့် များယူရာတွင် ကျွမ်းကျင်မှုကို နည်းအမျိုးမျိုးလှည့်၍အသုံးချတတ်ရသောကြောင့် ငါးများခြင်းသည်အတတ်တခုဟုဆိုနိုင်ပေသည်။

ပင်လယ်သို့ထွက်၍ ငါးများခြင်းသည် ရေချို၌များခြင်းကဲ့သို့ပင် ကျွမ်းကျင်မှုလိုသော်လည်း ရေချင်းမတူသကဲ့သို့ ငါးများ၏ သဘာဝမှာ လည်း ရေချိုငါးများနှင့်များစွာကွာခြားသောကြောင့် ပိုမိုခိုင်မာသော ကရိယာများနှင့် ကျွမ်းကျင်မှုလိုပေသည်။ ပင်လယ်ဖက်တွင် မြစ်၊ ချောင်း၊ ထုံးအိုင်များ၌ကဲ့သို့မဟုတ်ဘဲ အလွန်ကြီးသောငါးများကို ချိတ်တွင်မိတတ်ရာ အခက်အခဲနှင့် မကြာခဏတွေ့ရတတ်သဖြင့် ငါးများတံ၊ ငါးများကြိုးနှင့် ချိတ်များကို ပိုမိုခိုင်ခံ့အောင်ပြုလုပ်ရပေသည်။ ငါးများချိတ်ချနည်းသည် အချို့နေရာများ၌ ရေချို၌များသကဲ့သို့ပင် ရေမျက်နှာပြင်ပေါ်၌ များခြင်း၊ ရေလယ်၌များခြင်း၊ အောက်ခြေ၌များခြင်းဟူ၍ သုံးမျိုးပင်ရှိသော်လည်း ပင်လယ်ဖက်၌ အချိန်အခါရာသီဥတုနှင့် နေရာဌာနတို့အလိုက်သာလျှင် အသုံးပြုနိုင်လေသည်။ ပင်လယ်ဖက်၌ ငါးများထွက်သူတို့သည် အကြောင်းအားလျော်စွာ အလွန်ကြီးမားသောငါးကြီးများကို ချိတ်မိလျှင် ထိုငါးကြီးများကို လှေပေါ်သို့ဖြစ်စေ၊ ကုန်းပေါ်သို့ဖြစ်စေ၊ အရောက်ဆွဲတင်နိုင်ရန် ခဲယဉ်းလေသည်။ ၁၉၄၁ခုနှစ်တွင် သြစတြေးလီးယားကျွန်းအနီးတွင် ၁၉၁၉ ပေါင်အလေးချိန်ရှိသော လူသားစားတတ်သည့် ငါးကြီးတကောင်ကို ငါးများတံကရိယာနှင့်ပင်ဆွဲတင်ရရှိခဲ့ဘူး၏။ သို့သော် ထိုကဲ့သို့သောငါးကြီးများကို ဖမ်းမိခဲသည်။ အင်အားကြီးမားသောငါးကြီးများသည် ချိတ်၌မိနေသည့်တိုင်အောင် လှေသို့တင်၍မရနိုင်ရုံမက၊ ငါးများသူ၏လှေကိုပင် ဆွဲယူသွားတတ်လေသည်။ ထိုအခါမျိုးတွင် မြေပြင်၌တောလိုက်သည့်အခါအင်အားကြီးမား၍ လက်နက်အားနှင့်မမျှသော ဆင်ကြီးများ၊ ပြောင်ကြီးများအစရှိသည်ဖြင့် တိရစ္ဆာန်ကြီးများနှင့် တွေ့သောအခါ တောလိုက်သူအဖို့ ဘေးအန္တရာယ်များသကဲ့သို့ပင်ဖြစ်ချေသည်။

ရေချို၌ငါးများသူတို့သည် ငခုံးမ၊ ငပြေမမှအစ ငသိုင်း၊ ငကြင်း၊ ငထွေနှင့် သလေဘက်များ ကိုသာ ရနိုင်ရာ၊ ပင်လယ်သို့ထွက်၍ များသူများသည် အများအားဖြင့် ပင်လယ်ငါးကြီးများကို ဖမ်းမိနိုင်ကြသည်။ ငါးများတံ၊ ငါးများကြိုး၊ ငါးများချိတ်များဖြင့် ကြီးမားသော ငါးကြီးများကို မိအောင်ဖမ်းရခြင်း၊ နိုင်အောင်ဆွဲတင်ရခြင်းမှာ အံ့သြစရာပင်ဖြစ်ရာ၊ ကျွမ်းကျင်မှုရှိလာသောအခါ သေးငယ်သောငါးများကရိယာကလေးများဖြင့်ပင် ငါးများသူ၏ နှစ်ကိုယ်စာမျှရှိသောငါးကြီးများကို ရအောင်ဖမ်းယူနိုင်၏။

မြန်မာနိုင်ငံ၌ ငါးများရာတွင်အရှင်းဆုံးနှင့် အရိုးဆုံးငါးများနည်းမှာ ကိုင်းထောက်ခြင်းဖြစ်သည်။ ထိုနည်းသည်

ဝါး သို့မဟုတ် ကြိမ် ငါးများတံကို ကမ်းစပ်၌ဖြစ်စေ၊ ရေတိမ်၌ဖြစ်စေ အသေထောက်၍များခြင်းဖြစ်သည်။ ငါးများချိတ် ၆ ခုထက်မများ တပ်ထားသောငါးများကြိုးကို ငါးများတံ၌ချည်ထားပြီးလျှင်၊ ငါးစာတပ်၍များရသည်။ ဖွဲနုလုံး၊ ဖားငယ်၊ ငှက်မွှေးနှင့် ဖြေင်းသလက်တို့ကို ငါးစာအဖြစ်သုံးသည်။ ဖြေင်းသလက်နှင့် ငှက်မွှေးတို့ကို ငရံ့နှင့် ငမြင်းရင်းဖမ်းရန်အသုံးပြုသည်။

ကိုင်းမထောက်ဘဲ ငါးများချိတ်အများပါသော ငါးများကြိုးကိုလှေလှော်ခတ်စဉ် ရေသို့ချကာများခြင်းကို လက်တွန်းဟုရင်း၊ လက်သပ်ဟုရင်း၊ သပ်များဟုရင်း၊ ချိတ်ဟုရင်း အမျိုးမျိုးခေါ်ကြသည်။ အကယ်၍ ထိုနည်းအတိုင်း ငှက်မွှေးကိုငါးစာတပ်၍၊ ငမြင်းရင်းကိုများက ဗွက်ဟုရင်း၊ ဗန်းဟုရင်း၊ စကြာများသွယ်ဟုရင်း ခေါ်ကြပြန်သည်။

ငါးစာချကာ ငါးများကြိုးတွင် ဝါးဆစ်ဖော့ချည်၍ များသောအခါ၊ ငါးများစကြာ၊ တိုင်ထောင်ငါးများ၊ ခြင်းပဲ့ဟု အမျိုးမျိုးခေါ်ကြသည်။ ထိုနည်းတွင် စိုက်ထားသောတိုင်ခြေ၌ရွှံ့စေးနှင့် ဖွဲနုရောထားသောငါးစာပါသည့် ခြင်းကို ချည်ထားသည်။ တိုင်ထိပ်၌ငါးများကြိုးနှင့် ချည်ထားသည့် ဝါးဆစ်ဖော့တင်ထားရသည်။ ငါးများကြိုးတွင် ငါးများချိတ်သုံးခုရှိ၍ ယင်းတို့ကို ခြင်း၏ရှေ့နားတွင် တွဲလောင်းချထားသည်။ ထိုငါးများနည်းတွင် တိုင်ထိပ်နှင့်ဝါးဆစ်ဖော့တို့သာ ရေပေါ်၌ပေါ်နေကြသည်။ ငါးများချိတ်တွင် ငါးတိုးသောအခါ တိုင်ထိပ်မှဝါးဆစ်ဖော့သည် လွတ်ကျကာ ငါးဆွဲရာသို့ပါသွားသည်။ ကြေင်းများရန်အတွက် ငါးများစကြာကိုအသုံးများသည်။

ရေနက်ရာများ၌ ငါးများနည်း အမျိုးမျိုးရှိသည့် အနက် အရိုးဆုံးနှင့်အရှင်းဆုံးမှာငါးများတန်းဖြစ်သည်။ ငါးများတန်းသည် တထောင်ခန့်ရှိ ငါးများချိတ်တပ်ပြီးကြိုးတိုများကို ငါးများကြိုးတွင်တတောင်ခန့်စီခြား၍ ချည်ထားသည်။ ငါးစာတပ်ငါးများတန်းနှင့် ငါးစာမတပ်ငါးများတန်းဟူ၍ နှစ်မျိုးခွဲထား၍ နှစ်မျိုးစလုံးကို မြစ်ချောင်းများနှင့်ပင်လယ်တို့၌အသုံးပြုသည်။ သို့ရာတွင် ငါးစာမတပ်သောငါးများတန်းကို ပင်လယ်၌သာ အများအားဖြင့် အသုံးပြုသည်ကို တွေ့ရှိရပေသည်။

ပင်လယ်တွင် ငါးစာမတပ်သော ငါးများတန်းနှင့် ငါးများသောအခါ၊ ငါးများကြိုးတွင် ဖော့များချည်ပြီး ရေပြင်အောက်၌တန်း၍ချထားရသည်။ ငါးများတန်းကို အကန့်အကန့်ပြု၍ထောင်လေ့ရှိရာ များသောအားဖြင့် အကန့် ၃၀၊ ၄၀ ခြား၍ များကြသည်။ တကန့်တကန့်တွင် ငါးများကြိုးသည် အတောင် ၁၂၀ ခန့်ရှည်သည်။ ငါးစာမတပ်သော ငါးများတန်းဖြင့် အမိများသောငါးများမှာ ငမန်းနှင့်ငလိပ်ကျောက်တို့ဖြစ်သည်။ မြစ်ချောင်းတို့တွင် ငါးစာတပ်ငါးများတန်းနှင့် များလေ့ရှိသည်။ ငါးများချိတ်တွင် ဖြေင်းသလက်အရှင်ကိုချိတ်၍ ငရံ့များကိုများသည်။ ငါးများတန်းကို စိုက်ထား သောဝါးတိုင်နှစ်ခုအကြား ရေပြင်ပေါ်၌တန်း၍ချည်ထားလေ့ရှိသည်။ တခါတရံ ရေပြင်အောက်၌ဖြစ်စေ၊ ရေပြင်တွင်ဖြစ်စေ ငါးများတန်းကိုချ၍ များတတ်ကြသည်။ ပင်လယ်တွင်မူ ပင်လယ်ကန်စွန်းဥကို ငါးစာအဖြစ်အသုံးပြု၍၊ ရေတိမ်သည့်နေရာ၌ရေပြင်တွင်ဖော့များချည်ထားကာ များလေ့ရှိသည်။ ငလိပ်ကျောက်၊ ငဇလုံနှင့်ငမန်းငယ်များကို ဖမ်းမိတတ်သည်။ ငါးစာတပ်ငါးများတန်းကို မြစ်ချောင်းတို့တွင်အသုံးပြုသောအခါ၊ များတန်းဟုရင်း၊ တန်းများဟုရင်း၊ ကြိုးတန်း၊ ရေမှုတ်တန်း၊ ရေပေါ်တန်းဟုရင်း အမျိုးမျိုးခေါ်ကြသည်။ ပင်လယ်တွင်အသုံးပြုသောအခါတွင် ပိုင်းဟုရင်း၊ များပိုင်းဟုရင်း အမျိုးမျိုးခေါ်ကြသည်။

ဗူးမျှောဆိုသည်မှာ အမှန်အားဖြင့်ငါးများချိတ်တခုစီကို ဖော့ချည်၍များခြင်းဖြစ်သည်။ ဗူးတွင်ငါးစာတပ်ပြီး ငါးများချိတ်ရှိသောငါးများကြိုးကို ပတ်ထားရသည်။ ထိုဗူးများကိုရေစုန်မျှောပြီး လှေပေါ်မှစောင့်ကြည့်ရသည်။ ငါးမိသောအခါ ငါးများကြိုးကိုဆွဲသွားသောကြောင့် ဗူးသည် ရေပြင်တွင်လည်၍နေသည်။ ငထွေနှင့်ငတန်တို့ကိုဗူးမျှောဖြင့် အဖမ်းများသည်။ ဗူးမျှောကိုဗူးမျှောကျင်၊ မျှောဗူး၊ ဘော၊ မြစ်ခြင်းလုံး ဟူ၍ အမျိုးမျိုးခေါ်ကြသည်။

ငါးကိုမများဘဲ အသေထိုး၍လည်းဖမ်းယူနိုင်သေးသည်။ သို့သော်ဤနည်းကိုအထက်မြန်မာနိုင်ငံ အင်းလေးကန်၌သာ အသုံးပြုလေ့ရှိသည်။ အင်းလေးကန်တွင် ရှဉ့်စူးနှင့်ခက်ရင်းဟုခေါ်သောမှိန်းနှစ်မျိုးကိုအသုံးပြုသည်။ ရှဉ့်စူးသည် စူးနှစ်ခုဖြစ်၍ ၅ ပေခန့်ရှည်သောဝါးလုံးအဖျားတွင် တပ်ထားပြီး၊ ငရှဉ့်ထိုးရန်အတွက် အသုံးပြုသည်။ ခက်ရင်းသည် စူး ၅ ခုရှိ၍ ၁၀ ပေခန့်ရှည်ပြီး၊ ငသိုင်းထိုးရန်အတွက် အသုံးများသည်။ အသုံးပြုသောအခါ ခက်ရင်းချည်းသက်သက်ကိုဖြစ်စေ၊ ဝါးပြောင်းရှည်နှင့်တွဲ၍ဖြစ်စေ၊ အသုံးပြုလေ့ရှိသည်။ အခြားနည်းတွင် ပြောင်းရှည်ကိုငါးရှိသည့် နေရာပေါ်သို့ ပဌမချပေးရသည်။ ထိုနောက်ပြောင်းထိပ်ရှိ အပေါက်မှနေ၍ ငါးကိုစူးနှင့်ထိုးရသည်။ အချို့ဒေသများတွင် ငါးကိုညအခါ၌လုံရှင်နှင့် ထိုးလေ့ရှိကြသည်။ ထိုနည်းတွင် ညအချိန်၌လက်နှိပ်ဓာတ်မီးနှင့် ရေကိုထိုးကြည့်သောအခါ ငါးသည်လုံသွားနှင့်တကွထွက်ပြေးသွားသည်။ လုံသွားများတွင်ကြိုးချည်ထားရာ ငါးမော၍အပြေးရပ်သောအခါ ကြိုးကိုင်ငင်ပြီး ငါးကိုဖမ်းယူရသည်။ ငါးကိုမများဘဲ အသေထိုး၍ ဖမ်းနည်းကို လုံထိုးဖမ်းနည်းဟု ခေါ်လေ့ရှိသည်။ ထိုကဲ့သို့ဖမ်းနည်းကို လုံထိုး၊ စူးထိုး၊ စင်းထိုး၊ မီးဖောင်ထိုး ဟူ၍လည်း အမျိုးမျိုးခေါ်ကြသည်။

**ငါးရာ့ငါးဆယ်ဇာတ်ဝတ္ထု။** ။ပါဠိကျမ်းဂန်များတွင် ဇာတကခေါ် ဘုရားလောင်းနှင့်သက် ဆိုင်သည့် အဖြစ်တော်များရှိသည်။ ထိုဖြစ်တော်ပေါင်းဇာတ်များမှာ အရေအတွက်အားဖြင့် ၅၄၇ ဇာတ်ရှိသည်။ သို့သော်အခေါ်ရလွယ်အောင် ငါးရာ့ငါးဆယ်ဇာတ်ဟုခေါ်သည်။ ဇာတ်ကိုနိပါတ်ဟူ၍လည်းခေါ်သေးသည်။ ငါးရာ့ငါးဆယ်ဇာတ်ဟုဆိုသဖြင့်လည်း မြတ်စွာဘုရားသည်ဘုရားဖြစ်တော်မမူမီ၊ ဘဝငါးရာ့ငါးဆယ်သာကျင်လည်ခဲ့သည်ဟု မမှတ်အပ်ချေ။ ငါးရာ့ငါးဆယ်ဇာတ်ဟူသည်မှာ အကြောင်းအားလျော်စွာ ဟောကြားသောဇာတ်တော်များသာဖြစ်သည်။

ပုဂံ အာနန္ဒာဘုရားတွင်ရှိသော ဇာတ်တော်စဥ့်ကွင်းများမှာ အရေအတွက်အားဖြင့်ငါးရာ့ငါးဆယ်ရှိ၏။ သက္ကရာဇ် ၅၇၅ ခုနှစ်တွင်ရေးထိုးသော ပုဂံမြို့ လေးထောင့်ကန်အရပ် လေးမျက်နှာဘုရားကျောက်စာ ကြောင်းရေ ၁၅၊ ၁၆ တွင် 'ဇာတ်ငါးရာလည်း အတင့် အတယ် ရေး၏။' ဟူ၍ပါရှိရာ ရှေးအခါကပင် အရေအတွက်ကိုအခေါ် ရလွယ်အောင်ပြောဆိုကြသည် ဟုယူဆဖွယ်ရှိလေသည်။

ငါးရာ့ငါးဆယ်ဇာတ်ဝတ္ထုများ၏ အခြေခံဖြစ်သောပါဠိဂါထာများ ကိုသုတ္တန် ပိဋကတ် တော်၊ ခုဒ္ဒကနိကာယ် အဝင်အပါ၊ပါဠဇာတ်ပါဠိတော်တွင်တွေ့ရသည်။ ဇာတ်တော် ၅၄၇ ခုတွင်မြန်မာတို့ကအတိုကောက်အားဖြင့်၊ တေ၊ ဇ၊ သု၊ နေ၊ မ၊ ဘူ၊ စံ၊ နာ၊ ဝိ၊ ဝေ ဟုအမှတ်အသားပြုသော ဇာတ်ကြီးဆယ်ဖွဲ့တို့လည်း အပါအဝင်ဖြစ်သည်။ ထိုဇာတ်ကြီးဆယ်ဖွဲ့တို့ကား၊ တေမိယဇာတ်၊ မဟာဇနကဇာတ်၊ သုဝဏ္ဏသာမဇာတ်၊ နေမိဇာတ်၊ မဟောသဓဇာတ်၊ ဘူရိဒတ်ဇာတ်၊ စန္ဒကုမာရဇာတ်၊ နာရဒဇာတ်၊ ဝိဓုရဇာတ်၊ ဝေဿန္တရာဇာတ်တို့ဖြစ်သတည်း။

ငါးရာ့ငါးဆယ်ဇာတ် တို့ တွင် မြတ် စွာ ဘု ရား အလောင်းတော်သည် လူအဖြစ် ၃၅၇ ဘဝ၊ နတ်အဖြစ် ၆၅ ဘဝ၊ ကုန်းသတ္တဝါ အ ဖြစ် ဘဝပေါင်း ၆၀၊ ကောင်းကင် သတ္တဝါအဖြစ် ၅၇ ဘဝ၊ ရေသတ္တဝါအဖြစ် ဂ ဘဝ၊ စုစုပေါင်း ၅၄၇ ဘဝတို့၌ကျင်လည်ခဲ့ရသည်။


ဝေဿန္တရာဇာတ်တော် မှ ပုဏ္ဏားတို့အား ရထားလှူခန်းကို မြန်မာ့ပန်းပုလက်ရာဖြင့် သရုပ်ဖော်ထားပုံ

မြတ်စွာဘုရားသည် ငါးရာ့ငါးဆယ်ဇာတ်တော်ကို ပါဠိဘာသာဖြင့်ဂါထာဖွဲ့၍ဟောတော်မူသည်။ အေဒီ ၆ ရာစုလောက်တွင် သီဟိုဠ်ကျွန်း အနုရာဓမြို့ တောင်ဖက် မဟာဝိဟာရကျောင်းတိုက်၌ အရှင်ဗုဒ္ဓဃောသမထေရ်သည် ထိုဂါထာများကိုပါဠိဘာသာဖြင့် အဋ္ဌကထာဖွင့်ဆိုရေး သား တော်မူလေသည်။ ထိုနောက်သီဟိုဠ်ကျွန်း အနုရာဓမြို့အနောက် ဖက် ဗဒရတိတ္ထကျောင်းနေ အရှင် ဓမ္မပါလမထေရ်သည် အရှင်ဗုဒ္ဓဃောသမထေရ်၏ အဋ္ဌကထာတွင် တိမ်မြုပ်နေသော အနက် အဓိပ္ပါယ် တို့ကိုရှင်း လင်း ဖွင့် ဆိုရာဖြစ်သော လီနတ္ထပကာသနီခေါ် ဋီကာကျမ်းကိုစီရင်ရေးသားသည်။ ထိုနောက်တဖန် မင်းတုန်းမင်း တရားကြီး လက်ထက် တော် တွင်ပညာသာမိသီရိကဝိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ် တော်ရ ဒုတိယမောင်းထောင်ဆရာတော်သည် အသမ္မောဟဝိလာသိနီဟူသောဋီကာသစ်ကို ပါဠိဘာသာဖြင့်စီရင်တော်မူသည်။ ငါးရာ့ငါး ဆယ်ဇာတ် ဂဏ္ဌိကိုမူကား စစ်ကိုင်းမြို့ထူပါရုံစေတီတော်ဒါယကာ နရပတိမင်းကြီးလက်ထက်တွင်အရှင်အရိယဝံသဓမ္မသေနာပတိမထေရ်မြတ် သည် ဇာတကဝိသောဓနီ၊ ဒသဇာတကဝိသောဓနီ ဟူသောအမည်ဖြင့်ပါဠိမြန်မာ ရောပြွမ်း၍ စီရင် လေသည်။ ထိုကျမ်း ကို အရိယဝံသဇာတ်ဂဏ္ဌိဟူ၍လည်းခေါ် ကြသည်။

ငါးရာ့ငါးဆယ်ဇာတ်ပါဠိတော်နိသျှဟောင်းကို သာယာဝတီကုန်းဘောင်မင်းလက်ထက်၊ သာသနဝံသသီရိဓဇမဟာဓမ္မရာဇာဓိရာဇဂုရုကြံခင်းဆရာတော်စီရင်၍ နိသျှသစ်ကိုမူ မင်းတုန်းမင်းလက်ထက် မေဓာဘိဝံသသီရိသဒ္ဓမ္မဓဇ မဟာဓမ္မ ရာဇာဓိရာဇဂုရု ပြည်ဆရာတော် ရေးသားတော်မူ၏။ ဇာတ်အဋ္ဌကထာနိသျှများကိုကား ဘိုးတော်မင်းတရားကြီးလက်ထက် တောင်တွင်းဆရာတော်၊ ပလိုင်းဆရာတော်၊ မဲထီးဆရာတော်၊ ရွှေတောင်ဆရာတော်၊ တောင်လေးလုံးဆရာတော်၊ ကတိုးဆရာတော်၊ ဗားကရာဆရာတော်၊ ဆုံတားဆရာတော်၊ ပဌမမောင်းထောင်သာသနာပိုင်ဆရာတော်၊ မုန့်တောဆရာတော်၊ ညောင်ကန်ဆရာတော်၊ မင်းရွာဆရာတော်၊ ပဌမဆင်တဲဆရာတော် တို့ စီရင် တော်မူ ကြ သည်။ ထိုမင်း၏လက်ထက်တွင်ပင် ဝက်ခုတ်ဆရာတော်ဘုရားသည်

အလုံးစုံသောဇာတ် အဋ္ဌကထာနိသျမျာ:နှင့်ဇာတ်ကြီးဆယ်ဖွဲ့အဋ္ဌကထာနိသျများကိုစီရင်သည်။ ဇာတ်ကြီးဆယ်ဖွဲ့ အဋ္ဌကထာနိသျသစ်ကိုမူ ဆင်ဖြူရှင်လက်ထက်ဒန့်တိုင်ဆရာတော် ရှင်ဂုဏာလင်္ကာရမထေရ်စီရင်သည်။

မြန်မာသက်သက်စကားပြေဇာတ်တော်ဝတ္ထုများကို တပယင်းမြို့စီရင်စု၊ မုံတိုင်ပင်ဆရာတော်နှင့် မင်္ဂလာဘုံကျော်ကျောင်းဓနု ကဝိန္ဒာဘိဝံသ သီရိသဒ္ဓမ္မဓဇ မဟာဓမ္မရာဇာဓိရာဇဂုရုဘွဲ့ခံ ညောင်ကန်ဆရာတော်စီရင်သည်ဟု ပိဋကတ်သမိုင်းကပြဆိုလေ၏။ ညောင်ကန်ဆရာတော်သည် ထိုငါးရာ့ငါးဆယ်ဝတ္ထုကို ဘိုးတော်ဘုရားလက်ထက်၌ စီရင် ခဲ့သည်။ ယခုအခါညောင်ကန်ဆရာတော်၏ ငါးရာ့ငါးဆယ်ဝတ္ထုသည် သာလျှင် ထင်ရှားလျက်ရှိသည်။

ဇာတ်တော်ကြီးဆယ်ဖွဲ့ စကားပြေ ဝတ္ထုများအနက်၊ ဝေဿန္တရာ၊ စန္ဒကုမာရ၊ ဝိဓုရ၊ မဟောသဓ၊ နာရဒ၊ ဇနက၊ နေမိ၊ တေမိတည်းဟူသော ဇာတ်တော်ကြီးရှစ်ဖွဲ့ကို ဘိုးတော်ဘုရားလက်ထက်၊ မင်းဘူးမြို့လေသာတိုက်နေ ဦးဩဘာသ စီရင်သည်။ ဘူရိဒတ်ဇာတ်တော်ကြီးကို မင်းဘူးမြို့ အနောက် လေသာ တိုက် ကျောင်း ဆရာတော်၏ တပည့် နန္ဒမေဓာ စီရင်သည်။ သုဝဏ္ဏသာမဇာတ်တော်ကို မင်းဘူးမြို့ ရန်ကုန်တိုက် ရန်ကုန်ဆရာတော်၏တပည့် ဦးပညာတိက္ခ စီရင်သည်။

အမျိုးသားပညာဝန် ဦးဖိုးကျားသည် စာသင်သားများ အလွယ်တကူဖတ်ရှုနိုင်စေရန် ငါးရာ့ငါးဆယ်ဇာတ်တော်များမှထင်ရှားသောဇာတ်တော်တို့ကိုထုတ်နုတ်၍ ကျမ်းငယ်တစောင်ပြုစုရေးသားခဲ့သည်။

ငါးရာ့ငါးဆယ်ဇာတ်များကို မြန်မာစကားပြေဖြင့်သာ ပြန်ဆိုခဲ့ကြသည် မဟုတ်ချေ။ ရှေးမြန်မာစာဆိုတော်ကြီးများသည် ဇာတ်တော်များကို ပျို့ကဗျာတို့ဖြင့် သီကုံးဖွဲ့နွဲ့ကြသေးသည်။ ထိုပြင် အထက်ကပြဆိုခဲ့သည့်အတိုင်း၊ စဉ့်ကွင်းများဖြင့် သရုပ် ဖော်သည်လည်းရှိသေးသည်။ စာဆိုတော်တို့ ဖွဲ့ဆိုခဲ့ကြသော ပျို့စာရင်းကို အောက်ပါဇယားတွင်ကြည့်လေ။

ဇာတ်တော်ပျို့များ

| ဦးရေ | ပျို့ | စာဆို | ကျမ်းပြီးနှစ် |
|---|---|---|---|
| ၁ | ကလိင်္ဂဗောဓိပျို့ | တံဆိပ်တော်ဝန် မင်းလှရာဇာကျော်ထင် | |
| ၂ | ကုသပျို့ဟောင်း | ရွှေကျောင်းရဲကျင်း ဦးပု | |
| ၃ | ကုသပျို့သစ် | မုံရွေးဇေတဝန်ဆရာတော် | ၁၁၈၈ ခု |
| ၄ | ကိုးခန်းပျို့ (ဟတ္ထိပါလပျို့) | ရှင်မဟာရဋ္ဌသာရ | ၈၈၅ ခု |
| ၅ | ဂရုဓမ္မပျို့ | မြို့စာရေး သိခ်သာရ | |
| ၆ | ဂါမဏိစန္ဒပျို့ | ဆိမ်မိးခုံရွာစား | |
| ၇ | ဂုတ္တိလပျို့ | တရားစစ် မနော်ဒေဝ | ၁၁၅၆ ခု |
| ၈ | ငါးရံ့မင်းပျို့ | တွင်းသင်းမင်းကြီး | |
| ၉ | စန္ဒကုမာရပျို့ | ရွှေကျောင်းရဲကျင်း ဦးပု | |
| ၁၀ | စန္ဒကိန္နရီပျို့ | မဟာသီဟသူရ | |
| ၁၁ | စန္ဒကိန္နရီပျို့ | တံဆိပ်တော်ဝန် မင်းလှရာဇာကျော်ထင် (ပိဋကတ်သုံးပုံစာတမ်း ၂၀၇) | |
| ၁၂ | စမ္မေယျပျို့ဟောင်း | တောင်လေးလုံးဆရာတော်တပည့် မောင်ပြည့် | |
| ၁၃ | စမ္မေယျပျို့သစ် | မိုးထားဝန်ထောက် စိန္တကျော်သူ | |
| ၁၄ | ဆဒ္ဒန်ဆင်မင်းပျို့ | | |
| ၁၅ | ဇနကပျို့ဟောင်း | တွင်းသင်းမင်းကြီး | ၁၁၆၈ ခု |
| ၁၆ | ဇနကပျို့သစ် | ဆိမ်မိးခုံရွာစား | |
| ၁၇ | ဇနကပျို့ | မောင်နိုး (ကဗျာဗန္ဓ ၈၅၊ ပိဋကတ်သုံးပုံစာတမ်း ၂၀၅) | |
| ၁၈ | ဇယဒိသပျို့ | တွင်းသင်းမင်းကြီး | |
| ၁၉ | တေမိပျို့ဟောင်း | | |





ဆဒ္ဒန္တဇာတ်မှပုံထွင်းရုပ်များ　　　　　　　　မဟာကပိဇာတ်မှ ပုံထွင်းရုပ်များ
ဘီစီ ၂ ရာစုနှစ်က အိန္ဒိယနိုင်ငံ ဘရဟုတ်အရပ်တွင် ထွင်းထုခဲ့သော ရုပ်ပုံများဖြစ်သည်။

| ဦးရေ | ပျို့ | စာဆို | ကျမ်းပြီးနှစ် |
|---|---|---|---|
| ၂၀ | တေမိပျို့သစ် | မောင်ဥက္ကာ | |
| ၂၁ | တိက္ကူကပျို့ | ကင်းဝန်မင်းကြီး | |
| ၂၂ | ဒေဝဓမ္မပျို့ | တံဆိပ်တော်ဝန် မင်းလှရာဇာကျော်ထင် | |
| ၂၃ | ဓမ္မပါလပျို့ | ရှင်မဟာသီလဝံသ | ၉၁၁ ခု |
| ၂၄ | ဓမ္မပါလပျို့တစောင် | ရှင်ကုမာရကဿပ (ကဗျာဗန္ဓ ၈၂) | |
| ၂၅ | နာနာဆန္ဒပျို့ | မုံရွေးဇေတဝန်ဆရာတော် | ၁၁၈၈ ခု |
| ၂၆ | နာရဒပျို့ | မုံရွေးဇေတဝန်ဆရာတော် | ၁၁၈၃ ခု |
| ၂၇ | နာရဒပျို့သစ် | တရားစစ်မနော်ဒေဝ (ပိဋကတ်သုံးပုံစာတမ်း၂၀၄) | ၁၁၅၈ ခု<br>မြစ်ကျွေးဆရာတော် |
| ၂၈ | နေမိငရဲခန်းပျို့ | ရှင်အဂ္ဂသမာဓိ | ၉၀၀ ခု |
| ၂၉ | နေမိဘုံခန်းပျို့ | ရှင်အဂ္ဂသမာဓိ | ၉၀၄ ခု |
| ၃၀ | နေမိမဂ္ဂစုံခန်းပျို့ | ရှင်အဂ္ဂသမာဓိ | ၈၉၇ ခု |
| ၃၁ | နိန္ဒိသေနပျို့ | လက်ဝဲသုန္ဒရ | |
| ၃၂ | ပဥ္စာဝုဓပျို့ | မုံရွေးဇေတဝန်ဆရာတော် | ၁၁၈၃ ခု |
| ၃၃ | ဘူရိဒတ်ဇာတ်ပေါင်းပျို့ | ရှင်မဟာရဋ္ဌသာရ | ၈၅၆ ခု |
| ၃၄ | ဘူရိဒတ်လင်္ကာကြီး | ရှင်မဟာရဋ္ဌသာရ | ၈၄၆ ခု |
| ၃၅ | ဘလ္လာတိယပျို့ | တွင်းသင်းမင်းကြီး | |
| ၃၆ | မဃဒေဝလင်္ကာသစ် | မန်လည်ဆရာတော် | ၁၂၆၆ ခု |
| ၃၇ | မဟာတုဏ္ဍိလပျို့ | (ကဗျာဗန္ဓ ၈၃) | |
| ၃၈ | မဟာဓမ္မပါလပျို့ | တံဆိပ်တော်ဝန် မင်းလှရာဇာကျော်ထင် | |
| ၃၉ | မဟော်ကျေးစေခန်းပျို့ | တွင်းသင်းမင်းကြီး | |
| ၄၀ | မဟော်ပြဿနာခန်းပျို့ | ဆိမ်းခုံရွာစား | |

| ဦးရေ | ပျို့ | စာဆို | ကျမ်းပြီးနှစ် |
|---|---|---|---|
| ၄၁ | မဟော်ဥမင်ခန်းပျို့ | ဆီးမီးခုံရွာစား (ဟသ်ာတမင်းသမီး အကြီးတော် မောင်ရေးဆိုတစောင်ရှိသည်။ ကဗျာဗန္ဓ ၈၄) | |
| ၄၂ | မုဒုလက္ခဏပျို့ | တွင်းသင်းမင်းကြီး | ၁၁၁၃ ခု |
| ၄၃ | ရှုမိဂပျို့ | လွှတ်တော်စာရေး မောင်ဖေ (ကဗျာဗန္ဓ) လွှတ်တော်စာရေး မောင်အေး (ပိဋကတ်သုံးပုံစာတမ်း) | |
| ၄၄ | ရွှေဟသ်ာမင်းပျို့ | ရှင်တေဇောသာရ | ၈၇၁ ခု |
| ၄၅ | ဝိဓုရပျို့ဟောင်း | | |
| ၄၆ | ဝိဓုရပျို့သစ် | တွင်းသင်းမင်းကြီး | ၁၁၅၂ ခု |
| ၄၇ | ဝေဿန္တရာပျို့ဟောင်း | တောင်ဘီလာဆရာတော် | ၉၅၄ ခု |
| ၄၈ | ဝေဿန္တရာပျို့သစ် | တွင်းသင်းမင်းကြီး | ၁၁၆၀ ခု |
| ၄၉ | ဝေဿန္တရာပျို့တစောင် | မောင်နိုး (ကဗျာဗန္ဓ ၈၅၊ ပိဋကတ်သုံးပုံစာတမ်း ၂၀၅) | |
| ၅၀ | သရဘင်္ဂပျို့ | ဆီမီးခုံရွာစား | |
| ၅၁ | သာဓိနပျို့ | လက်ဝဲသုန္ဒရ | ၁၁၄၅ ခု |
| ၅၂ | သီလဝပျို့ | မုံရွေးဇေတဝန်ဆရာတော် | ၁၁၈၇ ခု |
| ၅၃ | သုတသောမပျို့ | ဆီမီးခုံရွာစား | ၁၂၀၁ ခု |
| ၅၄ | (မဟာ) သုတသောမပျို့ | ရွှေတောင်နန္ဒသူ (မောင်တရုပ်) | |
| ၅၅ | သုဝဏ္ဏသျှာမ်မြားပစ်ခန်းပျို့ | ရှင်အဂ္ဂသမာဓိ | ၈၈၉ ခု |
| ၅၆ | သုဝဏ္ဏသျှာမ်သူငွေးခန်းပျို့ | ရှင်အဂ္ဂသမာဓိ | ၉၀၀ ခု |
| ၅၇ | သုဝဏ္ဏသျှာမ်သစ္စာခန်းပျို့ | ရှင်အဂ္ဂသမာဓိ | ၈၈၉ ခု |
| ၅၈ | သူရာပျို့ | ပဒေသရာဇာ (တိံသနိပါတ် ၅၁၂ ကုမ္ဘဇာတကဇာတ်ကိုဖွဲ့ဆို၏။) | |
| ၅၉ | သမ္ဘုလပျို့ဟောင်း | | |
| ၆၀ | သမ္ဘုလပျို့သစ် | တံဆိပ်တော်စာရေး မောင်တူ | |
| ၆၁ | သံဝရပျို့ | ရှင်မဟာရဋ္ဌသာရ | ၈၉၁ ခု |
| ၆၂ | အကိတ္တိပျို့ | တံဆိပ်တော်ဝန် မင်းလှရာဇာကျော်ထင် | ပုဂံမင်းလက်ထက် |
| ၆၃ | အဘိရုကပျို့ | တံဆိပ်တော်ဝန် မင်းလှရာဇာကျော်ထင် (ဧကနိပါတ်၊ တေလပတ္တဇာတ်ကိုဖွဲ့ဆိုသည်။) | ၁၂၁၁ ခု |
| ၆၄ | အပဏ္ဏကပျို့ | ဟသ်ာတမင်းသမီး၏ အကြီးတော် မောင်ရေး | |
| ၆၅ | အာဒါသမုခပျို့ဟောင်း | ရှင်တေဇောသာရ | |
| ၆၆ | အာဒါသမုခပျို့သစ် | လက်ဝဲသုန္ဒရ | |
| ၆၇ | အာဒါသမုခပျို့ | မုံရွေးဇေတဝန်ဆရာတော် | |
| ၆၈ | အာသင်္ကာပျို့ | | |
| ၆၉ | ဣသိသိင်္ဂပျို့ | မဟာသီဟသူရ (မောင်ရောက်ကြီး) (ပဏ္ဏာသနိပါတ် ၅၂၆ နိဠိနိကာဇာတ်) | |
| ၇၀ | ဥတိန္နပျို့ | မုံရွေးဇေတဝန်ဆရာတော် | ၁၁၅၅ ခု |
| ၇၁ | ဥဒေါင်းမင်းပျို့ | မဟာသီဟသူရ (မောင်ရောက်ကြီး) (ဒုကနိပါတ် ၁၅၉ မောရဇာတ်) | |

ငါးလုပ်ငန်း။ ။တံငါလုပ်ငန်း — ရှု။

ငုပင်။ ။ငုပင်တွင် (၁) ငုပင် သို့မဟုတ် ငုကြီးပင် (၂) ငုရွှေ သို့မဟုတ် ငုစပ်ပင် (၃) ငုသိန်ပင် ဟူ၍ ၃ မျိုးပြားသည်။ မိုးကုတ်နယ်တွင်မူ ငုရွှေပင်ကို ငုရွှေအဖိုပင်ဟူ၍၎င်း၊ ငုပင် (ငုကြီးပင်) ကို ငုရွှေအမပင်ဟူ၍၎င်း ခေါ်ကြသည်။ ငုပင်တို့သည် ပင်လတ်မျိုးဖြစ်၍၊ ယင်းတို့ကို မြန်မာနိုင်ငံအနှံ့အပြားမှာပင် တွေ့နိုင်ပေသည်။ အမျိုးချင်းနွယ်သော်လည်း တမျိုးစီတွင် ထူးခြားကွဲလွဲချက်များ အသင့်အတင့်ရှိကြ၏။ ဤငုပင် ၃ မျိုးအနက် အသုံးဝင်ဆုံးကား ငုပင် (ငုကြီးပင်) ပင်ဖြစ်လေသည်။

ငုပင် (ငုကြီးပင်) (ကက်ဆီယာဖစ္စတျူလာ) သည် ပေ ၅၀ အထိမြင့်နိုင်၍၊ အကိုင်းအခက်နှင့်အရွက်များ ခပ်ကျဲကျဲသာထိုးထွက်နေသဖြင့် အရိပ်ကောင်းကောင်းမပေးနိုင်ချေ။ သို့သော် နွေဦးတုအကုန်လောက်၌ ရွက်ဟောင်းကြွေ၍ ရွက်သစ်များထွက်ပြူစအချိန်နှင့် မရှေးမနှောင်းတွင် တပင်လုံးဝင်းထိန်နေအောင် အဆုပ်လိုက်အခိုင်လိုက် တွဲလျားကျပွင့်လေ့ရှိသော အပွင့်ဝါများကြောင့် ဤငုပင်မျိုးကိုခြံဥယျာဉ်များအတွင်း အလှအပအတွက်စိုက်ပျိုးထားတတ်ကြသည်။

ငုပင်သည် ကြီးခဲသောအပင်ဖြစ်သည်။ သို့သော် အမြစ်စွဲမိလျှင် ခိုင်ခံ့လာသည်။ ငုပင်ကိုအစေ့မှ မျိုးပွားနိုင်သော်လည်း၊ အောင်မြင်သည့်အစေ့များ နည်းပါးခြင်းကြောင့် မြေသြဇာကျေး၍ ဂရုတစိုက် စိုက်ပျိုးရသည်။ ပြောင်းရွှေ့စိုက်ပျိုးလိုလျှင်လည်း မျိုးပင်များနုနယ်ခြင်းကြောင့် ၂ နှစ်သားမျိုးပင်များကိုသာ ပြောင်းရွှေ့စိုက်ပျိုးသင့်လေသည်။



(ဝဲ) ငှအမနှင့် (ယာ) ငှအဖို

အသက်နုစဉ် ငုပင်၏ပင်စည်သည် အဝါမွဲအရောင်ရှိ၍ ချောမွတ်သော်လည်း ကြီးရင့်လာသောအခါ နီညိုရောင်ဖြစ်လာ ကြမ်းလာသည်။ အရွက်များမှာ ၃ လက်မမှ ၇ လက်မအထိရှည်၍ချောမွတ်သည်။ အပွင့်များမှာ ဖော်ပြခဲ့သည့်အတိုင်း ဝါ၏။ အသီးတောင့်လုံးရှည်များမှာ ၂ ပေ၊ ၃ ပေခန့်ရှည်၍ မှည့်လျှင် အနက်ရောင်ဖြစ်လာသည်။

ငုသား၏အရောင်မှာ နီညစ်ညစ်ဖြစ်၍ တာရှည်ခံပြီးလျှင် ပြောင်လက်လာအောင် အရောင်တင်ပေးနိုင်သည်။ ငုသားကိုအိမ်ဆောက်လုပ်ရန်နှင့် လှေ၊ လှည်း၊ လှည်းဘီး၊ ထယ်၊ ထွန်များ၊ ဆန်ထောင်းကျည်ပွေ့ စသည်များ ပြုလုပ်ကြသည်။ ငုခေါက်ကို သားရေနယ်ရာ၌အသုံးပြုရသည်။ ငုသီးမှည့်၏အသားနှင့် ငုမြစ်တို့ကိုမူ ဝမ်းနုတ်ဆေးများဖော်စပ်ရာတွင် အသုံးပြုနိုင်သည်။

ငုရွှေပင် (ငုစပ်ပင်) (ကက်ဆီယာရင်နီဂျားရား)။ ။ငုရွှေပင်သည် အမြင့်ပေ ၃၀ အထိရှိသည်။ အခက်နှင့်အရွက်များမှာ ကတ္တီပါရောင်ထနေသည်။ အရွက်များထူထပ်ပေါများ၍ ၁ လက်မ၊ ၂ လက်မခန့် ရှည်သည်။ အသီးမှာ ငုသီး (ငုကြီးသီး) နှင့်အလားတူဖြစ်သော်လည်း ၁၅ လက်မမှ ၁၈ လက်မအထိသာ ရှည်သည်။ အပွင့်များသည် ပန်းရောင်ဖြစ်၍ ငုကြီးပင်နှင့်မခြား၊ အဆုပ်လိုက်အခိုင်လိုက်ပွင့်ကြသဖြင့် တနည်းတဖုံလှပကြပေသည်။

ငုသိန်ပင် (ကက်ဆီယာနိုဒိုဆာ)။ ။ငုသိန်ပင်သည် ငုရွှေပင်နှင့် ခပ်ဆင်ဆင်တူသည်။ ထိုအပင်၌ ချောမွတ်တောက်ပသော အရွက်ချွန်များပိုမိုများပြား၍ အပွင့်မှာ မွေးကြိုင်လျက် အဖြူနှင့် ပန်းရောင် အစင်းကြောင်းများ ပါရှိ၏။

ငှ။ ။ငှသည် ခို၊ ချိုးငှက်တို့နှင့်အတူ 'ကိုလံဗီဒီ' မျိုးရင်းတွင်ပါဝင်သည်။ ငှ၌စိမ်းစိုသောအမွေးအတောင်များရှိ၏။ ငှအမျိုးပေါင်းများပြားသဖြင့် တမျိုးနှင့် တမျိုးကို ခွဲခြား၍ သိရန်မှာ မလွယ်ကူချေ။ အထူးသဖြင့် ငှအမများကို အမျိုးခွဲခြားရန်မှာသာ၍ပင်ခက်ခဲသည်။

ငှတို့သည် အအုပ်အသင်းနှင့် နေတတ်ကြသည်။ ညောင်ပင်များ၌ များသောအားဖြင့်ကျက်စားတတ်ကြသည်။ သစ်ပင်ထက်၌ နားနေကြစဉ် သစ်ရွက်စိမ်းများနှင့် ခွဲခြား၍မရနိုင်ပေ။ လေချွန်သံဖြင့်အော်မြည်ကြသောအခါမှ ယင်းတို့ရှိမှန်းကို သိကြရသည်။ ငှ၏ကိုယ်အရှည်အလျားမှာ ၁၀ လက်မ၊ ၁၂ လက်မခန့်ရှိသည်။ ကိုယ်၏အလုံးအထည်မှာ အလျားနှင့် လိုက်လျောစွာရှိသဖြင့်ကြည့်၍ကောင်းသောငှက်မျိုးဖြစ်လေသည်။ ထိုငှက်၏ခြေများသည် သစ်ပင်တက်နိုင်ရန်အတွက် ကျယ်ပြန့်၍ သန်စွမ်း၏။

ငှတို့တွင် ခြေဝါငှ၊ ရင်ပတ်ဝါငှ၊ နှုတ်သီးထူငှ စသည်ဖြင့် ငှအမျိုးမျိုးရှိသည်။ ယင်းတို့ကို နီပေါနိုင်ငံ၊ အိန္ဒိယနိုင်ငံ၊ မြန်မာနိုင်ငံ၊ သီဟိုဠ်ကျွန်း၊ အင်ဒိုချိုင်းနား၊ မလ္လာယုကျွန်းဆွယ်၊ ဂျားဗားကျွန်းတို့၌ တွေ့ရသည်။



နွေဦးတုအကုန် ရွက်ဟောင်းကြွေ၍ ရွက်သစ်ထွက်ပြူစအချိန်တွင် ပင်လုံးကျွတ်မျှ အဆုပ်လိုက်အခိုင်လိုက်ပွင့်နေသော ငုရွှေဝါပွင့်များ

ဒိုချင်း။ ။မြန်မာဇာတ်ပွဲတို့တွင် လွမ်းခန်း၌ဆိုသောအခါ ဆိုသောသီချင်းသည် ဒိုချင်းဖြစ်သည်။ ဒိုချင်းဟူသော စကား၏ ပြုပွါဒ်ကိုရှာသော်၊ ဒို ဟူသော သဒ္ဒါနှင့် အချင်း (ရှေးရေး — အခြင်း) ဟူသောသဒ္ဒါ သို့မဟုတ် ဒိုဟူသော သဒ္ဒါနှင့် သီချင်းဟူသောသဒ္ဒါ နှစ်ခုတို့ပေါင်းစပ်ထားသော စကားဖြစ်သည်ဟု ယူဆရန်ရှိပေသည်။ ဒိုသည်ဟူသည်မှာ စိတ်နှလုံး ပူပန်သောကရောက်သဖြင့် မျက်ရည်ယိုပြီးက ရှိက်ကြီးတငင် ဆိုမြည်တမ်းတခြင်းပင်ဖြစ်၏။ ထို့ကြောင့်ဒိုချင်းသည် စိတ်နှလုံး ပူပင်သောက ရောက်သည်ကို ဖွဲ့နွဲ့ သီဆိုအပ်သောသီချင်းဟုဆိုအပ်၏။

ဒိုချင်းဟူသော အသုံးအနှုန်းကို သျှင်အဂ္ဂသမာဓိ စပ်ဆိုအပ်သော နေမိဂရဲခန်းပျို့တွင် 'ရုံးစည်းသောင်းသောင်း၊ ဒိုချင်းပေါင်းလျက်၊ ဆိုးတောင်းခံဘက်၊ တရွာနက်သို့' ဟူ၍ငင်း၊ ထိုဆရာတော်၏ သုဝဏ္ဏသျှာမ်သစ္စာခန်းပျို့တွင် 'ခွေခွေညှိုးစွာ၊ ဒိုခြင်းရကား၊ သဲ့ြာသုံးထောင်၊ တာပြည့်ဆောင်လျက်' ဟူ၍ငင်း၊ 'ရင်ခွင်ပိုက်ထား၊ မွေးသည့်သားကို၊ နှစ်ပါးတူညီ၊ လွမ်းဟန်ချီလျက်၊ ဤကား ညည်းဒိုချင်းတည်း' ဟူ၍ ငင်း တွေ့ရှိရ၏။ ထို့ကြောင့် ဒိုချင်းဟူသောဝေါဟာရသည် အင်းဝခေတ် မြန်မာသက္ကရာဇ် ၉၀၀ ခန့်လောက်ကပင် ပေါ်ပေါက်ခဲ့ပြီဟု ယူဆရန်အကြောင်းရှိ၏။ ထို အင်းဝခေတ်ပေါ် ဒိုချင်းများသည် ကုန်းဘောင်ခေတ်နောက်ပိုင်းနှင့် ယခုခေတ်ပေါ် ဒိုချင်းများနှင့် သီကုံးပုံချင်းတူချင်မှတူမည်ဖြစ်သော်လည်း နှလုံးမသာမယာ စိတ်ပူပန်တမ်းတမှုကို ဖွဲ့နွဲ့သောအဖွဲ့အနွဲ့ များပင်ဖြစ်၍ အခြေခံသဘောချင်းမှာကား တူညီကြပေလိမ့်မည်ဟု ယူမှတ်ဖွယ်ရှိ၏။

အင်းဝခေတ်၌ ဒိုချင်းကို မည်ကဲ့သို့ဖွဲ့နွဲ့သည်ဟု ပြဆိုရန်သာဓက မရှိချေ။ ထို့ကြောင့် ထိုခေတ်ရှိဒိုချင်းအဖွဲ့အနွဲ့ မှာ မည်သို့ရှိလေမည်ဟု ဖော်ပြရန်ခက်သည်။ သို့သော် စာပေအနုပညာသဘော၌ စကားပြေမှ လင်္ကာ၊ လင်္ကာမှ ဂီတဟူ၍ တဆင့်ထက်တဆင့် တိုးတက်ပြောင်းလဲလေ့ရှိသည့်သဘောကို ထောက်ချင့်၍ လူတို့၏ ပရိဒေဝတောက်လောင်မှုကို သရုပ်ဖော်ကာ ကရုဏာရသကိုဖြစ်စေသော စကားပြေအနှုန်းအဖွဲ့မှသည် လင်္ကာအဖွဲ့အနွဲ့ ၊ ဂီတအဖွဲ့အနွဲ့ တို့သို့ အဆင့်ဆင့်တိုးတက်ကူးပြောင်းသည်ဟုဆိုလျှင် ယုတ္တိတန်ရာသည်။ ဤသို့ တိုးတက်ပြောင်းလဲတတ်သော သဘောနှင့် ယှဉ်၍ကြည့်လျှင်၊ မြန်မာသက္ကရာဇ် ၁၁၃၃ ခု ဟံသာဝတီရောက်မင်းတရားကြီး ဆိုသော အင်းဝမြို့ဖွဲ့ တမ်းချင်းသည် နှောင်းခေတ်၌ ခေတ်စားလာသော ဒိုချင်းတို့နှင့် သဘောသွားချင်း ဆက်စပ်နေသည်ဟု ယူဆရန်ရှိလေသည်။ ယင်းတမ်းချင်းမှာ 'လုဋ္ဌတိပလုဋ္ဌတိတိလောကော၊ သဘောနိယံ၊ လောကဓံနှင့်၊ ဆက်ဆံကြုံကြိုက်၊ ကိန်းခန်းလိုက်ဖြင့်၊ ရစ်ပိုက်မြစ်ဆုံ၊ ရွှေဘုံအဝ၊ ပူရိန္ဒကား၊ နရသနင်း၊ မင်းလည်းရှင်းကွာ၊ ပြည်ရွာပျက်စီး၊ တောကြီးဟူလောက်၊ မျက်မှောက်ကကာ၊ သာသနာလည်း၊ ရောင်ဝါမလင်း၊ သို့ဖြစ်ခြင်းကို၊ မြော်တင်းစေ့စေ့၊ ကြံအောက်မေ့သော်၊ ပျောင်းခွေညှတ်ခွေ၊ လွမ်းတာဝေခဲ့' ဟူ၍ဖွဲ့နွဲ့ လေရာ၊ ရတုကဗျာဆန်လှပေသည်။ တနည်းအားဖြင့်ဆိုသော်၊ ရတုဖြင့် တမ်းချင်းကိုဆိုသည်ဟုမှတ်ယူရမည်ဖြစ်၏။ (တမ်းချင်း — ရှု။)

ဤတွင်နန်းတွင်းပြဇာတ်တို့၏ဒိုချင်းဖွဲ့နွဲ့ ပုံတို့ကို လေ့လာနိုင်ရန် ဖော်ပြလိုသည်။ ၁၁၂၉ ခုနှစ်လောက်တွင် ပေါ်ပေါက်သော အိနောင်နန်းတွင်းဇာတ်တော်ကြီး၌ မင်းသမီးသည် 'မယ်တော်အရှင်၊ နှစ်ပါးမင်းတို့၊ မယ္ဘင်ဂတိ၊ သစ္စာရှိလည်း၊ မထိမပါး၊ စရကားနှင့်၊ လားလားဝေးလံ၊ စိတ်အကြံမျှ၊ မဆံလွန်မိမှန်ပါသည်။ မောင်ကြီးဘုရား၊ သူတပါးသာ၊ မှန်းထားရင်းသူ၊ ဖြစ်သည်မှုလို့၊ ကြည်ဖြူညှတ်ခ၊ ဦးဆံသလို့၊ သက်မျှမတူ၊ ချစ်ပန်းယူ၊ ကြည်ဖြူကျွန်မမှန်ပါသည်။ သည်သစ္စာအား၊ နတ်အများတို့၊ သနားချစ်ခင်၊ မစေချင်၍၊ ရန်စင်ဘေးခွာ၊ ဖြစ်ပါစေသား၊ ရှင်နတ်များတို့' ဟုဆို၍ ဒိုသည်ဟုပါရှိသည်။ ၁၁၈၀ ပြည့်နှစ်တဝိုက်လောက်တွင် ခေတ်စားသော နန်းတွင်းရာမပြဇာတ်၌ မန္ဒောဓရီဒိုချင်းဟူ၍ ပါရှိသည်။ ယင်းဒိုချင်းမှာ၊

'အိုအိုအရှင်၊ ထိပ်ခေါင်တင်လေ၊ လင်္ကာပူရ၊ ပြည်ဌာနမှာ၊ တေဇကျော်ဟိုး၊ ဘီလူးမျိုးတွင်၊ တန်ခိုးထွန်းသစ်၊ မင်းတုဖြစ်လို့၊ ဝန်းရစ်တင့်တယ်၊ ရွှေနန်းလယ်၌၊ မယ်နှင့်တကွစံပယ်ကြသော်' ဟူ၍အစချီပြီးလျှင် 'မင်းရာဝဏ၊ ဒသဂီရိ၊ မည်ယိုတွင်မှန်း၊ မဲ့ထိပ်ပန်းငယ်၊ ညှိုးနွမ်းမသာ၊ သည်တခါမှာကြုံရာခက်ခဲ့ပြီတကား၊ သေချင်းတူပင်၊ မဲ့သခင်နှင့်၊ လျှင်လျှင်သေတည့်အောင်၊ မယ်တကောင်ကို တယောင်ယောင်မချန်ထားပါနှင့်၊ သျှင်နတ်များ လေး' ဟုအဆုံးသတ်၏။ ဤဒိုချင်းမှာလည်း တမ်းချင်းကဲ့သို့ပင်ရတုဆန်ပေသည်။

နန်းတွင်းပြဇာတ်တို့တွင် ဒိုချင်း အပြင် လွမ်း ချင်းဟူ၍လည်း ရှိသေးသည်။ လွမ်းချင်း၏သဘောမှာ လွမ်းဆွတ်တမ်းတသောသဘော ပါဝင်၏။ လှိုင်ထိပ်ခေါင်တင်ရေး ဝိဇယကာရီပြဇာတ်၌၊

'လာမချော့လာနှင့်၊ တန်တော့ပျရွှေကိုယ်၊ ဘုန်းမိုမိုငယ်၊ မယ်ကလိုမောင်မညာလို့၊ ရှောင်ခွာစိမ်းရက်တယ်လေး။ ။

လှမြတ်စွာငယ်၊ မကြာစေကြောင်း၊ ရွှေစကြာညောင်းမည်လို့၊ သောင်းလုံးမုန်ကူ၊ ရွှေဗျာငြိမ့်နှင့်၊ ဆင်မိန့်တော်မူခဲ့၊ ဒါရှုလုံး ကေဆံယ်၊ တပြည့်စံ နှစ်ပြည်မွေ့လို့၊ သူမေ့တယ်လေး။ ။' ဟူ၍ပါရှိသည်။

ဦးကြင်ဥ၊ ဦးပုညတို့၏ပြဇာတ်တို့တွင် ဒိုချင်းဟု သီးခြားမတွေ့ရစေကာမူ၊ လွမ်းချင်းကိုမူ တွေ့ရပေသည်။ လွမ်းချင်းမှာ ဒိုချင်း၏ရှေ့ပြေးဟု ကြံဆနိုင်ရာသည်။ သို့ရာတွင် လွမ်းချင်းကို အလွမ်းအတွက်ဖွဲ့နွဲ့ ရာ၌သာမဟုတ်ဘဲ၊ ဟာသ

ရသ ပေါ်လွင်စေရန် ဖွဲ့နွဲ့သည်လည်း ရှိသေးသည်။ ပုံစံအားဖြင့် 'စည်းစိမ်ကြီးပါဘိ၊ရုပ်သီးတောင်ကိုင်၊ နှစ်ယောက်ကယ်ထိုင်၊' ဟုအစချီ၍ 'အဆီရယ်ဖိမ်း၊ မှိန်းတဲ့ချည်နှင့်၊ မကြည်သန်းဝေ၊ ထယ်မင်းပုံ နေလိုက်တယ်၊ နွားရေပြန့်အပေါ်မှာ၊ ခေါင်းကတော် ကိုယ်တိုင်နှိပ်ခါမှ၊ သူ့အိပ်တယ်လေး။' ဟု အဆုံးသတ်သော လွမ်းချင်းသည် အလွမ်းထက် အသေဘက်ကိုယိုင်လေသည်။ (လွမ်းချင်း—ရှု။)

မင်းတုန်းမင်းလက်ထက် ပြင်စည်မင်းသား ကံတော်ကုန်ရာတွင် စာဆိုတော်မခွေးဆိုသော 'သုံးဆယ်ကပေါ်၊ နှစ်နှစ်ကယ်ကျော်သည်၊ မယ်တော်လည်းဆွဲ၊ မသဲငဲ့တန်ဆောင်၊ မောင်မောင်ယယ်နောင်ကြီး၊ အမိကြီးငဲ့သက်နဲ့၊ ငါးထပ်ကယ်လည်းပေါ်၊ အိမ်ဖြူပျော်တယ်၊ ဘုရားတော်နဲ့နောင်း၊ မြင်မညောင်းတဲ့ ပေါင်းပြမှန်၊ လှေကားငါးဆူ၊ အိမ်ဖြူကျယ်ဝင်း၊ ပြတင်းရွှေချ၊ ကြီးတေဇနှင့်၊ ကျွန်တော်မငယ်တို့သခင်ဘုရားတော်ရှင်လေး၊ ဝမ်းတွင်းကြည်ဖြူ၊ ရွှေကသိုဏ်းသို့၊ နေ့တိုင်းပြုရ၍၊ ရှုတော်မူသည်။ သံအုရွှေပွင့်၊ ဘောင်းဝတ်ကယ်ဖြူ၊ ရွှေခြူသာသာ၊ ရွှေကြိုးကြာကို၊ လျှင်စွာကလှိမ့်ကြွသင့်' ဟူသော ဒိုချင်းရှည်သည် ထိုခေတ်ကဒိုချင်းရှည် ဖွဲ့နွဲ့ပုံကို ပြဆိုပေသည်။

ထို့ပြင်လည်း၊ မင်းတုန်းမင်းလက်ထက်၊ စလင်းမြို့ ဦးမြတ်သာထွန်းရေးသော 'ဟေမဝန်အေ့၊ သလွန်မြေ၊ လက်ရွှေအုံးထောက်၊ စက်ပါသော် ပျော်နိုင်ဘူး၊ မူးနောက်နောက်နှင့်၊ ခင်ပွန်းပျောက် ပင်နန်းရှင်မှာ' ဟူသောရှာပုံတော်ကြီးသည်၎င်း၊ တောင်တွင်းကြီး ဦးကြော့ရေးသော 'စုံနံ့သာမြိုင်၊ ရဂုံတွင်း၊ ထုံသင်းငယ်ကြိုင်၊ ဂနိုင်ဟေမ၊ နွေအစ၊ ရွှေများကလျှာ၊ ဟိုခင်ကိုလျှောက်ပါလို့၊ လင်ပျောက်ကိုရှာခဲ့၊ ဂန္ဓမာဂူ၊ မြေသလင်း၊ နေမင်းကပူသနှင့်၊ နန်းသူဒေဝီ၊ တွေ့နိုင်ဘဲဟာမို့၊ လဲလှုပြီ' ဟူသော ရှာပုံတော်ကြီး သည်၎င်း ဒိုချင်းသဘောတွင် အပါအဝင်ဖြစ်သည်။ (ကြော့၊ ဦး—လည်းရှု။) ၁၂၃၈ ခုနှစ်တွင် ဒိုချင်းရှည်ကို ဆတိုင်မှတ်ဦးကူးသည် ပဋ္ဌာစာရီပြဇာတ်၌၊

'ဘယ့်နှယ်ကြံရပါမတုံး မောင်ကြီးငယ်၊ အကြံမပေး၊ မောင်မှာဇေးလို့၊ သားကလေး သည်နှစ်ကောင်နှင့်၊ စိုးပူလောင်ဒုက္ခများအောင်၊ မိပဋ္ဌာ သည်မယားကိုဖြင့်၊ တင်စားမိပေါ့ပဲဟဲ့လို့၊ တကတဲ ကြိမ်းဝါးပြီးလျှင်၊ လူစိမ်းကားကြီးကိုယ်ပြုလိုက်ထာပလေ' ဟူ၍သီကုန်းရေးသားထားခဲ့သည်ကိုတွေ့ရှိရသည်။

ဇာတ်သဘင်အသုံးအနှုန်းတွင် လွမ်းခန်း၌ဒိုကြရာဝယ် 'စာမူဒို' ဟူ၍၎င်း၊ 'ပြောဒို' ဟူ၍၎င်း၊ 'ဆိုဒို' ဟူ၍၎င်း ရှိကြသည်။ စာမူဒိုမှာ ရှေးပြဇာတ်ပါ စာစကားများကို ရိုးရိုးရွတ်ဖတ်၍ ဒိုခြင်းဖြစ်၏။ ပြောဒိုမှာ ဒိုချင်း၏အဆုံးတွင် 'လေး' ဟူသောအသံနှင့်ချရသော ရှေးပြဇာတ်သုံး ဒိုချင်းမျိုးဖြစ်၏။ ယင်းတို့ကိုသီဆိုရာ၌ စည်းဝါးမပါချေ။ ဆိုဒိုဟူရာ၌ ဒိုချင်းရှည်နှင့် ဒိုချင်းတိုတို့ ပါဝင်သည်။ နှစ်မျိုးစလုံးကို စည်းနှင့်ဝါးနှင့် ဆိုရသည်။ ဒိုချင်းရှည်မှာ ရှာပုံတော်ကြီးများ၏အလိုက် ဖြစ်သည်။ ဒိုချင်းတိုမှာ ယခုကာလပေါ် ဇာတ်ပွဲ၌ ဒိုချင်းချသော သီချင်းများဖြစ်သည်။ ဒိုချင်းအဖွဲ့အနွဲ့ အမျိုးမျိုးတို့ကို ဇာတ်သဘင်တို့၌၎င်း၊ဘုန်းကြီးပျံဃောဉ်ကျူးရာ၌၎င်း၊ နတ်သံနှော၍ ပြောဒိုရာ၌၎င်း သက်ဆိုင်ရာတို့တွင် အသုံးပြုကြ၏။

တနည်းအားဖြင့် ဇာတ်သဘင်တွင် ဒိုပုံဒိုနည်းသုံးမျိုးရှိသည်ဟု အသိအမှတ်ပြုကြသေးသည်။ ဤသုံးမျိုးမှာ (က) ပြောဒို (ခ) အသော့ဒို (ဂ) အကြော့ဒိုတို့ဖြစ်ကြသည်။ ဤအချက်ကိုထင်ရှားအောင် ဦးအုန်းမြင့် (တိုရှမ်းပြည်) သည် ဥစ္စာစောင့်မစောမြိုင်ပြဇာတ်မှ အောက်ပါအတိုင်း ကောက်နုတ်ဖော်ပြထားသည်ကိုတွေ့ရသည်။

မစောမြိုင် တံခါးအထွက်၌ ခလုတ်တိုက်လဲလေရကား၊ 'အမယ်မင်းဒိဋ္ဌဒိဋ္ဌ၊ နိမိတ်ပြရော့ထင့်၊ ထိတ်စရဖြစ်နဲ့ခလုတ်တိုက်လို့မို့၊ ကျုပ်ငိုက်ဆိုက်လဲရလေ။ ထူတဲ့သူတဖေကွာ၊ ကိုစိန်ခိုင်ရေ၊ သေမရဏာလားရတော့မယ်ထင်ပါလား' ဟူသောအပူတိုက်ပြောဒိုဖြင့် ဒိုချင်းချလေသည်။

ထိုနောက်တဖန် ဒွေးချိုးဖြင့် 'မလှုပ်နိုင်တယ်လေ၊ ခလုတ်စိုင်ဝင်အတိုက်တွင်မှ၊ ဘွင်ခိုက်အောင် မေမြိုင်နာရချေပေါ့၊ အိုအဖေရဲ့၊ ခွေယိုင်ကာလဲ။ ။နိမိတ်ဆိုးရော့ထင့်၊ ထိတ်စိုးအောင်ကြုံတဲ့အရေးရယ်က၊ အဖေရယ် တွေးတတ်နိုင်ဘဲ' ဟူသောအသော့ဒိုဖြင့် ဒိုလိုက်ပြန်လေသည်။

ဒိုချင်းဆိုင်းအဆုံးတွင် အိပ်မက်ရာမက် မကောင်းပုံ မျက်ခုံးလက်ရုံးလှုပ်ပုံ၊ ခလုတ်မတိုက်သင့်ဘဲတိုက်ရပုံတို့ကို စကားဖန်ထိုးပြီးနောက် လေးချိုးကဗျာဖြင့် 'စိတ်မလုံ ထိတ်ရုံမကအောင်လို့၊ နိမိတ်ပုံ ဟိတ်စုံပြလေခြင်း၊ အဖေရယ်၊ တိတ္ထိအရရယ်ကဆိုလှတယ်။ ။ပွားရတက်ရယ်နှင့်၊ တံခါးအထွက်တွင်ဖြင့်၊ အားပျက်ကာ ခြေမခိုင်သမို့၊ ခွေယိုင်ကာ မေမြိုင်လဲရတယ်၊ သဲကြွေလှုဖွယ်။ ။ဆုတ်ပြန်စေ ဒေဝါဆီးရေ့သလား၊ ခလုတ်ဒဏ် ဝေဒနာကဖြင့်ကြီးလေပေါ့၊ တပြေတရွာခရီးဆီက ကြင်သူအစ်ကိုရယ်၊ ခင်ဖြူအပျိုမယ်ကိုတဲ့မမြင်လာအား။ ။ခေမွဲ့ယ်ကာ၊ သေကွဲရယ်ကြမ္မာဖန်လိမ့်မထင့်၊ တရွာစံ မောင်နှင့်ဝေးစဉ်ဖြင့်၊ ထားမယ်မှာ အားငယ်လို့ ( ဆွေးရတယ်၊ မောင်ရေ ပြေးမြင်လှဲ့လား' ဟူသော အကြော့ဒိုဖြင့် ဒိုလိုက်ပြန်လေသည်။

အသော့ဒိုမှာရုတ်တရက်တွေ့ကြုံရသော သောကပရိဒေဝကို ဖော်ပြပေသည်။ အကြော့ဒိုမှာ တငွေ့ငွေ့ တမြေ့မြေ့ ခံစားနေရသော သောကပရိဒေဝကို ဖော်ပြသည်။ အသော့ဒိုကို ဒွေးချိုးဖြင့်ရေး၍ အကြော့ဒိုကို လေးချိုးဖြင့် ရေးကြလေသည်။

ကဗျာဖွဲ့ထုံး၌တွေ့ရသော နှစ်ဆစ်ချိုး၊ သုံးဆစ်ချိုး၊ လေးဆစ်ချိုးဟူသောအဖွဲ့အနွဲ့တို့ကို ဒိုချင်းစပ်ဆိုရာ၌ အသုံးပြုကြသည်။ ယင်းကိုပုံစံပြရလျှင် အောက်ပါအတိုင်းဖြစ်၏။

**နှစ်ဆစ်ချိုး**

လမ်းမကြုံ၊ ပန်းတင်ငုံ စပယ်ဥကိုလ၊ မရှုချင်ဘူး။
မှာရက်ကယ်လွန်၊ ဝါချက်ကိုသည်မယ်ရှ လို့၊ စံစလွန်
ကြာညောင်ရိပ်မှာလ၊ (မောင်ကြီးရေ) လွမ်းစိတ်နှင့်
ကူး။ (ပြည်မြို့မောင်ဘိုးညွန့်ရေး)

**သုံးဆစ်ချိုး**

သားရွှေစဉ် လူကလေးတို့နှင့်၊ အမေလေးပါ မောင့်
ဖခင်၊ တိုင်းပြည်ကနှင်။
မဆင်ခြင်၊ဗေဒင်ထွက်စကား။
ပုဏ္ဏားဆရာဆိုနှင့်၊ ဦးညိုကို ဗေဒင်ဆေးတယ်ရှင်၊
(အမယ်မင်း) မေးချက်ကခြား။ (မုံရွာမြို့ဆရာခရေး)

**လေးဆစ်ချိုး**

လူ့အဖြစ်အတွင်မှ၊ ခုအသစ်ကြုံလှာပြန်။
ဟိုမစဲ၊ မို့စွဲးလောင်စာနှင့်၊ သန်ဘက်ခါတိုင်တိုင်လဲလို့၊
ဖိန်းနွဲ့ခါမြန်မြန်ဆင့်စေတော့၊အေးခွင့်မပန်။
ဟိုရှေးခါနေ့လပြောင်းလျှင်လ၊ ပြေကောင်းတဲ့ပြေသင့်
တန်၊ကြံဖန်လို့ပူစိတ်စွဲ။
မေ့ကွက်ကိုရှာ၊ နေ့ရက်ကြာသာ ကြာတော့၊ မင်္ဂလာ
ပုသိမ်ထည်နှင့်၊ မောင့်မျက်ရည် ကြည်ကြည်စိုကို၊ ဖုန်း
တို့မစဲး။ (ဆရာကြော့သမီးရေး)

ထိုကဲ့သို့ရိုးသော အဖွဲ့အနွဲ့များအပြင်၊ ဆန်းပြားစွာဖွဲ့နွဲ့သည့် ပဒေသာထပ်တွန့်ဒိုချင်းများလည်း ရှိသေးသည်။ ဆတိုင်မှတ်ဦးကူးသည် ယင်းထပ်တွန့်ဒိုချင်းများကို ရေးသားစပ်ဆိုခဲ့ဘူးသည်။ အဖွဲ့အနွဲ့၏သဘောမှာ 'ဆန်းပွေပုံထူးစွာနပ်ပါဘိ၊ မန်း ရွှေကုန် နှစ်ဦး နဂရာ ရပ်မှာဖြင့်၊ ထူးကဗျာစပ်ပါလို့ထင်ပေါ် ပေ၊ (အမယ်လေး) လူးလာခပ်ပါတဲ့ စင်မော်တွေ' ဟူ၍ဖြစ်လေသည်။ ၁၂၇၀ ပြည့်နှစ်တဝိုက်တွင် မစ္စတာမောင်မှိုင်းအမည်ခံ ဆရာလွန်းသည် ပြဇာတ်များကိုရေးသားသောအခါ ထပ်တွန့်ဒိုချင်းဖွဲ့နွဲ့နည်းတို့ကို အသုံးချလာလေသည်။ ပုံစံအားဖြင့်၊ မစ္စတာမောင်မှိုင်းမှာတော်ပုံဝတ္ထု၌ ကိုပေါမျက်ရည်ကျပုံကို 'တမယားသေလျှင် တမယားနေစမြဲပေမဲ့၊ စလျားအခြေ နှစ်ပါးဂဟေမြဲမဲ့ သူ့ရဲ့၊ (အမယ်မင်း) မယားအနေ ရဲရမလားဟဲ့လို့၊ အလကား အမေက မဲမပြီး (ခင်အုံရယ်) အဖွားအေကဆဲမှာ က တမှုပါ' ဟူ၍ ဆရာလွန်းသည် ဖွဲ့နွဲ့ဆိုခဲ့သည်။ ဆတိုင်မှတ်ဦးကူးခေတ်က ရေးသောထပ်တွန့်ဒိုချင်းများနှင့်ယှဉ်၍ ကြည့်နိုင်ပေသည်။ ကာရန်ကြွယ်ဝလာလေလေ၊ ယင်းဒိုချင်းတို့မှာ ရှည်လျားရှုလာလေလေ ဖြစ်သည်။ ထိုကြောင့် နောင်သောအခါတွင် ယင်းထပ်တွန့်ဒိုချင်းတို့ကို ဆရာလွန်း၏ ကဗျုပ္ပဒေသာ၌ လေးချိုးကြီးဟူ၍ ခေါ်တွင်လာခဲ့ပြန်ရာ၊ ပြဇာတ်နှင့်ဇာတ်သဘင်တို့၏ ဂီတဆန်သောအဖွဲ့အနွဲ့တို့သည် ကဗျာဆန်သော အဖွဲ့အနွဲ့သို့ ပြန်၍ရောက်လေသည်။ ယခုအခါ မြန်မာပြဇာတ်နှင့် ဇာတ်သဘင်တို့၌ကား ဒိုချင်းချသည့်ဆိုင်းနှင့်ဖက်၍ သီဆိုမှသာလျှင် ဒိုချင်းစစ်စစ်ဟုမှတ်ယူကြလေသည်။

မြန်မာ့ဇာတ်သဘင်လောကတွင် ထင်ရှားခဲ့သော ဇာတ်ဆရာကြီး ဦးဖိုးစိန်သည် ဒိုချင်းအဆို၌ တမူထူးခြားသူဖြစ်သည်။ (ဖိုးစိန်၊ ဦး —ရှု။) များစွာသော မြန်မာဇာတ်သဘင်ပညာသည်တို့သည် ဦးဖိုးစိန်၏ 'လေ' ကို အတုယူကြရသည်။ ဦးဖိုးစိန်၏ဒိုချင်းများမှာ ဇာတ်ပွဲတွင်ပါဝင်သူ အဓိကဇာတ်လိုက်တို့၏ သဘာဝကိုပေါ်လွင်အောင် ဖွဲ့နွဲ့သော သီချင်းများဖြစ်လေရာ မြန်မာပွဲကြည့်ပရိသတ်တို့၏စိတ်တွင် စွဲ၍ကျန်ခဲ့သည်သာ များပေသည်။ ယခုတိုင် ဦးဖိုးစိန်၏ ဒိုချင်းများသည် လူထု၏နှုတ်ဖျားတွင် မပျောက်မပျက်ဘဲရှိနေသေးသည်။ ချင်းကလေးမောင်ဖဝေးပြဇာတ်လာ 'ယာတောလယ်မှာ၊ ငါပြောမယ် ရွှေရှင်ဘုရင်ရဲ့၊ နင်ဆင်ခြင်ဦး' ဟူသောဒိုချင်း၊ မင်းကုသဇာတ်လာ 'မာန်ဝင်ကာ အလှဂုဏ်ကိုးသူ့ရဲ့၊ အန်ချင်စရာ ငါ့ရုပ်ပုံဒီလောက်တောင်ဆိုးရော့သလား၊ ဘုံကြိုးပြတ်ပါတဲ့ နတ်မိမယ်တောင်၊ ခတ်သိလျှင်မယယ်ပါဘု ကျုပ်လူထူး' ဟူသောဒိုချင်း၊ ပဒုကုသလဇာတ်လာ 'အကြံခက်လေသနော်၊ သန်လျက်တော်ယူသည့်သူခိုးကိုလ၊ သူ၏အမျိုးကို စကားထုတ်ဖော်လို့ပြောရမှာဖြင့်၊ ခေါင်းကုပ်ပေါ်မှာဝဲ' ဟူသောဒိုချင်း၊ ဆင်ကဲဘိုမယ်ပြဇာတ်လာ 'ဒွေးမယ်နှစ်ဖော် သံဝါညှိပါလို့၊ မပြေးသော် ကန်ရာရှိပါ့မလား၊ တန်ပါအမိ မဘိုမယ်' ဟူသောဒိုချင်း၊ သုဓောနန္ဒိဇာတ်လာ 'ဆောင်လယ်ဘုံမှာလေ၊ မောင်မယ်စုံ၊ အတူစက်ရာက၊ ယူရက်ကာ အကြံပေါ်လို့၊ ရန်သူတော်သူနိုး' ဟူသောဒိုချင်းတို့မှာ ယနေ့တိုင် ထင်ပေါ်ဆဲပင်ဖြစ်၏။ ဆင်ကဲဘိုမယ်ဇာတ်၌ ပိဋကတ်ဆရာမောင်ရေး၍၊ ဦးဖိုးစိန်သီဆိုသော သီချင်းတပုဒ်ကို ဦးဖိုးစိန်၏ဒိုချင်းများအနက် နမူနာအဖြစ်ဖြင့် အောက်ပါအတိုင်းဖော်ပြလိုက်ရပေသည်။

'ပြေပေါ်မှာ၊ ရွှေကြော်ငြာ ထုတ်သံကြားရတာက၊
ဟုတ်မှန်ပါ့မလားနော်၊ ဘဝင်မှာ ဆို့လှချည့်၊ ခင်ဘို
မယ်အကြောင်း။ ။သတင်းမလှလိုက်ပုံက၊ အင်းဝစံ
မဟောသီတင်မလို့တဲ့၊ ဒေဝီခင် တွေ့လျက်နဲ့ဖုံးကြယင်၊
ပြကတေ့အသက်ဆုံးအောင် ရင်ကိုခွဲမလို့တဲ့၊ ဆင်ကဲမှာ
ဒီလိုသာဖြင့်၊ ခုအခါသူ့ရွာကမှမသွားဝံ့ပါဘု၊ ကရုဏာ
အမှုရှာတဲ့စကားတွေက၊ ကြားရချက်မကောင်း။ ။'

**ငံပြာရည်။** ။သာမန်အားဖြင့် ငပိမှထွက်သောအရည်သည် ငံပြာရည်ဖြစ်သည်။ သို့ရာတွင် ငပိအကြောင်းရပ်တွင်ဖော်ပြခဲ့သော ငပိမျိုးအပြင်၊ ပဲမှလုပ်သော ပဲငပိဟူ၍လည်းရှိသေးရကား၊ ပဲငပိမှရသော ပဲငံပြာရည်ဟူ၍လည်း ရှိလေသည်။

ငံပြာရည်ကို စိမ်းစားငပိ၊ မျှင်ငပိ၊ ဒမင်းငပိတို့မှရသည်။ ထိုငပိအမျိုးအစားကိုလိုက်၍၊ စိမ်းစားငံပြာရည်၊ မျှင်ငံပြာရည်၊ ဒမင်းငံပြာရည်ဟူ၍ အမျိုးမျိုးရှိသည်။ ငပိကောင်လုပ်ရာမှလည်း ငံပြာရည်ရနိုင်သေးသည်။ (ငပိ—ရှု။) ငပိသိပ်သောစည့်၏ ကြမ်းပြင်မှာ အိမ်ခေါင်မိုးကို ပြောင်းပြန်ထားသကဲ့သို့ ဆင်ခြေလျှောဖြစ်သည်။ ထိုဆင်ခြေလျှော ကြမ်းပြင်၏ အလယ်တွင် ရေတန်လျှောက်ကို ခံထားရသည်။ ထိုရေတန်လျှောက်မှ ငံပြာရည်စီးဆင်းလာသည်။ အချို့ဒေသ၌ ငပိကို ရာဝင်အိုးများနှင့်သိပ်ရသည်။ ငပိမှာလေးသောပစ္စည်းဖြစ်၍၊ အိုးထဲတွင်တဖြည်းဖြည်းထိုင်သွားသည်။ ထိုအခါ၌ ငံပြာရည်သည် စိမ့်၍ အပေါ်သို့တက်လာသည်။ ဤသို့တက်လာသောငံပြာရည်ကိုအိုးသွတ်ငံပြာရည်ဟုခေါ်သည်။

ငပိမှရသောငံပြာရည်ကို မြန်မာလူမျိုးတိုင်းလိုပင်ကြိုက်နှစ်သက်ကြသည်။ ထိုငံပြာရည်၏ အနံ့မှာအနည်းငယ်ပြင်း၏။ အရသာမှာချို၍ငန်၏။ ထို့ကြောင့် ငါးငံပြာရည်ကို ဟင်းချက်ပြုတ်ရာတွင်သုံးလျှင် ဟင်း၏အရသာပို၍ကောင်းလာပေသည်။ ဟင်းချက်ပြုတ်ရာတွင် ငါးငံပြာရည်ကို အစိမ်းလိုက်ခတ်၍အသုံးပြုကြ၏။ တခါတရံငပိရည်အစား ကျိုပြီးသားငံပြာရည်ကို ရေတတ်သီးမှုန့်ဖျော်၍ တို့စရာနှင့်စားတတ်ကြ၏။



ငပိကိုဒေါင်တွင် စုပုံထားသောငပိမှ မြောင်းငယ်များတလျှောက်စီးဆင်းလာသောငံပြာရည်ကို ကန်ထဲ၌ ဤသို့စုသိမ်းထားရသည်။

ပဲငံပြာရည်ကို တရုပ်လူမျိုးတို့သည် ဟင်းချက်ပြုတ်ရာ၌ အသုံးများကြသည်။ မြန်မာတို့လည်း စားသုံးကြသည်။ အထူးအားဖြင့် သက်သတ်လွတ်ဟင်းများ၌ ငါးငံပြာရည်အစား ပဲငံပြာရည်ကို သုံးကြသည်။ ပဲငံပြာရည်ကိုမူ ပဲဖိစပ်မှ အောက်ပါအတိုင်းလုပ်ယူကြသည်။

ပဌမတွင်ပဲဖိစပ်ကို နူးနပ်အောင်ပြုတ်ရသည်။ ကောင်းစွာနူးနပ်သောအခါ ပဲများကိုအိမ်တွင်း၌ ရက်ပေါင်းအနည်းငယ်ကြာမျှ ဖြန့်ထားရ၏။ ဤသို့ဖြန့်ထားစဉ် ပဲများပေါ်တွင် မှိုများတက်လာသည်။ မှိုတက်လာသောအခါ ပဲများ



ငပိအိတ်များကိုထပ်ဆင့်လျက် စီထား၍ ကျဆင်းလာသော ငံပြာရည်ကိုခံယူပုံ

ကိုနေထုတ်လှန်းပေးရသည်။ ကောင်းမွန်စွာခြောက်သွေ့သောအခါမှ ပဲများကိုအသင့် ကျိုထားသော ထန်းလျက်သို့မဟုတ်ကြံသကာရည်ထဲတွင် ဆားတော်သင့်ရုံထည့်၍စိမ်ပေးရသည်။ရက်အတန်ကြာကြာထားသောအခါ ပဲငံပြာရည်ဖြစ်လာသည်။ စိမ်ထားသောပဲများသည် ပဲငပိဖြစ်၏။

ပဲငံပြာရည်သည် ထန်းလျက် သို့မဟုတ် ကြံသကာရည်၏အပျစ်အကျဲကိုလိုက်၍အရည်ပျစ်အရည်ကျဲဟူ၍နှစ်မျိုးနှစ်စားရှိသည်။ ပဲပြာရည်၏အနံ့မှာ ငါးငံပြာရည်ကဲ့သို့ မပြင်းဘဲခပ်သင်းသင်းနေ၏။ အရသာမှာ ချိုသည်။ ပဲငံပြာရည်သည် ဟင်း၏အရသာကို ထူးခြားစေသည့်ပြင် အရောင်ကိုလည်း ကောင်းစေ၏။ မြန်မာတို့သည် ဟင်းချက်ပြုတ်ရာတွင် ငါးငံပြာရည်ကို အသုံးများကြသကဲ့သို့ တရုပ်တို့သည်လည်း ပဲငံပြာရည်ကို အသုံးများကြသည်။

**ငန်း။** ။ငန်းသည် ဝမ်းဘဲ၊ စက္ကာက် စသည်တို့နှင့် အတူ 'အင်ဆာရီဖုမ်' မျိုးစဉ်တွင် ပါဝင်သည်။ ငန်း ၈ မျိုးခန့်ရှိသည်။ အားလုံးမှာ ငှက်ကြီးများ ဖြစ်ကြ၏။ ငန်းတို့တွင် တင့်တယ်ရှည်လျားသော လည်ပင်း ရှိသည်။ များသော


ရေအိုင်စပ်တွင်ကစားမြူးထူးနေကြသောငန်းများ

အားဖြင့် ငန်းတို့၏အမွေးအတောင်မှာ ဆွတ်ဆွတ်ဖြူ၍နေသည်။ ဦးခေါင်းတွင် အနက်ရောင်လည်းရှိ၏။ ဩစတြေးလီးယားတိုက်တွင် ငန်းအနက်များကို တွေ့ရ၏။ ကမ္ဘာပေါ်တွင် ဩစတြေးလီးယားတိုက်တတိုက်ထဲတွင်သာ ထူးထူးခြားခြား ငန်းနက်များကိုတွေ့ရသည်။ ထို့ကြောင့် ဩစတြေးလီးယားတိုက် အနောက်ဖက်ပိုင်းတွင် တံဆိပ်တော်ခေါင်းများ၌ ငန်းနက်ပုံကို ထည့်သွင်းဖော်ပြထားကြလေသည်။

ငန်းတို့၏အသံသည် ကျယ်လောင်၍ တံပိုးမှုတ်သံနှင့်ခပ်ဆင်ဆင်တူ၏။ ငန်းသည် တခါအုလျှင် ၆ လုံးခန့် အုလေ့ရှိ၏။ အသိုက်မှာ ညစ်ပတ်ပေရေနေသောကျူပြင်၊ ရေညှိပင်စသည်တို့ဖြင့် ရှုပ်ထွေးလျက်ရှိသည်။ ငန်းမသည်ဥများအုနေစဉ် ငန်းဖိုသည် ဥများကိုကာကွယ်စောင့်ရှောက်ပေးသည်။ ဥများအနားသို့ ချဉ်းကပ်လာလျှင် မည်သူ့ကိုမှမရှောင် ခုခံရန်ပြုတတ်သည်။ ငန်းသည် အများအားဖြင့် သစ်ဥ သစ်ဖု ကိုသာ စားတတ်၏။ သို့သော်လည်း တခါတရံ အခြားပိုးမွှားတိရစ္ဆာန်ငယ်ကလေးများနှင့် ပက်ကျိတို့ကိုလည်း စားတတ်သည်။ ဥရောပတိုက်တွင်တွေ့ရသောငန်းမျိုးမှာ 'ဆစ်ဂနပ်ဆိုလာ' ခေါ် ငန်းအမျိုးဖြစ်သည်။ ငန်းအ ဟုခေါ်ခြင်းမှာ အသံမပြုတတ်သောကြောင့်ဖြစ်၏။ ရှိသမျှငန်းအပေါင်းတွင် ဤငန်းအမျိုးမှာ လူသိအများဆုံးဖြစ်၏။ အရပ်မှာ ၅ ပေအထိရှည်၍ ကိုယ်အလေးချိန်မှာ ပေါင် ၃၀ ခန့်ရှိသည်။

**ငန်းဆေး။** ။သံယုတ်ပါဠိတော်၊ အင်္ဂုတ္တိုရ်ပါဠိတော်များတွင် မြတ်စွာဘုရား ဟောကြားတော်မူသော နာခြင်းအကြောင်း ရှစ်ပါးရှိသည်။ ထိုရှစ်ပါးကား (၁) လေဓာတ်ပျက်၍ နာခြင်း၊ (၂) သည်းခြေပျက်၍ နာခြင်း၊ (၃) သလိပ်ပျက်၍နာခြင်း၊ (၄) သလိပ်၊ သည်းခြေ၊ လေ၊ ၃ ပါးစုံပျက်သန္နိပါတ်ဆိုက်၍နာခြင်း၊ (၅) ဥတုဖောက်ပြန်ပြောင်းလဲ၍ ဖြစ်သောနာခြင်း၊ (၆) မိမိကိုယ်ကို မသင့်မတင့်အောင် ဆောင်ရွက်သဖြင့်နာခြင်း၊ (၇) မိမိလုံ့လ၊ သူတပါးလုံ့လနှင့် နာအောင်၊ သေအောင် တမင်အားထုတ်မှုကြောင့်နာခြင်း၊ (၈) ဥပစ္ဆေဒကကံ အတင်းနှိပ်စက်၍နာခြင်းဟူသတည်း။ ထိုနာခြင်းရှစ်မျိုးတို့ကို မြန်မာ့လက်သုံးဆေးဖြစ်သော ငန်းဆေးဖြင့်ထိုက်သလိုပျောက်ကင်းအောင် ကုမနိုင်သည်ဟုဆိုသည်။ အနာရောဂါကိုလိုက်၍ငန်းဆေးမှာအမျိုးမျိုးရှိ၏။ ငန်းဆေးတမျိုးစီတွင် အနာရောဂါ၏လက္ခဏာကိုကြည့်၍ တိုက်ကျွေးရန် ဆေးညွှန်းများလည်းရှိကြသည်။ ငန်းဆေးသည် အထူးသဖြင့် သန္နိပါတ်ဆိုက်၍နာသောရောဂါများတွင် ပို၍အစွမ်းထက်သည်။

ထိုသန္နိပါတ်ဆိုက်၍နာသောရောဂါကို ငန်းရောဂါဟုခေါ်သည်။ ဓာတုဝိဘာဂကျမ်းတွင် ပြတက် ၃ ပါး၊ ဒွေးဝမ်း ၃ ပါး၊ သန္နိပါတ် ၁ ပါး၊ ပေါင်း ၇ ပါးသောရောဂါတို့သည် မြန်စွာတိုးတက်လျက် မြွေနဂါး အဆိပ်တက်သကဲ့သို့ ပြင်းထန်စွာဖြစ်လာခြင်းကြောင့် ငန်းနာဟူ၍ခေါ် ဆိုရသည်ဟု ဆိုထားလေသည်။ ထိုရောဂါစွဲကပ်သောလူနာ၏ မျက်စိ၊ မျက်နှာ၊ လျှာ၊ လက်ဝါး၊ ဖဝါး၊ ကိုယ်ရေကိုယ်သားတို့မှာလည်း စိမ်း၊ နီ၊ ညို၊ ဝါ၊ နက်ပြာ၊ ပြောက်ကျား၊ အဆင်းအရောင် ပြားလျက်၊ ငန်းမြွေတို့၏ အမျိုးအစားများသကဲ့သို့ရှိခြင်းကြောင့် ငန်းဖျား၊ ငန်းနာ၊ ငန်းရောဂါခေါ်သည်ဟု အချို့ဆရာတို့ကဆို၏။ ထိုငန်းဖျား၊ ငန်းနာ ရောဂါတွင် (၁) လေနှင့်ယှဉ်သော ငန်းရောဂါ၊ (၂) သလိပ်နှင့်ယှဉ်သော ငန်းရောဂါ၊ (၃) သည်းခြေနှင့်ယှဉ်သော ငန်းရောဂါ

ဟူ၍ သုံးမျိုးရှိသည်။ ထိုသုံးမျိုးတွင်လေချည်းသက်သက်၊ သလိပ်ချည်းသက်သက်၊ သည်းခြေချည်းသက်သက် တမျိုးတည်း ယှဉ်၍ ဖြစ်လျှင် ပြတက်၊ လေနှင့်သလိပ်၊ သလိပ်နှင့် သည်းခြေ၊ သည်းခြေနှင့်လေဟူ၍နှစ်မျိုးယှဉ်၍ဖြစ်လျှင်ဒွေ့ဝမ်း၊ လေ၊ သလိပ်၊ သည်းခြေ သုံးပါးစုံယှဉ်၍ဖြစ်လျှင်သန္နိပါတ်ဟူ၍ခေါ် ကြောင်း အဆိုရှိ၏။ ဓာန္တရီကျမ်းရင်းကြီးအလိုအားဖြင့် ၂၁ ပါးသော ငန်းရောဂါတို့ ရှိကြကုန်၏။ ယင်းတို့ကား (၁) ငန်းတွန့် (၂) ငန်းလိမ် (၃) ငန်းသက် (၄) ငန်းနှုတ်ထောက် (၅) လေငန်း (၆) နားအူငန်း (၇) အတုန်ငန်း (၈) ဆံဆိုင်ငန်း (ဤငန်းကား သလိပ်နှင့်လေ နှစ်ဌာန၌ဖြစ်၏။) (၉) ကိုယ်လက်လေးလံသောငန်း (၁၀) အကြောအခြင်တွန့်သောငန်း (၁၁) ငန်းဖြူ (၁၂) ငန်းမွဲ (၁၃) ငန်းဝါ (၁၄) ငန်းမောင်း (၁၅) ငန်းနီ (၁၆) ငန်းသပြေရောင် (၁၇) ချိန်းညို (၁၈) ငန်းနက် (၁၉)ငန်းပြောက် (၂၀) ငန်းကွက် (၂၁) ငန်းဆန်ကွဲတို့ဖြစ်သည်။

ငန်းရောဂါဖြစ်သော် သမားတို့ဆေးပေး၍ ချမ်းသာမည်၊ မချမ်းသာမည်ကို သိရန် ကြည့်ရမည့် လက္ခဏာခြောက်ပါးရှိ၏။ ထိုလက္ခဏာခြောက်ပါးနှင့် စပ်လျဉ်း၍ ဓာန္တရီကျမ်းရင်းကြီးတွင်၊ 'ဆိုခဲ့ပြီးသော တြိဒေါသ ငန်းသန္နိပါတ် တို့၌၊ အထက်သို့လေ၊ သလိပ်၊ သွေးလူခြင်း၊ အောက်သို့သက်ခြင်း၊ ဟိုက်ခြင်း၊ ရှိုက်ခြင်း၊ တကိုယ်လုံးဖျော့ခြင်း၊ မျက်စိမမြင်ရခြင်း၊ ဤခြောက်ပါးသောလက္ခဏာတို့နှင့်ပြည့်စုံလျှင် မချမ်းသာ တော့ကား၊ သေမည်။ တပါးနှစ်ပါးသာဖြစ်မူကား၊ ကုစား၍ဖြစ်၏ဟု သကျရှင်ရသေ့ဆိုတော်မူ၏။' ဟုဖော်ပြထားလေသည်။

ကုစား၍ချမ်းသာမည့် ငန်းရောဂါများကို ရောဂါအမျိုးအစားအလိုက် ငန်းဆေးကိုထိုက်သလိုပေးခြင်းဖြင့် ထိုရောဂါကိုနိုင်နင်း၏။ ဤကိုရည်၍ ဦးတိုး၏ရာမရကန်တွင်၊ 'အမူးအမိုင်၊ အထိုင်အလွန့်၊ အတွန့်အငင်၊ ကောက်ကျီကောက်ကျစ်၊ ဖြစ်ချင်သမျှ၊ လေးဘက်တွားထလို့မှ၊ အပကြီးဝင်၊ ငါးမွေကင်လိုက်အောင်၊ ကြောကော့ရောင်များနှင့်၊မြောက်တောင်ရင့်သီ၊ အင်္ဂါထီးလွှား၊ ပြေးသွားမရပ်၊ နှာနှပ်ချက်စဉ်း၊ အကျဉ်းဆိုဆေး၊ ဓာတ်လေးပါးညီ၊ ဓာန္တရီ၊ ဓာတုဒီပနီ၊ ကတ္တရသချိ၊ စမုံနီ၊ စမုံဖြူ၊ ကန့်ပလူဒါရှု၊ ကြက်သွန်ဖြူ၊ တမြိတ်ပါ၊ ဝိသမ္ဘယာ၊ မဟာပဒက္ခူ၊ သီဟဗလ၊ ဩသဓကက္ကောလီ၊ သနိပါတ်ငန်းနိုင်။' ဟုငန်းရောဂါ၏ဖြစ်တတ်ပုံနှင့် ငန်းနိုင်ဆေးအကြောင်းကို အမြွက်မျှရေးသားပြထားသည်ကိုတွေ့ရ၏။

ဘေသဇ္ဇဒီပနီတွင်မူကား 'လူတို့၌တွင်၊ ခဲအင်လျှငြားငါးပါးငန်းတက်၊ ကုစားခက်၏၊ ငန်းသက်၊ ငန်းနီ၊ အညီငန်းနက်၊ တချက်ငန်းပေါက်၊ အနာရောက်မူ၊ ငန်းဟူမှန်ဘိလက်မထိရ၊ နာကျင်လှ၏၊ ခြေကတက်ငြား၊ ရင်ဘတ်ကားမူငန်းတက်ဟူလေ့၊ ခေါင်းမူလည်းခဲ၊ မေးကဆွဲလျက်၊ ငန်းသက်အနာ၊ ရိတ်ိုရာ၏၊ အနာငန်းနီ၊ ဝေသီမူးမှိုင်၊ နေထိုင်တိမ်းဘိ၊ မျက်စိကြက်တက်၊ ခြေလက်ရွှေလုပ်၊ လေးဘက်ကုပ်၏၊ အဟုတ်ငန်းနက်၊ တကျည်းတက်သို့၊ ဝမ်းပက်ပြုငြား၊ ငန်းငါးပါးကို၊ ကုစားမည်ကြောင်း၊ လက်နက်ကောင်းကားမြင်းခေါင်းနှာယောင်၊ ရအောင်ယူမှ၊ ဘင်္ဂသစ်ဆွဲလွဲ၊ ရှင်ကစွဲနှင့်၊ တကွဲရှင်ဗာကူ၊ နည်းတူခွေးတောက်၊ ပိတောက်နှစ်ယူ၊မအူထောက်ရှာ၊ နိုင်းရာမဲ့ဘဲ၊ဘိန်းနွဲ့အိုးပွတ်၊ သပွတ်သိမ်ကၤခင်ပုပ်စသည်၊ တပဆေးဖြီး၊ သက်ရင်းကြီးကို၊ သွေးပြီးသောထွေ၊ ပုံးရေနှင့်ပင်၊ ပြင်ကလိမ်းမြောက်၊ အတွင်းသောက်ရ၊ ကျောင်လှမူ၊ ကြပ်ကြပ်ရှုလော့၊ နာသူငန်းတက်၊ ဖက်တိုတပဆေး၊ မထွေးငန်းပေါက်၊ တစ္ဆက်လှောက်လျက်၊ သောက်တည့်လိမ်းလျှင်၊ ကိုယ်တွင်ရောဂါ၊ ကင်းပျောက်ကွာသည်' ဟူ၍ငန်းငါးပါးကို လက္ခဏာအသီးသီးနှင့်ပြပြီးနောက် ငန်းဆေးနည်းနှင့် ကုထုံးကိုပြဆိုထား၏။

နရသုခိဆေးကျမ်းတွင်မူ 'မိုးနံတွင်မှန်း၊ သလိပ်ငန်းနှင့်၊ လေငန်းပြယ်ရှိုး၊ အကင်းမျိုးကို၊ နိုင်ကျိုးနပ်လှ' ဟူ၍သလိပ်ငန်းနှင့် လေငန်းတို့ကို နိုင်နင်းသောဆေးကိုပြဆိုထားသည်။ ဤသို့ဖြင့် မြန်မာဆေး ကျမ်းတို့တွင် အသီးသီးအမျိုးမျိုးသော ငန်းရောဂါနိုင်ဆေးတို့ကို ဖော်ပြထားလေသည်။ ထိုငန်းဆေးပေါင်း များစွာတို့တွင် ဓာတုဝိဘာဂကျမ်းလာ နာဂနိဗ္ဗာန်ငန်းဆေးနည်းမှာ တြိကဋုက် ၃ ပါး၊ ပန်းမျိုး ၅ ပါး၊ စမုန်မျိုး ၅ ပါး၊ သစ်ကြံပိုး၊ ဖာလာ၊ ကရဝေး၊ အိပ်မွှေး၊ ဇာဒိပ္ဖိုလ်သီးပွင့်၊ လေးညှင်း၊ ကံ့ကော်ဝတ်ဆံ၊ ရှိန်းခို၊ မဟော်ရာကြီး၊ ကွက္ကရာ၊ စပါးကြီး၊ သည်းခြေ၊ 'လိပ်ကျောက်ဆူး၊ နံ့သာနီဖြူ၊ ပတ္တရသချိ (ကတြသချိ) တို့ကိုအမျှစီအမှုန့်ပြု၍ ကြက်သွန်ဖြူရေနှင့်ကြိတ်ပြီးလျှင် နေလှန်းရမည်။ ခြောက်လျှင်တကြိမ်ထပ်၍ကြိတ်။ ထိုနောက်ကြိတ်မှုန့်ရေနှင့် ထပ်ကြိတ်ပြီးလျှင် နေလှန်းရသည်။ ဆီးကင်းခန့်ကိုလူနာအား တပဟိုရ်လျှင် ၂ ကြိမ်၊ ၃ ကြိမ်တိုက်ရ၏ဟု ဖော် ပြထားသည်။

**ငန်းငွှန်မြို့။** ။ငွှန်မြို့ — ရှု။

**ငန်းမြွေ။** ။မြန်မာ့အလိုအားဖြင့် ငန်းမြွေအမျိုးမျိုးရှိ၏။ အများအားဖြင့် ငန်းမြွေများသည် ကိုယ်ထည်ကြီးမား၍



အမည်းတရစ်၊ အဝါတရစ်ရှိသော ငန်းသံကွင်းဖွပ်

အဆိပ်ရှိသောမြွေမျိုးဖြစ်ကြသည်။ မြွေ၏အသွေးအဆင်ကိုကြည့်၍ အမည်အမျိုးမျိုးဖြင့်ခေါ်တတ်ကြသည်။ တခါတရံ မြွေတမျိုးတည်းကိုပင် အမည် ၃၊ ၄မျိုးတပ်၍ ခေါ်တတ်ကြသည်။ ငန်းမြွေအမျိုးမျိုးရှိသည့်အနက် ထင်ရှားသောငန်းမြွေများမှာ (၁) ငန်းဝါ (၂) ငန်းပုပ် (၃) ငန်းသံကွင်းစွပ် (၄) ငန်းစောင်း (၅) ငန်းတော်ကျား (၆) ငန်းဦးကွက် (၇) ငန်းနက်ကျား (၈) ငန်းတော်ရှည်တို့ဖြစ်ကြသည်။ ထိုငန်းမြွေမျိုးတို့နှင့် မျိုးချင်းနွယ်သော အခြားငန်းမြွေများလည်း အမြောက်အမြားရှိပေသေးသည်။ ငန်းမြွေကိုအင်္ဂလိပ်လို 'ဟမ်မာဒြာရက်'ဟူ၍၎င်း၊ 'ဗန်ဂါရပ်'ဟူ၍၎င်း ငန်းမျိုးကိုလိုက်၍ခေါ်၏။

ငန်းဝါကို အိန္ဒိယနိုင်ငံနှင့် မြန်မာနိုင်ငံတွင် တွေ့ရသည်ဟုဆိုသည်။ ငန်းဝါသည် အညိုရောင်ရှိ၍ အညိုဖျော့ရောင်ကန့်လန့်စင်းများပါရှိသည်။ လည်တိုင်ဝါ၏။ သို့သော်အချို့ငန်းဝါမျိုးသည် အစိမ်းရောင်ရှိ၍ လည်တိုင်ဝါသည်။ ကိုယ်အောက်ပိုင်း၌ အစက်ပြောက်များ ပါရှိတတ်သည်။ သို့မဟုတ် အမည်းရောင်ရှိသည်။ အကောင်ငယ်ကလေးများမှာ အမည်းရောင်ရှိ၍ အဖြူစင်းများပါရှိသည်။ ဦးခေါင်း၌လည်း အဖြူစင်းများပါရှိသည်။ အရှည် ၁၄ ပေအထိကြီးထွားကြသည်။

ငန်းပုပ်ဟုခေါ်သော ငန်းမြွေမှာ အမည်းပုပ်ရောင်ရှိ၏။ ထိုငန်းပုပ်မျိုးသည် လူကိုလိုက်တတ်သည်ဟုအဆိုရှိသည်။ လိုက်ရာ၌ပါးပျဉ်းထ၍လိုက်၏။ တခါတခါအမြီးထောက်၍ကြည့်၏။ ထိုနောက်လိုက်ပြန်၏။ မမြင်ရမှ မလိုက်ဘဲနေ၏။ ငန်းပုပ်သည် ရိုက်ပုတ်၍မသေဘဲလွတ်ပြေးလျှင်ရန်သူကိုတနှစ်ကျော်အထိ မမေ့တတ်ဘဲ ပြန်၍ရန်မူတတ်သည်ဟုအဆိုရှိသည်။

ငန်းသံကွင်းစွပ်တွင် အဝါနှင့်အမည်းကွင်းများ တချခြားစီပါရှိသည်။ ဦးခေါင်းမှာမည်း၍ လည်တိုင်နှင့်ကိုယ်အောက်ပိုင်းမှာ အဝါရောင်ရှိ၏။ အရှည် ၈ ပေအထိကြီးထွား၏။

ငန်းနက်ကျားကို အင်တိုင်းတောနှင့် တောချုံကြီးများတွင်အများအပြားတွေ့ရသည်။ အဆိပ်ပြင်းသောမြွေမျိုးဖြစ်သော်လည်း လူကိုရန်မရှာတတ်ပေ။ ဦးခေါင်းသေး၍ကိုယ်ထည်ရှည်သည်။ ကိုယ်ရောင်မှာ ကတ္တီပါနက်ကဲ့သို့ရှိ၍ အဝါကွက်များပါရှိသည်။ ငန်းနက်ကျားသည် အလွန်လှသောမြွေမျိုးဖြစ်သည်။ ငန်းတော်ရှည်ကို မြွေမင်းသားသို့မဟုတ် မြွေသူတော်ဟုခေါ်တတ်ကြသည်။ ကိုယ်ထည်ရှည်၍ အဆိပ်မရှိပေ။ ငန်းတော်ရှည်ကို အခြားမြွေများကကြောက်ရသည်ဟုဆိုသည်။

ငန်းမြွေများသည် အများအားဖြင့် အဆိပ်ရှိကြသော်လည်း လူကိုဘေးအန္တရာယ်မပြုတတ်ကြပေ။ ငန်းမြွေများသည် ကိုယ်ထည်ကြီးမားကြသဖြင့် ယင်းတို့ကိုတွေ့မြင်လွယ်သည်။ လယ်ယာများတွင်မနေတတ်ကြ။ တောထူထပ်သောဒေသများတွင် ချုံထဲ၊ သစ်ခေါင်းထဲ၌ နေတတ်ကြသည်။ ငန်းမြွေသည် ပါးပျဉ်းကြီး၍ လှပသောကြောင့် အလင်္ကာဆရာများက မြွေပြသရာတွင်ငန်းမြွေကိုအကခိုင်းတတ်ကြသည်။


ငုံးငှက်

ငုံး။ ။ပါဠိဗေဒအရ ငုံးသည် ခေါင်း၊ တောကြက်၊ ရစ်တို့နှင့်အတူ 'ဂယ်လီဖေါမီး' မျိုးစဉ်တွင်ပါဝင်လေသည်။ 'ကိုတာနစ် ချိုင်းနန်းဆစ်' အမည်ရှိ ငုံးသည်အလျား ၆လက်မရှိ၍ သေးငယ်ကျစ်လစ်သည်။ ငုံးဖိုနှင့်ငုံးမတို့မှာအရောင်အဆင်းချင်းမတူကြချေ။ ငုံးဖိုသည် ကျောဘက်၌ အမည်းပြောက်နှင့် သံချေးရောင်အပြောက်များရှိသည်။ ခြေထောက်ဝါသည်။ မြက်တောထဲမှ ထ၍ပျံသောအခါ ငုံးဖိုသည် သာမန်ငှက်မည်းဖြစ်သည်ဟု ထင်မှတ်ရသည်။ ငုံးမသည် ငုံးဖိုထက်အရောင်ဖျော့သည်။ ကိုယ်တွင်ဝမ်းနှင့်ရင်ဖက်၌ညိုဝါရင့်ရောင်ရှိသည့်ပြင် ရင်ပိုင်းနှင့်နံဘေးဖက်တွင်အမည်းကန့်လန့်စင်းများပါရှိသည်။ ငုံးမသည် သာယာသောအသံကိုပြုတတ်သည်။

ငုံးကိုကောက်ရိုးပြတ်နှင့် မြက်တော ပေါများရာ လွင်ပြင်များတွင် အနှံ့အပြား တွေ့ရသည်။ ကိုက်အနည်းငယ်မျှလျှင်မြန်စွာပျံသန်းပြီးလျှင် ချုံဖုတ်ထဲသို့ဝင်၍ ခိုအောင်းနေတတ်သည်။ ခရီးဝေးမပျံနိုင်ချေ။

မြန်မာနိုင်ငံတွင် မိုးဥတု၌ အများအားဖြင့် ဥအုသည်။ ဇန္နဝါရီလတွင်လည်း အချို့ငုံးများဥအုသည်ကို တွေ့ရသည်။ တမြုံလျှင် ၃ ၄ လုံးမှ ၇ လုံးခန့်ရှိ၍ အဝါရောင်၊ အညိုရင့်ရောင်စသည်ဖြင့် ကွဲပြားခြားနားကြသည်။ အချို့တွင်အပြောက်ပါရှိသည်။ ဤငုံးမျိုးကို အာဖရိကတိုက်၊ ဩစတြေးလီးယားတိုက်၊ မြန်မာနိုင်ငံရှိ လွင်ပြင်များနှင့် ရှမ်းကုန်းပြင်မြင့်တွင် အနှံ့အပြားတွေ့ရသည်။

ငုံးအမျိုးမျိုးရှိကြရာ ထင်ရှားသောအခြားငုံး ၂ မျိုးမှာ 'ကိုတာနစ် ကိုရိုမန်ဒဲလစ်ကား' နှင့် 'ကိုတာနစ် ကိုတာနစ်' ဖြစ်သည်။

'ကိုတာနစ်ကိုရိုမန်ဒဲလစ်ကား' ငုံးသည်အလျား ၇ လက်မရှိသည်။ အဝေးမှကြည့်လျှင် ယင်းကိုအခြားငုံးနှင့် ခွဲခြားရန် အလွန်ခဲယဉ်းသည်။ သို့သော်ခြားနားချက်မှာ အရွယ်ငယ်ခြင်း၊ အသံကွဲပြားခြင်းပင်ဖြစ်သည်။ ငုံးဖို၏ရင်ပိုင်းသည် သိသာထင်ရှားစွာမည်းနက်သည်။ ငုံးမမှာ ဤသို့မည်းနက်ခြင်းမရှိချေ။

ဤငုံးသည် ကျယ်လောင်စွာအော်မြည်တတ်လေသည်။ ဇူလိုင်လမှ အောက်တိုဘာလ အတွင်း ထိုငုံး၏အော်သံကို အများအားဖြင့်ကြားရသည်။ ရွာအနီးအနားတွင် ပေါက်ရောက်သော မြက်တောနှင့် စိုက်ခင်းများတွင် ကျက်စားလေ့ရှိသည်။ အကောင်ပေါက်ချိန်တွင် ဖိုမတွဲ၍ နေတတ်သည်။ အခြားအချိန်တွင် တကောင်ချင်း သို့မဟုတ်အအုပ်အသင်းဖြင့် နေလေ့ရှိသည်။ တနေရာထဲတွင် အမြဲတစေကျက်စားလေ့ရှိသည်။ သို့သော် ရာသီအလိုက်ဒေသပြောင်းရွှေ၍ ကျက်စားသည်လည်းရှိသေး၏။

ဖေဖော်ဝါရီလမှ အောက်တိုဘာလအတွင်း အကောင်ပေါက်သည်။ မြေပေါ်တွင် ဥကျင်းတူး၍ ဥ ၄ လုံးမှ ၁၁ လုံးထိ အုတတ်သည်။ ဥအရောင်မှာ အမျိုးမျိုးဖြစ်သည်။ အချို့တွင် အပြောက်ပါရှိ၍ အချို့တွင်မပါရှိချေ။

ဤငုံးမျိုးကို အိန္ဒိယနိုင်ငံ၊ မြန်မာနိုင်ငံ၊ သီဟိုဠ်ကျွန်းတို့တွင်တွေ့ရသည်။ မြန်မာနိုင်ငံတွင် မိုးခေါင်ရေရှားရပ်ဝန်းနှင့် ရှမ်းကုန်းပြင်မြင့်တွင် အများအားဖြင့်တွေ့ရသည်။

'ကိုတာနစ် ကိုတာနစ်' ငုံး၏အရွယ်မှာ ၁၅ ရက်သားကြက်ငယ်ကလေးမျှရှိသည်။ အလျား ၇ လက်မမှ ၈ လက်မအထိရှိသည်။ အမြီးမပါရှိချေ။ ဦးခေါင်းတွင် သဲရောင်အစင်းကြောင်းနှင့် အဖြူရောင်အတန်းအရစ်များပါရှိသည်။ ကိုယ်ပေါ်တွင် ညိုဝါရောင်အစင်းများပါရှိသည်။ ကျောဖက်တွင် မည်းနက်သည့်အပြင် ညိုဝါရောင်ကွက်များ မညီမညာပါရှိသည်။ ငုံးဖို၏လည်ချောင်းတွင် ကျောက်ဆူးသဏ္ဌာန် အမည်းမှတ်ရှိသည်။

ဤငုံးသည်လည်း ကျက်စားနေကျဒေသတွင် အမြဲနေ၍ ရာသီအလိုက်သာလျှင် ဒေသပြောင်း၍ ကျက်စားတတ်သည်။ လွင်ပြင်များတွင်၎င်း၊ မြက်တောနှင့် စိုက်ခင်းများတွင်၎င်း အများအားဖြင့် တွေ့ရသည်။ ဖိုမတွဲလျက် သို့မဟုတ် အအုပ်အသင်းဖွဲ့လျက် နေတတ်သည်။ ဤငုံးပျံသန်းသောအခါ ပျံခါစတွင် အတောင်ခတ်သံကိုပေး၍ အော်မြည်တတ်သည်။ တဟုန်ထိုး လျှင်မြန်စွာပျံတက်စေကာမူ ခရီးဝေးမပျံနိုင်ချေ။ ကောက်ပဲသီးနှံ၊ မြက်၊ မျိုးစေ့များကို၎င်း၊ ခြနှင့် အခြားအင်းဆက်ပိုးကောင်များကို၎င်း စားသောက်တတ်သည်။ ငုံးများကို ပိုက်ကွန်ဖြင့်ထောင်၍ ဖမ်းဆီးယူရသည်။

ဤငုံးမျိုး သားပေါက်သောအချိန်မှာ မတ်လမှ မေလအတွင်းဖြစ်သည်။ အသိုက်များကို စိုက်ခင်းကြားနှင့် မြက်ခင်းကြားတွင် ပြုလုပ်ထားတတ်သည်။ တမြုံလျှင်ဥ ၆ လုံးမှ ၁၄ လုံးခန့်ရှိသည်။ ဥများမှာ နီဝါရောင် သို့မဟုတ် နီကြန့်ကြန့်ရောင်ရှိ၍ အညိုရင့်အပြောက်များလည်းပါရှိ၏။

ဤငုံးကို အာဖရိကတိုက်၊ ဥရောပတိုက် နှင့် အာရှတိုက်အနှံ့အပြားတွင် တွေ့ရသည်။ မြန်မာနိုင်ငံတွင် ဆောင်းရာသီ၌တခါတရံတွေ့ရသည်။

ငြှတ်ကောင်း။ ။ငရုတ်ကောင်း — ရှု။

ငြိမ်း၊ မြို့မ (မြန်မာ ၁၂၇၀–၁၃၁၇)။ ။မြို့မငြိမ်းသည် လွန်ခဲ့သော အနှစ်အစိတ်အတွင်းက လူကြိုက်အလွန်များသောသီချင်းများကို ရေးစပ်ခဲ့သည့် နာမည်ကျော်ဂီတစာဆိုဖြစ်သည်။ မြို့မငြိမ်း၏သီချင်းများကို ဓာတ်ပြားသွင်း၍ မြန်မာနိုင်ငံအနှံ့အပြားသို့ ရောင်းချခဲ့ရာ ယောကျ်ားပျို၊ မိန်းမပျိုတိုင်း၏ ပါးစပ်ဖျားများတွင် ရောက်ရှိနေသော သီချင်းများ ဖြစ်လာလေသည်။ ထိုသီချင်းများအနက် 'ချစ်ထားပဓာန' သီချင်းနှင့် 'နတ်သျှင်နောင်' သီချင်းတို့သည် ပေါ်ပင်ခေတ်စားရုံမျှသာမဟုတ်ဘဲ၊ နှစ်ရှည်လများ စွဲမြဲစွာ လူကြိုက်များလျက်ရှိ၏။

မြို့မငြိမ်း၏အမည်ရင်းမှာ ဦးကျော်ငြိမ်းဖြစ်သည်။ မန္တလေးမြို့ ပန်းယွန်းကုန်သည် ဦးညီ၊ ဒေါ်ချစ်ဦးတို့၏သားနှစ်ယောက်အနက် သားကြီးဖြစ်၏။ ဦးကျော်ငြိမ်းအား ခရစ် ၁၉၀၉ ခုနှစ်၊ မြန်မာ ၁၂၇၀ ပြည့်နှစ် တပေါင်းလဆန်း ၅ ရက်၊ တနင်္လာနေ့တွင် မန္တလေးမြို့၌ ဖွားမြင်ခဲ့သည်။ ဦးကျော်ငြိမ်းသည် ငယ်စဉ်ကပင် ပန်းချီနှင့်ဂီတကိုဝါသနာပါခဲ့သည်။ စောင်းတီးပညာကို ရွှေစားကြီးစိန်ဗေဒါနှင့် စောင်းဦးမောင်မောင်ကြီးတို့၏ထံမှ ဆည်းပူးခဲ့လေသည်။ ခရစ် ၁၉၂၈ ခုနှစ်တွင် မန္တလေးမြို့မ တူရိယာအဖွဲ့ကို ဦးကော်လုံဆိုသူက ဦးစီးတည်ထောင်ခဲ့ရာ၊ ဦးကျော်ငြိမ်းမှာ ထိုတူရိယာအဖွဲ့တွင် ပါဝင်ခဲ့လေသည်။ ထိုအဖွဲ့သားအဖြစ်ဖြင့် အနောက်နိုင်ငံတူရိယာတီးနည်းနှင့် တူရိယာသင်္ကေတပညာတို့ကို သင်ယူခဲ့သည်။ ၁၉၃၁ ခုနှစ်မှစ၍ သီချင်းများကိုရေးစပ်ရာ၊ မြို့မငြိမ်းဟူသောဂီတစာဆိုအမည်ကို ခံယူခဲ့လေသည်။

မြို့မငြိမ်းရေးခဲ့သော သီချင်းပေါင်း ၂၀၀ ခန့်ရှိသည်ဟုသိရ၏။ မြို့မငြိမ်း၏သီချင်းများအနက်၊ ပဋမဦးစွာ တတိုင်းပြည်လုံးကျော်ကြားခဲ့သော သီချင်းမှာ 'တူနှစ်ကိုယ်၊ တဲအိပျက်မှာနေရ၊ ရွှေဘုံပေါ်မှာစံရ၊ ချစ်ထားချစ်ထားပဓာနလို့

ဆိုချင်ပါတယ်' စသော 'ချစ်ထာဝရေန' သီချင်းဖြစ်သည်။ မြို့မငြိမ်း၏ သီချင်းရေးသက်တမ်း ၂၄ နှစ်အတွင်းတွင် ကျော်ကြားခဲ့သော အခြားသီချင်းများမှာ၊ အစဉ်လိုက် ဖော်ရမည်ဆိုလျှင်၊ 'ခင့်အိမ့်မှက်'၊ 'တချစ်ထဲချစ်'၊ 'မြင်းခင်းတော်'၊ 'နတ်သျှင်နောင်'၊ 'မေ့ပါနိုင်'၊ 'ပျို့မှာတမ်း'၊ 'သက်ဝေ'၊ 'ပါရမီတော်'၊ 'ချစ်ရဲဘော်'၊ 'မင်္ဂလာမောင်မယ်'၊ 'ငွေဇင်ယော်'၊ 'ပြုံးတဲ့မေ'၊ 'လေချိုသွေး' စသော သီချင်းများဖြစ်၏။ ထိုသီချင်းများကိုမည်သည့်အကြောင်းကြောင့် လူကြိုက်များပါသနည်းဟူမူ၊ သီချင်းစာသားဖွဲ့နွဲ့ရာတွင်ပါရှိသော စကားလုံးတို့သည်အနက်အဓိပ္ပာယ်ရှင်းပြီး၊ ထိထိမိမိရှိရုံမျှမက၊ စာဆိုရှင်၏ခံစားမှုကို အသည်းနှလုံးတွင်းမှ လှိုက်လှိုက်လှဲလှဲပေါ်လွင်စေသောအစွမ်းရှိသောကြောင့်ဖြစ်သည်။ ထို့ပြင်အခြားအကြောင်းတရပ်မှာ မြို့မငြိမ်းစတင်၍ သီချင်းရေးခဲ့သောအချိန်၌ အနောက်နိုင်ငံတေးသွားများကို ပုံတူကူး၍၊ မြန်မာစကားလုံးသွင်းကာ စပ်ဆိုသောအလေ့အကျင့် ခေတ်စားနေသည့် အခါဖြစ်ပေသည်။ ဤအထဲတွင်မှ မြို့မငြိမ်းသည် အနောက်နိုင်ငံ ဂီတစပ်နည်းကို မှီးနိုင်သမျှ မှီးသော်လည်း တေးသွားကို ခိုးချခြင်းမပြုဘဲ၊ သူ၏ပင်ကိုယ်ဂီတဉာဏ်ဖြင့်သာ ကိုယ်ပိုင်တေးသွားများ စပ်ခဲ့ပေသည်။ တေးသွားစပ်သည့်အခါ၊ ကလဲရီးနက်ကို မှုတ်ကာမှုတ်ကာ တေးသွားစမ်းလေ့ရှိ၏။ မြန်မာစာပေကျမ်းဂန်များကို ဖတ်ရှုလေ့လာခြင်းကြောင့်မြို့မငြိမ်းသည်ပေါ်လွင်ယဉ်နွဲ့သောစကားလုံးများကို သီချင်း၏ စကားသားအဖြစ်ဖြင့် သုံးနိုင်ခဲ့သည်။ ထို့ကြောင့်သူ၏သီချင်းများတွင်ပါဝင်သော စကားသားနှင့်တေးသွားများမှာ မြန်မာတို့၏စိတ်နှင့် ကိုက်ညီလိုက်လျော၍ လူထုစိတ်ကြိုက် ဖြစ်ခဲ့လေသည်။



ဂီတစာဆို မြို့မငြိမ်း

မြို့မငြိမ်းသည် သီချင်းရေးဂီတအတတ်၌သာ ဝါသနာပါသည်မဟုတ်၊ ပန်းချီပန်းပု ပညာရပ်များတွင်လည်း ဝါသနာပါသည်။ ထိုပညာရပ်များ၌လည်း အတော်ပင်လက်မြောက်ခဲ့ပေသည်။ အသက် ၂၂ နှစ်အရွယ်တွင် မသန်းသန်းဆိုသူနှင့် အိမ်ထောင်ကျခဲ့၍ သားသမီး ၁၃ ယောက်ထွန်းကားခဲ့သည့်အနက်၊ ကွယ်လွန်ချိန်တွင် ၈ ယောက်ကျန်ရစ်ခဲ့၏။ ရှေးသီချင်းကြီးများကို မှုမှန်သတ်မှတ်ရေး အထက်မြန်မာပြည်ကော်မီတီအဖွဲ့တွင်လူကြီးတဦးအဖြစ်ဖြင့်၎င်း၊ မန္တလေးရုပ်ရှင်ကုမ္ပဏီတွင် ဂီတဖက်ဆိုင်ရာဒါရိုက်တာအဖြစ်ဖြင့်၎င်းဆောင်ရွက်နေစဉ် မြို့မငြိမ်းသည် ခရစ် ၁၉၅၅ ခုနှစ် စက်တင်ဘာလ ၁၅ ရက်နေ့တွင် မော်တော်ကားအတိုက်ခံရ၍မန္တလေးမြို့၌ကွယ်လွန်လေသည်။

# မြန်မာတို့ဂုဏ်ယူဖွယ်ရာလက်မှုပညာ

**မြန်မာတို့သည် ရှေးနှစ်ပေါင်း ၁၂၀၀ ကျော်ကပင် ငွေထည်လုပ်ငန်း၌ ကျွမ်းကျင်ကြောင်းကို ထိုခေတ်ပေါ် ငွေထည်လက်ရာများအား ထောက်ရှုခြင်းဖြင့် သိသာနိုင်သည်။ ထို့ကြောင့်မြန်မာတို့၏ငွေထည်လုပ်ငန်းသည် ဂုဏ်ယူဖွယ်ရာလက်မှုပညာရပ်ဖြစ်ပေသည်။ ငွေထည်ပစ္စည်းတခု၏ လက်ရာအဆင့်အတန်းကိုဆုံးဖြတ်ရာ၌၊ ထိုပစ္စည်းတွင်ဖော်ထားသောအရုပ်များ၊ ပန်းခက်ပန်းပွံ့များကို နိုင်နင်းစွာအနုစိတ်သရုပ်ဖော်နိုင်မှုကိုကြည့်၍ ဆုံးဖြတ်ကြရသည်။**

**ငွေထည်လုပ်ငန်း။** ။မြန်မာတို့၏ငွေထည်လုပ်ငန်းသည် ဂုဏ်ယူဖွယ်ရာဖြစ်သော မြန်မာ့လက်မှုပညာတရပ် ဖြစ်၏။ ထိုလက်မှုပညာကို မြန်မာ့အသုံးအဆောင်ဖြစ်သော ကွမ်းအစ်၊ ထုံးဘူး၊ ဖလား၊ ဆွမ်းအုပ်၊ ဓားရိုးစသည်တို့ကိုပြုလုပ်ရာ၌ အသုံးပြုကြသည်။ ငွေထည်လုပ်ငန်းမှာပဌမကမ္ဘာစစ်မဖြစ်မီအခါကပင် ကျော်စောခဲ့၏။ ထိုခေတ်ကနယူးဒေလီမြို့၌ ကျင်းပသော•ပြပွဲများတွင် မြန်မာငွေထည်လက်ရာများသည် ထိပ်တန်း၌တည်ရှိခဲ့သည်။

မြန်မာငွေထည်လုပ်ငန်း၌ လက်ရာနှစ်မျိုးရှိသည်။ ယင်းတို့မှာ ရန်ကုန်နှင့် သရက်မြို့လက်ရာများဖြစ်ကြသည်။ ရန်ကုန်လက်ရာမှာ စေ့စပ်သေချာသော်လည်းရိုး၏။ သရက်မြို့လက်ရာမှာ စိတ်ကူးဆန်းကြယ်၏။ ရန်ကုန်နှင့် သရက်မြို့များအပြင် မန္တလေးသည်လည်း ငွေထည်လုပ်ငန်း၌ ထင်ရှားသောမြို့ဖြစ်သည်။ ရှမ်းလူမျိုးများလုပ်သောငွေထည်များမှာ လက်ရာတဘာသာကွဲပြား၍ နှစ်ခြိုက်ဖွယ်ရာရှိ၏။ မြန်မာငွေထည်လက်ရာများကို ဥရောပတိုက်သားများက အထူးပင်နှစ်သက်ကြသဖြင့် အမြတ်တနိုးဝယ်ယူတတ်ကြ၏။

ငွေထည်ပစ္စည်းများလုပ်ကိုင်သည့်ငွေထည်လုပ်ငန်းကိုမြန်မာနိုင်ငံတွင် မည်သည့်အချိန်ကာလက စတင်ပြုလုပ်လာသည်၊ ငွေထည်လုပ်ငန်းနည်းစံနစ်များကို မည်သို့ရရှိလာ

သည် တို့ ကိုမူ အတိအကျ မသိရပေ။ သို့သော် မှန်နန်းရာဇဝင်၌ အနော်ရထာမင်းလက်ထက်တွင် သထုံပြည်မှ မွေတော်မြတ်နှင့် ပိဋကတ်တော်တို့ကို ပင့်ဆောင်လာခဲ့ရာတွင် ပန်းပု၊ ပန်းပွတ်၊ ပန်းချီ၊ ပုရန်၊ ပန်းတော့၊ ပန်းထိမ်စသည်တို့ကိုလည်း ဆောင်ယူတော်မူခဲ့သည်ဟုတွေ့ရသည်။ ယင်းကိုမြန်မာသက္ကရာဇ် ၅၇၅ ခုနှစ်ထိုး၊ ပုဂံမြို့လေးထောင့်ကန်အရပ်၊ လေးမျက်နှာဘုရားကျောက်စာနှင့် ၆၀၃ ခုနှစ်ထိုး၊ ပုဂံမြို့ အရှေ့တောင် ယွန်းမြောက် ကူနီ ဘုရား ကျောက်စာ တို့က ပိုမိုထင်ရှားစေသည်။ လေးမျက်နှာဘုရားကျောက်စာတွင် 'ရွှယ်စမခန်၊ ငုယ်စမခန်၊ ရွှယ်ပေါက် ၂၊ ငုယ်ပေါက် ၂၊ ရွှယ်တန်ဆောင်၊ ငုယ်တန်ဆောင်' ဟူ၍ရင်း၊ 'ရွှယ် ၃၀ သွန်သောရွှယ်ပုရှာ ၁ခု၊ ငုယ် ၅၀ သွန်သောငုယ်ပုရှာ ၁ခု' ဟူ၍ရင်း၊ 'ရွှယ်ထီငုယ်ထီတို့ဖြဲလေဆောင်အေ်' ဟူ၍ရင်းတွေ့ရပြီး၊ ကူနီဘုရားကျောက်စာတွင် မိဖုရားဖွားစော၏အလှူစာရင်း၌ 'ရွှယ်သပိတ်ငုယ်သပိတ်' ဟုတွေ့ရသည်။ ယင်းသို့ ပုဂံခေတ်အခါက ပန်းထိမ်များရှိခြင်း၊ လှူဖွယ်ပစ္စည်းများတွင် ငွေစမခန်၊ ငွေပေါက်ပေါက်၊ ငွေတန်ဆောင်း၊ ငွေဘုရား၊ ငွေထီး၊ ငွေသပိတ်စသည်တို့ကို ပြုလုပ်လှူဒါန်းခြင်းစသော အမှတ်အသားများကိုထောက်ရှုခြင်းဖြင့် ပုဂံခေတ်ကပင် ငွေထည်လုပ်ငန်းမှာ တိုးတက်ထွန်းကားနေပြီဟု ယူဆရသည်။

ထိုထက်စောသော အချိန်ကာလမှ အထောက်အထားကို ရှာဖွေရာ၌ သရေခေတ္တရာခေတ်၏ ငွေထည်လုပ်ငန်းကိုတွေ့ရ၏။ ၁၉၂၆ ခုနှစ်၌ မြန်မာနိုင်ငံ ကမ္ပည်းကျောက်စာဌာနမှ သရေခေတ္တရာမြို့ဟောင်း (မှော်ဇာ) ခင်ဘားကုန်းတွင် တူးဖော်တွေ့ရှိသည့် ပစ္စည်းများထဲ၌ ငွေထည်ပစ္စည်းများလည်း ပါဝင်လေသည်။ ထိုပစ္စည်းများမှာ လွန်ခဲ့သောနှစ်ပေါင်း တထောင့်နှစ်ရာကျော်ကဌပနာထားဟန်တူသည်။ ယင်းငွေထည်ပစ္စည်းများကား၊ ဘေးပတ်လည်တွင် တင်ပလ္လင်ခွေဘုရား ရုပ်ပွားလေးဆူကို ရုပ်ကြွထုလုပ်ထား၍ အလယ်တည့်တည့်မှ ဗောဓိပင်ပေါက်ဟန်ပြုလုပ်လျက် ဘုရားလေးဆူကြားတွင် မတ်ရပ်ရဟန္တာများကို ထည့်သွင်းရုပ်လုံးဖော်ထားသည့် ခေါင်းပွငွေကြုတ်၊ လေးဖက်တွင် ဘုရားရုပ်ပွားလေးဆူပုံကို ရုပ်လုံးဖော်ထားသည့် လေးထောင့်ငွေကြုတ်၊ ဒွာရပါလက (တံခါးစောင့်) ရုပ်ထုလုပ်ထားသော ငွေထည်ပစ္စည်းတို့ဖြစ်သည်။ ဤငွေထည်ပစ္စည်းများသည် ထိုခေတ်၏ငွေထည်လုပ်ငန်း၌ ကျွမ်းကျင်မှုကို ဖော်ပြလျက်ရှိသည်။ ထိုကြောင့် ငွေထည်လုပ်ငန်းသည် လွန်ခဲ့သောနှစ်ပေါင်း ၁၂၀၀ ကျော် သရေခေတ္တရာခေတ်လောက်ကပင် ပေါ်ပေါက်ရှိနှင့်နေလျက် ငွေထည်ပစ္စည်းများကိုလည်းကျနကောင်းမွန်သေသပ်စွာ သရုပ်ဖော်နိုင်နေပြီဟုမှန်းဆရ၏။

သို့သော် ငွေထည်ပစ္စည်းများကို ရှေးမြန်မာမင်းများရှိစဉ်အခါက လူတိုင်း အသုံးပြုခွင့် မရချေ။ ရွှေထည်ငွေထည် အဆောင်အယောင်များကို ဘုရင့် ဆွေတော်မျိုးတော်နှင့် ဂုဏ်ထူး ရာထူး အလိုက် ဘုရင်၏ ခွင့် ပြုချက် ရရှိသူများသာလျှင် အသုံးပြုကြရလေသည်။ နှောင်းခေတ်၌ကား ပစ္စည်းဥစ္စာ ကြွယ်ဝသူတို့က ငွေဖလား၊ ငွေကွမ်းအစ်၊ ငွေထုံးဗူး စသည့် ငွေထည် အသုံးအဆောင် များ ကို ဝယ်ယူထားလေ့ရှိကြသည်။ သို့သော် ထိုငွေထည်ပစ္စည်းများကို နေ့စဉ်အသုံးမပြုဘဲ၊ ပွဲလမ်းသဘင်၊ အလှူ၊ မင်္ဂလာအခမ်းအနားများ၌သာ အသုံးချတတ်ကြသည်။ ယင်းသို့အများသုံးပစ္စည်းများဖြစ်လာသည့်အတွက် ထိုလုပ်ငန်းမှာဖွံ့ဖြိုးလာခဲ့၏။

ငွေထည်လုပ်ငန်းတွင် ငွေထည်ပစ္စည်းများကို အရုပ်များ၊ ပန်းခက်ပန်းနွယ်များဖြင့်ရုပ်လုံးဖော်ကာထွင်းလုပ်ထားခြင်းသည် ငွေထည်လုပ်ငန်း၏အသက်ဟုဆိုရပေမည်။ ငွေထည်ပစ္စည်းများတွင် ပန်းခက်ပန်းနွယ်၊ ဇာတ်နိပါတ်ရုပ်ပုံများကို ပစ္စည်းအလိုက်ထုလုပ်ထားတတ်၏။ အများအားဖြင့် ငွေဖလားကြီးများ၌ဇာတ်ကြီး ဆယ်ဖွဲ့မှအခန်းများ၊ ငါးရာ့ငါးဆယ်နိပါတ်တော်လာ ရုပ်ပုံများ၊ ၁၂ ရာသီစက် အမှတ်အသားများ၊ ပန်းပုံများကို သရုပ်ဖော်ကာ ရုပ်ကြွများအဖြစ်ထုလုပ်ထားတတ်သည်။ ငွေထည်လုပ်ငန်းတွင် ပညာရှင်၏ပညာစွမ်း၊ လက်ရာစွမ်းကိုဆုံးဖြတ်ရာ၌ ငွေထည်ပစ္စည်း၏ ပုံပန်းသရုပ်ဖော်ထားသော ပန်းခက်ပန်းနွယ် ရုပ်ပုံများကို အနုစိတ်နိုင်နင်းခြင်း၊ သရုပ်ပေါ် အောင်ဖော်နိုင်ခြင်းနှင့်ရုပ်လုံးဖော်နိုင်ခြင်းတို့ကို ကြည့်ရှုဆုံးဖြတ်တတ်ကြသည်။ ထိုကြောင့် ရှေးအခါက ငွေဖလားကြီးများတွင် ပတ်လည်အပြည့်မျှပန်းခက်ပန်းနွယ်၊ ခြူးကနုတ်၊ ယိုးဒယားပန်းများ၊ ရုပ်လုံးများဖြင့်လက်စွမ်းပြထားတတ်သည်။ တခါတရံ ငွေဖလားကြီး၏အပေါ်ပိုင်းတွင် သဇင်ခွေ၊ ကုလားပန်း၊ ခြူးတက်များကိုပေါင်းစပ်လျက် အလယ်ပိုင်း၌ ဇာတ်နိပါတ်လာရုပ်ပုံများကိုသရုပ်ဖော်၍ ဖလား၏ အောက်ခြေတွင် မှော်ရွက်များဖြင့် လက်စွမ်းပြတတ်၏။ ယင်းသို့သရုပ်ဖော်ရာတွင် ပညာရှင်၏ဉာဏ်စွမ်းလက်စွမ်းအလိုက် တဦးနှင့်တဦး၊ တခုနှင့်တခုမတူ၊ ထူးခြားချက်များရှိတတ်သည်။

ထိုငွေထည်လုပ်ငန်းမှာ များစွာ စိတ်ဝင်စားဖွယ်ကောင်းလှ၏။ ငွေထည်ပစ္စည်းများလုပ်ရာတွင် လုပ်မည့်ပစ္စည်းအတန်းအစားအလိုက် ဘော်ခေါ်သည့် အကောင်းဆုံးငွေ ၉၉.၅၊ ၉၄.၅၊ ၇၉.၅ စသည့်ရာခိုင်နှုန်းပါရှိသည့် ငွေများတွင် ကြေးနီအကောင်းစား အနည်းငယ်ထည့်၍ လုပ်ကိုင်တတ်ကြသည်။ ဘော်ချည်းသက်သက်ဖြင့်ပြုလုပ်သော ငွေထည်များမှာ အလွန်ပျော့ပျောင်းသီဖြင့် သုံးစွဲရာတွင်အထိအခိုက်မခံတတ်ချေ။ ထိုကြောင့် သုံးစွဲရာ၌ခိုင်ခံ့ရန် ကြေးနီထည့်ရခြင်းဖြစ်၏။ ဘော်ငွေကိုကြေးနီနှင့်အတူ မြန်မာဖြစ်မြေလုံ့ သို့မဟုတ် နိုင်ငံခြားဖြစ်ချော်လုံတို့တွင်ထည့်၍




ဗောဓိပင်သဏ္ဍာန်ရှိသော ငွေခေါင်းပွကြုတ်

မီးသွေးဖုံးကာ၊ အသားမာမီးသွေး နှစ်အုပ်၊ သုံးအုပ်မျှဖြင့် ဖို၌မီးပြင်းထိုးပေးရသည်။ မီးသွေးတအုပ်လျှင် ၁၅ မိနစ်ခန့်ကြာရာ မိနစ် ၃၀ မှ ၄၅ မိနစ်အတွင်းတွင် လုံတွင်းရှိငွေမှာ အရည်ပျော်လာလေသည်။ ထိုငွေရည်ကြည်လင်စေရန် ဇဝက်သာအနည်းငယ် ထည့်ပေးရ၏။ ငွေရည် ကြည်လင်လာသောအခါ ပူအောင်မီးကင်၍ရေနံဆီ၊ ဖယောင်း၊ တခုခုဖြင့်အနည်းငယ်သုတ်ထားသော အ၀ ၈ လက်မမှ ၁၀ လက်မအတွင်းရှိ သံဒယ်ပက်ထဲသို့ ငွေရည်ကိုလောင်းထည့်လိုက်လျှင် ငွေခဲ၊ ငွေခွက်ဖြစ်လာသည်။ ထိုငွေခဲငွေခွက်ကိုညှပ်ဖြင့်ယူ၍ သံပေတုံးပေါ်တွင်တင်ကာ အလိုရှိရာ ပုံသဏ္ဍာန်အရွယ်အစားရရှိအောင် တူအမျိုးမျိုးဖြင့်ခတ်ခြင်း၊ မီးဖုတ်ခြင်းတို့ကို အကြိမ်ပေါင်းများစွာပြုရ၏။ ထိုသို့တူခတ်ခြင်းဖြင့် အလိုရှိရာပစ္စည်းဖြစ်အောင် လုပ်ရလေသည်။ ယင်းသို့လုပ်ကိုင်ပြီးသည့်ပစ္စည်းကို အဖြူထည်ဟုခေါ်၏။ အဖြူထည်လုပ်သည့် ငွေပန်းထိမ်သည်ကို အဖြူထည်ဆရာဟုခေါ်သည်။ အဖြူထည်ကိုကျင်လျှင်စွာလုပ်နိုင်ရန် ၂ နှစ်မှ ၃ နှစ်အထိသင်ကြားရသည်။

ထိုအဖြူထည်ပစ္စည်းကို ပန်း၊ အရုပ်များထုလုပ်ရန် ပန်းထုဆရာ လက်သို့ အပ်ရ၏။ ပန်းထုဆရာမှာ အနုပညာသည်ဖြစ်၍ ကျင်လျှင်စွာတတ်မြောက်ရန် ၃ နှစ်မှ ၅ နှစ်အထိဝီရိယကောင်းစွာ အားထုတ် သင်ကြား ရသည်။ အဖြူထည်ကိုပန်းထုရန် အင်တွဲတပိသာလျှင်ရေနံ ၂၅ သား၊ မြေနီ ၁၂ သားတို့ဖြင့် ရောစပ်ကျိုချက် သည့် ချိပ်ရည်ဖြင့် အဖြူ ထည်ထဲ သို့ လောင်းထည့်လျက် လက် ကိုင် ရန် သစ် သား တခုကို စိုက် ထား ရ၏။ လောင်းပြီး ၁၀ နာရီခန့် အကြာတွင် ချိပ်ရည် အေးသွားလေသည်။ ထိုအခါ အလိုရှိသောပန်းရုက်ပန်းကွက်၊ ဇာတ်ထုပ်ဇာတ်ကွက်များကို ခဲတံဖြင့်ရေးဆွဲရ၏။ စိတ်ကြိုက်ပုံများရေးဆွဲပြီးသောအခါ၊ ပုံများပျက်မသွားစေရန် ကောက်ဆောက်ခေါ်သော အသေးဆုံးဆောက်ကလေးများဖြင့် ဆောက်ကြောင်း ကောက်ရသည်။ ဆောက်ကြောင်းကောက်ပြီးလျှင် အတွင်းရှိချိပ်များကို မီးမြှိုက်ကာထုတ်ပစ်ရ၏။ ထိုနောက် အထည်ပစ္စည်းအတွင်းဖက်မှ ကျပွေ့ခေါ် ဆောက်များဖြင့် ဖောင်းကြွစေလိုသော ပန်းများအရုပ်များကို ထုရိုက်၍ဖော်ပေးရသည်။ ယင်းသို့ပုံများကိုဖော်ပြီးသောအခါ အထည်ပစ္စည်းအတွင်းသို့ ချိပ်ရည်ကိုတဖန်ထည့်ရပြန်သည်။ ချိပ်အေးသွားလျှင် ဆောက်အမျိုးမျိုးတို့ဖြင့် အရုပ်များပန်းများကိုသဘာဝပေါ်လာအောင်အကြမ်းထုလုပ်ရ၏။ ပုံကြမ်းများဖော်ပြီးလျှင် ချိပ်ကိုတဖန် ထုတ်ပစ်ရပြန်သည်။ ချိပ်ထုတ်ပြီးနောက် ငွေထည်ကိုသံကောက်ပေါ်တင်လျက် တွန့်လိမ်နေသောနေရာများကို ပြေပြစ်အောင် နင်းပြားခေါ် ဆောက်များဖြင့်ထုလုပ်ပေးရ၏။ ဤလုပ်ငန်းပြီးလျှင် နောက်ဆုံးအကြိမ်ချိပ်ရည်လောင်း၍ထည့်ရပြန်သည်။ ဤအကြိမ်တွင် ပန်းထုဆရာသည် စိတ်ကိုကြည်လင်စွာထားလျက်၊ အာရုံစိုက်ကာပန်းများအရုပ်များကိုအနုစိတ်ထုလုပ်ရသည်။ ယင်းသို့နောက်ဆုံးအပြီးသတ်အနုစိတ်လျက် ပန်းကွက်ပန်းနွယ်၊ အရုပ်များကို သပ်ရပ် သေချာစွာ ဖော်ပြီးနောက် ချိပ်ကို ချွတ်လိုက်ရသည်။

ထိုသို့ပန်းထုပြီးသောပစ္စည်းကို အဖြူထည်ဆရာလက်သို့တဖန်ပြန်လည်ပေးအပ်လိုက်ရ၏။ အဖြူထည်ဆရာက ငွေထည်ပစ္စည်းကို နောက်ဆုံးအရောင်တင်ပြီးအထိ လုပ်ကိုင်ရသည်။ အဖြူထည်ဆရာသည် ပန်းထုပြီးပစ္စည်းကို ပုံပန်းအချိုးအစား

ကျနစေရန် ပြုပြင်ပေးခြင်း၊ ပန်းထုစဉ်ကဖြစ်သောအပေါက်အပြဲများကို ဖာထေး ဂဟေဆော်ခြင်း၊ ချောမွတ်အောင်တံစဉ်း၊ ကော်ဖတ်များဖြင့် တိုက်စားခြင်းတို့ကို ပြုလုပ်ရသည်။ ထိုသို့အပြီးသတ်ဆောင်ရွက်ပြီးနောက် ပစ္စည်းကိုအရောင်တင်ရလေသည်။ အရောင်တင်ရာ၌ ရှေးဦးစွာပစ္စည်းကိုမီးဖုတ်၍ ကြေးသွားပွတ်တံနှင့်တိုက်လျက် ကျန်ရှိနေသောချိပ်များကို စင်အောင်ဆေးရသည်။ ထိုနောက်တဖန် မီးနပ်အောင်ဖုတ်ပြီးလျှင် ကြေးနီအိုးဖြင့် ကျိုထားသောကျောက်ချဉ်ရည်ထဲသို့ထည့်ကာ ၁၅ မိနစ်၊ မိနစ် ၂၀ မျှကြာအောင်ပြုတ်ရ၏။ ဤသို့ပြုတ်ခြင်းအားဖြင့်အညစ်အကြေးများ ကင်းစင်လျက် ဖြူဖွေးသော နဂိုငွေရောင်သို့ပြောင်းလာသည်။ အကယ်၍ အရောင်ညစ်နေသေးလျှင်နောက်ထပ် နှစ်ကြိမ် သုံးကြိမ်မျှ ရှေးနည်းအတိုင်းမီးဖုတ်၍ကျောက်ချဉ်ရည်ဖြင့်ပြုတ်ခြင်းဖြင့် လိုရာအရောင်အထိ ဖြစ်လာနိုင်သည်။ ကျောက်ချဉ်ရည်ကိုအသုံးမပြုလိုသူများမှာ မှုကန့်စားငရဲမီးတဆကို ရေ ၁၅ ဆမှအဆ ၂၀ ထိရော၍ကြေသို့မဟုတ်စဉ့်သုတ်ခွက်ကြီးတခုတွင်ထည့်ကာ မီးဖုတ်ပြီးအထည်ကို ထိုအရည်တွင်တနာရီ၊ နှစ်နာရီမျှစိမ်ထားရ၏။ ယင်းသို့စိမ်ခြင်းဖြင့်ကျောက်ချဉ်ရည်တွင်စိမ်သည့်နည်းတူငွေရောင်ကိုရရှိနိုင်သည်။ ကြိုက်ရောင်ရရှိလာသည့်အခါတွင်ကုလားကင်ပွန်း သီးပြုတ်ရေနှင့် စပ်ထားသော ရေဖြင့် အထည်ကိုဆွတ်လျက် ကြေးသွားပွတ်တံနှင့် တိုက်၍ပေးရသည်။ ထိုအခါ ငွေထည်မှာ တောက်ပြောင်၍လာလေသည်။

## မိလ္လာထည်

ငွေထည်လုပ်ငန်း၏တစိတ်ဒေသဖြစ်သော မိလ္လာထည်လုပ်ငန်းကို မြန်မာငွေပန်းထိမ်သည်အမြောက်အမြားပင် တတ်မြောက်ကြ၏။ သို့သော်မီးပူခံ၊ ကန့်ငွေ့ခံ၍လုပ်ရသောကြောင့် အနည်းငယ်သာလုပ်ကိုင်ကြသည်။ မိလ္လာထည်တွင် ရုပ်ပုံ ပန်းပုံများမှာ အမည်းခံလျက် ငွေကြောင်းလိုက်၍ ရေးသားထား သကဲ့သို့ သဏ္ဌာန်ပေါ်ထွက်စေသည်။ မိလ္လာနှင့်လုပ်သောအထည်များမှာ ဖလား၊ ထုံးဘူး၊ ဓားရိုးစသည်များဖြစ်သည်။

မိလ္လာဖော်သည့်အခါ ခဲနှစ်ဆ၊ ငွေတဆ၊ ကြေးနီတဆရောစပ်၍ အရည်ဖြစ်အောင် မီးပြင်းထိုးလျက် သင့်လျော်ရုံကန့်ပစ်ရသည်။ မိလ္လာမြုပ်သည့်အခါအထူလက်မသုံးပုံတပုံခန့်ရှိငွေထည်ကို အပြားခတ်၍ ပန်းပုံရုပ်ပုံများကို ရေးသားထုလုပ်ပြီးနောက် ရုပ်လုံးထပြီးသားနေရာများကို ချန်လုပ်ကာ၊ ကျန်နေရာများကို နင်းချရသည်။ ဖော်ထားသောမိလ္လာကို မှုန့်မှုန့်ကြိတ်၍ လက်ချားနှင့်ရောလျက် နင်းချထားသောနေရာများတွင် လိုက်ထည့်ရသည်။ မိလ္လာမှုန့်ထည့်ပြီးလျှင် သံအိမ်တွင်ထည့်၍ မီးပြင်းထိုးရ၏။ ထိုအခါအရည်ဝင်၍ မိလ္လာမြုပ်ပြီးဖြစ်လေသည်။ ထိုနောက်မြုပ်ရာများကို ချောအောင်တံစဉ်း၊ ကော်ဖတ်၊ မီးသွေးမှုန့်နှင့်အဆင့်ဆင့်တိုက်ပွတ်၍၊ နောက်ဆုံးတွင် ငွေထည်ကိုအရောင်တင်သကဲ့သို့အရောင်တင်ရသည်။

## ငွေထည်ပုံများ

ခေတ်အသီးသီး၌ ထွန်းကားခဲ့သောမြန်မာငွေထည်လက်ရာများကို နမူနာမျှဖော်ပြလိုပေသည်။ ဤအကြောင်းရပ်နှင့် တွဲ၍ ပုံပေါင်း ၁၁ ပုံဖော်ပြထားသည်။ ယင်းတို့အနက် ပုံအမှတ် ၁ မှာ ၁၉၂၆ ခုနှစ်တွင် သရေခေတ္တရာမြို့ဟောင်း ခင်ဘားကုန်းမှ တူးဖော်တွေ့ရှိသော ဗောဓိပင်ပေါက်နေပုံသဏ္ဌာန်ရှိသည့် ငွေခေါင်းပွကြုတ်ဖြစ်သည်။ ဘေးပတ်လည်တွင် တင်ပလ္လင်ခွေဘုရားရုပ်ပွားတော် ရုပ်ကြွလေးဆူထုလုပ်ထားသည်။ ဘုရားရုပ်ပွားတော်လေးဆူ၏အကြားတွင်မတ်ရပ်ရဟန္တာများကိုရုပ်ကြွများပြုလုပ်လျက်ဘုရားဘွဲ့မည်များနှင့် ရဟန္တာဘွဲ့မည်များကို ပျူအက္ခရာဖြင့် ကမ္ပည်းရေးထားသည်။ ဗောဓိပင်မှာ ပင်စည်တပိုင်းသာကျန်ရစ်သည်။ အကိုင်းအခက်များ ကြွေကျပျောက်ပျက်ကုန်ပြီဖြစ်၏။ ယင်းဗောဓိပင်ငွေကြုတ်မှာ သရေခေတ္တရာခေတ်လောက်ကပြုလုပ်သောလက်ရာဟုယူဆရ၏။

ပုံအမှတ် ၂ မှာ ၁၈ နှင့် ၁၉ ရာစုအတွင်းက လက်ရာများဖြစ်၏။ ထိုပုံပါဖလားများကို အမှတ်စဉ်ပေးထားသည်။ အမှတ် (၁) နှင့် (၂) ဖလားများသည် ပုံတွင်ပါသောဖလားများအားလုံးအနက် ရှေးအကျဆုံးဖြစ်သည်။ ထိုရှေးကျသောဖလားနှစ်လုံးသည် ခရစ် ၁၇၀၀ နှင့် ၁၈၀၀ ပြည့်နှစ်အတွင်းကလုပ်ကိုင်ခဲ့သည့် ဖလားများနှင့် လက်ရာချင်းစံနစ်ချင်းတူသည်။ ရုပ်ပုံ ပန်းပုံကောင်းစွာမပေါ်သော်လည်း နှစ်မီးဖော်မှု ယခုကဲ့သို့ဖြစ်အောင်လုပ်ကိုင်၍ရနိုင်ရန်ရှိသည်။ အမှတ် (၃)၊ (၄)၊ (၅)၊ ဖလားများမှာခရစ် ၁၈၀၀ နှင့် ၁၉၀၀ ပြည့်နှစ်အကြား လွန်ခဲ့သည့်နှစ်ပေါင်း ၁၀၀ ခန့်လောက်ကလုပ်ကိုင်ခဲ့သည်ဟုယူဆရ၏။ ထိုဖလားများတွင် ရုပ်ပုံပန်းပုံများမှာ ပို၍ပေါ်သော်လည်း တမီးတည်းဖော်သောကြောင့် အလွန်ကြမ်း၏။ အဆင်အပြင်မှာ အလွန်ကောင်းသည်။ အမှတ် (၆) နှင့် (၇) ဖလားများမှာ တခေတ်တည်းလုပ်ဖလားများဖြစ်၏။ တဆဲ့နှစ်ရာသီရုပ်များကိုထုလုပ်လျက်၊ မြန်မာဘုရင်မင်းတို့ ဦးခေါင်းဆေးလျှော် သင်္ကြန်တော်ခေါ်သည့်အခါမျိုးတွင် သုံးသောဖလားစံနစ်ပုံစံမျိုးများဖြစ်သည်။ ထိုအချိန်က အကောင်းဆုံးသောဖလားဖြစ်ဟန်တူသည်။

ပုံအမှတ် ၃ မှာ ဇာပေါက်ဖလားဖြစ်၏။ ထိုဇာပေါက်ဖလားကို ၁၈၈၅ ခုနှစ်လောက်က ရန်ကုန်မြို့မှ ဦးရွှေရုံဆို

သူက စံနစ်ထုတ်၍ထုလုပ်ခဲ့သည်။ ထိုဇာပေါက်ဖလားမှာ ထုလုပ်သမျှသော ဇာပေါက်ဖလားများအနက် အကောင်းဆုံးဖြစ်၏။ ပန်းပုံမှာသဇင်နွယ်၊ ကုလားပန်း၊ ခြူးတက် သုံးမျိုးရောစပ်သော ပန်းပုံဖြစ်သည်။ ပန်းတမျိုးတည်းနှင့် ရိုး၍မနေရန် ပန်းအမျိုးမျိုးရောစပ်၍ ထုလုပ်နိုင်သော ပညာကို မြန်မာငွေပန်းထိမ်သည်တို့သည် များစွာနှစ်သက်ကြလေသည်။ ဖလားအောက်ပန်းမှာ မှော်လည့်၍ရစ်သောပန်းဖြစ်သည်။ ထိုပညာရှင်ဦးရွှေရုံမှာဗြိတိသျှခေတ် ဘုရင့်အင်ဂျင်နီယာတပ်အတွက် ထူးဆန်းကောင်းမွန်သော အထည်တခုကို ထုလုပ်ပြီးနောက် မကြာမီ ၁၈၈၉ ခုနှစ်တွင် အနိစ္စရောက်လေသည်။

ပုံအမှတ် ၄ မှာ ၁၈၈၅ ခုနှစ်လောက်က ဦးဘိုးသက်ဆိုသူ လုပ်သော ငွေဆွမ်းအုပ်ပုံဖြစ်၏။ ဆွမ်းအုပ်ကို စေတီပုံမျိုး ပြုလုပ်ထားသည်။ ဤပုံဆွမ်းအုပ်မျိုးမှာ မြန်မာဘုရင်တို့ ဘုရားဆွမ်းတော်တင်ရန်သုံးသောပုံမျိုးဖြစ်လေသည်။ မြန်မာငွေထည်လုပ်ငန်းတွင် ပညာစွမ်းကိုပြနိုင်သော လက်ရာကောင်းတခုဖြစ်သည်။

ပုံအမှတ် ၅ မှာ ၂၀ ရာစုနှစ်အစလောက်တွင် ရွှေတံဆိပ်တော်ရ ပညာရှင်ဦးရင်မောင်ထုလုပ်သော ငွေဒေါင်းပေါင် (ငွေလင်ပန်းငယ်)ဖြစ်သည်။

ပုံအမှတ် ၆ မှာ ငွေထုံးဘူးနှင့်ငွေဖလားဖြစ်၍ ၁၉၀၂ခုနှစ်တွင်ကျင်းပသော ပြည်နယ်အနုပညာပြိုင်ပွဲတွင် ဆုရသော လက်ရာဖြစ်သည်။ ထိုပစ္စည်းနှစ်မျိုးလုံးသည် ရန်ကုန်မြို့ ပညာရှင်တို့၏ စေ့စပ်သေချာမှုကိုပြလေသည်။ ငွေထုံးဘူးတွင်ဖော်ထားသော သေးငယ်လှသည့် ရုပ်ပုံ ပန်းပုံများကို အခြားဒေသမှ ပညာရှင်များပင် တတ်နိုင်စွမ်း မရှိအောင် အသေးစိတ်သေသပ်လှ၏။

ပုံအမှတ် ၇ သည် နယူးဒေလီမြို့တွင် ထိုခေတ်ကကျင်းပသောပြပွဲ၌ မြန်မာပြည်မှပေးပို့သော မြန်မာငွေထည်လက်ရာများဖြစ်၏။ ထိုငွေထည်များမှာ ရာမဇာတ်မှ ဇာတ်ကောင်များဖြစ်သည်။ အောက်ဆုံးတန်းရှိလက်ဝဲအစွန်ပုံမှာ ရာမရုပ်ဖြစ်၍၊ လက်ျာအစွန်ရှိ ငွေထည်ရုပ်မှာ သီတာရုပ်ဖြစ်သည်။ အလယ်ရုပ်သည် ရာမ၏အကြံပေး ဝါမိကီဖြစ်သည်။ အလယ်တန်းရှိ လက်ျာဖက်ရုပ်မှာ သိန်းခိုပြည့်ရှင်ဒသာဂီရိဘီလူးရုပ်ဖြစ်၏။ လက်ဝဲရုပ်မှာ ဒသာဂီရိ၏နမ ဂမ္ဘီရုပ်ဖြစ်သည်။ ထိပ်ဆုံးပုံမှာ ဟနုမန်မျောက်မင်းရုပ်ပုံဖြစ်သည်။ ငွေထည်ရုပ်အသီးသီးမှာ ဟန်မူရာအသက်ပါ၍ လက်ရာကောင်းသည်ဟုဆိုရပေမည်။

ပုံအမှတ် ၈ မှာ ၁၉၀၈ ခုနှစ်တွင် မန္တလေးမြို့မှ ဦးကြင်လုပ်သောငွေဖလားပုံဖြစ်၏။ ဦးကြင်မှာ သရက်မြို့လက်ရာဖြစ်သော ငွေထည်ပညာကိုတတ်မြောက်သူဖြစ်ပေသည်။ ထိုခေတ်က လက်ရာကောင်းငွေထည်ဖြစ်သည်။

ပုံအမှတ် ၉ မှာ ၁၉၀၄ ခုနှစ်တွင် ပဌမဆုရသောဦးရွှေဝ ထုလုပ်သည့် ငွေထည်ပစ္စည်းပုံဖြစ်၏။ ယင်း၏ပန်းပုံ၊ အရုပ်ပုံများသည် ပညာရှင်၏လက်စွမ်းကို ဖော်ပြလျက်ရှိသည်။

ပုံအမှတ် ၁၀ မှာ ငွေထည်လုပ်ငန်းနှင့် ငွေထည်လုပ်ငန်း၌ အကျုံးဝင်သော မိလ္လာထည်ကိုပြသည်။ ငွေအိမ်စွပ်ဓားမြှောင်များသည် နယူးဒေလီမြို့ပြိုင်ပွဲတွင် ရွှေတံဆိပ်ရဆရာများ၏ တပည့်တို့က တောင်ငူနှင့် ရွှေကျင်မြို့များ တွင် လုပ်သော လက်ရာများဖြစ်သည်။ အလယ်မှဓားကို ပဲခူးမြို့ မှဦးဘိုးဇင်လုပ်၏။ ထိုဓားမြှောင်ရိုးမှာ ဆင်စွယ်ရိုးဖြစ်၍ ဓားအိမ်မှာ သစ်သားအိမ်ဖြစ်၏။ ဓားအိမ်ကို ငွေဖြင့်ခွေ၍ မိလ္လာလုပ်ငန်းလက်ရာကောင်းကို အစွမ်းပြထားလေသည်။

ပုံအမှတ် ၁၁ မှာ ၁၉ ရာစုမှ ၂၀ ရာစုအကူးတွင်ထင်ရှားခဲ့သော မြန်မာငွေထည်ပညာရှင်များ၏ ပုံဖြစ်သည်။ ထိုပညာရှင်များမှာလက်ဝဲမှ လက်ျာသို့အစဉ်အတိုင်းအားဖြင့် ဦးရင်မောင် (နလူးဒေလီမြို့ ရွှေတံဆိပ်ရ)၊ ဦးသူလှိုင်၊ ဦးဘိုးကျော် (နယူးဒေလီမြို့ ကြေးတံဆိပ်ရ)၊ ဦးဘိုးမြင့်၊ ဦးဘိုးသက် (ဂျေပူးမြို့ ရွှေတံဆိပ်နှင့် ကာလကတ္တားမြို့ ငွေတံဆိပ်ရ)၊ ဦးဘိုးခင် (ဒေလီမြို့ ငွေတံဆိပ်ရ)၊ ဦးရွှေဝနှင့် ဦးဘိုးဇင်တို့ဖြစ်ကြသည်။

**ငွေသတ္တု**။ ။သတ္တုများတွင် ငွေသည်အပြောင်လက်ဆုံး သတ္တုဖြစ်သည့်ပြင် ကမ္ဘာအနှံ့အပြား၌ တူးဖော်၍ရရှိနိုင်သောကြောင့် လူသိအများဆုံးဖြစ်၏။ ငွေကိုလူသိများ သလောက် တူးဖော်ယူရာတွင် မလွယ်ကူလှချေ။ တရုပ်လူမျိုးတို့သည် ရှေးနှစ်ပေါင်း ၃၅၀၀ ကျော်ကပင် ငွေကို အထည်ပြုလုပ် သုံးစွဲခဲ့ကြ၏။ ကမ္ဘာပေါ်တွင် ငွေကိုပဌမဆုံး ဒင်္ဂါးပြုလုပ် သုံးစွဲကြသူများမှာ လစ်ဒီယန် လူမျိုးများဖြစ်သည်ဟု ဂရိလူမျိုးနိုင်ငံသမိုင်းပညာရှင်တဦးကဆိုသည်။

ရှေးအခါက ငွေအတွက်ကြောင့် ပြည်ထောင်အချင်းချင်း စစ်ခင်းခဲ့ကြသည်။ လူတို့သည်လည်း တဦးနှင့်တဦးခိုက်ရန် ဒေါသဖြစ်ခဲ့ကြသည်။ အားရှိသူလူစုများက အားနည်းသူလူစုများကို ဖမ်းဆီးနှိပ်စက်ခဲ့ကြသည်။ ဘီစီ ၃၀၀ ပြည့်နှစ်တွင် ရောမလူမျိုးတို့သည် ကားသေ့ပိုင် စပိန်ငွေတွင်းများကိုလိုချင်သော ရမ္မက်ဇောကြောင့် ကားသေ့နိုင်ငံနှင့် စစ်ခင်းခဲ့သည်။ လွန်ခဲ့သောအနှစ် ၄၀၀ ခန့်က တောင်အမေရိကတိုက် ပီရူးနိုင်ငံတွင် စပိန်လူမျိုးတို့သည် ငွေတွင်းများကို တူးဖော်ရန်အတွက် တိုင်းရင်းသားများအား ကျွန်စာရင်းသို့သွင်းခဲ့ပြီးလျှင် နှိပ်စက်ခဲ့ကြသည်။ လွန်ခဲ့သည့် ၇၅ နှစ်လောက်အထိ လူတို့သည် အမေရိကတိုက်အနောက်ပိုင်းရှိ တောင်များတွင် ငွေရှာထွက်ယင်း တဦးနှင့်တဦး အခြင်းများကာ သတ်ပုတ်ခဲ့ကြလေသည်။

ကမ္ဘာပေါ်တွင် ငွေအထွက်ဆုံးအရပ်ဒေသမှာ မြောက်

အမေရိကတိုက်ရှိ မက္ကဆီကိုနိုင်ငံ ဖြစ်သည်။ ဒုတိယ ငွေအထွက်ဆုံးအရပ်ဒေသများမှာ အမေရိကန်ပြည်ထောင်စုရှိ နီဗားဒါပြည်နယ်နှင့် ကော်လိုရားဒိုးပြည်နယ်များဖြစ်သည်။ ဤဒေသများအပြင် ငွေကို ကနေဒါနိုင်ငံ၊ စပိန်နိုင်ငံနှင့်ဩစတြေးလီးယားတိုက်မှလည်း တူးဖော်ရရှိကြသည်။ ငွေချည်းသက်သက်ကို အကျိုးရှိရှိ နှင့် ထုတ်ယူနိုင်လောက်အောင် ကြွယ်ဝသည့်သတ္တုရိုင်းကို တွေ့ရခဲသည်။ အများအားဖြင့် ငွေကို ခဲ၊ ကြေးနီစသောသတ္တုများနှင့် ပေါင်းစပ်၍တွေ့ရှိရသဖြင့် ထိုသတ္တုများကို ကျိုချက်ယူရာတွင် ငွေကိုဘေးထွက်ပစ္စည်းအဖြစ်ဖြင့် ရရှိကြသည်။ ယခုအခါငွေထွက်သောသတ္တုရိုင်းတတန်လျှင် ငွေချည်းသက်သက်ပေါင်ချိန် ၂၀၀ ခန့်သာရရှိနိုင်ကြောင်းတွေ့ရသည်။

ငွေသတ္တုစစ်စစ်သည်ဖြူ၏။ အထူ $\frac{၁}{၁၀၀၀၀}$ လက်မမျှရှိအောင် အပြားခတ်ယူနိုင်သည်။ ရွှေမှအပ ငွေသည်အပြားရိုက်ခတ်နိုင်ဆုံးသတ္တုဖြစ်၍ ပလက်တီနမ်မှလွဲလျှင် နန်းဆွဲအခံနိုင်ဆုံးသတ္တု ဖြစ်၏။ အချိန် တအောင်စလေးသော ငွေကို နန်းဆွဲယူသောအခါ သုံးမိုင်ရှည်သောငွေနန်းကြိုးကို ရနိုင်၏။ ငွေသန့်သန့်သည် ရွှေထက်မာသော်လည်း၊ ငွေဒင်္ဂါးနှင့် ငွေထည်ပစ္စည်းများ ပြုလုပ်ရန် ပျော့လွန်းသောကြောင့် ကြေးနီဖြင့်ရော၍အသုံးပြုကြရ၏။ ထိုသို့ရောပေးသောအခါ အရောင်အနည်းငယ်မျှမပျက်ဘဲ အရည်ပျော်အပူချိန်မြင့်တက်လာပြီးလျှင် သတ္တုမှာပို၍မာလာ၏။ ငွေသည်အပူချိန်စင်တီဂရိတ် ၉၆၁ ဒီဂရီတွင် အရည်ပျော်၍ စင်တီဂရိတ် ၁၉၅၅ ဒီဂရီတွင် အရည်ဆူပြီးလျှင် အပြာရောင်အငွေ့အဖြစ်ဖြင့် ပျံတက်သွား၏။ ထိုအငွေ့သည် လေနှင့်ရောနှော၍ပါသွားသောအခါ အစိမ်းရင့်ရောင်အဖြစ်သို့ ကူးပြောင်းသွားသည်။ အရည်ပျော်နေသောသတ္တုသည် မိမိထက်အဆ ၂၀ ထုထယ်ရှိသော အောက်ဆီဂျင်ကိုပျော်ဝင်စေနိုင်သည်။ အေး၍လာသောအခါ ပျော်ဝင်နေသော အောက်ဆီဂျင်သည် အရှိန်ပြင်းထန်စွာနှင့်ထွက်သွားသည်။

မြန်မာနိုင်ငံ၌ ငွေသတ္တုလုပ်ငန်းကို ငွေသတ္တုအရိုင်းတွေ့သောနေရာများ၌ လုပ်ကိုင်သည်။ ရှမ်းပြည်နယ်မြောက်ပိုင်းရှိ ဘော်တွင်း၌ ငွေသတ္တုအရိုင်းအများဆုံးထွက်သည်။ (ဘော်တွင်း — ရှု။) အခြား ငွေသတ္တု အရိုင်း တွေ့သော ဒေသများမှာ ဗန်းမော်နယ်၊ ကသာနယ်၊ ရမည်းသင်းနယ်၊ ကျိုက္ကမိနယ်၊ ထားဝယ်နယ်၊ မြိတ်နယ်တို့ဖြစ်သည်။ ဝနယ်၌လည်း ငွေသတ္တုတွင်းများရှိသည်ဟုဆိုသည်။

ငွေထည်လုပ်ငန်းသည် ထင်ပေါ်ကျော်စောသော မြန်မာလက်မှုပညာတရပ် ဖြစ်လေသည်။ ဥရောပတိုက် သားတို့သည် မြန်မာငွေထည်ပစ္စည်းများကို အထူးပင်နှစ်သက်ကြသည်။ (ငွေထည်လုပ်ငန်း — ရှု။)

ဖန်ကို ကောင်းစွာမကျိုချက်တတ်မီ ရှေးအခါက သူတို့သည် ပြောင်လက်နေအောင်တိုက်ချွတ်ထားသည့် ငွေထည်ကိုမှန်အဖြစ်ဖြင့် သုံးစွဲခဲ့ကြသည်။ ငွေဖြင့်အိုးခွက်၊ ပန်းကန်ပြားများနှင့် ဝတ်စားတန်ဆာများ ပြုလုပ်ခြင်းအလေ့အထမှာ သမိုင်းမတင်မီအချိန်မှစ၍ ခေတ်စားခဲ့သည်။ ငွေထည်များသည် ကန့်နှင့်တွေ့ထိသောအခါ မည်းတတ်သဖြင့် ကန့်ပါရှိသည့်ကြက်ဥများကို ငွေဇွန်းဖြင့်စားလျှင် ချက်ခြင်းဆေးကြောပစ်ရသည်။ သို့သော်မည်းနေသောဇွန်းကို အနည်းငယ်ခန့်တိုက်ချွတ်ပေးလိုက်ရုံမျှနှင့်နဂိုအတိုင်းပြောင်လက်လာနိုင်သည်။ ကမ္ဘာ့ပေါ်တွင် နှစ်စဉ်ထွက်သမျှငွေစုစုပေါင်းအနက် ၄ ပုံ ၃ ပုံကိုဒင်္ဂါးပြုလုပ်ရာ၌သုံးသည်။ အများအားဖြင့်ငွေဒင်္ဂါးသည် တဦးတယောက်ထံတွင်ကြာရှည်မရှိတတ်ဘဲ တလက်မှတလက်သို့ကူးပြောင်းနေသဖြင့် မည်းလာရန်အချိန်မရပေ။ သို့သော် ငွေစစ်လွန်းလျှင်မူ ပွန်းသွားတတ်၍ဒင်္ဂါးတွင်ပါရှိသည့်ပန်းများမှာ တဖြည်းဖြည်းချောလာသည်။ ထိုမှတပါးလည်း ငွေသည် ယမ်းလုပ်ငန်း၌အရေးပါအရာရောက်သည်။ ယခုကျွန်ုပ်တို့သိရှိသမျှယမ်းဘီလူးတို့တွင် အပြင်းအထန်ဆုံး ယမ်းဘီလူးတမျိုးမှာ ဆီးလဗားဖာလမိနိတ်ခေါ် ငွေသတ္တုဖြင့် စီမံယူရသောယမ်းဘီလူးဖြစ်သည်။ ဤယမ်းဘီလူးသည် စိုနေသည့်အခါ အနည်းငယ်မျှမစိုးရိမ်ရသော်လည်း အလွန်ခြောက်သွေ့နေလျှင် ငှက်မွေးဖြင့် တို့မိရုံမျှနှင့် ကြောက်မက်ဖွယ်ကောင်းလောက်အောင် ပြင်းထန်သောအရှိန်ဖြင့် ပေါက်ကွဲတတ်သည်။ ဓာတ်ပုံရိုက်ကူးရာ၌ အသုံးပြုသည့်ဖလင်ကော်ပြားတွင် ငွေမှပြုလုပ်ရရှိသော ဆီးလဗားကလိုရိုက်ကို သုတ်လိမ်းထားသည်။ ဆီးလဗားကလိုရိုက်သည် အလွန်အလင်းမိလွယ်သဖြင့် အလင်းရောင်နှင့်တွေ့သည်နှင့်တပြိုင်နက် ဓာတ်ပြောင်းသွားသည်။ ထိုသို့ဓာတ်ပြောင်းသွားသည့်ကော်ပြားကို ဓာတ်ဆေးများဖြင့်စီမံပေးသောအခါ ငွေသတ္တုအမှုန့်များသည် ဂျယ်လတင်းကော်ပြားတွင် စွဲကပ်ကျန်ရစ်၍ ရုပ်ပုံထင်လာသည်။ (ဓာတ်ပုံပညာ — လည်းရှု။) ဆေးဝါးကုသရာတွင် ငွေမှဖော်စပ်ရရှိသော ဆေးများသည် အလွန်အသုံးဝင်သည်။ ဆီးလဗားနိုက်ထရိတ်သည် အလွန်ထက်မြက်သော ပိုးသတ်ဆေးဖြစ်သည်။ ကြွက်နို့များကိုသတ်လိုသော် ဤဆေးကို သုတ်လိမ်းပေးရသည်။ ငွေပါသောအချို့ဆေးများကို ဝမ်းကိုက်ရောဂါနှင့် အစာမကြေရောဂါများကိုကုသရန် အတွင်းဆေးအဖြစ်ဖြင့် အသုံးပြုရသည်။ သို့သော် တန်လျှင်ဆေး လွန်လျှင်ဘေး ဟူသောမြန်မာစကားအရ အလွန်အကြူးသောက်စားမိပါက ပြင်းထန်သောအဆိပ်ဖြစ်စေတတ်၏။ မတော်တဆထိခိုက်မိ၍ ဦးခေါင်းခွံကွဲသွားသောအခါ ငွေပြားဖြင့်ကွပ်ပေးတတ်ကြသည်။ အရိုးများကျိုးသွားလျှင်လည်း ငွေပြားကွင်းဖြင့် စည်းနှောင်ပေးတတ်ကြသည်။ တခါတရံဒဏ်ရာများကိုငွေနန်းကြိုးဖြင့်ချုပ်ပေးလေ့ရှိသည်။

# ကုန်ချင်းဖလှယ်ရာမှတိုးတက်တီထွင်မှုတရပ်

**ခရုခွံများ၊ သတ္တုစများ၊ စက္ကူများအစရှိသောပစ္စည်းများကိုငွေအသပြာအဖြစ်သုံးစွဲခဲ့ကြသည်။ ယခုတိုင်လည်းအချို့ဒေသများ၌သုံးစွဲနေဆဲဖြစ်သည်။ စင်စစ်အားဖြင့်ငွေအသပြာဆိုသည်မှာ၊ ကုန်ရောင်းကုန်ဝယ် သို့မဟုတ် ပစ္စည်းချင်းဖလှယ်ရာမှတိုးတက်လာသောတီထွင်မှုတရပ်ပင်ဖြစ်သည်။**

**ငွေအသပြာ။** ။ငွေအသပြာဆိုသည်မှာ လက်ရှိသုံးစွဲနေသောငွေစက္ကူများ၊ ကျပ်ဒင်္ဂါး၊ ပြား ၅၀ ပြား၊ ၂၅ ပြား၊ ၁၀ ပြား၊ ၅ ပြား၊ ၁ပြားစေ့သတ္တုပြားများကိုဆိုလိုသည်။

ငွေအသပြာကိုအသုံးပြုရခြင်းအကြောင်းများကိုအောက်တွင်ဖော်ပြထားသည်။

လူတို့ ကုန်များ ရောင်း ဝယ် ရာ၌ လွယ်ကူစေရန်ဖြစ်သည်။ ပမာအားဖြင့်၊ ဦးဖြူသည်နွား ၂ ကောင်ရောင်းလို၏။ ဦးဖြူကလည်းစောင် ၃ ထည်၊ ငပိ ၅ ပိဿာ၊ ခဲတံ ၃ ချောင်း၊ ပလာစာအုပ် ၆ အုပ်ဝယ်လို၏။ ဦးဖြူသည်နွား ၂ ကောင်ကိုငွေ ၂၀၀ိ နှင့်ရောင်း၍ ငွေစက္ကူ ၂၀၀ိ ဖိုးလက်ခံယူလိုက်၏။ ထိုနောက်မှ သူရသောငွေဖြင့်၊ ငပိ ၅ ပိဿာ (ငွေ ၁၅ိ ဖိုး)၊ ခဲတံ ၃ ချောင်း (၇၅ ပြားဖိုး) နှင့် ပလာစာအုပ် ၆ အုပ် (၃ိ ပြား၅၀ ဖိုး) တို့ကိုဆိုင်များတွင်ဝယ်ယူနိုင်တော့၏။ ငွေအသပြာသာမရှိလျှင် ဦးဖြူအတွက်ရောင်းဝယ်ရေးမှာ လွယ်ကူမည်မဟုတ်ချေ။ နွားနှင့်ခဲတံ၊ နွားနှင့် ပလာစာအုပ်လဲလှယ်ရန်လည်း လွယ်ကူသည်မဟုတ်။

ငွေအသပြာကို လက်ခံအသုံးပြုကြသဖြင့်၊ ပစ္စည်းများ၏ တန်ဖိုးကို အလွယ်တကူမှတ်သား နှိုင်းရှည့်နိုင်၏။ ပမာအားဖြင့် ခြည်ပုဆိုးတထည် ၁၂ိ၊ ပိုးပုဆိုးတထည် ၃၀ိ၊ စက်ဘီးတစီးအညံ့စား ၁၀၀ိ၊ အလတ်စား ၁၅၀ိ နှင့် အကောင်းဆုံးအစား ၂၅၀ိ ဟူ၍ ပစ္စည်းတမျိုးနှင့် တမျိုး တန်ဖိုးကွာခြားခြင်းကို တန်ဖိုးအလိုက်ဝယ်ယူရသော ငွေအသပြာချင်းနှိုင်းရှည့်ခြင်းဖြင့် အတိအကျသိရပေသည်။

ငွေအသပြာအသုံးပြုခြင်းဖြင့်၊ ပစ္စည်းဥစ္စာစုခြင်း၌လွယ်ကူ၏။ ပမာအားဖြင့် မြေဝယ်၍ဖြစ်စေ၊ နွားဝယ်၍ဖြစ်စေ ဥစ္စာစုကြ၏။ သို့တည်းမဟုတ်က၊ ငွေအသပြာအဖြစ်နှင့်လည်း စုထားနိုင်၏။ ငွေစက္ကူ၊ ငွေဒင်္ဂါးများအဖြစ်နှင့်ငွေစုထားရာ၌ ၁ နှစ်၊ ၂ နှစ်စသည်ဖြင့် အချိန်ကြာမြင့်သွားသော်လည်း သာမန်အားဖြင့် စုဆောင်းငွေ တန်ဖိုးလျော့မသွားဟုဆိုခြင်းဖြစ်သည်။ သို့ဖြစ်ရာ စုဆောင်းခြင်း၌လွယ်ကူလေသည်။

လူတယောက်ကတယောက်ကို ချေးငှားထောက်ပံ့ခြင်း၌၊ ငွေအသပြာဖြင့် ချေးငှားသဖြင့် အချိန်ကြာမြင့်မှ ပြန်ပေးသော်လည်း၊ မူလချေးငွေတန်ဖိုးကို မယုတ်လျော့စေဘဲတွက်ယူနိုင်၏။ ပမာ အားဖြင့် ငွေ ၅၀ိ ချေးယူ၍ တနှစ်ကြာသော် ငွေ ၅၀ိ ပြန်ဆပ်ရမည်ဟု ဆိုခြင်းဖြစ်သည်။

ငွေအသပြာဆိုရာ၌ အမှန်အားဖြင့် အစိုးရအသိအမှတ်ပြု ငွေစက္ကူ၊ ငွေဒင်္ဂါး၊ သတ္တုပြားကလေးများ သာမဟုတ်၊ ယင်းတို့အစားအသုံးပြုသော ကူးသန်းရောင်းဝယ်ရေးဘဏ်များက ထုတ်ပေးနေသည့် ချက်လက်မှတ်၊ ငွေလွှဲစာချုပ်



အစရှိသည်များလည်းပါဝင်လေသည်။ (ဘဏ်နှင့်ဘဏ်လုပ်ငန်း — လည်းရှု။)

ရှေးပဝေဏီကဆိုလျှင်၊ ကမ္ဘာပေါ်တွင် ကူးသန်းရောင်းဝယ်ရေး၌ ကုန်ပစ္စည်းတခုနှင့်တခု လဲလှယ်ကြရ၏။ နွားတကောင်နှင့် ဆိတ် ၂ ကောင် သို့မဟုတ် ငပိတပိသာနှင့် ဝါတပိသာ၊ သို့မဟုတ်ဆား ၂ ပိသာနှင့် ဝါတပိသာအစရှိသည်များဖြစ်သည်။ ထိုနောက် ရောင်းဝယ်ရေးတိုးတက်လာသည့်အလျောက် ငွေတုံး၊ ရွှေတုံး၊ ငွေခဲ၊ ရွှေခဲများကိုဖြတ်တောက်ချိန်တွယ်၍ ငွေအသပြာအဖြစ်အသုံးပြုကြ၏။ အချို့တိုင်းပြည်များတွင် ခရုခွံ၊ ဆေးရွက်၊ သားရေပြား၊ ဆား၊ ဆန်၊ လက်ဖက်ခြောက်၊ စွန်ပလွံသီး၊ ဆင်စွယ်၊ သံခဲစသည်များကို ဒေသအလိုက် အသုံးပြုကြသည်။

သို့ရာတွင်ရွှေတုံး၊ ငွေတုံးများကို ပိုမိုအသုံးပြုလာကြ၏။ အကြောင်းမှာ ရွှေတုံးငွေတုံးများမှာ လွယ်ကူစွာသိနိုင်၏။ မှတ်ကျောက်တင်၍ စစ်ဆေးနိုင်၏။ ချိန်တွယ်ခွဲစိတ်နိုင်၏။ မီးတင်ထု၍ပုံသွန်းနိုင်၏။ ဥတုရာသီ၊ ကာလအချိန်အတွက် ယုတ်လျော့ပျက်စီးခြင်းမဖြစ်နိုင်။ ထိုပြင်ရွှေနှင့်ငွေတို့မှာ လွန်စွာမပေါများလှသဖြင့် တိုင်းပြည်အသီးသီး၌ တန်ဖိုးထား၍အသုံးပြုကြ၏။ ရွှေနှင့်ငွေတို့ကိုပဌမဦးအချိန်အတွယ်အားဖြင့်သာအသုံးပြု၍အုပ်ချုပ်မှုတိုးတက်သောနိုင်ငံများ၌ နိုင်ငံတော်အစိုးရတို့က ရွှေဒင်္ဂါးများကိုပုံသွန်း၍ လူထုအား ငွေအသပြာအဖြစ် အသုံးပြုစေ၏။ အသေးအဖွဲ့အသုံးပြုရန်၊ ရောင်းဝယ်ရန်အတွက် ကြေးနီ၊ ကြေးဝါ၊ ခဲ၊ ဘော်အစရှိသည့် ဈေးပေါသောသတ္တုပစ္စည်းများကို သက်ဆိုင်ရာအစိုးရများကပုံသွန်းထုတ်ဝေလေ့ရှိ၏။

ကမ္ဘာပေါ်၌ ရောင်းဝယ်ရေးသည် တိုးတက်လာသည့်အလျောက် ရွှေငွေအတွက် မလုံမလောက်ဖြစ်ခဲ့ရာ၊ နိုင်ငံတော်အစိုးရအသီးသီးတို့က ငွေစက္ကူများရိုက်နှိပ်ထုတ်ဝေရတော့၏။ ထိုငွေစက္ကူများ၏တန်ဖိုးကို ထုတ်ဝေသောသက်ဆိုင်ရာအစိုးရတို့က အာမခံရ၏။ ငွေစက္ကူများကို လိုသည်ထက်ပိုမိုထုတ်ဝေပါလျှင် ထိုငွေစက္ကူ၏တန်ဖိုး အထူးယုတ်လျော့သွားတတ်ခြင်းကို ၁၉၁၇–၁၈ ခုနှစ်က ဂျာမန်ငွေစက္ကူများ တန်ဖိုးမရှိဖြစ်ရခြင်း၊ ၁၉၄၂–၄၅ ခုနှစ်ကဂျပန်ငွေစက္ကူများ တန်ဖိုးမရှိဖြစ်ရခြင်းတို့က သက်သေခံလျက်ရှိပေသည်။ သို့ရာတွင် ကုန်သွယ်ရေးကိစ္စ များလျှင်များသလို၊ နည်းလျှင် နည်းသလို နိုင်ငံအစိုးရက အာမခံ၍ ငွေစက္ကူရိုက်နှိပ်ဝေငှပါက တိုင်းပြည်အတွက် များစွာ အကျိုးရှိနိုင်ပေသည်။

ဦးတင်အုံး။

# ငှက်လောက

**ကျွန်ုပ်တို့သည်ငှက်များကိုနေ့စဉ်တွေ့မြင်နေကြရသော်လည်း ငှက်၏အကြောင်းကို နှိုက်နှိုက်ချွတ်ချွတ်မသိကြပေ။ အလွန်ရှေးကျသောခေတ်က ငှက်များသည်ဖွတ်၊ ပုတတ်တို့ကဲ့သို့သော တွားသွားကောင်များနှင့်တူသည်ဟုဆိုလျှင် ယုံနိုင်ဖွယ်ရာရှိမည်မဟုတ်ချေ။ ထိုကြောင့်ငှက်အကြောင်းကိုဖတ်ရှုလေ့လာခြင်းအားဖြင့် ငှက်လောက၏စိတ်ဝင်စားဖွယ်ရာ၊ မှတ်သားဖွယ်ရာအချက်များကိုပို၍သိရှိလာနိုင်မည်ဖြစ်ပေသည်။**

**ငှက်။** ။ငှက်သည်အမွေးအတောင်ရှိသော ကျောရိုးရှိသတ္တဝါဖြစ်၏။ သို့သော်အခြားကျောရိုးရှိသတ္တဝါများဖြစ်သော တွားသွားသတ္တဝါ၊ နို့တိုက်သတ္တဝါတို့နှင့်ကား မတူချေ။ ထိုတွားသွားသတ္တဝါနှင့် နို့တိုက်သတ္တဝါတို့တွင် အရေပြား၌ အကြေးခွံနှင့် အမွေးအမှင်တို့ရှိကြသည်။ ငှက်မှာမူ လေထဲတွင်ပျံသန်းရသောတိရစ္ဆာန်ဖြစ်ခြင်းကြောင့်၊ အရေပြားမှအမွေးအတောင်များဆန်းကြယ်စွာပေါက်လျက်ရှိသည်။

ကမ္ဘာပေါ်တွင်ငှက်မျိုးပေါင်းမှာ ၁၃,၀၀၀ နှင့် ၁၄,၀၀၀ အကြားတွင်ရှိသည်။ ငှက်တို့ကိုမျိုးစိတ်၊ မျိုးစု၊ မျိုးရင်းဟူ၍ အဆင့်ဆင့်ခွဲခြားထားသည်။ ဤသို့ခွဲခြား၍ကြည့်လိုက်သော်၊ ငှက်မျိုးပေါင်းသည် ကျောရိုးရှိမျိုးပေါင်းစုတွင် အပါအဝင်ဖြစ်သည်ကိုတွေ့ရလေသည်။

## တွားသွားရာမှမိုးသို့ပျံခြင်း

သို့ရာတွင် သိပ္ပံသုတေသီတို့၏ အလို၌ ငှက်၏မူလဘူတသည် တွားသွားသတ္တဝါတို့ပင် ဖြစ်မည်ဟုဆိုကြလေသည်။ ကမ္ဘာဦးရှေးပဝေဏီခေတ်က ရှိခဲ့ဘူးသောငှက်၏ စကယ်လီတန်တို့ကို မြေအောက်မှတူးဖော်ရရှိသောအခါ၊ ထိုကမ္ဘာဦးငှက်များသည် တွားသွားတတ်သောဖွတ်၊ ပုတတ်တို့၏ပုံသဏ္ဌာန်ရှိသည်ကို တွေ့ရသည်။ ထိုငှက်တို့၏နှုတ်သီး၌သွားများပါရှိသည်။ တောင်ပံ၌လည်း လက်ချောင်းများရှိကြသည်။ ဤသည်ကိုထောက်ရှု၍ ယခုခေတ်ငှက်သည် တွားသွားသတ္တဝါနှင့်တူသည့် ရှေးခေတ်ငှက်ကြီးများမှ ဆင်းသက်လာသည်ဟုယူဆကြသည်။ ယခုခေတ်ငှက်တို့၏ နေထားသွင်ပြင်တို့ပြောင်းလဲလာရခြင်းများမှာ၊ ငှက်တို့သည် အတောင်ကိုအသုံးပြု၍ လေထဲ၌ပျံသန်းတတ်လာခြင်းကြောင့်ဖြစ်သည်ဟုယူဆကြရသည်။

## ငှက်သည်အဘယ်ကြောင့်ပျံနိုင်သနည်း

သဘာဝသည် ငှက်၏ခန္ဓာကိုယ်အစိတ်အပိုင်းကို ကောင်းကင်၌ပျံသန်းနိုင်စေရန် ဖန်တီးထား၏။ ငှက်၏စကယ်လီတန်တို့ကိုကြည့်လေ။ ငှက်ရိုးတို့သည်ကျစ်လစ်၏။ အခေါင်း



အသိုက်ထဲတွင်ဝပ်နေသောဇင်ယော်ငှက်

ရှိ၏။ ပေါ့ပါး၏။ ငှက်ကျောရိုးအဆစ်များသည် ပေါင်းစပ်၍နေသဖြင့် ကျောရိုးသည်ပြီးထူးရိုးနှင့်လည်း နီးကပ်စွာဆက်စပ်တည်ရှိသည်။ ထိုပြင်အခြားအရိုးတို့မှာ ငှက်၏ကိုယ်ထည်တခုလုံးအပေါ်၌ ပေါင်းကူးကဲ့သို့ အထပ်ထပ်ဖွဲ့၍နေသဖြင့်၊ ကိုယ်ထည်မှာ တောင့်တင်းခိုင်မာပါလျက်နှင့်ပေါ့ပါး၍နေပေသည်။ လေယာဉ်ပျံတွင် လေးလံသောစက်ကရိယာနှင့် ခရီးသည်တို့ကို ဟန်ချက်အနီးအနားတဝိုက်၌ထားရှိရသည်။ ထို့အတူ ငှက်၏လေးလံသောခန္ဓာအစိတ်အပိုင်းပါသည့် ကိုယ်ထည်တခုလုံးသည် ဟန်ချက်တဝိုက်၌သာတည်ရှိသည်။ ပေါ့ပါးသောဦးခေါင်း၊ အမြီး၊ အတောင်နှင့်ခြေထောက်တို့ကား ဟန်ချက်ဖြင့်ဝေးရာတွင် တည်ရှိပေသည်။ ထိုပေါ့ပါးသည့်အင်္ဂါများကို လှုပ်ရှားစေသောအသားစိုင်မှာ ကိုယ်ထည်နှင့်သာဆက်စပ်လျက်ရှိပေသည်။ အသားစိုင်အများဆုံးအပိုင်းမှာပေါင်ပိုင်းသာဖြစ်၍၊ ငှက်ကိုယ်၏ ဟန်ချက်နှင့် နီးကပ်စွာတည်ရှိနေသည်။ ပေါင်အောက်ဖက်ရှိ ခြေတံမှာ သေးသွယ်ရှည်လျားသောအရိုးချောင်းဖြစ်သည်။ ထိုအရိုးနှင့် ခြေချောင်းကလေးများသည် ဆက်နေသည်။ ခြေပိုင်း၌အများအားဖြင့် အမွေးအတောင်မရှိချေ။

ငှက်တောင်မှာ စင်စစ်အားဖြင့် တွားသွားသတ္တဝါနှင့် နို့တိုက်သတ္တဝါတို့၏ ရွှေလက်ဖျားများဖြစ်သည်ဟု ဆိုနိုင်သည်။ ပျံသန်းနိုင်ရန်အတွက် တမျိုးတဖုံပြောင်းလဲနေခြင်းသာဖြစ်၏။ တောင်ပံတို့ကိုခတ်နိုင်စေရန်ရင်အုပ်ရှိကြွက်သားတို့သည် ကြီးထွားလျက်ရှိ၏။ ထိုရင်အုပ်သားမှာလည်း ကိုယ်ထည်၏ဟန်ချက်အနီး၌ပင် တည်ရှိသည်။ အသုံးမလိုသောလက်ကောက်ဝတ်ရိုးနှင့် လက်ဝါးရိုးတို့သည်ပူးပေါင်းလျက်၊ လက်ချောင်းတချောင်းသာလျှင်ထင်ရှားစွာကျန်ရစ်သည်။

## ငှက်နှင့်တွားသွားသတ္တဝါတို့၏ခြားနားချက်

တွားသွားသတ္တဝါတို့သည် သွေးအေးသတ္တဝါများဖြစ်ကြ၏။ နို့တိုက်သတ္တဝါတို့မှာ သွေးနွေးသတ္တဝါများဖြစ်သည်။ သို့သော် ငှက်သည်တွားသွားရသည့်ဘဝမှ ကောင်းကင်၌ ပျံသန်းရသည့်ဘဝသို့ရောက်လာသောအခါ နို့တိုက်သတ္တဝါကဲ့သို့ သွေးနွေးသတ္တဝါဖြစ်ခဲ့လေသည်။ သွေးနွေးသတ္တဝါတို့၌ အပူရှိန်တသမတ်တည်းရှိကြသည်။ သွေးအေးသတ္တဝါတို့ကား ပတ်ဝန်းကျင်အပူအအေးကိုလိုက်၍ အပူရှိန်ပြောင်းလဲတတ်သည်။ ဆောင်းတွင်း၌ သွေးအေးသတ္တဝါတို့သည် လေးလံထိုင်းမှိုင်းလာကြသည်။ ငှက်တို့ကားအစဉ်သဖြင့် ပျံသန်းလှုပ်ရှားရသူများဖြစ်၍၊ လေးလံထိုင်းမှိုင်းသောသဘာဝနှင့်သဟဇာတ်မဖြစ်ချေ။

ငှက်တို့သည် သွေးနွေးသတ္တဝါများဖြစ်လာကြသဖြင့်၊ သူတို့၏ အမူအကျင့် အလေ့အထလည်း ပြောင်းလဲလာရသည်။ ငှက်ဥနှင့်ငှက်ငယ်များအတွက် အပူရှိန်သည် တသမတ်တည်းညီရမည်ဖြစ်၍၊ ငှက်တို့သည် အသိုက်လုပ်ရသည်။ ဥအုပြီးနောက် ဝပ်ရသည်။ သွေးနွေးသတ္တဝါဖြစ်သည့်အလျောက် ဆောင်းဥတု၌ နွေးသောဒေသသို့ပြောင်းရွှေ့ရသည်။ ငှက်တို့၏ကိုယ်တွင်းအပူသည် လူတို့၏ကိုယ်တွင်းအပူထက် ပြင်းသည်ဖြစ်၍ အစာအကြေမြန်သည်။ ထို့ကြောင့် မနေမနားအစာရှာရသည်။ ငှက်၏ခေါင်းခွံမှာပါး၍မေးရိုးမပါရှိချေ။ သွားလည်းမရှိချေ။ အစာကိုကြေညက်အောင် ဝါးရသည်ဟု မရှိသောကြောင့်၊ ငှက်၏ဝမ်းတွင်းရှိအမြစ်သည် အစာချေဖျက်နိုင်ရန်အလုပ်ကိုလုပ်ပေးရလေသည်။

## ငှက်မျက်စိ

ငှက်တို့သည် အလွန်မျက်စိရှင်ကြ၏။ ကြည်လင်ထက်မြက်သော မျက်လုံးများသည် ခရီးဝေးကိုမြင်နိုင်ကြသည်။ ထို့ပြင်လေထဲ၌ အဟုန်ပြင်းစွာပျံသန်းနေသည်ဖြစ်စေကာမူ၊



နှံပြိစုတ်ငှက်မောင်နှံ

အလားတူလျှင်မြန်စွာပျံသန်းနေသော ပိုးမွှားတို့ကို မျက်ခြည်မပြတ် မြင်နိုင်စွမ်းရှိ၏။ လင်းယုန်ငှက်နှင့် လင်းတငှက်ကဲ့သို့ငှက်ရဲများသည် အလွန်မြင့်သောကောင်းကင်အရပ်၌ ပျံဝဲကာနေရာမှ မြေပြင်ပေါ်တွင်ရှိသည့် သေးငယ်သော အစာကောင်ကို မြင်သည်နှင့်တပြိုင်နက် အဟုန်ပြင်းစွာနှင့် စိုက်ထိုးသုတ်ယူတတ်ကြသည်။ ထို့ပြင် ဤငှက်ရဲတို့တွင် မျက်ခွံလွှာအပိုတထပ်ပါရှိသဖြင့် မျက်စိကိုအလင်းရောင်မစူးနိုင်အောင်၊ မျက်ခွံလွှာကို လိုသလိုရှုံ့ချည်ပိတ်ချည် ပြုလုပ်နိုင်သည့်အပြင်၊ တင်းတိမ်ဖြင့် ကာသကဲ့သို့လည်း ကာထားနိုင်၏။ ထိုမျက်ခွံလွှာအပိုကို မှိတ်ထားစေကာမူ မြင်နိုင်သောအစွမ်းရှိသည်။ ထို့ပြင်ခရီးဝေးနီးတို့ကိုလည်း ပြတ်သားစွာမြင်နိုင်အောင်မျက်စိကိုချိန်နိုင်ကြသည်။

## ငှက်၏စီးပွားရေးအကူအညီ

ငှက်သည် မနားမနေ အစာရှာဖွေစားသောက်တတ်သောကြောင့် ယင်းတို့၏အစာဖြစ်သော ပိုးမွှားတို့ကိုဖျက်ဆီးပေးခြင်းအားဖြင့်၊ လူ၏စီးပွားကို အကျိုးပြုသည်။ ပိုးမွှားတို့သည် လူတို့၏လယ်ယာစိုက်ပျိုးရေးလုပ်ငန်း၌ ကြီးမားသောရန်သူဖြစ်သည်။ အာလူးပင်ဖျက် ပိုးတောင်မာသည်သဘာဝအလျောက် သားပေါက်ချိန်တချိန်အတွင်း၊ သန်းပေါင်း ၆၀ မျှသော သားစဉ်မြေးဆက်ပိုးကောင်တို့ကို ပေါက်ပွားစေနိုင်သည်။ အပင်များတွင်ကျတတ်သော ပျကောင်များသည် သက်တမ်းတိုသဖြင့် တနှစ်အတွင်း ၁၃ ကြိမ်မျှ မျိုးပေါက်ပွားကြသည်။ ပျအမတကောင်မှအနည်းဆုံးသားငယ်အကောင်ပေါင်း ၅၀ အထိမွေးတတ်ရာ၊ ၁၃ ဆက်မြောက်သို့ရောက်သည့်အခါ ပျကောင်အရေအတွက်မှာ ၁၀ နောက်တွင် သုည ၃၆ လုံးရှိသောကိန်းသို့ပင် ရောက်မည်ဖြစ်၏။ အပွားမြန်သောပိုးကောင်တို့သည်အနှောင့်အယှက်တစုံတရာမရှိဘဲ လိုသမျှအစာကို ဝဝလင်လင်စားကြရမည်ဆိုလျှင် ကမ္ဘာမြေကြီးပေါ်တွင် နှစ်အနည်းငယ်အတွင်း ပိုးမွှားတို့ဖြင့်သာပြည့်နှက်နေပေလိမ့်မည်။ ဤအချက်တရပ်နှင့်ပင် ပိုးမွှားတို့သည် လူ၏ရန်သူဖြစ်သည်ကို သဘောပေါက်ကြပေလိမ့်မည်။ ထိုပိုးမွှားတို့ကို ငှက်တို့သည်သုတ်သင်ပေးလေသည်။

စကားလက်တန်နဂျာခေါ် အမေရိကန်ငှက်တမျိုးကို ပိုးဖလံကောင်အငယ်စားများ ကျရောက်၍ဖျက်ဆီးနေသည့်အပင်တပင်၌ ကျက်စားနေစဉ်စောင့်၍ကြည့်ရာ၊ ၁၈ မိနစ်အတွင်း ပေါက်ဖတ်အကောင်ပေါင်း ၆၃၀ မျှကို စားပစ်ကြောင်းတွေ့ရသည်။ တစ်ငှက် အဖိုနှင့်အမတစုံကို စောင့်၍ကြည့်ရာ၌လည်း ပန်းသီးပင်များကိုဖျက်ဆီးတတ်သည့် ပိုးဖလံကောင်ပေါက်စ ပေါက်ဖတ်ကလေးများကို အသိုက်သို့ကူးသယ်ကောက်သယ်ချီယူနေသည်မှာ တနာရီအတွင်း ၄၇ ခေါက်ရှိ၍၊ တကြိမ်တကြိမ်လျှင် ပေါက်ဖတ်နှစ်ကောင်သုံးကောင်ချီယူသွားကြသည်။ အသိုက်တွင်း၌ သားငယ်များပေါက်ပွားနေချိန်တွင် မိုးလင်းမှ မိုးချုပ်အထိ သားငယ်တို့အားအစာရှာခွံ့ကျွေးလေ့ရှိသဖြင့် တနေ့လျှင် ပိုးကောင်ပေါင်းမည်မျှချီယူကြမည်ကို လွယ်ကူစွာသဘောပေါက်နိုင်ပေ၏။ နှံပြီစုတ်ငှက်မတကောင်သည် သားငယ်တို့အား တနာရီလျှင် ၃၈ ကြိမ်မျှ အစာခွံ့သည်ကိုတွေ့မြင်ရသည်။ ထိုငှက်မ ချီယူလာသောအစာများတွင် သစ်ပင်များ၏အရည်ကို စုတ်ယူတတ်သော ပျကောင်များ၊ အရွက်များကို ကိုက်ဖြတ်တတ်သော ပေါက်ဖတ်များနှင့် ခြေတံရှည်ပိုးကောင်များပါဝင်လေသည်။

သီးနှံပင်နှင့် မြက်ပင်များ၏အမြစ်များကို ကိုက်ဖြတ်ဖျက်ဆီးတတ်သော ခြေတံရှည်ပိုးကောင်ပေါက်စနှင့် ပိုးတောင်မာပေါက်စတို့ကဲ့သို့ သီးနှံဖျက်ပိုးများကို စားသောက်လေ့ရှိသော စတားလင်းခေါ် ငှက်တမျိုးသည် တနာရီလျှင်အကြိမ် ၃၀ မျှထိုပိုးများကိုချီ၍ သားငယ်တို့အားအစာခွံ့ကြသည်။

နှံပြီစုတ်ငှက်တကောင်သည် ၁၅ နာရီနှင့် ၄၅ မိနစ်အတွင်း သားကောင်ငယ်တို့အား ၁၂၁၇ ကြိမ်မျှအစာခွံ့ကျွေးသည်မှာ မှတ်သားဖွယ်ရာအကောင်းဆုံး စံချိန်တရပ် ဖြစ်သည်။ ကောက်ပင်များ၏ အနှံတို့ကို ကိုက်ဖြတ်စားသောက်လေ့ရှိသော သာမန်စာကလေးများပင်လျှင် သားပေါက်ချိန်၌ သားငယ်တို့ကို ဆန်စေ့၊ စပါးများမကျွေးမူ၍၊ ပေါက်ဖတ်များကို ရှာဖွေကျွေးမွေးတတ်ကြသည်။ ဤနည်းအားဖြင့် ငှက်တို့သည် တောင်သူလယ်သမားတို့အား ထိရောက်စွာကူညီကြပေသည်။

သိပ္ပံပညာစံနစ်ဖြင့် စမ်းသပ်ကြည့်ရာတွင်၊ ငှက်ငယ်များကြီးထွားလာရန်မှာ ယင်းကိုယ်ခန္ဓာ၏အလေးချိန်ထက်ဝက်မှ အပြည့်အထိလေးသောအစာကို နေ့စဉ်စားသောက်ရမှကြီးထွားနိုင်သည်ကိုတွေ့ရသည်။

အချို့ငှက်တို့သည် လယ်ယာစိုက်ပျိုးမှုကို အနှောင့်အယှက်ပေးသည့် ပေါင်းပင် မျိုးစေ့များကို စားသောက်ကြခြင်းဖြင့်၊ တောင်သူလယ်သမားတို့ကို ကျေးဇူးပြုပေးသည်။ ပေါင်းပင်စေ့ကို စားသောက်သော ငှက်နှစ်မျိုး၏ စလုတ်မှ အစေ့ပေါင်း ၁၇၀၀ နှင့် ၅၀၀၀ အသီးသီး ထုတ်ယူရရှိခဲ့ဘူးလေသည်။

ကြွက်ကဲ့သို့သော သီးနှံဖျက် တိရစ္ဆာန်တို့ကို ငှက်တို့ကဖမ်း၍စားသောက်တတ်ကြသည်။ အကယ်၍ကြွက်ဖိုမတစုံမှ ပေါက်သောသားများ တကောင်မကျန်အဖတ်တင်သည်ဟုဆိုငြားအံ့၊ ထိုသားအမိသားအဖ တမြုသည် ငါးနှစ်အတွင်း ကောင်ရေပေါင်းသန်းချီ၍ ပေါက်ပွားမည်ဖြစ်သည်။ သို့သော် ဤအခြေသို့မရောက်စေရန်၊ ဇီးကွက်နှင့် သိမ်းငှက်တို့သည် တောင်သူလယ်သမားဖက်မှနေ၍ကူညီကြသည်။

### ဟင်းလျာငှက်များ

ထိုမှတပါးလည်း၊ ငှက်တို့သည် ဟင်းလျာအတွက်လည်း အသုံးဝင်သည်။ ရစ်၊ ခါ၊ ချိုး၊ တောဘဲ၊ စစ်စလီ၊ ဘုမ္မတီး၊ တောကြက်စသော ငှက်တို့မှာ မြန်မာနိုင်ငံတွင် ဟင်းလျာ အတွက်ဖမ်းဆီးလေ့ရှိသော ငှက်မျိုးများဖြစ်ကြသည်။ ဥရောပနိုင်ငံများ၌ ဂရောက်ရစ်၊ စနိုက်ငှက်၊ ရစ်၊ စနိုက်ကြီး၊ ကြက်ဆင်၊ တောဘဲနှင့်တောငန်းတို့ကို ဟင်းလျာအလို့ငှာ အမြတ်တနိုးထားကြသည်။

### လူ၏ရန်သူငှက်များ

လူတို့အတွက် ငှက်တို့သည် အသုံးဝင်သည်မှန်၏။ သို့သော် လူတို့အကျိုးစီးပွားကို ဖျက်ဆီးတတ်သောငှက်တို့ လည်းရှိသေးသည်။ ငှက်တို့သည်ဆီးသီး၊ မာလကာသီးစ



သားငယ်များအတွက် ပေါက်ဖတ်ကောင်များချီယူလာသော သပိတ်လွယ်ငှက်များ

သောအသီးငယ်များကို အဖွန့်ကြိုက်နှစ်သက်တတ်၏။ ဂျုံ၊ စပါးစသည့် ကောက်သီးကောက်နှံများကိုလည်း ကြိုက်နှစ်သက်တတ်၏။ အနောက်နိုင်ငံတွင် စထရော်ဗယ်ရီ၊ ရပ်စဗယ်ရီနှင့် ချယ်ရီသီးတို့သီးချိန်တွင် ငှက်တို့၏ရန်ကိုများစွာစိုးရိမ်ရ၏။ မြန်မာနိုင်ငံ၌ စပါးမှည့်ချိန်တွင် တောငှက်နှင့်စာကလေးတို့၏ဘေးရန်ကို စိုးရိမ်ရသောကြောင့် လယ်ကွင်းများတွင် ခလောက်ဖြင့် အမြဲစာခြောက်ရသည်။ ထို့ပြင်ကြက်ငှက်မွေးမြူသူများ၏ ရန်သူတို့မှာ ကျီး၊ စွန်၊ သိမ်းစသော ငှက်များဖြစ်သည်။

### ငှက်သုတေသီ

ငှက်တို့၏အကြောင်းခြင်းရာကို သုတေသနပြုသူ ပုဂ္ဂိုလ် အမြောက်အမြား ရှိလေသည်။ ငှက်တို့ကို တမင်သက်သက် အလှမွေးမြူသူတို့လည်း ရှိ၏။ ထိုပုဂ္ဂိုလ်တို့၏ ကျေးဇူးကြောင့် ငှက်အကြောင်းကို စံနစ်တကျ ကျွန်ုပ်တို့ သိရှိရပေသည်။ ငှက်တို့၏သီချင်းသံနှင့် အရောင်အဆင်းတို့ကို စူးစမ်းလေ့လာခြင်းအလုပ်သည် သဘာဝနှင့်နီးစပ်သော အလုပ်ဖြစ်၍ အလွန် စိတ်ကြည်လင်စေသော အလုပ်ဖြစ်သည်။ အိမ်ခြံဝင်းအတွင်း၌ သစ်ပင်ပန်းမာလ်များစိုက်ပျိုးပေးထားခြင်း၊ ငှက်အိမ်များ ဆောက်လုပ်ပေးထားခြင်းစသည်ဖြင့် ငှက်အပေါင်းတို့လာရောက်နေထိုင်နိုင်စေရန် ငှက်မွေးမြူသူတို့က ဖန်တီးပေးလေ့ရှိသည်။ ငှက်သုတေသီတို့မှာ တောတောင်ရေမြေတို့ကိုလှည့်လည်၍၊ ငှက်တို့၏အမူအကျင့်ကိုလေ့လာကြသည်။

ငှက်အမျိုးအစားကိုလိုက်၍၊ ငှက်စားကျက် အမျိုးမျိုးရှိသည်။ အချို့ငှက်တို့သည် သစ်တော၊ ခြုံကြီး၊ ဥယျာဉ်ကြီးများထဲတွင် ကျက်စားသည်။ အချို့မှာ အင်းအိုင်း ချောင်းမြောင်းအရပ်ကိုမှီ၍ နေကြသည်။ အချို့ကား လယ်ကွင်းများ၊ မြက်ခင်းများ၌၎င်း၊ တောင်ကုန်းများ၌၎င်း အစာရှာဖွေကြသည်။

### ငှက်ဒေသခြောက်ရပ်

ငှက်သုတေသီတို့၏အလိုအားဖြင့် ငှက်မျိုးများကို ဒေသခြောက်ပိုင်း ပိုင်း၍တွေ့ရှိနိုင်သည်ဟု ဆိုကြသည်။ ထိုဒေသခြောက်ပိုင်းမှာ (၁) နယူးဇီလန် (၂) သြစတြေးလီးယန်း (၃) အပူပိုင်းဇုန်သစ် (တောင်အမေရိက) (၄) အိန္ဒိယ (၅) အာဖရိကနှင့် (၆) အာတိတ်ဇုန်ဟောင်း (မြောက်အမေရိက၊ ဥရောပနှင့် အာရှမြောက်ပိုင်း) ဟူ၍ဖြစ်ကြသည်။ ငှက်မျိုးအနည်းငယ်တို့ကို ကမ္ဘာ့အရပ်ရပ်၌ အနှံ့အပြားတွေ့ရှိရခြင်းသော်လည်း ငှက်မျိုးစိတ်နှင့် မျိုးရင်းပေါင်း မြောက်မြားစွာတို့ကိုမူ သူ့ဆိုင်ရာဒေသ၌သာ တွေ့ရှိနိုင်သည်။ ထို့ကြောင့် မြောက်အမေရိကတိုက်နှင့်တောင်အမေရိကတိုက်ရှိ ငှက်တို့သည် မတူကြချေ။ ထိုအတူ အာဖရိကတိုက်ရှိငှက်တို့သည် ဥရောပတိုက်ရှိငှက်တို့နှင့် ခြားနားသည်။ သို့သော် မြောက်အမေရိကတိုက်နှင့် ဥရောပ တိုက်ရှိငှက်တို့မှာ ဆင်တူဖြစ်သည်။

အရှေ့အိန္ဒိယကျွန်းစုရှိ ငှက်တို့ကို လေ့လာကြည့်လျှင်၊ တကျွန်းတွင်ရှိသော ငှက်မျိုးသည် အခြားကျွန်းရှိငှက်နှင့် မတူကွဲပြားသည်ကိုတွေ့ရသည်။ ဖြစ်ရသည်မှာ အချို့ငှက်တို့သည် ဩစတြေးလီးယန်းအစုထဲတွင် ပါဝင်၍ အချို့မှာ အိန္ဒိယအစုထဲတွင် ပါဝင်နေသောကြောင့်ဖြစ်သည်။ သာမကပြရသော် ဗာလီကျွန်းနှင့် လွမ်းဗုတ်ကျွန်းတို့သည် တကျွန်းနှင့်တကျွန်း မိုင် ၂၀ မျှသာ ကွာသည်။ သို့သော် ထိုကျွန်းနှစ်ကျွန်းရှိ ငှက်တို့ခြားနားပုံမှာ အာဖရိကငှက်နှင့် တောင်အမေရိကငှက်တို့ ခြားနားသည့် ပုံအတိုင်းပင် ဖြစ်သည်။ ဤသည်ကိုထောက်ရှုလျှင် ထိုကျွန်းနှစ်ကျွန်းသည် ဘယ်သောအခါကမျှ တစပ်တည်း မတည်ခဲ့ကြောင်း ထင်ရှားသည်။ ထိုနှစ်ကျွန်း၏အကြားရှိ နက်ရှိုင်းသောရေလက်ကြားသည် ဩစတြေးလီးယားနှင့် အာရှကိုခွဲခြားပေးသော နယ်နိမိတ်ဖြစ်သည်ဟု ယူဆနိုင်သည်။ ဗာလီကျွန်းသည် အာရှ၌အပါအဝင်ဖြစ်သော်လည်း လွမ်းဗုတ်ကျွန်းမှာ ဩစတြေးလီးယား၌ အပါအဝင်ဖြစ်သည်။

## ငှက်တို့နေရာပြောင်းရွှေ့တတ်ခြင်း

ငှက်တို့ကို ဒေသအလိုက်သတ်မှတ်ပေးရာ၌ ငှက်တို့အသိုက်ဖွဲ့၍ သားမွေးရာအရပ်ကိုအခြေပြု၍ ငှက်၏နေရင်းဇာတိကို သိရသည်။ သို့သော်ငှက်မျိုးစိတ်ပေါင်းများစွာတို့မှာ ရာသီဥတုကိုလိုက်၍ တနယ်မှတနယ်သို့ ရွှေ့ပြောင်းနေထိုင်ကြသည်။ ဗြိတိန်တွင် အသိုက်ဖွဲ့၍သားမွေးသောငှက်တို့သည် အာဖရိကတိုက်သို့ပြောင်းရွှေ့၍ ဆောင်းခိုလေ့ရှိသည်။ ဗြိတိန်မှ ပျံလွှားငှက်သည် ဆောင်းရာသီ၌ မိုင် ၅၀၀၀ ဝေးသော တောင်အာဖရိကတိုက်သို့ ရွှေ့ပြောင်းနေထိုင်လေ့ရှိသည်။ ရွှေရောင်ငှက်တလိုင်းမျိုးသည် လားဗရာဒေါနှင့် နိုဗာစကိုးရှားပြည်နယ်များမှ အတ္တလန္တိတ်သမုဒ္ဒရာကိုဖြတ်၍ မနေမနား ပျံသန်းကာ မိုင် ၂၀၀၀ ဝေးသော တောင်အမေရိကသို့ ဆောင်းခိုရန် ရွှေ့ပြောင်းကြသည်။ ထိုအတူပင် အနောက်ပစိဖိတ်ကမ်းခြေတွင်နေသော ငှက်တလိုင်းတို့သည် အလာစကာပြည်နယ်မှ မိုင် ၂၀၀၀ ဝေးသောဟာဝိုင်းယန်းကျွန်းသို့ နှစ်စဉ် ကူးချည်သန်းချည်ပြုကြသည်။ သို့သော်သစ်တောက်ငှက်၊ တောစာနှင့် ရစ်စသောငှက်တို့သည် ဗြိတိန်မှထွက်ခွာသွားလေ့မရှိချေ။ ပျံလွှားငှက်၊ တောဘဲ၊ ပုစဉ်းထိုးနှင့် မြေလူးငှက် စသည်တို့သာ နှစ်စဉ်နေရာပြောင်းကြသည်။

နွေဦးပေါက်သို့ ရောက်လာတိုင်း၊ ကမ္ဘာ့ မြောက်ပိုင်းရှိ ငှက်တို့သည် မြောက်ဖက်သို့ နေရာပြောင်း၍ တောင်းပိုင်းရှိ ငှက်တို့သည် တောင်ဖက်သို့နေရာပြောင်းကြသည်။ နွေးရာအရပ်များသို့ ရွှေ့ပြောင်းခြင်းပင်ဖြစ်၏။ နေရာပြောင်းရာ၌ ငှက်ဖိုတို့သည် ဦးစွာရွှေ့ပြောင်းကြသည်။ ငှက်ဖိုတို့က အသိုက်လုပ်ရန် နေရာကောင်းကို ရှာဖွေပြီးလျှင် အပြိုင်အဆိုင်လုကြသော အခြားငှက်တို့ကို မောင်းနှင်ဖယ်ရှားပြီးသည့်နောက်မှ ငှက်မတို့က ရက်သတ္တတပတ်၊ နှစ်ပတ်ခြားပြီးရောက်လာကြသည်။ ထိုအခါငှက်ဖိုတို့က ငှက်မများကို အတူနေကြရန်သွေးဆောင်ကြသည်။ (ဒေသကူးပြောင်းခြင်း — လည်းရှု။)

## ငှက် ‘လူပျိုလှည့်’ ပုံ

ငှက်တို့သည် သာမန်အားဖြင့် အဖိုတကောင်လျှင် အမတကောင်နှင့်သာ တနှစ်အတွင်း စုံဖက်ပေါင်းသင်း၍နေလေ့ရှိသည်။ သို့သော် ကြက်မျိုးတွင်အပါအဝင်ဖြစ်သည့် ကြက်ဆင်၊ ရစ် စသည့်ငှက်တို့သည် အဖိုတကောင်လျှင် အမများစွာနှင့် ပေါင်းသင်းသည်။ ဤကဲ့သို့အမပေါင်းများစွာတို့နှင့် ဆက်ဆံလေ့ရှိသော အခြားငှက်မျိုးများမှာ နံ့ပြီစုတ်နှင့် ဗလက်ဗတ်ခေါ် ငှက်မည်းများဖြစ်လေသည်။ ဥသြငှက်တို့သည် အခြားငှက်သိုက်များ၌အုံ၍ ထိုဥများမှပေါက်ဖွားလာသော သားငယ်များကိုလည်း ထိန်းသိမ်းစောင့်ရှောက်လေ့မရှိကြသဖြင့် တနှစ်တရာသီအတွင်း၌ပင်အဖော်အလဲလဲဖြင့် ပေါင်းဖက်ကြလေသည်။ အမေရိကတိုက် အပူပိုင်းဒေသအရပ်များတွင် တွေ့ရသော အန်နစ်ခေါ် ငှက်တမျိုးသည် ငှက်မများစွာအုနိုင်ရန် အသိုက်တခုတည်းကိုဝိုင်းဝန်းကူညီဆောက်လုပ်လျက် ပေါက်လာသမျှသော သားငယ်တို့ကိုလည်း အားလုံးဝိုင်း၍ စောင့်ရှောက်ကြလေသည်။

ငှက်ဖိုများသည် မိတ်ဖက်ရှာသည့်အခါ၌ မိမိအား စိတ်ညွတ်လေအောင် ငှက်မများကို ‘လူပျိုလှည့်’ လေ့ရှိကြသည်။ ထိုအချိန်အတောအတွင်း၌ ငှက်ဖိုများသည် သာယာသော အသံများ ကျူးရင့်ခြင်းဖြင့် ဖြစ်စေ၊ အမွေးအတောင်များကို အလှပြ၍ ဖြစ်စေ၊ ငှက်မများရှေ့တွင် သူ့ထက်ငါထင်ပေါ်ရအောင် အပြိုင်အဆိုင်ပြုလုပ်တတ်ကြသဖြင့် ငှက်တို့မိတ်လိုက်ချိန်သည် ငှက်များ၏အသံသာယာဆုံးနှင့် အမွေးအတောင်များအလှပဆုံးအချိန်ဖြစ်ပေသည်။ သို့သော်ငှက်တိုင်း ဘာသာဘာဝ သီဆိုအော်မြည်ကြသည် မဟုတ်ချေ။ ငှက်ကြီးဝံပိုနှင့် ငှက်ကျားတို့မှာ အရွယ်ကြီးရင့်လာသောအခါ၊ အသံမမြည်နိုင်ကြရှာချေ။

ငှက်ဖိုများလူပျိုလှည့်သည့်အခါ ဆန်းပြားထွေထူးသော ကိုယ်ဟန်အမူအရာ ပြုလုပ်ကြပုံမှာ ငှက်တို့၏အသံကိုလေ့လာရသည်ထက်ပင် စိတ်ပါဝင်စားဖွယ် ကောင်းပေသည်။ ဥဒေါင်း၊ ကြက်ဆင်နှင့် လူတို့မွေးမြူထားသည့် အိမ်ကြက်များသည် အမများရှေ့တွင် ဟန်ရေးအမျိုးမျိုးပြကြပုံကို လူတိုင်းတွေ့ဘူးမြင်ဘူးကြပေမည်။

ငှက်ကလေးများသည်လည်း ငှက်မတို့ရှေ့တွင် ဟန်ရေးပြလေ့ရှိကြသည်။ စလုတ်ပွခိုကဲ့သို့သောငှက်မျိုးတို့တွင် ကိုယ်

တွင်း၌ ဆန်းကြယ်သည့်လေအိတ်များရှိရာ အမကိုမြူသည့်အခါ၊ ထိုလေအိတ်ကိုဖောင်းပွလာစေခြင်းဖြင့် အချိုးမကျသောကိုယ်ဟန်အမူအရာကို ဆောင်တတ်ကြသည်။ မိုးစေငှက်တိဂါသ် ငှက်မတို့ကို လေထဲတွင်ကျင်လျင်စွာ အမျိုးမျိုးပျံ၍ပြကြသည်။ ထိုငှက်များသည် အထက်သို့ လူတို့မျက်ခြည်ပြတ်လုခမန်းအထိ ပျံတက်၍ အပေါ်တွင်ရစ်ဝဲကာ အသံကျူးရင့်ပြီးနောက် ရုတ်တရက်အတောင်နှစ်ဖက်တို့ကို ရုပ်သိမ်းပြီးလျှင် မိုးပေါ်မှကျောက်တုံးကျောက်ခဲများကိုပစ်ချလိုက်သကဲ့သို့ မြေပေါ်သို့ထိုးဆင်းလာသည်။ ထိုနောက် ငှက်သည် မြေပြင်နှင့်ရိုက်မိတော့မည်ကဲ့သို့ရှိစဉ် အတောင်နှစ်ဖက်တို့ကို တဖန်ဖြန့်ကား၍ လိုရာ အရပ်တွင် အသာအယာ သက်ဆင်း နားနေလိုက်လေသည်။ ပင်လယ်ဇင်ယော်များနှင့် ကြိုးကြာငှက်များမှာမူ ခြေစုံထောက်၍ခုန်သည်ကတဖုံ၊ ခြေတချောင်းတည်းထောက်၍ ခုန်သည်ကတနည်း၊ လည်တံကိုကိုင်းညွှတ်သည်ကတသွယ်အားဖြင့် ဟန်ရေးပြတတ်ကြသည်။

ဩစတြေးလီးယားတိုက်နှင့် နယူးဂင်းနီကျွန်းတို့တွင် တွေ့ရှိရသော ဗိုးဝါးငှက်မျိုးမှာကား မြေပြင်ပေါ်တွင်သစ်ခက်များဖြင့် အဆောက်အအုံ ကလေးများ ပြုလုပ်ကြ၍ ယင်းတို့ကို နီရဲရဲသစ်သီးများ၊ အကြေးခွံများနှင့် ပန်းပွင့်များဖြင့် မွမ်းမံခြယ်လယ်ထားလေ့ရှိကြသည်။ ဗိုးဝါးခေါ် ငှက်မျိုးပေါင်းများစွာ ရှိသည့်အနက် တမျိုးမှာသစ်ကိုင်းသစ်ခက်တို့ဖြင့် အမြင့် ရှစ်ပေအထိရှိသော အဆောက်အအုံများကို ဆောက်လုပ်၍ အတွင်း၌ အခန်းငယ်များကန့်ထားပြီးလျှင်၊ ငှက်ဖိုသည် ထိုအခန်းများတွင် ဝင်ချည်ထွက်ချည်နှင့် နေတတ်ကြသည်။ အချို့ဗိုးဝါးငှက်တို့ကလည်း အဆောက်အအုံကို အရောင်တောက်ပြောင်နေသော ငှက်မွေး ငှက်တောင်များ၊ လိပ်ပြာကောင်များနှင့် ပိုးမွှားများဖြင့် မွမ်းမံထားတတ်ကြသည်။ ထိုအဆောက်အအုံများကို တန်ဆာဆင်ထားသည့်သစ်သီး၊ ပန်းပွင့်ကဲ့သို့သော အရာများညှိုးနွမ်းရိယော်လာသည့်အခါ အသစ်ထပ်မံရှာဖွေ၍ လဲလှယ်ထားလေ့ရှိသည်။ ဤသစ်ခက် အဆောက်အအုံထဲမှ ဗိုးဝါးငှက်ဖိုတို့သည် ငှက်မများအားဟန်ရေးအမျိုးမျိုးပြတတ်ကြသည်။

## ငှက်၏တေးသံ

ငှက်တို့တွင် အသံထွက်အင်္ဂါအစိတ်အပိုင်း တည်ရာသည် လူတို့တွင် ထိုကဲ့သို့သောအစိတ်အပိုင်းတည်ရာနှင့် ကွာခြားသည်။ လူတို့တွင် လေပြွန်အထက်ဖျား၌ သံစုံထွက်နိုင်သည့်အကြောစုများ တည်ရှိသော်လည်း ငှက်များ၌မူ အသံထွက်အမြွေးများမှာ လေပြွန်၏အောက်စွန်းတွင် တည်ရှိသည်။ ထိုအမြွေးစုအသွင်အပြင်နှင့် အမြွေးစုကို ချုပ်တည်းထားသော အကြောများမှာ ငှက်တမျိုးနှင့်တမျိုးတွင် ကွဲပြားနေသည်ဖြစ်၍ အသံတမျိုးစီထွက်ကြသည်။

ငှက်တို့သည် တေးသီဆိုသည့်အပြင် အခြားအသံများကိုလည်း အော်မြည်တတ်ကြသည်။ သစ်တောက်ငှက်များသည် မာသောနှုတ်သီးဖြင့် သစ်ခေါက်ကိုထိုးခေါက်နေသည့်အခါ ပလုပ်တုတ်သံမျိုးကိုကြားရ၏၊ ဂရောက်ရစ်ငှက်တို့ကလည်း လေကိုအတောင်ပံများဖြင့် ပြင်းပြင်းရိုက်ခတ်၍စည်တီးသံမျိုးကိုထွက်ပေါ်လာစေသည်။ စနိုက်ငှက်မျိုးသည် လေထဲသို့မြင့်စွာ ပျံတက်၍ အောက်သို့ထိုးစိုက်လိုက်သည့်အခါ အမြီး၏အပြင်ဖက်အတောင်နှစ်ခုမှာ အရှိန်ကြောင့် လှုပ်ခါသွားသဖြင့် အသံဖြစ်ပေါ်သည်။

## ငှက်သိုက်

ငှက်တို့သည် တွားသွားသတ္တဝါအဖြစ်သို့ပြောင်းလဲလာခါစတွင် လိပ်နှင့်ဖွတ်တို့ကဲ့သို့ ဥကိုမြေပြင်၌အု၍ သဲဖုံး၍ဖြစ်စေ၊ သစ်ခေါင်းတွင်ထည့်၍ဖြစ်စေ ထားကြသည်ဟုအဆိုရှိသည်။ သို့သော် သွေးအေးသတ္တဝါမှ သွေးနွေးသတ္တဝါအဖြစ်သို့ ပြောင်းလဲလာသောအခါ၌မူကား၊ သားကောင်ပေါက်ပွားစေရန် ဥကိုအပူရှိန်တသမတ်တည်းပေးဖို့ လိုလာသည်။ ထိုကြောင့် ဥကိုဝပ်ပေးရန် အသိုက်လိုလာလေသည်။ ဦးစွာ၌ ငှက်တို့သည် အဆင်သင့်ရာမြေပေါ်၌ ဥအုကြသည်။ ဝပ်ကြသည်။ နောင်အခါ၌ ဥများမြေကြီးပေါ်တွင်လိမ့်မသွားစေရန် မြေကိုယက်ဖော်၍ရင်း၊ မြေချိုင့်တွင်း၌ သစ်ခက်သစ်ရွက်ဖို့၍ရင်း အသိုက်လုပ်ပြီးမှ အုတတ်ကြသည်။ တဖန်မြေကြီးသည် အပူအအေးအစိုအခြောက်ဟူ၍ ခဏခဏ ပြောင်းလဲတတ်သောကြောင့်တကြောင်း၊ ကုန်းသတ္တဝါများက အန္တရာယ်ပေးတတ်ကြသောကြောင့်တကြောင်း မြေပြင်မှမြင့်ရာအရပ်တို့တွင် ငှက်တို့အသိုက်ဖွဲ့လာကြပြန်သည်။ ဤသဘောအတိုင်း ငှက်သိုက်တို့၏ အဆင့်ဆင့်တိုးတက်ပြောင်းလဲလာကြပုံကို ယနေ့မြင်တွေ့နေကြရသောအသိုက်များကို လေ့လာခြင်းဖြင့် သိအပ်သည်။ ဗျိုင်းနှင့်ခိုတို့သည် အသိုက်ကိုတုတ်တံငယ်ဖြင့် ပြီးစလွယ်လုပ်ကြသည်။ ကျီးနှင့်သိမ်းငှက်တို့သည် အသိုက်ထဲ၌ ဥကျင်းနက်နက်ကိုအတွင်းသားနုနုတထပ်ခံ၍ တည်ကြသည်။ အသိုက်လုပ်ပုံ အဆင့်အတန်းမြင့်သောငှက်မှာ စာဗူးတောင်းများဖြစ်သည်။ စာဗူးတောင်းသိုက်များမှာ ဗူးတောင်းကိုစောက်ထိုးထားဘိသကဲ့သို့ရှိသည်။ မြက်ခြောက်၊လျှော်စသည်တို့ဖြင့်သိုက်မြိုက်စွာအသိုက်လုပ်တတ်သည်။

အသိုက်လုပ်ရာ၌ ငှက်ဖိုသည် အသိုက်လုပ်ရန် သင့်သောအရပ်ကိုရွေးသည်။ ငှက်မသည် အသိုက်လုပ်ရန်နေရာအတိအကျကိုရွေးသည်။ ထိုနောက် ငှက်ဖိုနှင့် ငှက်မတို့သည် အသိုက်လုပ်ရန်မြက်၊ သစ်ရွက်၊ သစ်ကိုင်း၊ အမွေးအတောင်၊

ကျူပင်၊ ကျူရိုးစသည်တို့ကို ရပ်ဝေးရပ်နီးမှ လိုက်လံ၍ စုဆောင်းသည်။ ငှက်မအသိုက်ဖွဲ့သည့်အခါ ငှက်ဖိုသည်ရန်သူမလာစေရန် ကာကွယ်ပေးရသည်။

## ငှက်ဥများ

ငှက်တို့၏ ဥများသည် အဖြူရောင်မှ အမည်းရောင်အထိ အမျိုးမျိုးရှိကြသည်။ များစွာသောငှက်ဥတို့မှာ မြေကြီးရောင်ရှိ၍၊ အရောင်ရင့်ရင့်အစက်နှင့် အစင်းများရှိကြသည်။ ဤကဲ့သို့ ဥများတွင်အရောင်ရှိနေရခြင်းနှင့်စပ်လျဉ်း၍အယူအဆအမျိုးမျိုးရှိလေသည်။ ဥများတွင် အရောင်ရှိခြင်းကြောင့် ဥများကိုထင်ရှားစွာမမြင်နိုင်စေရန် ဖြစ်ကောင်းဖြစ်ပေမည်။ ပုံစံပြရလျှင် သစ်တောက်ငှက်နှင့် ပိန်ညင်းငှက်တို့သည် မှောင်မည်းနေသည့် သစ်ခေါင်းများအတွင်း၌ အစဉ်အုလေ့ရှိသဖြင့် ဥများကိုအရောင်ဖြင့်ဖျောက်ထားရန် မလိုသောကြောင့် ထိုငှက်တို့၏ဥများမှာ ဆွတ်ဆွတ်ဖြူနေသည်။ ငှက်တလိုင်းနှင့် မြစ်တွေးခေါ် ဇင်ယော်ငှက်ယ်မျိုးတို့သည် အသိုက်အအုံမရှိဘဲ မြေပြင်ပေါ်၌လွတ်လပ်စွာအုချထားတတ်ကြသဖြင့် ထိုငှက်တို့၏ ဥများသည် မြေကြီးရောင်သို့မဟုတ် ကျောက်စရစ်ခဲရောင်နှင့် ထပ်ထူထပ်မျှဖြစ်နေရာ၊ ရတ်တရက်ရှာတွေ့နိုင်ရန်ခဲယဉ်းလှသည်။ အသိုက်များအတွင်း၌ အုထားသောငှက်ဥတို့မှာ များသောအားဖြင့် အဖြူရောင်နှင့်ဖြစ်စေ၊ မြေကြီးရောင်ဖျော့ဖျော့နှင့်ဖြစ်စေ ထင်ရှားပေါ်လွင်သော အဆင်းအရောင်များဖြင့် သာတွေ့ရတတ်သည်။

ငှက်တို့သည် တနေ့လျှင် ဥတလုံးကျ အုစမြဲဖြစ်သည်။ ဤသို့လျှင် ငှက်မျိုးအလိုက် အုရသောအရေအတွက်ပြည့်သည်အထိ အုလေ့ရှိသည်။ သို့ရာတွင် ဥများနှင့်ထိုဥများမှပေါက်ဖွားလာသည့်ငှက်ကလေးတို့အား ရန်ရှာဖျက်ဆီးမည့်ဘေးအန္တရာယ် အနည်းအများကိုလိုက်၍ အရေအတွက်မှာ တသမတ်တည်းမရှိတတ်ချေ။ အလွန်မြင့်မားသောကျောက်တောင်စောက်များတွင်အုလေ့ရှိကြသည့် ပင်လယ်ငှက်များစွာတို့သည် တမြုံတွင် တလုံးချင်းသာအုလေ့ရှိကြ၍ လူတို့လိုက်လံပစ်ခတ်လေ့ရှိသော ရေကြက်ကဲ့သို့ ငှက်မျိုးတို့တွင် ဖျက်ဆီးမည့်ရန်သူပေါ်များသဖြင့် တမြုံလျှင်ဥပေါင်း ၁၀ လုံးမှ အလုံး ၂၀ အထိအုတတ်ကြသည်။ ငှက်များစွာတို့သည် တမြုံလျှင်ဥ ၃ လုံးမှ ၅ လုံးအထိ အုတတ်ကြသည်။

ငှက်တို့၏ ဥအရွယ်အစားစားမှာ ပဲစေ့ထက်ယောင်ယောင်မျှကြီးသော ပိတုန်းငှက်ဥအရွယ်မှသည် အချင်းအားဖြင့် ၅ လက်မနှင့် ၆ လက်မကြားရှိ ငှက်ကုလားအုပ်ဥအရွယ်ထိရှိလေသည်။ အလွန်အရွယ်အိုနေသော အိမ်ကြက်မများသည်၎င်း၊ ဥအုချိန်ကုန်ဆုံးခါနီးတွင် အုသောငှက်တို့သည်၎င်း အလွန်သေးငယ်သောဥများကို အုတတ်ကြပေသည်။

ရံဖန်ရံခါ ဥခွံတခုထဲတွင် ဥ ၂ လုံးစာ ၃ လုံးစာ၊ အနှစ်များစုဝေးတည်ရှိနေသည်ကိုတွေ့ရသည်။ ထိုဥများကို အမြွာပူးဥများဟုခေါ်ကြသည်။ ယေဘုယျအားဖြင့် ငှက်ကောင်ကြီးလျှင် ဥများလည်းကြီး၍ ငှက်ကောင်ငယ်လျှင်ဥလည်းငယ်လေသည်။ သို့သော် ပေါက်ခါစတွင် မျက်စိမပွင့်၍ မလှုပ်ရှားနိုင်သော ငှက်မျိုး၏ ဥများသည် ပေါက်ခါစတွင် လှုပ်ရှားသွားလာနိုင်သောငှက်မျိုး၏ဥထက် ငယ်တတ်၏။

အများအားဖြင့်ငှက်တို့သည်နောက်ဆုံးဥကိုအုပြီးနောက် အသိုက်ထဲတွင် ဝပ်ရတော့သည်။ ဇီကွက်ကဲ့သို့အချို့ငှက်တို့မှာ ပဌမဆုံးဥကို အုပြီးသည်နှင့်စ၍ဝပ်ကြသဖြင့် ဥများမှ အကောင်ငယ်တို့၊ ရက်ခြားပေါက်လာကြသည်။ ငှက်တို့တွင် အကောင်ငယ်များပေါက်လာသည်အထိ ဝပ်ရသည့်အချိန်မှာ ဥအရွယ်အကြီးအသေးကိုလိုက်၍ရက်ကြာသည်။ သို့သော်အရွယ်ပင်ငယ်သော်လည်း အရွယ်ကြီးသော အချို့ငှက်ဥများထက် အချိန်ကြာကြာဝပ်ပေးမှ အကောင်ငယ်များပေါက်လာသည်လည်းရှိသေးသည်။ လည်ဖြူရစ်ငှက်ဥများသည် ၁၂ ရက်၊ သပိတ်လွယ်ဥများသည် ၁၄ ရက်၊



အသိုက်အအုံမရှိဘဲမြေပေါ်၌ဥအုလေ့ရှိသောမြစ်တွေးငှက်

ပိတုန်းငှက်ဥများသည် ၁၅ ရက်၊ ကြက်ဥများသည် ၂၁ ရက်၊ ဝမ်းဘဲဥများသည် ၂၇ ရက်၊ ငန်းဥများသည် ၃၅ ရက် စသည်ဖြင့် အကောင်ပေါက်ရန်ကြာမြင့်လေသည်။ ငှက်ကလေးများ ပေါက်ဖွားလာရန်အတွက် ဥများကို ငှက်ကြီး၏ ကိုယ်ငွေ့ဖြင့် အပူရှိန် တသမတ်တည်း ရှိစေရသည့် အပြင် ဥများကိုမှန်မှန်လှန်လှောပေးရသည်။ ထိုပြင်အတွင်း၌ရှိသောသန္ဓေသား အသက်ရှူနိုင်ရန် ဥခွံကိုစိုထိုင်းထိုင်းဖြစ်အောင် မကြာခဏပြုလုပ်ပေးရသည်။ သို့မှသာ ဥခွံတွင်ရှိသောအပေါက်ငယ်များ ပွင့်နေမည်ဖြစ်၍ ပြင်ပမှလေနှင့်

အစိုဓာတ်သည် အတွင်းအမြှေးထပ်သို့ ရောက်ရှိနိုင်ပေမည်။ ငှက်တို့တွင် ငှက်မများသာ ဥများကိုဝပ်လေ့ရှိသည်။ သို့သော်အချို့ငှက်မျိုးများတွင် များသောအားဖြင့် အမများကဲ့သို့အရောင်အဆင်းမဲ့သော ငှက်ဖိုတို့သည် ငှက်မများနှင့် တွဲဖက်၍ ဥဝပ်သည့်တာဝန်ကိုယူကြသည်။ ငှက်မတို့ထက် ငှက်ဖိုများက အချိန်များစွာပို၍ ဝပ်ပေးရသော ငှက်မျိုးလည်းအနည်းငယ်မျှရှိသေးသည်။

### ငှက်ပေါက်စ

ဥမှပေါက်သောငှက်တို့တွင်၊ အချို့သည် အသိုက်တွင်း၌ မိဖတို့၏ ကျွေးမွေးသုတ်သင်ခြင်းကိုခံ၍ အတန်ကြာမျှကြီးကောင်ဝင်အောင် အားမွေးကြရသည်။ အချို့မှာမူ ဥမှပေါက်သည်နှင့်တပြိုင်နက် ဟိုဟိုသည်သည် ပြေးလွှားသွားနိုင်ကြသည်။ ပဌမငှက်မျိုး၌ အကောင်ပေါက်စတွင် မျက်စိမပွင့်သေးချေ။ ကိုယ်ပေါ်၌အမွေးနုပါးပါးသာပါရှိသည်။ ထိုငှက်မျိုးမွေးဖွားရာအသိုက်မှာ ခိုင်ခံ့လုံခြုံအောင်ဖွဲ့ထားရသော အသိုက်များဖြစ်သည်။ မြေပြင်၌ အသိုက်လုပ်တတ်သော မိုးစွေငှက်၏သားငယ်တို့သည် အမိကရက်သတ္တတပတ်မျှ ထိန်းသိမ်းကျွေးမွေးခြင်းကိုခံရသည်။ လင်းတနှင့်ဇင်ယော်ငှက်ပေါက်စများကိုမူ အမိကတနှစ်ခန့်အထိ စောင့်ရှောက်မွေးမြူရသည်။ ဒုတိယငှက်အမျိုးအစားအတွက် သာဓကမှာငှက်၊ ဘဲ၊ ငန်းစသောသတ္တဝါများဖြစ်သည်။

### အစာခွံ့ပုံ

အသိုက်ထဲတွင် ရက်ကြာကြာကျွေးမွေးသုတ်သင်ခြင်းကို ခံယူသော ငှက်ပေါက်စကလေးများကို ငှက်ဖို ငှက်မနှစ်ဦးစလုံးက မိမိတို့၏စလုတ်ထဲတွင် တဝက်တပျက်ချေဖျက်ထားသောအစာကို ခွံ့ပေးရသည်။ သို့သော်များသောအားဖြင့် ငှက်တို့သည်သားသမီးများကို အစိမ်းတိုင်းအစာကျွေးလေ့ရှိသည်။ အစာကိုနှုတ်သီးဖြင့်ဖြစ်စေ၊ ခြေသည်းဖြင့်ဖြစ်စေသယ်ယူလာတတ်ကြသည်။

ငှက်တို့အစာခွံ့ပုံမှာ၊ ငှက်ပေါက်စတို့က ဖွင့်ပေးသောပါးစပ်ပေါက်ထဲသို့ ငှက်ကြီးတို့က နှုတ်သီးဖြင့် ထိုး၍ခွံ့ပေးလေ့ရှိသည်။ လည်ချောင်းထဲသို့အစာဆင်းနိုင်ရန် အာခေါင်တွင်းသို့ရောက်အောင် အစာကိုထည့်ပေးသည်။ သို့သော် ခိုပေါက်စကလေးများမှာမူ မိဖတို့ကဖွင့်ပေးသော ပါးစပ်ပေါက်ထဲမှအစာကို နှိုက်၍စားတတ်ကြသည်။ ခို၏စလုတ်ထဲ၌ နို့ရည်ကဲ့သို့သောအစာရည်ကို စုတ်ယူစားသောက်ကြသည်။ တင်ကျီးငှက်တို့၏စလုတ်တွင်း၌ တဝက်တပျက်ချေဖျက်ထားသော ငါးအပိုင်းအစတို့ရှိကြသည်။ ထိုအစာကို တင်ကျီးပေါက်စသည် ခိုပေါက်စကဲ့သို့ နှိုက်၍စားသောက်တတ်ကြသည်။

ပဌမ၌ ငှက်ငယ်များသည် ပိုးကောင်မွှားကောင်တို့ကိုစားသည်။ အနည်းငယ်ကြီးလာသော် သစ်သီး၊ ကောက်ပင်၊ ကောက်ဆန်စသည်တို့ကို စားသောက်နိုင်ကြသည်။ ငှက်ငယ်တို့သည် အစာကိုပါးစပ်ထဲသို့ထည့်ပေးရုံနှင့် မျိုမချနိုင်၊ မိဖတို့ကအာခေါင်အာရင်းသို့ ရောက်အောင် အစာကိုသွင်းပေးနိုင်မှသာ လည်ချောင်းမှ ကြွက်သားများလှုပ်ရှားမှုဖြင့် အစာသည်ဝမ်းတွင်းသို့ လျှောဆင်းနိုင်သည်။ ငှက်တို့ကို ဝမ်းနှင့်တန်ရုံချင့်၍ အစာကျွေးရသည်။ အစာပိုကျွေး၍ မဖြစ်နိုင်အောင် လည်ချောင်းကြွက်သားကို နဗ်ကြောတို့က ထိန်းထားသည်။ အစာပို၍ကျွေးမိလျှင်၊ ကြွက်သားများ မလှုပ်ရှားနိုင်တော့ချေ။

ငှက်ငယ်များကြီးထွားလာစေရန်၊ တနေ့တနေ့လျှင်ငှက်ငယ်၏ ကိုယ်အလေးချိန် တဝက်မှသည် ကိုယ်အလေးချိန်ဆတူအထိ အစာကျွေးရသည်။

### ငှက်အမွေးအတောင်

ငှက်ပေါက်စတို့၌ ကျောပြင်နှင့်ဦးခေါင်းထိပ်တွင် မွေးနုများပါလာတတ်ကြသည်။ သို့သော်ပိန်ညင်းနှင့် ပျံလွှားပေါက်စတို့မှာ ဦးပြည်းများသာဖြစ်သည်။ ငှက်တို့သည် ၇ ရက်မှ ၁၀ ရက်အတွင်း အမွေးအတောင်စုံတတ်သည်။ ၁၀ ရက်မှ ၁၄ ရက်အတွင်း ပျံသန်းတတ်လာသည်။ လင်းတနှင့်ပင်လယ်ဇင်ယော်ငှက်တို့ကား တနှစ်သားရှိမှ ပျံနိုင်ကြ၏။

ငှက်မွေးများကို သုံးစားခွဲခြားပေးနိုင်သည်။ ပဌမမှာ သားရေပေါ်တွင် ကပ်၍ပေါက်သော မွေးနုများဖြစ်သည်။ ထိုမွေးနုများမှာ အချမ်းလုံစေသောမွေးနုများတည်း။ ထိုမွေးနုအပေါ်ထပ်တွင် မိုးရေခံငှက်မွေးများ ဒုတိယအထပ်အနေနှင့်ပေါက်နေသည်။ တောင်ပံနှင့်အမြီးတို့တွင်ကား တတိယအမျိုးအစားဖြစ်သော ငှက်တောင်များဖြစ်သည်။ ထိုငှက်တောင်တို့သည်ပျံသန်းရာတွင်အသုံးဝင်သည်။

### ငှက်မွေးလဲခြင်း

ငှက်တို့သည် တနှစ်လျှင်နှစ်ကြိမ် အမွေးအတောင်လဲကြသည်။ နွေဦးပေါက်၌တကြိမ်၊ ဆောင်းဦးပေါက်၌တကြိမ် အမွေးလဲတတ်သည်။ ဤသို့အမွေးလဲသည်မှာ အစီအစဉ်ရှိသည်။ ဦးစွာ၌ အတွင်းကျသောအမွေးကို ပဌမလဲသည်။ ထိုအမွေးတဝက်ခန့်ရှည်သောအခါ ပြင်ဖက်ကျသောအမွေးသည် ကျွတ်လေသည်။ အမွေးကျွတ်၍ တဝက်ခန့်ပြန်ရှည်လာလျှင်၊ ထိုထက်ပြင်ဖက်ကျသောအမွေးသည် ကျွတ်ပြန်သည်။ ဤအစီအစဉ်အတိုင်း အမွေးလဲသည်။ တောဘဲစသည့်ငှက်တို့သည် တခါတရံမှသာ တောင်ပံကိုအသုံးပြု၍ ပျံသန်းကြသည်။ ထိုငှက်မျိုး၌ အမွေးလဲသည့်အခါ တကြိမ်တည်းနှင့် အပြီးလဲတတ်ကြသည်။ နွေဥတုအမွေးလဲချိန်၌

ငှက်တို့သည် တွေ့နေကျမြင်နေကျနေရာတွင် မတွေ့မမြင်ရ တော့ချေ။ တနေရာရာတွင် ပုန်းအောင်းနေလေ့ရှိသည်။ (ငှက်မွေး — ရှု။)

## ငှက်၏အသွေးအရောင်

အချို့ငှက်တို့သည် အမွေးအတောင်မလဲကြဘဲ၊ အရောင် အသွေး ပြောင်းတတ်ကြသည်။ ဆောင်းဥတု၌ ဗလက် ဗတ်ခေါ် ငှက်မည်းတို့၏ အမွေးအတောင်မှာ သံချေးရောင် ဖြစ်သည်။ နွေဦးပေါက်သို့ရောက်သော်၊ တဖြည်းဖြည်း ညိုမှောင်လာ၍ ဥအုချိန်တွင် ပိတုန်းရောင်ကဲ့သို့ နက်ပြောင် ပြောင်ဖြစ်လာသည်။

ငှက်မွေးတွင် အရောင်ဆဲမျိုး၏ အခြေခံအရောင်မှာ အမည်း၊ အညို၊ အနီနှင့်အဝါသာဖြစ်သည်။ သို့သော်အာ ဖရိကတိုက်၌တွေ့ရသော ငှက်တို့တွင် အစိမ်းရောင်ရှိသည်။ သို့သော်ထိုအစိမ်းရောင်၊ အပြာရောင်စသည်တို့မှာ အရောင် ဆဲကြောင့် ဖြစ်ပေါ်ခြင်းမဟုတ်၊ အမွေးအတောင် တို့ကို အလင်းရောင်လာဟပ်ရာမှထွက်ပေါ်လာသည့် အရောင်များ သာဖြစ်သည်။ တခါတရံ အရောင်ဆဲမဲ့သော ငှက်မျိုးကို လည်း တွေ့ရတတ်သည်။ ထိုငှက်တို့သည် အဖြူသို့မဟုတ် အပြောက်အပြောက်ရှိတတ်သည်။ အချို့ငှက်မျိုးတွင်အနီ ရောင်လွှန်ကဲ၍နေတတ်သည်။

ငှက်မျိုးတမျိုးထဲတွင် အဖိုအမ အသွေးအရောင် ကွဲပြား ခြားနားခြင်းရှိလျှင် ငှက်ဖို၏ အရောင်အဆင်းသည် ငှက် မထက်ပို၍ တောက်ပြောင်တတ်သည်။ တစ်ငှက်နှင့် ဖင် စာတို့၌ ထင်ရှားသောအသွေးအရောင်များရှိသည်။ ထို ကြောင့် လွယ်လင့်တကူမြင်ရသည်။ သို့သော် ပတ်ဝန်း ကျင်အရောင်နှင့်ရောနေတတ်သော စာကလေးများနှင့် ပင် လယ်ကမ်းရိုးတန်းရှိ ငှက်မျိုးတို့ကိုမူ ရုတ်တရက် သဲကွဲစွာ မြင်ရမည်မဟုတ်ချေ။ အသွေးအရောင် ထင်ထင်ရှားရှားရှိ သော ငှက်မျိုးတို့သည် သာမန်အားဖြင့်ဆိုလျှင် ထိတ်လန့် လွယ်သည့်ငှက်များဖြစ်၍ အနီးအပါးသို့ ချဉ်းကပ်၍မရတတ် ချေ။ သို့ရာတွင် အရောင်ဖျောက်ဖျက်ထားနိုင်သော ငှက် များ၏အနီးအပါးသို့မူကား၊ ချဉ်းကပ်မည်ဆိုက ချဉ်းကပ် နိုင်လေသည်။

**ငှက်ကုလား။** ။ငှက်ကုလားသည် လည်ပင်းနက်သော ငှက်ကျားမျိုးဖြစ်သည်။ ပါဏဗေဒအမည်မှာ 'ဇီနော်ရင်းခပ် အေရှတီကပ် အေရှတီကပ်' ဖြစ်သည်။

အလျား ၅၂ လက်မရှိ၏။ ဦးခေါင်း၊ လည်တိုင်နှင့်အမွေး အတောင်တို့၏ အရောင်မှာ နက်၏။ ကိုယ်ပေါ်၌ အဖြူ ရောင်အကွက်များ ရှိသည်။ ပျံသည့်အခါတွင် အဖြူနှင့် အနက်ရောင်နှစ်မျိုးစလုံးကို ထင်ရှားစွာမြင်ရသည်။ စ၍ ပျံချိန်တွင် တောင်ပံကိုမှန်မှန်ရိုက်ခတ်လျက်ပျံသည်။ အရှိန် ရသောအခါတွင် လေဟုန်စီးကာပျံသန်းသည်။

ငှက်ကုလားသည် အအုပ်အသင်းနှင့် နေလေ့မရှိချေ။ တ ကောင်တည်းဖြစ်စေ၊ စုံတွဲဖြစ်စေသာနေလေ့ရှိသည်။ သစ် ပင်ထိပ်များ၊ မြစ်ကမ်းနား၊ ရေအိုင်၏အနီးအနားတို့၌ ၂ ကောင်တွဲလျက်နေတတ်သည်။ ငှက်ကုလားတို့ ၂ ကောင် တွဲ၍ နေတတ်သည့်အလေ့မှာ အခြားမျိုးတူငှက်များနှင့် မတူသောထူးခြားချက်ဖြစ်သည်။

ငှက်ကုလားသည်ငါး၊ ဖား၊ တီကောင်၊ ကနန်းနှင့်ခရုတို့ ကိုစားသည်။ အသိုက်ကိုသစ်ပင်ထက်၌ ပြုလုပ်တတ်သည်။ တမြုံလျှင် ၃ ဥမှ ၅ ဥအထိရှိတတ်သော်လည်း ၄ ဥကိုသာ အတွေ့ရများသည်။ ဥ၏အရောင်သည်ပဌမတွင် ဖြူဖွေးနေ သော်လည်း နောက်တွင်တဖြည်းဖြည်းညိုမည်း၍လာသည်။ ငှက်အကောင်ကြီးသည့်အလျောက် ဥ၏အရွယ်မှာလည်း ပျမ်းမျှအလျား ၂.၉၀ လက်မနှင့်ပြက် ၂.၁၀ လက်မရှိသည်။ ဒီဇင်ဘာလနှင့် ဇန္နဝါရီလများတွင်သားပေါက်တတ်သည်။

ငှက်ကုလားသည် သီဟိုဠ်ကျွန်းနှင့်အိန္ဒိယနိုင်ငံများမှ ဩစ တြေးလီးယားတိုက်အထိ ပျံ့နှံ့စွာနေသည်။ မြန်မာနိုင်ငံ တွင် ငှက်ကုလားကို ယင်းနှင့် ရာသီဥတု သင့်လျော်သော ဒေသများ၌တွေ့ရသည်။

**ငှက်ကုလားအုပ်။** ။ငှက်ကုလားအုပ်ကိုပျံနည်းမေ့သော ငှက်ဟု အမည်ပေးလျှင် မှားမည်မဟုတ်ချေ။ ငှက်ကုလား



ငှက်ကုလား



မပျံနိုင်သဖြင့် သန်မာသောခြေထောက်ကိုသာ အားကိုးရသော ငှက်ကုလားအုပ်

အုပ်တွင်ရှိသော တောင်ပံတို့မှာ အလွန်သေးငယ်ကြသဖြင့် အခြားငှက်များကဲ့သို့ လေထဲ၌မပျံသန်းနိုင်ချေ။ သို့ရာတွင် သမိုင်းမတင်မီခေတ်အခါက ထိုငှက်မျိုးတွင် သန်စွမ်းသော တောင်ပံများရှိသဖြင့်၊ လေထဲတွင် အခြားငှက်များနည်းတူ ပျံသန်းနေကြမည်ဟု တွေးတောရပေသည်။ ငှက်ကုလားအုပ်သည် အကောင်ကြီး၍ အလွန်သန်မာသဖြင့် နှောင့်ယှက်မည့်ရန်သူ နည်းပါးသောကြောင့်၎င်း၊ အစာရေစာကို ခရီးဝေးသို့ သွားရောက်မရှာမဖွေရဘဲ၊ လွယ်လင့်တကူနှင့် ရနိုင်သောကြောင့်၎င်း၊ အတောင်ပံများကို အသုံးနည်းလာသည်။ သို့ဖြစ်၍ ယခုအခါမပျံသန်းနိုင်တော့ဟု ယူဆရလေသည်။ ငှက်ကုလားအုပ်သည် ပျံနည်းကိုမေ့ပြီဟုဆိုရမည် ဖြစ်သော်လည်း အလွန်သန်မာတောင့်တင်းသောခြေများရှိသဖြင့် အပြေးမြန်သော အာရပ်မြင်းကိုပင် ကြောအောင် ပြေးနိုင်လေသည်။

ကမ္ဘာပေါ်တွင် ယခုအခါ၌တွေ့ရသောငှက်တို့တွင် ငှက်ကုလားအုပ်သည် အကြီးဆုံးငှက်မျိုးဖြစ်သည်။ အာဖရိကတိုက်နှင့် အာရေဗျနိုင်ငံတွင်ရှိသော သဲကန္တာရများသည် ငှက်ကုလားအုပ်တို့၏ မူလကျက်စားရာဒေသဖြစ်ပေသည်။ ထိုသဲကန္တာရများတွင် ငှက်ကုလားအုပ်များကို မြင်းကျားနှင့် အန္တီလုပ်ခေါ် တောဆိတ်အုပ်များထဲ၌ တခါတရံထူးဆန်းစွာ တွေ့ရတတ်သည်။ အများအားဖြင့် ငှက်ကုလားအုပ်များသည် အဖိုတကောင်နှင့် အမ ၅ ကောင်မှ ၆ ကောင်အထိ ပါဝင်သော အုပ်များဖွဲ့၍နေလေ့ရှိကြသည်။

ငှက်ကုလားအုပ်တွင် တောင်ပံနှင့်အမြီးဟူ၍ မည်မည်ရရ မရှိချေ။ ကျောက်ကုန်းကလည်း မို့မောက်နေသည့် အပြင်၊ ရှည်လျား၍ကောက်နေသောလည်တံသည်လည်းအထက်သို့ ထိုးထွက်နေ၏။ ထို့ပြင်သန်မာသော ခြေတံရှည်ကြီးများ ရှိသည်။ ထို့ကြောင့်ငှက်ကုလားအုပ်ကို တကိုယ်လုံးခြုံ၍ ကြည့်လိုက်လျှင် ငှက်စင်စစ်ဖြစ်သည်ဟုမဆိုသာနိုင်အောင် အဆစ်အပိုင်းများ ပြေပြစ်ချောမောခြင်းမရှိချေ။ အရွယ်ရောက်သောငှက်ကုလားအုပ်ဖို၏ အရပ်အမောင်းမှာ အရပ်ရှည်ရှည်လူတယောက်ထက်ပင် မြင့်မားသည်။ ငှက်ကုလားအုပ်သည် ခြေဖျားမှ ဦးစွန်းတိုင်အောင် ၇ ပေမှ ၈ ပေ အထိရှိ၍ ကိုယ်အလေးချိန်မှာ ပေါင် ၁၅၀ မှ ပေါင် ၃၀၀ အထိရှိသည်။ ငှက်အဖို၏ကိုယ်မှာ မည်းနက်သောအမွေးအတောင်တို့ ဖုံးအုပ်နေသည်။ အလွန်သေးငယ်သော အတောင်ပံနှင့် အမြီးတို့မှာ ဆွတ်ဆွတ်ဖြူသည်။ တောင်ပံမွေးနှင့် အမြီးတို့မှာ အလွန်လှပသဖြင့် လူတို့သည် ဈေးကြီးပေး၍ ဝယ်ယူသုံးစွဲကြသည်။

ငှက်ကုလားအုပ်၏ ထူးခြားချက်တရပ်မှာ ခြေချောင်း ၂ ချောင်းသာပါရှိခြင်းဖြစ်သည်။ သို့ရာတွင် နေရင်းအရပ်ဖြစ်သော သဲကန္တာရပေါ်တွင် အလွန်မြန်စွာပြေးနိုင်သော ခြေဖဝါး များရှိသည်။ လမ်းလျှောက်နေသည့်အခါ ငှက်ကုလားအုပ်သည် လူများဟန်လုပ်၍လှမ်းသကဲ့သို့ တလှမ်းချင်းစိပ်စိပ်နှင့် မှန်မှန်လှမ်း၍သွားတတ်သည်။ ပြေးရမည်ဆိုလျှင် တနာရီလျှင်မိုင် ၃၀ ကျော်နှုန်းဖြင့် ပြေးနိုင်စွမ်းရှိသည်။ ငှက်ကုလားအုပ်မတို့တွင် ညိုမှိုင်းမှိုင်းအမွေးအတောင်ရှိ၍၊ အဖိုတို့လောက် အရပ်မမြင့်ချေ။ အဖိုတို့ထက် အမများသည် စိတ်ကောင်းပို၍ရှိလေသည်။ အဖိုတို့သည် အမများကိုယ့်ဖက်သို့ပါအောင် မြူဆွယ်ရာမှ အစ၊ အချင်းချင်းသတ်ပုတ်တတ်ကြသည်။

အမများသည် သဲကိုယက်ကော်ထုတ်ထားသောအသိုက်ကျင်းတခုထဲ၌ ၅ ကောင်ဖြစ်စေ၊ ၆ ကောင်ဖြစ်စေဝိုင်း၍ ဥချကြသည်။ တခါတရံ အမတကောင်က နေ့အခါ၌ ဥများပေါ်တွင်ဝပ်လေ့ရှိ၏။ သို့သော် အများအားဖြင့်အမတို့သည် ဥများကိုအုချပြီးနောက် အကောင်များပေါက်လာအောင် ဂရုတစိုက်နှင့်ဥများပေါ်တွင်ဝပ်နေလေ့မရှိကြချေ။ သဲကန္တာရတွင်းဖြစ်သည့်အလျောက် နေပူရှိန်ပြင်းပြလွန်း၍သာ ဥများမှ အကောင်ငယ်များပေါက်လာကြလေသည်။ အမအများပိုင် ဥကျင်းတကျင်းထဲတွင် ဥပေါင်း ၂၀ ကျော် ၃၀ အထိရှိတတ်သော်လည်း၊ ပေါက်ခါစငှက်ကလေးတို့အား ဥများကိုခွဲ၍ ကျွေးမွေးလေ့ရှိသဖြင့် တမြုံတွင် အကောင်ကလေးပေါင်း ၂၀ ထက်ပို၍မရှိကြချေ။ ညတွင်အစာရှာထွက်လေ့ရှိသော ခွေးအကဲ့သို့ သားရဲတို့၏ ရန်ကိုစိုးရိမ်ရသဖြင့်၊ ငှက်ကုလားအုပ်အဖိုသည် ဥများပေါ်၌တညလုံးဝပ်၍

စောင့်ရှောက်လေသည်။ ငှက်ကုလားအုပ်ဥသည် ကြက်ဥထက် ၁၈ ဆခန့်အရွယ်ရှိ၍ ဥတလုံးတလုံးလျှင် ၃ ပေါင်ခန့်လေးသည်။ ဥများမှာစားကောင်းသော်လည်းမိနစ် ၄၀ မျှကြာအောင်ပြုတ်မှကျက်သည်။

ငှက်ကုလားအုပ်အဖိုသည် ငှက်မနှင့် ငှက်ကလေးတို့အား ကောင်းမွန်စွာထိန်းသိမ်းစောင့် ရှောက်သည်။ သူတို့အား နှောင့်ယှက်လျှင် အလွန်သန်မာသောခြေတို့ဖြင့် ရှေ့သို့ဖြစ်စေ၊ ဘေးသို့ဖြစ်စေ ကန်ကျောက်တတ်သည်။ လူပင်ဖြစ်စေ၊ မြင်းပင်ဖြစ်စေ ယင်းသို့အကန်ခံရလျှင်သေတတ်သည်။ မိတ်လိုက်ချိန်၌ အဖိုသည် လည်တံကိုပွလာစေ၍၊ နှုတ်သီးကိုကျုပ်တည်းစွာပိတ်လျက် နွားသိုးအော်သံကဲ့သို့ အော်တတ်သည်။

ငှက်ကုလားအုပ်များကို ခရစ် ၁၈၅၀ ပြည့်နှစ်လောက်မှစ၍ လူတို့မွေးမြူထားကြသည်။ ထိုစဉ်အခါက အာဖရိကတိုက်မြောက်ပိုင်းရှိ ပြင်သစ်ပိုင် အယ်လဂျီးယားနယ်နှင့် အင်္ဂလိပ်ပိုင်တောင်ပိုင်းနယ်များတွင် ငှက်ကုလားအုပ်တို့ကို အမွေးအတောင်များအတွက် မွေးမြူကြလေသည်။ ယခုအချိန်တွင် အမေရိကန်ပြည်ထောင်စုနှင့် ဩစတြေးလီးယားတိုက်များ၌ ငှက်ကုလားအုပ်မွေးမြူသည့်လုပ်ငန်းထွန်းကားလျက်ရှိသည်။ အမေရိကန်ပြည်ထောင်စုတွင် ကာလီဖိုးနီးယား၊ အယ်ရီဇိုးနား၊ တက်ဆက်နှင့်ဖလော်ရီဒါပြည်နယ်များ၌ ထိုငှက်များကိုမွေးမြူကြ၏။ ငှက်ကုလားအုပ်ကိုယ်မှအကောင်းဆုံး၊ အလှဆုံးအမွေးအတောင်တို့ကို တနှစ်လျှင်နှစ်ကြိမ်ကျညှပ်ယူလေ့ရှိသည်။ ယင်းသို့အမွေးအတောင်တို့ကို ညှပ်ယူပြီးနောက် မကြာမီအတွင်း အမွေးသစ်များထွက်လာပြန်သည်။



ဩစတြေးလီးယားတိုက်ဇာတိဖြစ်သော အီးမျူးခေါ် ငှက်ကုလားအုပ်ပု

ဥမှပေါက်ခါစငှက်ကလေးမှာ ကြက်မတန်းကလေးအရွယ်ရှိ၍၊ ၆ လအတွင်း အရွယ်ရောက်သည့်ငှက်ကြီးနီးပါး ရှိလာသည်။ ၆ လသားအရွယ်ငှက်များမှ အမွေးအတောင်များ ညှပ်ယူရရှိနိုင်သော်လည်း၊ ငှက်မတို့သည် အသက် ၄ နှစ်ခန့်ရှိမှ အရွယ်ရောက်ရှိလာသည်။ ငှက်ကုလားအုပ်အချို့သည် အနှစ် ၁၀၀ အထိပင်အသက်ရှည်ကြသဖြင့် ငှက်ကုလားအုပ်သည် အလွန် သက်တမ်းရှည်သော ငှက်မျိုး ဖြစ်သည်ဟု ဆိုရပေမည်။ ငှက်ကုလားအုပ်ကဲ့သို့ မပျံတတ်သောအခြားငှက်မျိုးများမှာ တောင်အမေရိကတိုက်၌တွေ့ရသော ရီးငှက်၊ အမေရိကန်ငှက်ကုလားအုပ်၊ ဩစတြေးလီးယားတိုက်၌တွေ့ရသော အီးမျူးနှင့် ကက်ဆိုဝရီငှက်မျိုးတို့ဖြစ်ကြသည်။ ငှက်ကုလားအုပ်၊ ရီးနှင့် အီးမျူးငှက်တို့မှာ လွင်ပြင်များတွင်ကျက်စား၍၊ ကက်ဆိုဝရီငှက်မှာ သစ်တောများ၌ ကျက်စားလေသည်။

**ငှက်ကုလားအုပ်ပု။** ။အီးမျူးခေါ် ငှက်ကုလားအုပ်ပုမျိုးမှာ ဩစတြေးလီးယားတိုက်ပင်ရင်းဇာတိဖြစ်သည်။ ငှက်ကုလားအုပ်မျိုးကဲ့သို့ပင် မြေပြန့်လွင်ပြင်များတွင်သာကျက်စားလေ့ရှိသည်။ ဤငှက်မျိုး၏ငှက်မွေးငှက်တောင်သည်အခြားငှက်မွေးငှက်တောင်များကဲ့သို့အဆင်းအရောင်တောက်ပြောင်ခြင်းမရှိပေ။ ငှက်ကုလားအုပ်ကလွဲလျှင် ဤငှက်မှာအထွားကျိုင်းဆုံးငှက်မျိုးဖြစ်လေသည်။ အရပ် ၅ ပေခန့်မြင့်၍ ကိုယ်လုံးကိုယ်ထည်မှာ ငှက်ကုလားအုပ်ထက်အနည်းငယ်မျှသေးငယ်သည်။ လွင်ပြင်ကျယ်ကြီးများနှင့် မြေပြန့်တောများထဲတွင်ကျက်စားတတ်သည်။

ငှက်ကုလားအုပ်ပုသည် သားပိုက်ကောင်များနှင့်ပင် ပြိုင်၍ပြေးနိုင်သည်။ မြေပေါ်တွင်ဖြစ်မူ ငှက်ကုလားအုပ်ပုကို မြင်းများပင်မှီအောင် လိုက်နိုင်ရန်ခဲယဉ်းလှသည်။ ခြေကုန်လက်ပမ်းကျ၍ မပြေးနိုင်သောအခါမှသာဖမ်းမိနိုင်သည်။ ဖမ်းဆီးသည့်အခါ၌လည်း အနီးသို့ရုတ်တရက်မကပ်နိုင်ပေ။ အဘယ်ကြောင့်ဆိုသော် သန်မာလှသောခြေထောက်များဖြင့် ချဉ်းကပ်လာသူကို အပြင်းအထန် ကန်ကျောက်တတ်သောကြောင့်ဖြစ်သည်။ ကန်ကျောက်ရာတွင် နွားဆိုးကြီးများကဲ့သို့ နံဘေးနှင့်အနောက်ဖက်သို့သာကန်ကျောက်တတ်သည်။ ငှက်ကုလားအုပ်များ အရှေ့ကိုကန်ကျောက်ဘိသကဲ့သို့ မကန်ကျောက်နိုင်ချေ။

ငှက်ကုလားအုပ်ပု၏အစာမှာ အထူးသဖြင့် ဟင်းသီးဟင်းရွက်၊ အသီးအပွင့်နှင့် သစ်ဥသစ်ဖုတို့သာဖြစ်သည်။ ငှက်အရိုင်းတမျိုးပင်ဖြစ်

သော်လည်း ငှက်ကုလားအုပ်ပုကို ယှဉ်ပါးအောင် သွန်သင်ပေး၍ရနိုင်သည်။ ဥများကို သဲမြေထဲတွင်သာ အုလေ့ရှိပြီး၊ ဥအရွယ်အစားမှာ ငှက်ကုလားအုပ်ဥ၏အရွယ်နှင့် အတူတူလောက်ပင်ရှိသည်။ အရောင်မှာ အစိမ်း သို့မဟုတ် ပြာမှိုင်းမှိုင်းဖြစ်သည်။ တကြိမ်လျှင် ဥပေါင်း ၉ ဥမှ ၁၃ ဥအထိအုတတ်သည်။



ရေစပ်တွင်ကျက်စားလေ့ရှိသောငှက်ကျား

**ငှက်ကျား။** ။ငှက်ကျားကိုမြင်ရုံနှင့် ငှက်ကျားမှန်းသိသာနိုင်သည်။ ရှည်လျားသော ခြေထောက်၊ လည်တံ၊ နှုတ်သီးတို့သည် အခြားငှက်များမှာထက် ထူးကဲစွာပေါ် လွင်လျက်ရှိသည်။ ငှက်ကျားသည်ရေစပ်တွင် ကျက်စားလေ့ရှိသောငှက်မျိုးဖြစ်သည်။ အလျား ၅ ပေခန့်ရှိသည်။

သာမန်ငှက်ကျားဖြူ၏ပါဏဗေဒအမည်မှာ 'စီကိုနီးယားအဲလဗာ' ဖြစ်သည်။ ထိုငှက်ကျားမျိုးကိုဥရောပတိုက်တွင် ဆွီဒင်၊ စပိန်၊ ဂရိ၊ ဒိန်းမတ်၊ ဟော်လန်နိုင်ငံများ၌ တွေ့ရသည်။ မြန်မာနိုင်ငံတွင်ကားမရှိ။ ဆောင်းရာသီ၌ ငှက်ကျားများကို အာဖရိကတိုက်နှင့်အိန္ဒိယနိုင်ငံများတွင်လည်း တွေ့ရသည်။ ဩစတြေးလီးယားနှင့် တောင်အမေရိကတိုက်တို့တွင်လည်း ငှက်ကျားများအသင့်အတင့်ရှိသည်။

မြန်မာနိုင်ငံ၌တွေ့ရသော ငှက်ကျားမျိုးမှာ 'အိုင်ဗစ်လျူကိုစက်ဖာလယ်' ဖြစ်သည်။ အလျားလက်မ ၄၀ ရှိ၏။ နှုတ်သီးနှင့်မျက်နှာ၌ လိမ်မော်ရောင်ရှိ၏။ အမြီးအရောင်သည် ပန်းရောင်ဟူ၍ ထင်ရသော်လည်း အမှန်မှာအမွေးအတောင်တို့၏ အတွင်းဖက်ပိုင်း၌သာ ပန်းရောင်ရှိသည်။ ပျံသန်းသောအခါ ကိုယ်ထည်သည်ဖြူ၍ အတောင်နှင့်အမြီးမည်းနေသည်ကိုတွေ့ရသည်။ မြန်မာနိုင်ငံတွင် ရေလျှံသောလယ်ကွင်း၊ ရေအိုင်ဘေးနှင့် ရွှံ့တောပွက်တောဒေသများတွင် ကျက်စားလေ့ရှိ၏။ ကမ်းခြေရှိလတာပြင်များတွင် အအုပ်အသင်းနှင့်နေသည်ကိုတွေ့ရ၏။

ငှက်ကျားသည် အသိုက်ကို အဆောက်အအုံများပေါ်တွင်ရင်း၊ သစ်ပင်များပေါ်တွင်ရင်း ပြုလုပ်တတ်သည်။ အနောက်နိုင်ငံများတွင် ငှက်ကျားများအတွက် အသိုက်ဆောက်လုပ်ရန်နေရာများကိုပင် ပြုလုပ်ပေးထားကြသည်။ ငှက်ကျားများသည် နှစ်စဉ်နှစ်တိုင်း အသိုက်ဟောင်းနေရာသို့ပြန်လာလေ့ရှိကြသည်။ ငှက်ကျားများစားသောအစာမှာ ဖားနှင့်ပိုးမွှားများဖြစ်သည်။ ငှက်ကျားသည်အသံမပြုတတ်ဟုဆိုသည်။

ငှက်ကျားနှင့် မျိုးချင်းတူသောအခြားငှက်များမှာ ခရုစုတ်၊ ဗျိုင်း၊ ကြိုးကြာ၊ ငဟစ်၊ ငှက်ကြီးဝံပိုစပ်၊ နှုတ်သီးပြာငှက်ကျား၊ ဇွန်းနှုတ်သီးငှက်မျိုးများ ဖြစ်ကြသည်။ ငှက်ကျားအမည်ဖြင့် မြန်မာနိုင်ငံ၌တွေ့ရသော ငှက်အငယ်စားမျိုးရှိသေးသည်။ ထိုငှက်၏ပါဏဗေဒအမည်မှာ 'ဆက်ဇီကိုလာ ကက်ပရာတာ ဗာမင်နီကား' ဖြစ်သည်။ အလျား ၅ လက်မခွဲရှိသည်။ ငှက်ဖိုတွင် နက်ပြောင်သော အမွေးအတောင်များရှိ၏။ နံဘေးနှင့်ရင်အုပ်တို့မှာဖြူ၏။ အမြီးကိုဦးခေါင်းနှင့်ထိလုနီးပါး ကော့ထောင်ထားတတ်သည်။ ငှက်မသည် ငှက်ဖိုနှင့်အသွင်အပြင်တူ၏။ သို့ရာတွင် အရောင်အဆင်းမှာ ငှက်ဖိုလောက်မနက်လှဘဲ ညိုတိုတိုဖြစ်သည်။

ဤငှက်ကျားကို လတာပြင်ဒေသများနှင့် ချုံဖုတ်တောများတွင်အတွေ့ရများသည်။ အသံမှာ ကျောက်ခတ်သံမျိုးကဲ့သို့ဖြစ်သည်။ သာယာသောအသံဖြင့်လည်း မြည်ကြွေးတတ်သည်။ ပိုးတုံးလုံး၊ ပေါက်ဖတ်နှင့်တီကောင်များကိုစားလေ့ရှိသည်။ ဧပြီလမှဇွန်လအတွင်း ငှက်ကျားငယ်များပေါက်သည်။ အသိုက်ကို ပင်မြင့်ပေါ်တွင်မလုပ်ဘဲ၊မြေပြင်ပေါ်တွင်ရင်း၊ မြက်ခင်းအောက်တွင်ရင်း၊ ကျင်းများတွင်ရင်းပြုလုပ်သည်။ ခွက်ငယ်နှင့်တူသောအသိုက်ကို မြက်ပင်၊ သစ်မြစ်များဖြင့်ပြုလုပ်၍ ဘေးပတ်လည်တွင် အမွေးအမှင်များဖြင့် သပ်ရပ်စွာကာရံထားတတ်သည်။ တမြုလျှင် ၃ ဥမှ ၅ ဥအထိရှိသည်။ ဥအရောင်မှာ ပြာလဲ့လဲ့ သို့မဟုတ် အဖြူတွင်ပန်းရောင်နုဖြစ်သည်။ အညိုပြောက်ကလေးများကိုလည်းတွေ့ရ၏။ ဤငှက်ကျားမျိုးကို အရှေ့တိုင်းနိုင်ငံများတွင် အနှံ့အပြားတွေ့နိုင်သည်။

**ငှက်ကြီးခုံးစပ်။** ။ငှက်ကြီးဝံပိုစပ်သည် ငှက်ကျားမျိုးရင်းဝင်ဖြစ်သည်။ ခြေတံနှင့်နှုတ်သီးရှည်၍ အကြည့်ရအလွန်ဆိုးသော ငှက်မျိုးဖြစ်၏။ ရပ်နေသောအခါ ၅ ပေခန့်မြင့်၍

အတောင်များကိုဖြန့်ကာ တိုင်းတာလျှင် တဖက်ဖျားမှ တဖက်ဖျားသို့ ၁၄ ပေမျှပင်ရှိတတ်သည်။

ငှက်ကြီးဒုံးစပ်သည် ငါးများ၊ ဖားများ၊ မြွေများမှအစ ပုပ်ရိနေသောအသေကောင်များကို စားသောက်တတ်၏။ ထိုသို့အပုပ်အစပ်များကို ရှင်းလင်းပေးတတ်သဖြင့်၊ အိန္ဒိယနိုင်ငံတွင် အစိုးရတို့သည် ထိုငှက်များအား မသတ်ဖြတ်ရန် ဥပဒေဖြင့် ကာကွယ်ပေးထားလေသည်။ ငှက်ကြီးဒုံးစပ်များကို အာရှတိုက်တောင်ပိုင်းနှင့် အာဖရိကတိုက်တွင်တွေ့ရသည်။ အိန္ဒိယနှင့်မြန်မာနိုင်ငံတို့၌ တွေ့ရသော ငှက်ကြီးဒုံးစပ်မျိုးကို ပါဏဗေဒအမည်ဖြင့် 'လက်တိုတိုင်လပ် ဒျူဗီယပ်' ဟုခေါ်သည်။ ဂျားဗားကျွန်း၌ တွေ့ရသောအမျိုးကို 'လက်တိုတိုင်လပ် ဂျာဗန်နစ်ကပ်' ဟုခေါ်သည်။ ယင်းကို မြန်မာတို့က ဒုံးမြီးကွက်ဟုခေါ်ကြသည်။



သမပိုင်းနှင့်အပူပိုင်းဒေသတို့တွင်တွေ့ရသောငှက်ကြီးဝံပိုများ



ငှက်ကြီးဒုံးစပ်

**ငှက်ကြီးဝံပို။** ။ငှက်ကြီးဝံပိုသည် ကိုယ်ပုံပန်းအချိုးအစားမကျသောငှက်ဖြစ်သည်။ နှုတ်သီးမှာ သာမန်ငှက်၏နှုတ်သီးနှင့်မတူဘဲ၊ ကိုယ်လုံးကိုယ်ထည်နှင့်မလိုက်အောင်ပင် ရှည်လျား၏။ အဖျား၌အတန်ငယ်ကောက်နေ၏။ ခြေထောက်များမှာတိုသော်လည်း၊ ဘဲခြေကဲ့သို့ခြေဖဝါးများပါရှိသည်။

ဤငှက်မျိုးကိုသမပိုင်းဒေသများတွင်၎င်း၊ အပူပိုင်းဒေသများတွင်၎င်းတွေ့ရသည်။ ငှက်ကြီးဝံပို မျိုးစိတ်ပေါင်း ၁၀ မျိုးခန့်ရှိ၏။ ငှက်ကြီးဝံပိုအကြီးစားမှာ အရပ်အမြင့် ၅ ပေကျော်ကျော် ၆ ပေခန့်ရှိပြီး အတောင်ဖြန့်လိုက်သောအခါ အလျား ၁၀ ပေမျှရှိသည်။ သာမန်ငှက်ကြီးဝံပိုမျိုးကို ဥရောပတိုက်တောင်ဖက်ပိုင်းနှင့် အာရှတိုက်၊ အာဖရိကတိုက်များတွင်လည်းတွေ့ရသည်။ ယင်း၏ပါဏဗေဒအမည်မှာ 'ပယ်လီကင်နပ် အိုနိုကရိုတဲလပ်' ဖြစ်သည်။ မြန်မာနိုင်ငံနှင့်ဖိလစ်ပိုင်ကျွန်းစုများတွင် တွေ့ရသော ဝံပိုမျိုးမှာ 'ပယ်လီကင်နပ် ဖိလစ်ပင်ဆစ်' မျိုးဖြစ်သည်။

ငှက်ကြီးဝံပိုတို့သည် မြစ်နှင့်ရေအိုင်ကမ်းပါး အနီးအနားတွင် အစုလိုက်အအုပ်လိုက်နေတတ်ကြသည်။ အပေါင်းအသင်းနှင့်အစုအအုပ်ဖွဲ့၍ နေတတ်ရုံသာမကသေးဘဲ အစာရှာရာတွင်လည်း အတူတူစုရုံး၍ တပျော်တပါးကြီးအစာရှာထွက်လေ့ရှိသည်။ အုသည့်အခါတွင် တခါအုလျှင် ၂ ဥမှ ၃ ဥအထိသာ အုတတ်သည်။ ဥများမှာ အများအားဖြင့် အဖြူရောင်ဖြစ်သည်။ ဩစတြေးလီးယားတိုက်တွင် ငှက်ကြီးဝံပိုမျိုး တမျိုးတည်းသာရှိသော်လည်း၊ အမေရိကတိုက်တွင်ကား ဤငှက်မျိုးပေါင်း မြောက်မြားစွာရှိသည်။

**ငှက်ခါး။** ။ငှက်ခါးသည် မိုးခေါင်ငှက်နှင့်အတူ 'ကိုရာစီးဒေး' မျိုးရင်းတွင်ပါဝင်သည်။ ပါဏဗေဒအမည်မှာ 'ကိုရာစီယပ်ဗင်ဂါလင်ဆစ်' ဖြစ်သည်။ နီလာစိမ်းရောင် ငှက်ခါးတောင်ဟုဆိုသည့်အတိုင်း ငှက်ခါးသည်စိမ်းပြာရောင်ရှိသောငှက်ဖြစ်၍ ဦးခေါင်း၊ ရင်အုပ်နှင့် ကျောတို့မှာ အပြာဖျော့ရောင်ရှိသည်။ အတောင်နှင့်အမြီးတို့၏အရောင်များသည် အလွန်ပြာသည်။ ဦးခေါင်းမှာကြီး၏။ ငှက်ခါးပျံသန်းသောအခါ အတောင်ကိုလေးလံစွာခတ်သည်။ ကြာရှည်ကားမပျံချေ။ ငှက်ခါး၏အလျားမှာ ၁၃ လက်မခန့်ရှိ၏။

ငှက်ခါးသည်စူးစူးရှရှအော်တတ်ယည်။ ငှက်ခါးကလေးများသည် မိခင်ငှက်မ ယူလာသောအစာကို ဆူညံစွာဟစ်အော်တောင်းဆို၍ အငမ်းမရ စားမျိုတတ်ကြသည်။

ငှက်ခါးသည်မြင်ကွင်းကောင်းသောနေရာ၌ဖြစ်စေ၊ ကြေး

နန်းကြိုးပေါ်၌ဖြစ်စေ နားကာ အစာကိုငြိမ်သက်စွာစောင့်စားနေတတ်သည်။ အစာကိုမြင်သည်နှင့်တပြိုင်နက် တရှိန်ထိုးဆင်း၍ အမိဖမ်းပြီးနောက် နားနေကျနေရာသို့ပြန် သွားတတ်သည်။ ပလူ၊ ပုရစ်၊ နှံကောင်၊ ပိုးတုံးလုံးနှင့်ပေါက်ဖတ်များကိုဖမ်း၍စားတတ်သည်။ ရနိုင်သည့်အခါ ဖားကိုလည်းစားသည်။ မြေပေါ်တွင် ခုန်ဆွခုန်ဆွနှင့် လေးလံစွာသွားသော်လည်း သစ်ကိုင်းပေါ်တွင်မူ ခုန်၍မသွားချေ။ တကိုင်းမှတကိုင်းသို့ပျံ၍ကူးသည်။ အတောင်ကိုပြင်းစွာရိုက်ခတ်ပြီး လေထဲတွင် နိမ့်လိုက်မြင့်လိုက်ဂျမ်းထိုးလိုက်လုပ်တတ်သည်။

ငှက်ခါးသည်အများအားဖြင့် အသိုက်ကို သစ်ပင်အခေါင်းတွင်ပြုလုပ်သည်။ တခါတရံ ဆက်ရက်လည်နက်၊ ငှက်ကျားစသောငှက်များ၏အသိုက်ဟောင်းကို အသုံးပြုသည်။ တမြုံလျှင် ၄ ဥမှ ၅ ဥအထိရှိတတ်သည်။ ဥသည် ရှည်မျော မျောဖြစ်၏။ ဥခွံသည် မာချောပြောင်လက်ပြီး ဆွတ်ဆွတ်ဖြူသည်။ မတ်လမှမေလ အတွင်းတွင် ငှက်ခါးကလေးများပေါက်ကြသည်။

ငှက်ခါးကို အရှေ့တိုင်းနိုင်ငံများတွင် အနှံ့အပြားတွေ့နိုင်သည်။ မြန်မာနိုင်ငံတွင် ကွင်းပြင်များ၌အတွေ့ရများသည်။ သင့်တော်သောအခြေအနေရှိလျှင် တောင်ပေါ်၌လည်းတွေ့နိုင်သည်။

ငှက်ခါး

**ငှက်ခြောက်မင်။** ။ယူကလစ်တပ်ပင် — ရှု။

**ငှက်စိမ်း။** ။ပါဏဗေဒအခေါ်၌ ‘ကလိုရော့ဆစ် အော်ရီဖရွံပရီဒီး’ အမည်ရှိသောငှက်စိမ်းသည် အလျား ၇½ လက်မခန့်ရှိသည်။ ငှက်ဖို၏မေးစေ့သည်မည်းနက်၍ လည်ချောင်းတဝိုက်တွင်ရွှေဝါရစ်ရှိသည်။ ငှက်မတွင်ရွှေဝါရစ်မရှိချေ။ ထိုငှက်စိမ်းသည် ထူးဆန်းအံ့သြဖွယ်ကောင်းလောက်အောင် အခြားငှက်များ၏အော်မြည်သံကိုအတုခိုး၍ အော်မြည်နိုင်သည်။ ယင်းသို့အော်မြည်နေသည့်ကြားထဲမှာပင် အလွန်သာယာစွာလည်းကြွေးကြော်တတ်သေးသည်။

ငှက်စိမ်းသည် သစ်ပင်ထိပ်ဖျား၌အနေများ၍ တခါတရံ၌သာ မြေသို့ဆင်းလာတတ်သည်။ ဖူးပွင့်နေသောလက်ပံပင်များ၌ ကျက်စားလေ့ရှိသည်။ ငှက်စိမ်း၏အစာမှာ ပိုးကောင်၊ မွှားကောင်၊ သစ်စေ့၊ သစ်သီး၊ပန်းပွင့်ဝတ်ဆံများဖြစ်သည်။

ဤငှက်စိမ်းကို အရှေ့တိုင်းနိုင်ငံများတွင် အနှံ့အပြားတွေ့ရသည်။ မြန်မာနိုင်ငံတွင် ကွင်းပြင်များနှင့် ပေ ၄,၀၀၀ အထိမြင့်သော တောင်ကုန်းများ၌တွေ့ရသည်။

ပါဏဗေဒအမည် ‘ကလိုရော့ဆစ် ကိုချင်ချိုင်နန်ဆစ် ကိုချင်ချိုင်နန်ဆစ်’ ဟုခေါ်သော ငှက်စိမ်းတမျိုးကိုလည်း မြန်မာနိုင်ငံ၌တွေ့ရသည်။ ထိုငှက်စိမ်းသည် မြန်မာနိုင်ငံအနှံ့အပြားတွင် မြေပြန့်သစ်တောများ၌ရင်း၊ တောင်ခြေများ၌ရင်း နေထိုင်သည်ဟုထင်ရသည်။

ဤငှက်စိမ်းသည် အလျား ၇ လက်မခန့်ရှိသည်။ ငှက်ဖို၏လည်ချောင်းသည် မည်းနက်၍ ငှက်မ၏လည်ချောင်းသည် စိမ်းပြာရောင်ရှိသည်။ ငှက်ဖိုတွင်မျက်စိမှ လည်တံကိုပတ်နေသော အဝါရစ်ကိုတွေ့ရ၏။ ငှက်မတွင် ထိုအဝါရစ်မရှိချေ။ အလေ့အကျင့်တွင်ရင်း၊ အစာတွင်ရင်း အခြားငှက်စိမ်းများနှင့်တူသည်။ အလွန်သာယာစွာမြည်ကြွေးတတ်သောငှက်ဖြစ်သည်။

**ငှက်တာလိုင်း။** ။စစ်တလိုင်း — ရှု။

**ငှက်တော်။** ။ငှက်တော်သည် လင်းမြီးဆွဲငှက်နှင့်အတူ ‘ဒိုင်ကရူရီဒေး’ မျိုးရင်းတွင်ပါဝင်သည်။ ငှက်တော်မျိုးအများပင်ရှိသည်။ ပါဏဗေဒအမည်ဖြင့် ‘ဒိုင်ကရူရပ်ပါရာဒီဆီယပ် ရန်ဂွန်နန်ဆစ်’ ဟုခေါ်သော ငှက်တော်ကို ငှက်တော်မြီးရှည်ဟူ၍ သိကြသည်။ ကျီးကန်း၊ လင်းမြီးဆွဲငှက်တို့ကဲ့သို့ သပိတ်ရောင်အဆင်းရှိသည်။ ကိုယ်အလျား ၁၄ လက်မရှိ၍၊ ရှည်လျားသောအမြီးခွသည် ၁၃ လက်မအထိထိုးထွက်နေသည်။



ငှက်စိမ်း


ငှက်တော်

ဤငှက်တော်သည် အသံအမျိုးမျိုးပြု၍ အော်တတ်သည်။ အခြားငှက်များ၏ အသံကိုလည်း အတုခိုး၍ အော်တတ်သည်။ ထိုငှက်၏အော်သံကို တနေ့လုံး အဝေးကပင်ကြားနိုင်သည်။ ၆ ကောင်ခန့် အသင်းအပင်းဖွဲ့၍ နားနေရာမှမကြာခဏ ထပျံ၍ ပိုးမွှားများကို ထိုးသုတ်တတ်ကြသည်။ ထိုနောက် နားနေရာသို့ တဖန်ပြန်လာတတ်ကြသည်။ မတ်လမှမေလအတွင်းတွင်ငှက်တော်ကလေးများ ပေါက်ကြသည်။ အသိုက်ကို ပင်မြင့်ပေါ်၌ လုပ်တတ်သည်။ တမြုံလျှင် ၃ ဥမှ ၄ ဥအထိရှိသည်။ ဥမှာရှည်မျှောမျှော၊ ခပ်ချွန်ချွန်ဖြစ်သည်။ ဥအရောင်မှာ အဖြူအောက်ခံပေါ်တွင်အနီ၊ အညို၊ ခရမ်းရောင် အပြောက်အစက်များရှိသည်။

ဤငှက်တော်မျိုးကို အရှေ့တိုင်းနိုင်ငံများတွင် အနှံ့အပြားတွေ့ရသည်။ မြန်မာနိုင်ငံ၌ ပဲခူးရိုးမတောင်ရှိကျွန်းတောများတွင် အမြင်ရများသည်။ တောင်ခြေရှိသစ်တောများတွင် နေလေ့ရှိသည်။ ပေ ၃,၀၀၀ ထက်မြင့်သောအရပ်ဒေသတွင် မနေကြချေ။


ငှက်ပုစဉ်းထိုး

**ငှက်ပုစဉ်းထိုး။** ။ငှက်ပုစဉ်းထိုးကို ပုစဉ်းထိုးဟူ၍ လည်းခေါ်သည်။ ပါဏဗေဒအမည်မှာ 'မီရော့ အိုရီယင်တာလစ် ဗာမင်နပ်' ဖြစ်သည်။ တကိုယ်လုံးတွင် တောက်ပသောအစိမ်းရောင်ရှိသည်။ ဦးခေါင်းနှင့် အတောင်များ၌ကြေးနီရောင်လွှမ်းနေသည်။ မျက်လုံးနီ၍တောက်သည်။ အမြီး၏အလယ်၌ ၂ လက်မခန့် ထိုး၍ထွက်နေသော အမွေးများရှိသည်။

ပုစဉ်းထိုးသည် ပျား၊ ပုစဉ်းနှင့်ပိုးမွှားများကို ပျံသန်းနေစဉ်ပင် ဖမ်းယူစားတတ်သည်။ ကြေးနန်းကြိုး၊ သစ်ပင်၊ ချုံဖုတ်စသည်တို့တွင် နားနေတတ်သည်။ ပုစဉ်းထိုး၏အသံမှာ သာယာသော်လည်းပြောင်းလဲခြင်းမရှိ၍ငြီးငွေ့ဖွယ်ကောင်းသည်။ သဲထူထပ်၍ ဒီရေမရောက်သောပင်လယ်မြစ်ကမ်းပါးများတွင် နှုတ်သီးဖြင့်တွင်းတူး၍ ဥအုတတ်သည်။

ငှက်ပုစဉ်းထိုးများကို အီဂျစ်နိုင်ငံမှ ယိုးဒယားနိုင်ငံ၊ ကိုချင်ချိုင်းနားနိုင်ငံတို့အထိ အနှံ့အပြား တွေ့ရသည်။ မြန်မာနိုင်ငံတွင် ကွင်းပြင်များ၌၎င်း၊ ထိုငှက်နှင့်သင့်လျော်သော အခြေအနေရှိသည့်တောင်ကုန်းများ၌၎င်း တွေ့ရသည်။

အခြားထင်ရှားသော ငှက်ပုစဉ်းထိုးများမှာ ပုစဉ်းထိုးမြီးပြာနှင့် ပုစဉ်းထိုးခေါင်းညိုတို့ဖြစ်သည်။ ပါဏဗေဒအရပုစဉ်းထိုးမြီးပြာမှာ 'မီရော့ ဖိလစ်ပီနပ် ဖိလစ်ပီနပ်' ဖြစ်၍ ပုစဉ်းထိုးခေါင်းညိုမှာ 'မီရော့ လေချင်နော်လတီ လေချင်နော်လတီ' ဖြစ်သည်။ ဤငှက် ၂ မျိုးလုံးကို အရှေ့တိုင်းနိုင်ငံများတွင်အနှံ့အပြားတွေ့ရသည်။

**ငှက်ပန်းထိမ်။** ။ငှက်ပန်းထိမ်သည် ဖိုးခေါင်ငှက်၊ ကုပ်ကလောင်ငှက်တို့နှင့်အတူ 'ကက်ပီတွန်နီဒေး' မျိုးရင်းတွင်ပါဝင်သည်။ ပါဏဗေဒအမည်မှာ 'မီကါလာအီမာ ဟီမာစီဖာလာ အင်ဒီကာ' ဖြစ်သည်။ အလျား ၆ လက်မခန့်ရှိသည်။ ကိုယ်လုံးကိုယ်ထည်တုတ်ခိုင်သည်။ မေးစေ့နှင့်လည်ပင်းတွင်အဝါရောင်ရှိသည်။ ရင်အုပ်တွင်ပန်းနုရောင်ရှိသည်။ အောက်ပိုင်းမှာ ဝါကြန့်ကြန့်အရောင်တွင် အစိမ်းရောင်ကျားနေသည်။

ဤငှက်သည် ကွင်းပြင်များတွင်သာမက မြို့ကြီး များသို့လည်း လာရောက် ကျက်စားတတ်သည်။ သစ်ပင်ထူထပ်သောနေရာနှင့် ကျွန်းတောများတွင်လည်း တွေ့ရတတ်သည်။ အစာမျိုးစုံစားသည်။ အော်သံမှာတိုတိုဟုမြည်၍ တူထုသံနှင့်တူသဖြင့် ငှက်ပန်းထိမ်ဟုခေါ်ကြသည်။ အသံမှာ ကျယ်၍သာယာသည်။ ပူအိုက်သောရာသီတွင် ထိုငှက်အော်သံကိုအမြဲကြားရ၍ မိုးရာသီတွင်မူ တခါတရံသာ ကြားရတတ်သည်။ ညအချိန်တွင် မအော်တတ်ချေ။

ငှက်ပန်းထိမ်သည် ဖေဖော်ဝါရီလမှမေလအတွင်း သားပေါက်သည်။ တမြုံလျှင် ၃ ဥမှ ၄ ဥအထိရှိတတ်သည်။ ဥများမှာအဖြူရောင်ရှိသည်။


ငှက်ပန်းထိမ်

ငှက်ပန်းထိမ်ကို အရှေ့တိုင်းနိုင်ငံများတွင် အနှံ့အပြားတွေ့ရသည်။ မြန်မာနိုင်ငံတွင် ဤငှက်သည် တောင်ခြေနှင့်ကွင်းပြင်များတွင်ကျက်စားတတ်သည်။ တောင်ပေါ်တွင် ကားနေလေ့မရှိချေ။

**ငှက်ပျောပင်။** ။အိန္ဒိယနှင့်မြန်မာနိုင်ငံတို့အပါအဝင်ဖြစ်သော အာရှတိုက် တောင်ပိုင်းဒေသသည် ငှက်ပျောပင်၏ မူလပေါက်ရောက်ရာဒေသများဖြစ်သည်။ ထိုဒေသရှိတိုင်းရင်းသားတို့သည် ငှက်ပျောကို မိမိတို့စားသုံးရန် စိုက်ပျိုးကြသည်။ ယခုအခါ ငှက်ပျောကိုအကြီးအကျယ်စိုက်ပျိုးလျက်ရှိသည့် အနောက်အိန္ဒိယကျွန်းစုကို ကိုလံဗပ်တွေ့ရှိစဉ်က ထိုကျွန်းစုတွင် ငှက်ပျောပင်ကို စတင်၍စိုက်ပျိုးခြင်းမရှိသေး။ ခရစ် ၁၅၂ဝ ပြည့်နှစ်သို့ရောက်မှ ထိုကျွန်းစုတွင် ငှက်ပျောပင်ကို စတင်စိုက်ပျိုးသည်။ ယင်းသို့ငှက်ပျောပင်ကို စိုက်ပျိုးကြည့်ရာတွင် ကောင်းစွာဖြစ်ထွန်းသဖြင့် အနောက်အိန္ဒိယကျွန်းစုအပါအဝင်ဖြစ်သော အမေရိကတိုက်အလယ်ပိုင်းသည် ယခုအချိန်အခါတွင် ကမ္ဘာပေါ်၌ငှက်ပျောသီးအများဆုံးထွက်သောအရပ်ဒေသ ဖြစ်နေလေပြီ။

ရှေးအခါက တောကြီးမျက်မည်းဖြစ်၍ ရောဂါဘယထူပြောသော အပူပိုင်းအရပ်ဒေသများသည် ယခုအခါတွင် ငှက်ပျောစိုက်ခင်းကြီးများ ဖြစ်လာကြသည်။ ယခင်က သမပိုင်းဇုန်၌ နေထိုင်သူတို့တွင် ငှက်ပျောသီးကို လူတိုင်းပင် မမြင်ဘူး၊ မစားဘူးကြချေ။ မီးသင်္ဘောများ စတင်ပေါ်ပေါက်လာသည့်အခါမှ အလွန်အမည့်လွယ်သော ငှက်ပျောသီးများကို လိုရာအရပ်သို့ သယ်ယူရောင်းချနိုင်ကြသည်။ ငှက်ပျောစိုက်ခင်းများမှ သင်္ဘောဆိပ်ကမ်းသို့ ငှက်ပျောခိုင်အစိမ်းလိုက်ကို အထူးမီးရထားတွဲများဖြင့်တင်ပို့သည်။ငှက်ပျောခိုင်များထားရာအခန်းမှာ အပူချိန် ၅၆° သာရှိရပေမည်။ အသီးများအခိုင်မှကြွေမကျစေရန် အတင်အချတွင် အလွန်ဂရုစိုက်ရသည်။ လိုရာမြို့ကြီးများသို့ ငှက်ပျောခိုင်အစိမ်းများရောက်သောအခါ အမည့်ခံအခန်းများတွင် ငှက်ပျောခိုင်များကို အပူဓာတ်ပေးခြင်းဖြင့် နာရီအနည်းငယ်အတွင်း အသီးများဝင်းထိန်၍မှည့်လာကြသည်။

ငှက်ပျောပင်သည် ၁၂ ပေမှပေ ၃ဝ အထိမြင့်သောတနှစ်ခံပင်မျိုးဖြစ်၍ ရှည်ဖားဖားအရွက်ကြီးများရှိသည်။ ငှက်ပျောတပင်မှ ငှက်ပျောတခိုင်သာထွက်၍ အခိုင်ကိုခုတ်ယူပြီးနောက်၊ အပင်မကြီးကိုခုတ်ပစ်ရသည်။ ပင်စည်အရင်းမှ အတက်ငယ်များ ပြာထွက်လာ၍၊ ထိုသားတက်ခေါ် ငှက်ပျောခေါင်းများကို ပင်မမှခွဲထုတ်၍ စိုက်ပျိုးကြပြန်သည်။ သို့အားဖြင့် ငှက်ပျောပင်များကို မျိုးပွားယူကြ၏။ အပင်သက် ၁၂ လမှ ၁၈ လထိရှိမှ အသီးများထွက်လာသည်။ ငှက်ပျောသီးတွင်ရေ ၇၅ ရာခိုင်နှုန်းပါသည်။ အသီးတွင်ပါရှိသောကစီဓာတ်သည် အသီးမှည့်လာသည့်အခါ သကြားဓာတ်သို့ပြောင်းလဲသွားသဖြင့် စားသုံးရာ၌အလွန်အနှစ်အရသာနှင့် ပြည့်စုံလေသည်။ ငှက်ပျောသီးသည် လူတို့အတွက် အာဟာရဓာတ်ပြည့်စွမ်းသော အစားအစာတရပ် ဖြစ်ပေသည်။ ကမ္ဘာပေါ်တွင် လူတို့သိနှင့်ပြီးသော ငှက်ပျောပင်



စီးပွားဖြစ်ရန်အသို့ငှာ မျိုးကောင်းမျိုးသန့်များကို စနစ်တကျ စိုက်ပျိုးထားသော ငှက်ပျောခြံ

မျိုးပေါင်း ၇ဝ နီးပါးရှိသည်။ သို့ရာတွင် မြန်မာနိုင်ငံ၌ထင်ရှားသော ငှက်ပျောမျိုးများမှာ ထောပတ်၊ ရခိုင်၊ နံ့သာပု၊ သီးမွှေး၊ ဖီးကြမ်း၊ သူငယ်စာ၊ ပျားရည်ဆမ်း၊ ရသာရုံ၊ မယားမန်၊ ငှက်ပျောချဉ်၊ ရွှေနီနှင့် ဝက်မလွတ်တို့ဖြစ်သည်။ အလုံးအလွန်ကြီးထွားသောငှက်ပျောမျိုးကို မြန်မာနိုင်ငံတွင် ဆင်အံ သို့မဟုတ်ဗျပ်ပြည့် သို့မဟုတ်မောင်ကြီးပင့်ပါဟု ခေါ်ကြသည်။ သမပိုင်းနိုင်ငံတို့တွင် ဂျုံနှင့်အာလူးကိုအဓိကအာဟာရအဖြစ်မှီဝဲသကဲ့သို့ အပူပိုင်းဒေသရှိတိုင်းပြည်အချို့တွင် ငှက်ပျောသီးအစိမ်းများကို အဓိကအာဟာရအဖြစ်ဖြင့် စားသုံးကြသည်။

ငှက်ပျောသီးမှည့်များကို သကြားဖြူး၍နေလှန်းလျှင်တာရှည်ခံသော ငှက်ပျောခြောက်ကို ရရှိသည်။ ငှက်ပျောခြောက်များမှာ ချို၍အရသာရှိသောကြောင့် အချိုစားဖွယ်အဖြစ်စားသုံးကြသည်။ မြန်မာနိုင်ငံတွင် ပခုက္ကူခရိုင်၊ ပြည်ခရိုင်နှင့် ဟင်္သာတခရိုင်တို့တွင် ငှက်ပျောခြောက်ကိုလုပ်ကြသည်။ သို့သော် ဟင်္သာတခရိုင် မြန်အောင်မြို့နယ်မှ အများဆုံးထွက်သည်။ ငှက်ပျောသီးစိမ်းကို အခြောက်လှန်းပြီးနောက် အမှုန့်ကြိတ်၍လည်း အပူပိုင်းအရပ်များ၌ သုံးကြသည်။ အိန္ဒိယနိုင်ငံနှင့် မြန်မာနိုင်ငံတို့တွင် ငှက်ပျောဖူး၊ ငှက်ပျောအူနှင့် ငှက်ပျောပွင့်များကို ချက်ပြုတ်စားသောက်ကြသည်။

ငှက်ပျောရွက်များမှာ အလွန်အသုံးဝင်သည်။ ထိုအရွက်ကားကြီးများကို အမျှင်အမျှင်ဆုတ်၍ ဖျာနှင့်ဖျင်ကြမ်းရက်လုပ်ကြသည်။ အသီးညှံ့ဖျင်းသော ငှက်ပျောပင်တမျိုး၏

လျှော်ကို ကြိုးကျစ်ကြသည်။ ထိုလျှော်ကို စက္ကူလုပ်နိုင်သည်။ အလွန်ခိုင်ခံ့သော မနီလာကြိုးနှင့် မနီလာစက္ကူတို့ကို ငှက်ပျောလျှော်များမှပြုလုပ်ကြသည်။ ကမ္ဘာပေါ်တွင် ငှက်ပျောလုပ်ငန်းကိုအကြီးအကျယ်လုပ်သော ဗဟားမားကျွန်း၊ ဟေးတီးကျွန်းနှင့် ဖိလစ်ပိုင်ကျွန်းတို့၌ ငှက်ပျောလျှော် ဖျင်ကြမ်းနှင့် ကြိုးများထွက်သည်။

ငှက်ပျောပင်မှ အသီးမသီးမီ ဖူးတံကြီးစ၍ထွက်ပြူလာသည်။ ထိုငှက်ပျောဖူးတွင် အပွင့်ခိုင်ကလေးများကို ဖုံးကွယ်ထားသော ခရမ်းရင့်ရောင်အဖတ်များဖြင့် သိပ်သည်းစွာအထပ်ထပ်ဖုံးနေသည်ကို တွေ့ရသည်။ ရှေးဦးစွာ ထွက်လာသော အပွင့်များသာ အောင်မြင်ပြီးလျှင် အသီးများဖြစ်လာသည်။ နောက်မှထွက်သည့်အပွင့်ခိုင်များမှာ ကြာလျှင် ရိယော်၍ ပျက်စီးသွားလေသည်။ ငှက်ပျောမျိုးကိုလိုက်၍ ငှက်ပျောတခိုင်တွင် အဖီးအနည်းအများပါရှိသည်။ စံမှိငှက်ပျောတခိုင်တွင် အဖီး ၉ ဖီးမျှပါ၍ တဖီးလျှင် အသီး ၁၀ လုံးမှ ၁၅ လုံးအထိရှိတတ်သည်။ သီးစတွင် ငှက်ပျောခိုင်ရှိ ငှက်ပျောသီးများသည် ထိုးထိုးထောင်ထောင်ရှိတတ်သော်လည်း ကြီးရင့်လာသည့်အခါ အသီးများသည် အညာရင်းဖက်သို့လေး၍ကျသွားသည်။

မလ္လာယုကျွန်းစုမှ ငှက်ပျောအကောင်းဆုံး ထွက်သည်။ ဆိုငှက်ပျောမျိုးသည် အသားနူးညံ့သည့်အပြင် နှင်းဆီနံ့သင်းသည်။ ဖိလစ်ပိုင်ကျွန်းစုနှင့် အိန္ဒိယနိုင်ငံတို့မှလည်း ငှက်ပျောမျိုးကောင်းများထွက်သည်။ ထင်ရှားသောငှက်ပျောမျိုးများ ထွက်သည့် အခြားနိုင်ငံတို့မှာ ဂျမေးကားကျွန်းနှင့် အမေရိကတိုက်အလယ်ပိုင်း၊ ကနေရီကျွန်းနှင့် တောင်အမေရိကတိုက်တို့ဖြစ်သည်။ ဂျမေးကားကျွန်းနှင့် အမေရိကတိုက်အလယ်ပိုင်းမှ အလုံးထွား၍ အခွံချောမွတ်သော ငှက်ပျောမျိုးထွက်သည်။ အရောင်ဝါသည်။ ဤငှက်ပျောမျိုးကို အများအားဖြင့် ဗြိတိန်ကျွန်းသို့တင်ပို့ရောင်းချသည်။ ကနေရီကျွန်းငှက်ပျောမျိုးကို တရုပ်ငှက်ပျောပုဟုလည်း ခေါ်သည်။ အမေရိကတိုက် အလယ်ပိုင်းနှင့် တောင်အမေရိကတိုက်တွင် အခြားငှက်ပျောမျိုးများမဖြစ်ထွန်းနိုင်သည့်အပိုင်းများ၌ ဤကနေရီကျွန်းငှက်ပျောမျိုးကို စိုက်ပျိုးကြသည်။ ဂျမေးကားကျွန်းမှလည်း ရွှေနီငှက်ပျောမျိုးထွက်သည်။ သို့သော် ထိုငှက်ပျောသီးမှာ အညာလွယ်သဖြင့် ရပ်ဝေးသို့ အခိုင်မပျက်တင်ပို့ရန် ခဲယဉ်းသည်။ အချို့ငှက်ပျောမျိုးမှာ အခွံပါး၍ အကိုင်အတွယ်မခံသဖြင့် စိုက်ပျိုးရာအရပ်များ၌သာ စားသုံးကြရသည်။ မြန်မာနိုင်ငံ၌ အထက်တွင်ဖော်ပြခဲ့ပြီးသော ထင်ရှားသည့်ငှက်ပျောမျိုးများအပြင် တောငှက်ပျောခေါ် ငှက်ပျောပင်ရိုင်းများလည်း ရှိပေသေးသည်။ ထိုငှက်ပျောပင်များသည် တောတွင်းရပ်များ၌အလေ့ကျပေါက်၍ အသီးများတွင် အစေ့ထူသည်။ ယင်းငှက်ပျောစေ့များကိုစိုက်လျှင် အပင်ပေါက်သည်။



ငှက်ပြာချောက်

**ငှက်ပြာချောက်။** ။ငှက်ပြာချောက်သည် 'ဆစ်တီဒေ' မျိုးရင်းတွင်ပါဝင်သည်။ ပါဏဗေဒအမည်မှာ 'ဆစ်တာ ကက်စတာနီအာ နီဂလက်တာ' ဖြစ်သည်။ အလျား ၆ လက်မခန့်ရှိသည်။ အမြီးတိုသည်။ နှုတ်သီးရှည်၍ချွန်သည်။ တကိုယ်လုံးတွင်မှဲ့ပြာရောင်လွှမ်းနေသည်။ ငှက်မအရောင်သည် ငှက်ဖိုအရောင်ထက်ဖျော့သည်။ အချို့ငှက်ပြာချောက်မျိုးတွင် လည်ချောင်း၊ ရင်အုပ်နှင့်ဝမ်းပိုက်တို့သည် တရောင်တည်းဖြစ်သည်။

ငှက်ပြာချောက်သည် တောင်ခြေနှင့် လွင်တီးခေါင်များတွင် နေလေ့ရှိသည်။ မန်ကျည်းပင်၊ ကုက္ကိုပင်များတွင် ကျက်စားတတ်သည်။ သာမန်အားဖြင့် အသံအလွန်ကျယ်သော်လည်း အသံကိုတိုးလိုက် ကျယ်လိုက်နှင့် အမျိုးမျိုးပြောင်းလဲ အော်လေ့ရှိသည်။ တခါတရံ စူးရှစွာ အော်တတ်သည်။

မတ်လမှ မေလအထိအချိန်မှာ ငှက်ပြာချောက်၏သားပေါက်ချိန်ဖြစ်သည်။ အသိုက်ကို သစ်ခေါင်းထဲတွင် သစ်ရွက်ခြောက်များခင်း၍ပြုလုပ်သည်။ သစ်ခေါင်းဝကို ဝင်သာရုံလောက်သာချန်လှပ်၍ ရွှံပိတ်ထားတတ်၏။ တမြုံလျှင် ၂ ဥမှ ၆ ဥအထိရှိသည်။ ဥအရောင်မှာ အောက်ခံအဖြူရောင်တွင် အနီပြောက်၊ ခရမ်းရောင် ပြောက်ကလေးများရှိသည်။

ငှက်ပြာချောက်ကို မြန်မာနိုင်ငံ အရှေ့မြောက်ပိုင်းဒေသများ၊ ချင်းတောင်၊ အထက်ချင်းတွင်းဒေသတို့တွင်တွေ့ရ၏။

**ငှက်ဖျားရောဂါ။** ။ငှက်ဖျားရောဂါသည် အပူပိုင်းနှင့်အပူလျော့ပိုင်းတွင်နေထိုင်သောလူများ၌ ကျရောက်တတ်သောရောဂါဆိုးတမျိုးဖြစ်သည်။ ထိုအပိုင်းတို့အပြင် သမပိုင်းဒေသများတွင်လည်း နွေရာသီများ၌ ငှက်ဖျားရောဂါဖြစ်တတ်သည်။ ထိုရောဂါသည် ကမ္ဘာ၌ကျရောက်သောရောဂါအပေါင်းတို့တွင် လူတို့အား အများဆုံး သေစေတတ်သောရောဂါဖြစ်၏။

ထိုရောဂါသည် သွေးဆဲများကိုပျက်ပြားစေ၍ သွေးဖျော့နာကိုဖြစ်စေတတ်၏။ ထိုရောဂါကို အပြင်းအထန်ခံစားရသောသူသည် ကိုယ်ခန္ဓာရှိ အရေးကြီးသော အင်္ဂါအစိတ်အပိုင်းများ၌ သွေးကြောများ ပိတ်ဆို့၍သေဆုံးရတတ်သည်။ ထိုရောဂါစွဲကပ်လျှင် ချမ်းစိမ့်ခြင်း၊ အဖျားတက်ခြင်း၊ ချွေးထွက်ခြင်း၊ အားလျော့ခြင်းတို့ဖြစ်၏။ ထိုရောဂါသည် ဦးနှောက်ကိုထိခိုက်စေတတ်၏။ ကိုယ်ခန္ဓာကိုမသန်စွမ်းအောင်လုပ်နိုင်၏။ အခြားရောဂါများကို ခံနိုင်ရည်မရှိဖြစ်စေတတ်၏။

ငှက်ဖျားရောဂါသည် ရောဂါစွဲကပ်သူ၏သွေးနီဥများထဲရှိ ပလက်စမိုဒီယမ်ခေါ် အလွန်သေးမွှားလှသော ပရိုတိုဇွန်းကောင်များကြောင့်ဖြစ်သည်။ ထိုပရိုတိုဇွန်းကောင်များသည် ပါရဆိုက်ကောင်များဖြစ်ကြ၍ မျိုးစိတ်အားဖြင့်သုံးမျိုးရှိ၏။ ယင်းတို့အသီးသီးသည် ငှက်ဖျားရောဂါအမျိုးမျိုးကိုဖြစ်စေ၏။ အချို့ငှက်ဖျားရောဂါသည် ၄၈ နာရီ သို့မဟုတ် ၂ ရက်တခါသော်၎င်း၊ ၇၂ နာရီ သို့မဟုတ် ၃ ရက်တခါသော်၎င်း ချမ်းစိမ့် စိမ့်ဖြစ်၍ အဖျားတက် တတ် သည်။ ဤသို့ဖြစ်ရခြင်းမှာ သွေးထဲ၌ ပါရဆိုက်ကောင်များ သန်စွမ်းလာ၍ သွေးနီဥများကိုပျက်ပြားစေသောကြောင့်ဖြစ်သည်။

ငှက်ဖျားမတက်မီကြားကာလ၌ ရောဂါပိုးတို့သည် သွေးဆဲများထဲတွင်တဖြည်းဖြည်းကြီးပွားလျက်ရှိကြသည်။ ငှက်ဖျားတက်ချိန်တွင် သွေးဆဲထဲရှိရောဂါပိုးတို့သည် အင်အားကောင်းလာကြ၍ သွေးဆဲများကိုဖျက်ဆီးကြပြီးလျှင် သွေးကြောထဲသို့ဆင်းလာကြသည်။ ဆရာဝန်ကြီးရော်နယ်ရော့ကဆိုသည်မှာ ငှက်ဖျားရောဂါဖြင့် အဖျားတက်နေချိန်၌ လူနာသွေးကြောထဲတွင်ငှက်ဖျားရောဂါပိုးသန်းပေါင်း ၁၅၀ ခန့်မျှရှိသည်ဟုဆိုလေသည်။ ရောဂါပိုးတို့ဖျက်ဆီး၍ ဆဲတို့မှထွက်လာသောအဆိပ်သည် အခြားဆဲအမြောက်အမြားကိုလည်း ပျက်ပြားစေသည်။ ထိုကြောင့်ငှက်ဖျားရောဂါစွဲကပ်သူသည် သွေးဖျော့နာကိုပါ ရရှိတတ်ခြင်းဖြစ်သည်။

လူ၌ငှက်ဖျားရောဂါဖြစ်စေသော ပါရဆိုက်ကောင်များကို အနိုဖိလီခေါ် ခြင်မမျိုးကသယ်ဆောင်၍ပြန့်ပွားစေ၏။ ထိုပါရဆိုက်များသည် ခြင်ကောင်၏ ကိုယ်ခန္ဓာထဲ၌ပင် ကြီးထွားလာနိုင်ကြ၏။ အချို့ဒေသများတွင်အနိုဖိလီခြင်မျိုးများရှိသော်လည်း ငှက်ဖျားရောဂါမဖြစ်ပေ။ အဘယ်ကြောင့်ဆိုသော် ထိုဒေသများမှာ နေ့အခါအလွန်ပူ၍ ညအခါအလွန်ချမ်းအေးသောကြောင့်ဖြစ်သည်။

ငှက်ဖျားရောဂါကို သိပ္ပံကဝိအမြောက်အမြားပင်လေ့လာခဲ့ကြသည်။ ပြင်သစ်လူမျိုးသိပ္ပံကဝိ ချား လဗရန် ဆိုသူသည် ငှက်ဖျားရောဂါဖြစ်စေသောပရိုတိုဇွန်းကောင်များကို တွေ့ရှိခဲ့၏။ တဖန် အင်္ဂလိပ်လူမျိုးဆရာဝန်ကြီး ရော်နယ်ရော့က ငှက်ဖျားရောဂါကို အနိုဖိလီခြင်ကသယ်ဆောင်လာ







(အထက်) ခြင်များ ပေါက်ပွား ရာဒေသတွင် ပက် ဖျန်း ရန် ဆေး ရည် ဖျော်စပ်နေပုံ။

(အလယ်) ငှက်ဖျားရောဂါထူသောကျေးရွာတို့တွင် ကလေးများအား စမ်းသပ်၍ ဆေးကုပေးနေပုံ။

(အောက်) ခြင်နိုင်ဆေးရည်ပက်ဖျန်းခြင်းဖြင့် ငှက်ဖျားရောဂါကိုကာကွယ်နေပုံ။

ကြောင်းကို သက်သေပြခဲ့၏။ ဣတာလျံလူမျိုးသိပ္ပံကဝိ ဂျိဗန်နီ ဂရာဆီ ဆိုသူကလည်း ငှက်ဖျားရောဂါ ပါရဆိုက်များ၏ ရှုပ်ထွေးသောအဖြစ်ကို ဖြေရှင်းနိုင်ခဲ့ပေသည်။

ငှက်ဖျားရောဂါကိုကုသရာ၌ ထိုရောဂါဖြစ်စေသော ပါရဆိုက်ကောင်များကို သုတ်သင်ပစ်နိုင်မည့်ဆေးများကိုအသုံးပြုကြ၏။ အများဆုံးအသုံးပြုရသောဆေးမှာ စင်ကိုးနားပင်မှရရှိသော ကွီနိုင်ဆေးပင်ဖြစ်သည်။ ယခုအခါ ငှက်ဖျားရောဂါဆေး အသစ်အဆန်းအမျိုးမျိုးပေါ် ပေါက်လျက်ရှိပေပြီ။ ထိုဆေးဝါးအမျိုးမျိုးမှာ ပလတ်ဇမိုခင်း၊ အက်တာဗရင်၊ ပရိုမင်း၊ ဆာလဖာ ဒိုင်ယာဇင်းနှင့်အခြားကန့်ဆေးဝါးများဖြစ်ကြသည်။ အက်တာဗရင်ဆေးကို မက်ပါကရင်ဟူ၍၎င်း၊ ကွီနိုင်ကရင် ဟူ၍၎င်း ခေါ်သည်။ ပယ်လူဒရင်ခေါ် ဆေးတမျိုးလည်းရှိသေး၏။ ယခုအခါ အက်တာဗရင်နှင့်ကွီနိုင်တို့ထက်စွမ်းသောဆေးတမျိုးကိုလည်း တွေ့ရှိထားလေပြီ။ ထိုဆေးကို 'အက် (စ)၊ အင်၊ ၇၆၁၈' ဟု ခေါ်သည်။ ဤဆေးသည် အက်တာဗရင် သို့မဟုတ် ကွီနိုင်ဆေးထက် ရောဂါကို သုံးဆပို၍လျှင်မြန်စွာကုသပေးနိုင်သည်။

ငှကဖျားရောဂါကာကွယ်ရေးလုပ်ငန်းများကို ဆောင်ရွက်ရာတွင် ခြင်များကိုသုတ်သင်ခြင်း၊ ယင်းတို့ပေါက်ဖွားရာနေရာများကို ဖျက်ဆီးပစ်ခြင်းတို့သည် အထိရောက်ဆုံးဖြစ်သည်။ (ကွီနိုင်။ ခြင် — လည်းရှု။)



ငှက်ဘီလူး

**ငှက်ဘီလူး**။ ။ငှက်ဘီလူးသည် ငှက်တဇပ်နှင့်အတူ 'လန်နီးဒေး' မျိုးရင်းတွင်ပါသည်။ ပါဏဗေဒအမည်မှာ 'လန်နီယပ် ကိုလျူရီအိုအီဒီး ကိုလျူရီအိုအီဒီး' ဖြစ်သည်။ အလျား ၉ လက်မရှိသည်။ ပျံသန်းသည့်အခါ တို၍ဝိုင်းနေသောအတောင်ပေါ်ရှိ အဖြူကွက်နှင့် အဖျားတွင်ဖြူလျက်ရှိသော အမြီးရှည်ကို အဝေးကပင်ထင်ရှားစွာမြင်နိုင်သည်။ အသံမာသည်။

ငှက်ဘီလူးဟူသောအမည်နှင့်လိုက်အောင် ငှက်ငယ်များ၊ လိပ်ပြာ၊ ချေးထိုးပိုး စသည်တို့ကို ဖမ်းဆီးသတ်ဖြတ်ကာ အစာအဖြစ် သို့လှောင်ထားတတ်သည်။ ကွင်းပြင်၊ ချုံဖုတ်၊ တောစပ်၊ စိုက်ခင်းများအနီးအနားတို့တွင် ကျက်စားလေ့ရှိသည်။ ဧပြီလမှဇွန်လအထိအချိန်မှာ ငှက်ဘီလူးများသားပေါက်ချိန်ဖြစ်သည်။ အသိုက်ကို သစ်ပင်ငယ်ထက်တွင်သစ်ရွက်၊ မြက်၊ ရေညှိ၊ အမွေးအတောင်များဖြင့် ပြုလုပ်တတ်သည်။ အသိုက်သည် တချို့ကြီး၊ တချို့ငယ်သည်။ တမြုံလျှင် ၃ ဥမှ ၆ ဥအထိ ရှိသည်။ ဥ၌ အရောင်အမျိုးမျိုးရှိသည်။

ငှက်ဘီလူးကို မြန်မာနိုင်ငံ၊ အာသံ၊ အာနမ်နှင့်ယိုးဒယားနိုင်ငံတို့တွင် တွေ့ရသည်။ ထိုငှက်များသည် ဆောင်းရာသီမှသာတွေ့ရသော ဒေသပြောင်းရွှေ့နေတတ်သည့် ငှက်များဖြစ်သည်။



(ဝဲ) ငှက်မင်းသား (ယာ) ငှက်မင်းသမီး

**ငှက်မင်းသား၊ ငှက်မင်းသမီး**။ ။အရှေ့တိုင်းနိုင်ငံများတွင် ငှက်မင်းသား၊ ငှက်မင်းသမီးဟူသော ငှက်မျိုးများကိုတွေ့ရသည်။ ထိုငှက်တို့ကို တမျိုးနှင့်တမျိုးခွဲခြားမှတ်သားရန်ခဲယဉ်း၏။ ငှက်မင်းသား၏ပါဏဗေဒအမည်မှာ 'ပီရီကရိုကိုတပ် ဖလမ်မီယပ် အီလီဂန်' ဖြစ်သည်။ ထိုငှက်ဉ်လုပတင့်တယ်သောအမွေးအတောင်များရှိသည်။ တကိုယ်လုံးတွင် အနီရောင် သို့မဟုတ် အဝါရောင်ပေါ် လွှင်လျက်ရှိသည်။ ကိုယ်အရှည် ၉ လက်မခန့်ရှိသည်။

ထိုငှက်မျိုးသည် မြေပေါ် သို့ဆင်းခဲ၍ သစ်ပင်ထိပ်များတွင်သာ ကျက်စားလေ့ရှိသည်။ အအုပ်အသင်းနှင့်အစာရှာဖွေလေ့ရှိသည်။ ခေါင်းဆောင်ငှက်တကောင်၏နောက်သို့စုပြုံကာလိုက်၍ သစ်ရွက်ကြားတွင် ပိုးမွှားများကိုရှာဖွေ



ငှက်ကုလားအုပ်မွေးများကိုကြည့်ရှုစစ်ဆေးနေပုံ

သည်။ အင်္ဂလန်နိုင်ငံနှင့် ဥရောပတိုက်တွင် အယ်လစ်ဇဗက်ဘုရင်မ လက်ထက်က စ၍ ငှက်ကုလားအုပ်အမွေးများကို အမျိုးသမီးဦးထုပ်၌ အလှတပ်ဆင်သည့်အလေ့အထ ခေတ်စားလာခဲ့သည်။ ထိုသို့အသုံးပြုသည့် ငှက်မွေးများကို အာဖရိကတိုက်၊ အာရဂျင်တီးနားနိုင်ငံ၊ အယ်ရီဇိုးနားပြည်နယ်၊ ကာလီဖိုးနီးယားပြည်နယ်ရှိ ငှက်ကုလားအုပ်မွေးမြူရာအရပ်ဒေသများမှ တင်သွင်းခဲ့ကြရ၏။ ထိုမှတပါး၊ ပန်းချီရေးသည့်စုတ်တံရိုးများကို ငှက်တောင်များဖြင့်ပြုလုပ်လေ့ရှိ၍၊ ကြက်ငှက်တို့၏ အမွေးများဖြင့်လည်း

စားတတ်သည်။ ချိအေးသာယာစွာလည်းမြည်ကြွေးတတ်သည်။ အသိုက်ကို သစ်ကိုင်းပေါ်တွင် သစ်ကိုင်းနှင့်ရွေးမရအောင်ပြုလုပ်ထားတတ်သည်။ တမြုံလျှင် ၂ ဥ သို့မဟုတ် ၃ ဥရှိသည်။ ဥမှာရှည်မျောမျောဖြစ်၍အစိမ်းနုရောင်ပေါ်တွင်အညိုအစက်အပြောက်များရှိသည်။

မြန်မာနိုင်ငံတွင် ပေ ၆,၅၀၀ အမြင့်အထိနေကြ၍ အချိနေရာတွင် ရာသီအလိုက်ပြောင်းရွှေ့နေတတ်ကြသည်။

**ငှက်မြတ်နား။** ။စေတီပုထိုး — ရှု။

**ငှက်မွေး။** ။ငှက်မွေးသည် ပေါ့ပါးခြင်း၊ ကျုံ့နိုင်ကန်နိုင်ခြင်းနှင့် ပျော့ပျောင်းခြင်းတို့ကြောင့် မွေ့ရာ၊ ကူရှင်၊ ဂွမ်းထိုးစောင်၊ ခြုံထည် စသည့် အသုံးအဆောင်များပြုလုပ်ရာ၌ အသုံးဝင်သည်။ ထိုသို့အသုံးပြုရန်အတွက် အကောင်းဆုံးငှက်မွေးများကို ငန်းနှင့်အလားတူ ရေနေငှက်တိရစ္ဆာန်များမှ ရရှိနိုင်သည်။ အထူးသဖြင့်နွေဦးပေါက်ရာသီတွင် ငန်းအရှင်မှနုတ်ယူရရှိသည့်အမွေးကို လူကြိုက်အများဆုံးဖြစ်လေသည်။

ဝမ်းဘဲနှင့် သာမန်အိမ်ကြက်များမှ အမွေးများကိုလည်း မွေ့ရာတွင်သိပ်ရန် အများအစားအသုံးပြုကြသည်။ သို့ရာတွင် ယင်းတို့သည် ရေနေငှက်များမှရရှိသော အမွေးများလောက် နူးညံ့ခြင်းမရှိချေ။ ငှက်၏အတောင်မှရရှိသော ငှက်တောင်များကို စာရေးကလောင်တံအဖြစ်ဖြင့် ၆ ရာစုနှစ်မှစ၍ ၁၉ ရာစုနှစ်အရှေ့ပိုင်းခေတ် သံမဏိကလောင်များပေါ်ပေါက်လာသည့်အချိန်တိုင်အောင် လူတို့အသုံးပြုခဲ့ကြ

ဖုံခါငှက်မွေးများပြုလုပ်အသုံးချလေ့ရှိကြသည်။

သတ္တဝါအမျိုးမျိုးတွင် ငှက်တမျိုးတည်း၌သာ အမွေးအတောင်များ ပေါက်ကြသည်။ ငှက်တွင်ပေါက်သောအမွေးအတောင်တို့သည် နို့တိုက်သတ္တဝါများတွင်ပေါက်သောအမွေးအမှင်နှင့်၎င်း၊ ငါးများတွင်ရှိသော အကြေးများနှင့်၎င်း သဘောအားဖြင့်ဆင်တူသည်။ ငှက်မွေးသည် ငှက်တို့အား အပူအအေးဒဏ်မှကာကွယ်ပေးသည်။ ပေါ့ပါးသည့်အတွက် ကြီးမားကျယ်ပြန့်သောတောင်ပံကို ဖြစ်စေသည်။ ငှက်မွေးတွင် အုန်းခက်၌အုန်းလက်များထွက်နေသကဲ့သို့၊ ငှက်တောင်ရိုးမှ နံဘေးသို့ အစီအရီ ပြန့်ထွက်နေသော မွေးလက်များရှိသည်။

ငှက်မွေးအဖျားပိုင်းရှိ မွေးလက်များတွင် ချိတ်ကလေးများပါရှိ၍၊ ထိုချိတ်ကလေးများဖြင့် မွေးလက်အချင်းချင်း ပူးယှက်နေအောင် ဆွဲချိတ်ထားသည်။ အရင်းပိုင်းရှိ မွေးလက်များမှာမူ၊ တခုနှင့်တခု မပူးယှက်ဘဲ ဖွာနေလေ့ရှိကြသည်။ ငှက်တောင်ရိုးသည် အရေပြား၌ပေါက်သည်။ ငှက်တောင်ရိုး၏အောက်ခြေ၌ အပေါက်ရှိသည်။ ငှက်မွေးကြီးထွားနေဆဲအချိန်တွင် အမွေးဖြစ်ရန်အတွက် လိုအပ်သောပစ္စည်းများသည် ထိုအပေါက်မှဝင်ရောက်လျက်ရှိ၏။ ငှက်မွေးကြီးထွားမှုရပ်စဲသွားသောအခါ ထိုအပေါက်သည်အလိုအလျောက် ပိတ်သွားသည်။ အမွေးလဲချိန်ရောက်သောအခါ ငှက်မွေးမြုပ်ဝင်သည့်နေရာအောက်ဖက်မှ ငှက်တောင်ရိုးအငုတ်ပေါက်လာပြီး အမွေးကိုတွန်း၍ ထုတ်လိုက်သဖြင့် အမွေးဟောင်းသည် ငှက်၏ကိုယ်မှကျွတ်ထွက်သွားသည်။ ငှက်တို့သည် အနည်းဆုံး တနှစ်လျှင်တကြိမ်ကျ အမွေးလဲ

လေ့ရှိ၍၊ အမွေးလဲသည့်အချိန်မှာ သားငယ်များပေါက်ဖွား ပြီးချိန်ဖြစ်တတ်သည်။ ငှက်မွေးသည် အရေပြားတွင်ရှိ သော အုပ်ဆောင်းပုံအသီးငယ်ကလေးမှ စတင်ပေါက်လာ သည်။ ပဌမအုပ်ဆောင်းအောက်၌ ဒုတိယအုပ်ဆောင်း ဖြစ်ပေါ်၍လာသည်။ ထိုအောက်၌တဖန် တတိယအုပ် ဆောင်း၊ စတုတ္ထအုပ်ဆောင်း စသည်ဖြင့် အဆင့်ဆင့်ဖြစ် ပေါ်လာပြန်သည်။ ဤနည်းဖြင့် အုပ်ဆောင်းတခုကို တခု ကထိုးထုတ်ယင်းနှင့် ငှက်မွေးသည် တဖြည်းဖြည်းပေါက်လာ သည်။ ထိုကြောင့် ငှက်တောင်ရိုးကိုကြည့်လျှင် ခေါင်းပွပင် ဖြစ်နေသော်လည်း၊ အတွင်းဖက်တလျှောက်၌ အခွံပုံအဆစ် ကလေးများဖြင့် ပိတ်ဆို့လျက်ရှိသည်ကို တွေ့နိုင်လေသည်။

ငှက်တကောင်ရှိ အမွေးများကို အပေါ်ယံအမွေးကြမ်း၊ အမွေးစုတ်ဖွားနှင့် အမွေးနုဟူ၍ အဓိကအားဖြင့်သုံးမျိုးခွဲ ခြားနိုင်သည်။ အပေါ်ယံအမွေးကြမ်းများမှာ ငှက်ကိုယ် ပေါ်၌ အပေါ်ယံမှမြင်ရသောအမွေးများပင်ဖြစ်၏။ သို့ သော် ယင်းတို့အနက် အတောင်နှင့်အမြီးရှိငှက်တောင်များ မှာ အကြီးဆုံးနှင့် အသန်မာဆုံးဖြစ်၍ ကျန်ကိုယ်ပေါ်ရှိ အမွေးကြမ်းများနှင့် ခြားနားကြသည်။ အမွေးစုတ်ဖွား များမှာ အပေါ်ယံအမွေးကြမ်းများတို့၏ အရင်းနားတွင် ပေါက်လေ့ရှိ၍၊ အမျှင်အမျှင်ဖြစ်နေပြီးလျှင် အဖျားပိုင်း၌ ဖွားနေတတ်သည်။ အမွေးနုများမှာ ကိုယ်ပေါ်၌ကပ်လျက် ပေါက်ကြ၍ အမွေးစုတ်ဖွားတို့အောက်တွင် လုံးဝဖုံးကွယ်နေ တတ်သည်။ ဤအမွေးနုမျိုးကို ငှက်အချို့တွင်အနည်းငယ် သာတွေ့ရ၍၊ ဇင်ယော်နှင့် ဝမ်းဘဲကဲ့သို့သော ငှက်များ၌ ထူထဲစွာတွေ့ရသည်။ ထူးခြား ပုံကားအမွေးနုများ၌ ငှက် တောင်ရိုးကင်းမဲ့နေတတ်ခြင်းပင် ဖြစ်၏။ အမွေးနုတို့တွင် အမှုန် များချတတ်သော မွေးနုတမျိုး ရှိပြန်ပေသေးသည်။ ဗျိုင်း ကဲ့သို့ငှက်များတွင် ရင်ပတ်နှင့် ပေါင်တို့၌ ထိုမွေးနုမျိုးအများ အပြား ပေါက်နေသည်ကိုတွေ့ရ သည်။ ထိုမွေးနုထိပ်ကလေး များသည် ကွဲထွက်၍ ငှက်ကိုယ်ပေါ်သို့ အလွန်သေးငယ်မှုန် မွှားသော အမှုန့်ကလေးများကျရောက်သည်။ ထိုအခါ ငှက်မွေး၏ အရောင်အသွေးမှာ ထူးထူးကဲကဲ တောက်ပစို ပြေလာသည်။

ငှက်မွေးတွင် ငှက်မျိုးကိုလိုက်၍ အရောင်အမျိုးမျိုးရှိ သည်။ အရောင်များမှာ အဓိကအားဖြင့် အနက်၊ အနီ၊ အဝါနှင့် အစိမ်းရောင်များဖြစ်ကြသည်။ အ႔ထူးသဖြင့် ငှက်ဖိုများတွင် ငှက်မများမှာထက် ငှက်မွေးများပိုမိုတောက် ပလေ့ရှိသည်ကိုတွေ့ရ၏။ အဆိုပါအရောင်များကို ငှက်၏ သွေးထဲမှစွန့်ထုတ်လိုက်သော အညစ်အကြေးများက ဖန်တီး ပေးဟန်တူသည်ဟု ယူဆရလေသည်။

**ငှက်လက်မ**။ ။ငှက်လက်မသည် ဝါးဗလားငှက်မျိုးတွင် ပါဝင်၍ ပါဏဗေဒ အမည်မှာ 'ပရိုင်နီးယား အင်အော် နေတာ ဗလန်ဖောဒီ' ဖြစ်သည်။ အလျား ၅ လက်မရှိ သည်။ ထိုအလျားတွင် အမြီး ၂ လက်မ ၃ လက်မခန့်ပါ သေးသည်။ အပေါ်ဖက်တွင် ညိုညစ်ညစ် အရောင်ရှိ၍ အောက်ဖက်တွင် အဝါရောင်ရှိသည်။ အမြီးဖျားတွင်အဖြူ ကွပ်ရှိသည်။ နွေအခါ၌ နှုတ်သီးအရောင်မှာမည်းသည်။

ငှက်လက်မသည် သစ်တောနှင့် လွင်တီးခေါင်ကိုရှောင်၍ လယ်ယာစိုက်ခင်းများ၊ ကိုင်းတောနှင့် မြက်တောများတွင် သာ ကျက်စားတတ်သည်။ အတောင်မှာ အားနည်းလျက် အပေါ်ပိုင်းလေးနေသဖြင့်ကောင်းကောင်းမပျံသန်းနိုင်ပေ။ သို့ရာတွင် သန်မာသောခြေထောက်များဖြင့် ဖျတ်လတ်စွာ လမ်းလျှောက်နိုင်သည်။ မြို့ရွာများ၌ရှင်း၊ ဥယျာဉ်များ၌ ရှင်း မကြာခဏတွေ့ရသည်။ အသံသည် မသာယာလှ သော်လည်း အောင်မြင်သည်။

မတ်လမှစက်တင်ဘာလအတွင်း ငှက်လက်မကလေးများ ပေါက်ကြသည်။ အသိုက် ကို ကိုင်းတောများတွင်မြေပြင်မှ အနိမ့်ဆုံး ၃ ပေ၊ အမြင့်ဆုံး ၆ ပေခန့်ခွာ၍ ပြုလုပ်လေ့ရှိသည်။ အသိုက်မှာမြက်ဖြင့် ကွန်ချာ သဏ္ဍာန်ရက်လုပ်ထားသည်။ အလွန်သပ်သပ်ရပ်ရပ်ရှိ၏။ ဥမှာ ရှည်မျော့မျော့ဖြစ်၍ ပြောင် ချောနေသည်။ အရောင် မှာစိမ်းပြာ၍ အညိုပြောက် များရှိသည်။



ငှက်လက်မ

ငှက်လက်မကို အရှေ့တိုင်းနိုင် ငံများတွင် အနှံ့အပြားတွေ့ ရသည်။ မြန်မာနိုင်ငံတွင်ရာသီ ဥတု သင့်လျော်သောဒေသများ၌ ပေ ၄၀၀၀ အမြင့်အထိ နေထိုင်ကျက်စားသည်။

**ငှက်ဝါ**။ ။ငှက်ဝါကို ငှက်နန္ဒင်းဝါဟူ၍ရှင်း၊ ငှက်ရွှေဝါဟူ၍ ရှင်း ခေါ်သေးသည်။ ပါဏဗေဒအမည်မှာ 'အော်ရီအို လပ် တင်နျူရေဘ့စတြစ် အင်ဗီဆပ်' ဖြစ်သည်။ အလျား

၁၀½ လက်မခန့်ရှိသည်။ တကိုယ်လုံးတွင် ရွှေဝါရောင်လွှမ်းနေသည်။ ငှက်မ၏အမွေးအတောင်များ၌ အစိမ်းရောင်ရှိသည်။ ငှက်ငယ်သည် ငှက်မနှင့်များစွာတူသည်။ သို့ရာတွင် ငှက်ငယ်၏လည်ပင်းတွင် အမည်းရစ်မရှိချေ။

ငှက်ဝါသည် ခြောက်သွေ့သောတောင်ခြေရှိ တောထဲ၌ ၎င်း၊ တောင်ကုန်းပေါ်၌၎င်း တကောင်တည်းဖြစ်စေ၊ ဖိုမတွဲ၍ဖြစ်စေ နေတတ်သည်။ တောထဲတွင် အလေ့ကျပေါက်သော သဖန်းပင်များမှ သဖန်းသီးများကိုစားသည်။



ငှက်သူခိုး



ငှက်ဝါ

အဆင်းလှသလောက် သာယာစွာလည်း မြည်ကြွေးတတ်သည်။ တခါတရံ စူးရှစွာအော်တတ်သည်။

ငှက်ဝါသည် မေလနှင့်ဇွန်လတို့တွင် သားပေါက်သည်။ အသိုက်မှာခွက်သဏ္ဌာန်ဖြစ်၍ မြင့်သောသစ်ကိုင်းများတွင် တွဲလွဲကျလျက်ရှိသည်။ လေတိုက်သော်လည်း ရုတ်တရက်ပြုတ်မကျချေ။ အောက်မှနေ၍ ကြည့်သောအခါ မြက်ကိုလုံးထွေးထားသကဲ့သို့ ထင်ရသည်။ တမြုံလျှင် ၂ ဥမှ ၄ ဥအထိရှိသည်။ ဥအရောင်မှာ ပန်းရောင်အောက်ခံပေါ်တွင်အညိုပြောက်များရှိသည်။

ငှက်ဝါကို အရှေ့တိုင်းနိုင်ငံများတွင် အနှံ့အပြားတွေ့ရသည်။ မြန်မာနိုင်ငံ၌ အရှေ့မြောက်ဖက်ဒေသများမှလွဲလျှင် အခြားနေရာများတွင် အမြင့်ပေ ၅၀၀၀ အထိနေထိုင်သည်။ မေမြို့နှင့် အပူပိုင်းဒေသများတွင် ငှက်ဝါကိုအများအပြားတွေ့မြင်နိုင်သည်။

**ငှက်သူခိုး။** ။ငှက်သူခိုးသည် မြေလူးငှက်တမျိုးဖြစ်သည်။ ပါဠိဗေဒအမည်မှာ 'မွန်တီကိုလာ ဆိုလီတာရီယပ် အက်ဖီနစ်' ဖြစ်သည်။ ဗိုလ်တဲ၊ မင်းတဲအစရှိသော အဆောက်အအုံများ၏ ခေါင်မိုးပေါ်တွင် နားနေတတ်သဖြင့် ထိုငှက်ကို ဗိုလ်တဲငှက်ဟူ၍လည်းခေါ်ကြသည်။

ငှက်သူခိုးသည် အလျား ၉ လက်မရှိသည်။ ငှက်မသည် ငှက်ဖိုထက်ပို၍ အရောင်အဆင်းညိုပြီးလျှင် မွဲခြောက်သည်။ ကိုယ်ကိုတည့်မတ်စွာထား၍ အမြီးကိုမှန်မှန် မြှောက်ချည်ချချည် လုပ်တတ်သည်။ ငှက်သူခိုး၏အသံသည် ဖားအော်သံနှင့်တူသော်လည်း အလွန်တိမ်၍ညင်သာသည်။ သစ်သီး၊ သစ်ဖု၊ ပိုးကောင်မွှားကောင်၊ ဖား၊ ခရုတို့မှာငှက်သူခိုး၏ အစာဖြစ်သည်။

ငှက်သူခိုးသည် ကက်စပျန်ပင်လယ်မှ တိဗက်ပြည်နှင့်ဟိမဝန္တာတောင်တန်းများကိုဖြတ်၍ တရုပ်နိုင်ငံ ဂျပန်နိုင်ငံတို့အထိ အနှံ့အပြားနေသည်။ ဆောင်းရာသီ၌သာ မြန်မာနိုင်ငံသို့လာရောက်တတ်ရာ မြန်မာနိုင်ငံတွင် သားပေါက်ကြောင်းခိုင်လုံစွာမသိရချေ။

**ငှက်သိုက်။** ။ငှက်သိုက်သည် ပျံလွှားငှက်မျိုးတွင်ပါဝင်သည့်ငှက်က လုပ်သော အသိုက်ပင်ဖြစ်သည်။ ထိုငှက်မျိုးသည် မိမိတို့၏အသိုက်ကို အခြားငှက်များကဲ့သို့ သစ်ရွက်



တောင်စောင်းပေါ်သို့တက်၍ ငှက်သိုက်များကိုရှာဖွေနေပုံ

သစ်ကိုင်းများဖြင့် မပြုလုပ်ကြဘဲ၊ ထူးဆန်းစွာ အာခေါင်မှ အာစေးတမျိုးကိုအန်ထုတ်၍ အသိုက်ပြုလုပ်ကြသည်။ အစဦးဆုံးထွေးထုတ်သောအာစေးမှာ ဖြူစင်၏။ ထွေးထုတ်ရဖန်များလာသောအခါ၌ကား သွေးပင်ပါလာတတ်သည်။ ငှက်သိုက်သည် ဆေးဖက်ဝင်၍ အာဟာရဓာတ်ပြည့်ဝသောအစာတမျိုးဖြစ်သည့် အပြင် အရသာမှာ အထူးပင်ကောင်းမွန်ပေသည်။ ထို့ကြောင့် ငှက်သိုက်ကို တန်ဖိုးကြီးပေး၍ဝယ်ယူကြရသည်။

ငှက်သိုက်ထုတ်ပေးနိုင်သော ငှက်မျိုး ၃ မျိုးခန့်ရှိသည်။ ယင်းတို့ကို မိုးစာငှက်၊ ပြီလဲငှက်၊ ဇီဝစိုးငှက်ဟူ၍ ခေါ်ကြသည်။ မြန်မာနိုင်ငံ၌ရရှိသောငှက်သိုက်မှာ ဇီဝစိုးငှက်မျိုးက လုပ်သော ငှက်သိုက်ဖြစ်သည်။ ငှက်သိုက်ကို ထားဝယ်ကမ်းခြေအနီးရှိကျွန်းများ၊ မြိတ်ကျွန်းစု၊ ပုသိမ်မြို့အနောက်တောင်ဖက်ရှိ ကျွန်းများတွင်တွေ့ရသည်။ ထို့ပြင်မလ္လာယုကျွန်းဆွယ်၊ ယိုးဒယား၊ ဖိလစ်ပိုင်နိုင်ငံအနီးရှိကျွန်းများတွင်လည်းတွေ့ရသည်ဟုဆိုသည်။

ထိုငှက်မျိုးသည် စာကလေးအရွယ် လောက်သာရှိသည်။



ငှက်သိုက်လုပ်သည့်ငှက်

ပျံသန်းရာ၌ အလွန်လျင်မြန်သည်။ ညအိပ်သည့်အချိန်မှ လွဲ၍ တနေ့လုံးပျံသန်း၍နေနိုင်စွမ်းရှိသည်။ ထိုငှက်မျိုး၏ ခြေချောင်းကလေးများသည် ကား၍ရှေ့သို့ရှည်ထွက်လျက်ရှိသည်။ ထိုခြေတံမျိုးရှိသဖြင့် ကျောက်ဆောင်၏အစွန်းအဖျားများပေါ်၌ နားနေနိုင်ကြသည်။ ထိုငှက်ကလေးများသည် လူသူဝေးသောကျွန်းများပေါ်ရှိ ကျောက်လိုဏ်ဂူနံရံများတွင်အသိုက်ပြုလုပ်၍နေကြသည်။



နက်ရှိုင်းသည့်လိုဏ်ဂူအတွင်းသို့ သက်ဆင်း၍လည်း ငှက်သိုက်များကို ရှာဖွေသိမ်းယူကြသည်။

ငှက်သိုက်သည် အချင်း ၂ လက်မ ၃ လက်မခန့်ရှိ၍ စောက် ၁ လက်မခန့်ရှိသည်။ ငှက်တို့သည်တပေါင်းတန်ခူးလများတွင် အသိုက်လုပ်တတ်ကြသည်။ တမြုလျှင်ဥ ၂ လုံးရှိသည်။ ငှက်သိုက်များကိုလိုက်လံသိမ်းယူရာ၌ ငြမ်းဆင်၍သက်စွန့် ဆံဖျား ခဲယဉ်းစွာ လိုက်လံစုဆောင်းကြရသည်။ မြန်မာနိုင်ငံတွင် ငှက်သိုက်ရသောကျွန်းများကို သစ်တောဌာနက အုပ်ချုပ်၍ နှစ်စဉ် ငှက်သိုက်သိမ်းယူခွင့်လိုင်စင်ကိုထုတ်ပေးသည်။ သစ်တောဌာနက ထိုငှက်များမျိုးမပြုတ်သွားရလေအောင် စောင့်ရှောက်ပေးသည်။ ပမာအားဖြင့် လိုင်စင်ရောင်းချရာ၌ အချို့ကျွန်းများကို နှစ်စဉ်တလှည့်စီ ပိတ်ပေးသည်။ ပိတ်ထားသောကျွန်းများပေါ်၌ ငှက်ကလေးတို့သည် အနှောင့်အယှက်မရှိဘဲ အသိုက်ပြုလုပ်၍ ပေါက်ပွားနိုင်ကြလေသည်။ ထိုကျွန်းများပေါ်သို့တက်ရောက်၍ ငှက်သိုက်များကိုခိုးယူတတ်ကြသောလူဆိုးတို့၏ရန်ကိုငှင်း၊ ငှက်ကလေးများကို ဖမ်းယူတတ်သောသိမ်း၊ စွန်၊ ငှက်ရဲတို့၏ရန်ကိုငှင်း သစ်တောဝန်ထမ်းများက ကာကွယ်ပေးကြရသည်။ စုဆောင်းရရှိသောငှက်သိုက်များကို သစ်တောဌာနကစစ်ဆေးသည်။ အကယ်၍သွေးပါသောငှက်သိုက်များကိုတွေ့ရှိပါက လိုင်စင်ရသူကိုဒဏ်ရိုက်လေသည်။ အဘယ်ကြောင့်ဆိုသော် ငှက်ကလေးများသွေးပါသည်အထိအန်ထုတ်၍ပြုလုပ်ရသောအသိုက်များကိုမယူကြရန် လိုင်စင်တွင်စည်းကမ်းချက်များ ပါရှိသောကြောင့်ဖြစ်သည်။



မြန်မာဗျည်း ၃၃ လုံးတွင် စ သည် ၆ ခုမြောက်အက္ခရာဖြစ်၍ စ၊ ဆ၊ ဇ၊ ဈ၊ ည ဟူသော စ ဝဂ်တွင် ပါဝင်သည်။ စ အသံ၏ဖြစ်ရာဌာနမှာ တာလုဌာန် အာစောက်အရပ် ဖြစ်သည်။ အက္ခရာ၏ ပုံသဏ္ဌာန်သည် လုံး၍နေသဖြင့် စလုံးဟု အမည်တွင်သည်။ စ အရေးအသား၏ မူလမှာ ဗြာဟ္မီအက္ခရာ ဖြစ်သည်။ ဗြာဟ္မီ မှကုသန ဂုတ္တ ကဒံဗ သို့ အဆင့်ဆင့်ပြောင်းလဲလာပြီးနောက် ကျောက်စာများတွင် နှင့် ပေစာ များတွင် ဟု ရေးသားသည်ကို တွေ့ရသည်။ ဗြာဟ္မီ အရေးအသား ၏အောက်ခြေရှိ လခြမ်းသဏ္ဌာန်သည် ရေးဖန်များလတ်သော် တရွေ့ရွေ့ဖြင့် မျဉ်းဖြောင့်ကိုဖြတ်၍ငုံထားသော အဝန်း ဖြစ်သွားပြီးလျှင်၊ ယခုရေးနေကျ စ အက္ခရာသည် ဖြစ်ပေါ်လာလေသည်။ စ အက္ခရာ၏ အဆင့်ဆင့်ပြောင်းလဲပုံကို အောက်တွင် အစဉ်အတိုင်း ယှဉ်တွဲ၍ပြထားသည်။

# စွယ်စုံပုဂ္ဂိုလ်ကျော်

**တိုင်းပြည်ရေးရာစီမံခန့်ခွဲမှုတွင် ကျွမ်းကျင်ကျေပွန်သော ပြည်ကြီးဦးကင်း ဝန်ကြီးအဖြစ်နှင့်ရင်း၊ ရှေ့နောက် အမြော်အမြင် ဗဟုသုတပြည့်စုံကုံလုံ၍၊ စာပေကျမ်းဂန် နှံ့စပ်သည်သာမက၊ သဘောထားကြီးမားလှသော ပြည်ကြီးမျက်စိ ပညာရှိကြီးအဖြစ်နှင့်ရင်း၊ ရှပ်ရှပ်ချွံချွံတပ်ချီတိုက်ခိုက်သော ပြည်ကြီးလက်ရုံး စစ်ဗိုလ်ချုပ်ကြီးအဖြစ်နှင့်ရင်း၊ နန်းတွင်းဇာတ်၊ ကဗျာလင်္ကာနှင့် ဂီတသီချင်းကြီးများကို ထူးကဲစွာ သာယာနာပျော်အောင်ဖွဲ့နွဲ့ သီကုံးသည့် ပြည်ကြီးနှလုံး ကဝိစာဆိုကြီးအဖြစ်နှင့်ရင်း၊ အဖက်ဖက်မှ ထူးချွန်ပြောင်မြောက်ခဲ့သည့် မြဝတီဝန်ကြီးဦးစသည် မြန်မာတို့၏နိုင်ငံသမိုင်း၊ စာပေသမိုင်း၊ အနုပညာသမိုင်းတွင် စံတင်ရအောင် ထင်ရှားကျော်ကြားလှ၏။**

စ၊ ဦး၊ မြဝတီဝန်ကြီး(မြန်မာ ၁၁၂၈–၁၂၁၄)။ ။ဦးစသည် စစ်ကိုင်းမြို့အနောက် မိကျောင်းတက်ချောင်းရွာဇာတိ ဖြစ်သည်။ အဖမှာ အလုံမြို့မြောက်လက် မောက်တက်ရွာနေ နောက်တော်ပါမြင်းစီးကြီး သား ဦးပေါက်ကျော် ဖြစ်သည်။ အမိမှာ သာလွန်မင်းတရားကြီး လက်ထက် အမတ်ကြီး ဗညားကျန်းဒေါ်မြေး မငြိမ်းသာ ဖြစ်သည်။ သက္ကရာဇ် ၁၁၂၈ ခု သီတင်းကျွတ်လပြည့်ကျော် ၁၀ ရက် အင်္ဂါနေ့ ဆင်ဖြူရှင်မင်းတရားကြီး (၁၁၂၅–၁၁၃၈) လက်ထက်တွင်ဖွားမြင်သည်။ အသက် ၆ နှစ်တွင် အဖဆုံး၍ အသက် ၁၁ နှစ်ခန့်ရှိလျှင် အင်းဝမြို့ မဲထီးဆရာတော်ကြီးဦးပရမကျောင်းတွင် သာမဏေပြု၍ စာပေသင်ကြားသည်။ ဦးပရမကား (၁၁၀၄–၁၁၅၉) တောင်ငူမြို့ မဲထီးရွာဇာတိတည်း။ နောင်သောအခါတွင် ပရမ သိရိဝံသဇ မဟာ ဓမ္မရာဇ ဂုရု တံဆိပ်တော် ဆက်ကပ်ခြင်းခံရသော ဆရာတော်ဖြစ်သည်။

ရှင်သာမဏေဘဝမှ လူထွက်လာသောအခါ မောင်စသည် စစ်ကိုင်းမြို့ ပန်းထိမ်ဝန်ဟောင်း ဦးညွန့်၏ သမီး မအေးနှင့် သင့်မြတ်ရာ ပန်းထိမ်အလုပ်၊ ရွှေကျောက်ရောင်းဝယ်သော အလုပ်ကို အသက် ၁၉ နှစ်ခန့်အရွယ်တိုင်အောင် လုပ်ကိုင်သည်။ သို့သော် မယားမအေး သေဆုံးသွားသောအခါ၊ ဝါသနာအလျှောက် ဘိုးတော်မင်းတရားကြီး၏ လက်ဝဲဆိုင်း အမှုထမ်း ဆိုင်းဆရာကြီး ဦးတရုပ် ထံ၌ ကြေးဝိုင်းတီးခဲ့သည်။ ထိုနောက် အမရပူရမြို့တော်၌ ဘိုးတော်ဘုရား (၁၁၄၃–၁၁၈၁) လက်ထက်၊ အိမ်ရှေ့နန်းစံ ရွှေတောင်မင်း၏ အိမ်ရှေ့သံဆင့် လကျ်ာပျံချီထံတွင် ရေးမှတ်သည့်ဖက်မှ အမှုထမ်း၍နေလေသည်။ ဤအချိန်အခါတွင် ဦးစသည် စာပေကျမ်းဂန်များကို နှံ့စပ်စွာ ဖတ်ရှုလေ့လာရန် ကဗျာလင်္ကာများကို ဖွဲ့စပ်သီကုံးခြင်း၌ အစပျိုးသည်ဟု ယူဆရန်ရှိပေသည်။

ထိုနောက် ဝေါဟာရလိနတ္ထဒီပနီကျမ်း (မျက်နှာ ၂၃၀) နှင့် ကဝိလက္ခဏာဒီပနီကျမ်း (မျက်နှာ ၃၀၄) တို့အရ ရွှေဘုံနိဒါန်းကိုပြုစုသူ၊ ၁၁၀၅ ခုတွင် တန်တားဦးရွာလျှင် ဖွားရာဇာတိရှိသော ဇေယသင်္ခယာဘွဲ့ခံ အိမ်ရှေ့အတွင်းဝန်သည် ဦးစအား အိမ်ရှေ့ဘုရား (ရွှေတောင်မင်း) ထံတွင် အရည်အချင်းကို လျှောက်ထားဆက်သွင်းသဖြင့် ဦးစသည် အိမ်ရှေ့အိမ်တော်သို့ ရောက်သည်။ အိမ်ရှေ့မင်းထံတွင် အမှုထမ်းစဉ်၊ ဦးစသည် ပျို့ကဗျာ အရေးအသားတို့၌ ထက်မြက်၍ နာမည်ကျော်စ ပြုလာဟန်တူသည်။ ၁၂၂၅ ခုနှစ် ရွှေတိုက်သွင်း အစီရင်ခံစာကို အထောက်အထားပြု၍ သိရှိ

ရသည်မှာ၊ အိမ်ရှေ့ဘုရားက ‘ အယုဒ္ဓယတိုင်းဂျမ်းပြည်၊ ဟရိဘုဉ္စတိုင်း ယွန်းပြည်ပါ အရပ်ရပ်ဒဏ္ဍာရီဇာတ်များကို ဂျမ်းသံခံ၊ ယွန်းသံခံတို့နှင့်ညှိနှိုင်း၍ မြန်မာဘာသာသို့ ပြန်ဆိုစေရာ၊ အသက် ၂၃ နှစ်အရွယ်တွင် ဦးစသည် စဉ့်ကူးမင်း မိဖုရား ဟောင်း ပဘာဝတီဘွဲ့ခံ သခင်မင်းမိ၊ ပြင်စည်မြို့စား မြင်းမှူးမင်းသား၊ အတွင်းဝန် မဟာနန္ဒယော်ဓာ ဦးကျီစိုး၊ မက္ခရာမြို့စား၊ စမွေယျပျို့ရေးသူ မိုးထားမြို့စားဝန်ထောက်တော် နေမျိုးကျော်စွာ၊ ရာမရကန်ရေးသူ ဦးတိုး၊ တောင်ငူမြို့စား မင်းသား သတိုးဓမ္မရာဇာတို့နှင့်အတူ ယိုးဒယားဇာတ်များအတွက် တီးကွက်နှင့်ဇာတ်ချင်းများကို ၁၁၅၁ ခုနှစ်တွင် ဝေပုံကျတာဝန်ယူ၍ ရေးသားဆက်သွင်းရာ အကျော်အစောဖြစ်သည်။

၁၁၆၀ ပြည့်နှစ်တွင် အိမ်ရှေ့ဘုရား၏အမိန့်အတိုင်း ယိုးဒယားဣန္နာဝုဓ ဝတ္ထုကို ယိုးဒယား မင်းသားမင်းသမီးတို့အား ဖတ်ပြန်စေ၍၊ ဦးစက စိကုံးရေးသားရသည်။ ယင်းကိုလက်ာ သီချင်း တီးကွက်တို့နှင့် တန်ဆာဆင်၍ သဘင်ကျင်းပရသည်။ သို့သော် အားလုံး မပြီးဘဲ၊ ကာလံပြည်တွင် အိနောင်မင်းသားနှင့် ယောကျ်ားယောင်ဆောင်ထားသော ပွတ်စပါးမင်းသမီးတို့ ကြက်တိုက်ခန်းတွင်သာ ပြီးလေသည်။ ထိုအချိန်က ဦးစသည် ယိုးဒယား ဇာတ်မင်းသမီး နှင်းနု ကို ယိုးဒယား အတီးအကနှင့် စပ်လျဉ်း၍ ခင်မင်ရင်းနှီးဟန်ရှိခဲ့သည်။ အတီးအကတို့ကို လေ့လာသင်ယူနေစဉ်၊ ‘ အင်မတု၊ နှင်းနု ရွှေနှစ်ကဲ့၊ စိမ်းလေပြစ်အား။ သည်ညဉ့်ကြီးလယ်၊ ဘယ့်နှယ်ပြန်ပါရမယ်၊ ကင်းရန်ကများ။ ’ ဟူ၍ နှင်းနုကို ဖွဲ့နွဲ့ စပ်ဆိုခဲ့သည်ဟု အမှတ်အသားရှိသည်။

ဦးစသည် အိမ်ရှေ့မင်းထံ၌အမှုထမ်းစဉ်၊ ဇေယသခ်ယာဘွဲ့နှင့် ဖြတိုက် သံဆင့် ရာထူး ရရှိသည်ဟု အဆိုတရပ်ရှိသည်။ ဦးကျော်ထွန်း တည်းဖြတ် သော မြန်မာစာညွှန်ပေါင်းကျမ်းတွင် အိမ်ရှေ့ဘဏ္ဍာစာရေး ခန့်တော်မူသည်ကို ခံရသည်ဟုလည်းဆိုသည်။

၁၁၅၈ ခုနှစ်တွင် ဘိုးတော်ဘုရားသည် ရောဝတီမြစ်ညာ သီဟတောဘုရားသို့ ပူဇော်ကန်တော့ရန် ကြွတော်မူသည်။ ထိုအခါ သီဟတောတွင် ငထွေတို့ကိုမြင်၍ ဦးစသည် ‘ လွမ်းလှ၍ မအေ့ကိုမှာလေလိုက်မယ်၊ မြစ်မှာ ငထွေကိုမမြင်စမ်းစေရ၊ တမ်းရောင်မိတယ်။ စုံတဝန်း၊ ထုံမွှန်းပျံ့အလယ်မှာ၊ တောင်နယ်က ညိုရင့်။ ရွှက်သစ်သာ လောင်း တော့တယ်၊ ရွက်ဟောင်းညှာကြွေသည့်၊ သီဟာဗွေ ရွှေဘုမ္မိမှာ၊ ဆွေးဘိသည်နှင့်။ ’ ဟုစပ်ဆိုလေရာ၊ ပုသိမ်ထိပ်ထားက ‘ စစ၊ သီချင်းတွင် တောတောင်ဘွဲ့ အလွန်ယဉ်ကျေးသည်။ သို့ရာတွင် ငထွေကိုပြင်ပါဦး စစရယ် ’ ဟု အမိန့်ရှိလျှင်၊ ဦးစက ‘ သည်ငထွေကိုပင် အမှုခံပြု၍ရေးရပါသည်။ ငထွေကိုမပြင်နိုင်ပါကြောင်း ’ နှင့် လျှောက်ထားလေသည်။

၁၁၆၇ ခုနှစ် တန်ဆောင်မုန်းလဆန်း ၅ ရက်နေ့တွင် ရှေးအစဉ်အဆက်က ပသခဲ့သော ၃၇ မင်းနတ်တို့ကို ပွဲကနားပေးရာ၌ မည်သို့ကခုန်သည့်အချက်အလက်တို့ကို နတ်ထိန်းနတ်နေအတီးသမားတို့အား မေးစစ်မှတ်သားရမည်ဟု အိမ်ရှေ့မင်း (ရွှေတောင်မင်း) က အမိန့်တော်မှတ်သဖြင့်၊ ဦးစသည် ဆိုင်းတီးဆရာ ဦးမြတ်သာနှင့်တကွ မိမိ၏ငယ်ဆရာ ဦးတရုပ်တို့ကို မေးစစ်ရလေသည်။

၁၁၇၀ ပြည့်နှစ်တွင် အိမ်ရှေ့မင်းနတ်ရွာစံလေသော် ဘိုးတော်မင်းတရားကြီး၏ မြေးတော် စစ်ကိုင်းမင်းသည် အိမ်ရှေ့အရာကိုရလေသည်။ ထိုအခါ ဦးစသည် အိမ်ရှေ့သံဆင့်နှင့် ပြည်လုံးယူလျှော့မှုးရာထူးတို့ကို ရလေသည်။ ဤလျှော့မှုးခန့်အပ်ခြင်းခံရသည်မှာ ဦးစအဖို့ စစ်မှုရေးရာဖက်၌ ပဌမဦးစွာ တာဝန်ယူ ထမ်းရွက်ရခြင်းဖြစ်သည်ဟု ယူဆနိုင်ဖွယ်ရှိသည်။ ထိုနောက် ဦးဇသည် အိမ်ရှေ့အတွင်းဝန်အဖြစ် အခန့်ခံရ၍ အမှုတော်ကိုထမ်းရွက်နေစဉ်၊ နေမျိုးဇေယသူရဟူသောဘွဲ့ကိုခံယူရသည်။

၁၁၇၅ ခုနှစ်တွင် မဏိပူရပြည် ကသည်းမဟာရာဇာ ပုန်ကန်သည်ကို ဦးစသည် မြင်းတရာ့ငါးဆယ်၊ စစ်သည်သူရဲ ၁၅၀၀ ကို အုပ်ချုပ်၍ တမူး ကြောင်း ချီတက်တိုက်ခိုက်ရသည်။ ထိုအခါ မဟာရာဇာထွက်ပြေး၍ ညီ ဇူပရာဇာကို နန်းတင်ပြီးသော်၊ ရွှေမြို့တော်သို့ ပြန်ရောက်သည်တွင် ဒူးနေရာကသည် တော်နေရာသို့မြင့်၍ တော်ဆောင်တော်ရွက်များကို သနားတော်မူခြင်းခံရသည်။ ယင်းသို့ချီတက်စဉ်စာဆိုဘဝမှ စစ်သားဖြစ်လာရသော ဦးစသည် ကသည်းနယ်စပ်သို့ ရောက်သောအခါ၊ ကျောက်စရစ်ခဲနှင့် တီကျစ်စာများကိုသာတွေ့ရပြီးလျှင် သစ်ဝါး ကြီးကြီးမားမားမရှိသောကြောင့် စစ်သည်တို့ ခိုစရာနေရာမရှိသောကုန်းခင်ကို မြင်ရသည်တွင်၊ ကဗျာဉာဏ်ကွန့်မြူးသည်နှင့်၊ ‘ ပြုတ်စီတီကျစ်နှင့်၊ ကျောက်စစ် ကယ်ကုန်း ခင်၊ ရေရှင်ကပြေး။ ခွံ့စိမ်းလုံ့စိုသည့်၊ အညိုပင် မွန်မင်းငယ်မှာ၊ ခိုခင်းကဝေး။ ’ ဟူ၍ စပ်ဆိုလေသည်။

၁၁၈၁ ခု နယုန်လတွင် ဘိုးတော်မင်းတရားကြီး နတ်ရွာစံလေသော်၊ မြေးတော် အိမ်ရှေ့မင်း (စစ်ကိုင်းမင်း) သည် ထီးနန်းဆက်ခံစိုးစံလေသည်။ ထိုမင်းကား မြန်မာရာဇဝင်တွင် ဘကြီးတော် (၁၁၈၁–၁၁၉၉) ဟု ထင်ရှားခဲ့သော မင်းဖြစ်သည်။ မင်းဖြစ်စတွင် မှူးမတ်များကို ဆုတော်လပ်တော်ပေးသနားရာ ဦးစမှာ ငွေအသပြာ ၁၅၀၀ နှင့် အဖိုးများစွာထိုက်သောမြလက်စွပ်တစ်တို့ကို အသနားခံရသည်။ ထိုနောက် ဦးစကို နန်းတော်ကြီးအတွင်းဝန် ခန့်တော်မူ၍၊ သီရိမဟာဇေယျသူရ ဘွဲ့အမည်ကို ပေးတော်မူသည်။

ထိုနောက် ၁၁၈၂ ခုနှစ် သီတင်းကျွတ်လဆန်း ၄ ရက်နေ့တွင် ဒုတိယအကြိမ်အားဖြင့် ၃၇ မင်းနတ်အကြောင်းကို



ထူးမခြားနားကိုစပ်ဆိုသူ စစ်သားစာဆို ပြဝတီဝန်ကြီးဦးစ

ဦးစ စုံစမ်းရပြန်သည်။ ယင်းစုံစမ်းချက်မှာ ယခင် ၁၁၆၇ ခုနှစ်က စုံစမ်းချက်တို့၏ အဆက်ဖြစ်သည်။ နတ်ထိန်းကြီး ကဝိဒေဝကျော်၊ ရာဇဝင်ဦးနု စသော ရာဇဝင်တတ်ပုဂ္ဂိုလ်တို့နှင့် ညှိနှိုင်း၍ ၃၇ မင်း နတ်စဉ် အမျိုးအမည်၊ ဆင်ယင် ပသနည်း၊ တီးမှုတ်နည်းနှင့် နတ်သံများကို ရွှေနန်းတော်သို့ ရေးမှတ်အစီရင်ခံရလေသည်။ ယခင် ၁၁၆ဝ ပြည့်နှစ်က မပြီးမပြတ်သေးသော ဇာနက္ခာဝုဓ နန်း တွင်းဇာတ် ကို ဦးစ သည် အပြီးတိုင် ဆက်လက်ရေးသားရသည်။ ထိုဇာနက္ခာဝုဓဇာတ်ပါ ဇာနက္ခာဝုဓမင်းသားကို ယိုးဒယားတို့က အီနောင်ဟု ခေါ်သည်။ ယိုးဒယားအမည်ကိုယူ၍ ထိုဇာတ်ကို ဦးစကလည်း အီနောင်ဇာတ်ဟု ခေါ်လေသည်။ ထိုပြင် ဤမင်းလက်ထက်တွင် ဦးစသည် သဘင်ဝန်ဦးသော်နှင့်အတူ မြန်မာရုပ်သေးသဘင်ကို ကြံဆသည်ဟု အမှတ်အသားရှိသည်။

၁၁၈၃ ခုနှစ်တွင် ဘကြီးတော်သည် မင်းကွန်းသို့ထွက်စံတော်မူရာ၊ ဦးစသည်လည်း လိုက်ပါရသည်။ မင်းကွန်းသို့ရောက်သည့်ကာလ၊ ဦးစသည် ကော်ကပစ်ကြိမ်ရိုင်များနှင့် ယာယီတဲထိုးကာနေလေသည်။ ထိုအခါ စာဆိုတော်ဦးမင်းသည် ဦးစဆောက်ထားသော တဲအိမ်သို့ရောက်လာ၍ တဲအိမ်အကြောင်းကို မေးမြန်းသည်တွင် ဦးစက 'ရွှေအန်ကိုကြိုးတဲ့နောင်၊သာဆောင် မြင့်ကြော။ ကော်ပစ်ကယ်ကြိမ်ရိုင်နှင့်၊ ခိုင်လေသည်ဂူရန်တဲမှာ၊ ငွေသဲကပေါ်။' ဟုရုတ်ခြည်းစပ်ဆို၍ ဖြေကြားသည်ဟု အမှတ်အသားရှိလေသည်။ ဦးစ၏ ကဗျာဂီတ ဝါသနာအထုံတို့သည် ဦးစ၏ ဘဝဖြစ်စဉ်ကို ကြိုးကြားကြိုးကြား မှတ်တမ်းတင်ထားဘိသကဲ့သို့ ရှိလေသည်။

၁၁၈၅ ခုနှစ်တွင် မြန်မာနိုင်ငံ၌ အရေးတော်ပုံတရပ် ပေါ်လာခဲ့သည်။ ယင်းသက္ကရာဇ် ဒုတိယဝါဆိုလတွင် စစ်တကောင်းမြို့ကို အုပ်ချုပ်နေသော အင်္ဂလိပ်တို့က နတ်မြစ်ဝအနီးရှိ ရှင်မဖြူကျွန်း ကျေးရွာများ၌ အလံစိုက်ထူ၍ တပ်တည်လုပ်ပြီးလျှင်၊ နှစ်လကျော် သုံးလခန့် လူသူစောင့်နေကြောင်းဖြင့် ဓညဝတီမြို့ဝန် မဟာမင်းကြီးကျော်စွာက အစီရင်ခံလေသည်။ ထိုအခါ ဘုရင်မင်းမြတ်၏အမိန့်အရ၊ ဦးစသည် မင်းကြီး မဟာသီဟသူရဘွဲ့ကို ခံယူကာ၊ လက်ဝဲ စစ်ကဲအတွင်းဝန်အဖြစ်ဖြင့် ဗိုလ်မှူးမဟာဗန္ဓုလနှင့်အတူ ပန်းဝါသို့ စလင်းဆင်ဖြူကျွန်းမှတဆင့် ချီတက်ရသည်။ ထိုပန်းဝါမှာ ဖလောင်းချိပ်ခေါ် ကောက်စဗဇားမြို့၏ အရှေ့စူးစူးဆယ်မိုင်ကျော်ခန့်တွင်ရှိ၍၊ ရာမူးဟု တွင်သည်။ ယင်းသို့ချီတက်စဉ်တွင် မဟာဗန္ဓုလသည် တတိုင်းတပြည်သို့ ချီတက်ဆိုင်ပြိုင်ရမည့် စစ်ဗိုလ်မှူးများဖြစ်သည်နှင့်အညီ ဘွဲ့အမည်အရည်ကို တိုးတက်သတ်မှတ်ပေးရန် လျှောက်ထားရာ၊ မင်းကြီးမဟာဗန္ဓုလသည် သတိုးဘွဲ့ကို ရလေသည်။ မင်းကြီး မဟာသီဟသူရ ဦးစ ကား ဗိုလ်ချုပ်အဆင့်အတန်းကို ရလေသည်။ ၁၁၈၆ ခုနှစ် တန်ခူးလတွင် ဗိုလ်မှူးဝန်ကြီးသတိုး မင်းကြီး မဟာဗန္ဓုလသည် လက်ဝဲစစ်ကဲအတွင်းဝန် မင်းကြီး မဟာသီဟသူရ ဦးစ နှင့် အတူ ဂေါ်တော့ပလ္လင် အရောက် တောတောင်ချောင်းမြောင်းများကို ကူးသန်းကာ ချီတက်လေသည်။

ယင်းသို့ချီတက်ရာ၊ ဂေါ်တော့ပလ္လင်တွင်၎င်း၊ ပန်းဝါတွင်၎င်း ဆင်မြင်းအလုံးအရင်း စစ်ဗာဒိအမှုထမ်းများနှင့် ကြံ့ကြံ့ဆီး ကြို ရပ်ခံနေသော အင်္ဂလိပ်တို့ကို အောင်နိုင်လိုက်လေသည်။ ဦးစ၏တပ်သည် ထိုမှတဆင့် နတ် (ငတ်) မြစ်ဝသို့ ချီတက်ပြီး လျှင်၊ မိုးကျလာသည်နှင့် ဖလောင်းချိပ်အရပ်တွင် ရိက္ခာများသိုလှောင်၍ အခိုင်အမာ တပ်စွဲနေသည်။

ဤစစ်ပွဲကား မြန်မာနိုင်ငံသမိုင်းတွင် ပဌမ အင်္ဂလိပ်မြန်မာစစ်ပွဲဟု တွင်သော စစ်ပွဲဖြစ်၏။ (အင်္ဂလိပ်မြန်မာ စစ်ပွဲများ — ရှု။) ဦးစသည် ဖလောင်းချိပ်၌ တပ်စွဲ၍ ရပ်နေစဉ် အင်္ဂလိပ်တို့သည် ရန်ကုန်မြို့သို့ ရေကြောင်းမှ အလုံးအရင်းနှင့် ချီတက်လျက်ရှိချေပြီ။ ထိုအချိန်တွင် ရန်ကုန်မြို့ကို ကာကွယ်ရန် ကိစ္စသည် အရေးကြီးလာပြီဖြစ်သောကြောင့် သတိုးမဟာဗန္ဓုလလည်း အမိန့်တော်မြတ်ကိုနာခံ၍ ၁၁၈၆ ခု တော်သလင်းလတွင် စလင်းဆင်ဖြူကျွန်းမှလှည့်ကာ ရန်ကုန်သို့ ချီတက်ရလေသည်။ ထိုနောက် မဟာဗန္ဓုလသည် ရန်ကုန်မှဓနုဖြူမြို့သို့ ဆုတ်ခွာလာခဲ့ရပြီးလျှင် ၁၁၈၆ ခု နှောင်းတန်ခူးလဆန်း ၁၄ ရက်နေ့၌ ဓနုဖြူတိုက်ပွဲတွင် ကျဆုံးလေသည်။ (ဗန္ဓုလ — လည်းရှု။)

ထိုစဉ်အတွင်း အတွင်းဝန် မင်းကြီး မဟာသီဟသူရ ဦးစသည် ဓညဝတီမြို့မှနေ၍ စီမံခန့်ခွဲလျက်ရှိစဉ်၊ ဓနုဖြူတင်ပျက်သည်နှင့်တချိန်တခါတည်း၊ အင်္ဂလိပ်တို့က ဗုံးအမြောက်လက်နက်လူသူ အင်အားအလုံးအရင်းနှင့် ချီတက်တိုက်ခိုက်ပြန်သောကြောင့်၊ စလင်းမြို့သို့ ဆုတ်ခွာပေးရလေသည်။ ထိုနောက်၌သော်ကား မြန်မာနှင့်အင်္ဂလိပ်တို့သည် စစ်ပြေငြိမ်းရန် စေ့စပ်ကြလေရာ၊ ၁၁၈၇ ခုနှစ်တွင် မြန်မာနှင့်အင်္ဂလိပ်တို့ ရန္တပိုစာချုပ်ကို ချုပ်ဆိုကြလေသည်။ (ရန္တပိုစာချုပ် — လည်းရှု။) စာချုပ်အရ မြန်မာ အစိုးရ နှင့် အင်္ဂလိပ်အစိုးရ တို့သည် တဆယ့်လေး နှစ်မျှ တဦးနှင့်တဦး အဆက်အသွယ်ပြုကြလေသည်။ ထိုတဆယ့်လေးနှစ်အတွင်း အင်္ဂလိပ် အစိုးရသည် အင်းဝ၌ နေထိုင်ကြသော အင်္ဂလိပ်အရာရှိများထံမှ မြန်မာ နိုင်ငံရေးနှင့် စပ်လျဉ်း၍ အမှတ်အသား အစီရင်ခံစာတမ်းများကို ရရှိလေသည်။ ထိုစာတမ်းများတွင် ၁၁၉၂ ခုနှစ် (ခရစ် ၁၈၃ဝ ပြည့်နှစ်) ၌ အင်းဝနေပြည်တော်တွင် အင်္ဂလိပ်အစိုးရ၏ ကိုယ်စားလှယ် ခန့်အပ်ခြင်းခံရသော မေဂျာ ဟာင်နရီ ဗားနေး (မယ်စယ်ဘော်ရနီ)၏ မှတ်တမ်းသည် မြဝတီဝန်ကြီးဦးစ၏ အကြောင်းရပ်များပါရှိသောကြောင့် အထောက်အထားအလို့ငှာ တန်ဖိုးများစွာရှိသည်။ ထိုမှတ်တမ်းများအပြင် အမေရိကန်သာ



မြဝတီဦးစခေတ် ဝန်ကြီးနှင့်ဝန်ကတော်

သနာပြု ဆရာ ယုဒသန်၏ မှတ်တမ်းများလည်း ရှိသေးသည်။ (ယုဒသန် — လည်း ရှု။) ယင်းမှတ်တမ်းတို့ကို ရန်ကုန်တက္ကသိုလ် ရာဇဝင်ပါမောက္ခတဦးဖြစ်ခဲ့သူ ဒဗျူ၊ အက်(စ)ဒေဆိုင်းသည် 'မြန်မာပြည်ရှိ ဗြိတိသျှကိုယ်စားလှယ်များ၏ သမိုင်း' ခေါ် စာအုပ်တွင် ထည့်သွင်းဖော်ပြထားခဲ့သည်။ ယင်းသို့ဖော်ပြပါရှိသော ဦးစ၏ အတ္ထုပ္ပတ္တိနှင့်ဆိုင်ရာ အချက်အလက်များမှာ ဤသို့ဖြစ်သည်။

အင်းဝမြို့တွင် မြဝတီဝန်ကြီးက ဗားနေးအား သူသည်ရာမှုး (ပန်းဝါ) တိုက်ပွဲတွင်အောင်ပွဲရစဉ်က၊ သူ၏စစ်တပ်တွင် စစ်သား ၆၅၀၀ သာရှိ၍၊ ကက်ပတိန် နော်တင်၏တပ်တွင် စစ်သား ၇၀၀၀ ခန့်ရှိကြောင်း၊ အောင်မြင်ပြီးသည့်နောက် စစ်ပွဲတွင် ဒဏ်ရာရရှိသော အင်္ဂလိပ်အရာရှိနှင့်စစ်သားများအားနှိပ်စက်ညှဉ်းပန်းခြင်းပြုရန် သူက အမိန့်လည်းမထုတ်ခဲ့၊ ခွင့်လည်းမပြုခဲ့ကြောင်း၊ စစ်ပွဲတွင် ကျဆုံးသေကြေသော အင်္ဂလိပ်များမှာ တိုက်ယင်းခိုက်ယင်းသာ သေကြေကျဆုံးကြသူများဖြစ်ကြောင်းကို ပြောကြားသည်ဟု ဗားနေးက မှတ်တမ်းတင်ခဲ့သည်။ (ဗင်္ဂလားအစိုးရ အတွင်းရေးနှင့်နိုင်ငံရေးဆိုင်ရာ အတိုင်ပင်ခံစာတမ်းစာအုပ်၊ အတွဲနံပတ် ၃၅၊ ဗားနေး၏မှတ်တမ်း ပိုဒ်ရေ ၁၀၇ မှ။) အမေရိကန်လူမျိုး သာသနာပြုဆရာကြီး ယုဒသန်သည် ဦးစနှင့် ကောင်းစွာသိကျွမ်းသူဖြစ်သည်။ ယုဒသန်က ဦးစအား မြန်မာနိုင်ငံတွင် ဥာဏ်အထက်မြက်ဆုံး၊ အမြော်အမြင်နှင့်ပြည့်စုံဆုံး၊ ဥာဏ်အမြင်ကျယ်ဆုံး ပုဂ္ဂိုလ်တဦး ဖြစ်ကြောင်းနှင့် မှတ်တမ်းတင်ခဲ့သည်။

ဝိဇ္ဇာအတတ်၊ သိပ္ပံအတတ် ပညာရပ်များတွင် ဥရောပတိုက်သားများသည် မြန်မာတို့ထက် ကျွမ်းကျင်ကြသည်ဟု ထင်မြင်ကြောင်း၊ ထိုအတတ်များကို မြန်မာနိုင်ငံတွင် သင်ကြားစေချင်သည်ဟု ဦးစက ပြောကြောင်း များကိုလည်း မှတ်တမ်းတွင် ရေးသားထားသည်။ (အတိုင်ပင်ခံစာတမ်း အတွဲနံပတ် ၃၄၊ မြန်မာနန်းတော်တွင် အမှုထမ်းလျက်နေကြသော အရာရှိများအကြောင်းစာအုပ်၊ ယုဒသန်ရေး။) ထိုနောက် ကာနယ်ဗားနေးက ရေးသားထားပြန်သည်မှာ ဦးစသည် သူတွေ့ဘူးသော မြန်မာများအနက် ဥာဏ်အထက်ဆုံးသော ပုဂ္ဂိုလ်ဖြစ်ကြောင်း၊ မြန်မာနိုင်ငံတော်ရေး၊ အုပ်ချုပ်ရေးနှင့်စပ်လျဉ်း၍ စကားပြောဆိုကြရာတွင် သူကသာ ဦးဆောင်၍ပြောဆိုလေ့ရှိကြောင်း၊ ဦးစသည် ဥရောပတိုက်သားများနှင့် မိတ်ကျွမ်းတဝင်ရှိကြောင်း၊ အထူးသဖြင့် ယုဒသန်နှင့် ခင်မင်ရင်းနှီးကြောင်း၊ အင်္ဂလိပ်လူမျိုးတို့ စိတ်နေသဘောထားနှင့်တကွ၊ အမှုအရာများကို အခြားသော မြန်မာအရာရှိများထက် ပိုမို၍ သိနားလည်ကြောင်းများဖြစ်သည်။ (အတိုင်ပင်ခံစာတမ်း အတွဲနံပတ် ၃၅၊ ဗားနေး၏မှတ်တမ်း ပိုဒ်ရေ ၂၃ မှ။)

ဦးစသည် ဗြိတိသျှလူမျိုးနှင့် စစ်ပြုသောကြောင့် မြန်မာအစိုးရ၌ ဆုံးရှုံး နစ်နာခဲ့ရပုံ များကို ကောင်းစွာသိသည်။ ဗြိတိသျှအစိုးရနှင့် အေးချမ်းသာယာစွာ ဆက်ဆံလိုသည်။ ဗားနေး၏ နေ့စဉ်မှတ်တမ်းတွင် ဤသို့ပါရှိသည်။ 'သက္ကရာဇ် ၁၈၃၀ ခု ဇွန်လ ၁၀ ရက်နေ့၊ ကျွန်ုပ်သည် မြန်မာမှူးမတ်များနှင့် ထမင်းစားပွဲ တည်ခင်းကျင်းပသည်။ ကျွန်ုပ်သည် အားလုံးသော မှူးမတ်များ နှင့် သင့်မြတ်ခဲ့သည်။ မောင်စက ကျွန်ုပ်အားခေါ်၍ မြစ်တဖက်ကမ်းကိုလက်ညှိုးထိုးပြပြီးလျှင် ယခုအခါ ပျက်စီးယိုယွင်းလျက်နေသော နေရာသည် တခါတုန်းက လူနေအိမ်ခြေများစွာနှင့် စည်ကားသော နေရာဖြစ်ကြောင်း၊ ဤကဲ့သို့ ပျက်စီးယိုယွင်းရခြင်းမှာ၊ မကြာခင်က တိုက်ခိုက်ရသော စစ်ပွဲကြောင့် ဖြစ်ကြောင်း၊ နောင်အခါတွင် ဆင်းရဲသားကျွန်တော်မျိုးများအား သနားသဖြင့် စစ်ပွဲ မဖြစ်လိုကြောင်း၊ မဖြစ်သင့်ကြောင်းများကို ပြောဆိုသည်။ မောင်စသည် အလွန်စိတ်သဘောထား ကြီးမားသောသူ ဖြစ်သည်။ မောင်စသည် နာဂရီ အက္ခရာကို ရေးတတ်၍၊ ဟင်ဒီဘာသာစကားကို

လည်း အဝှါန်ငယ် ပြောတတ်သည်။ ၎င်းနောက် ကျွန်ုပ်တို့အား ခရစ်ယန်ဓမ္မသီချင်းတို့မှ နှစ်ပိုဒ်သုံးပိုဒ်လောက်ကို သီဆို၍ပြသည်။ ကျွန်ုပ်မှာ အလွန်အံ့ဩမိသည်။ သူသည် စာဖြူခရစ်ယန်များထံမှ ထိုသီချင်းကို သင်ယူထားဟန်တူသည်။ မောင်စသည် ကသည်းစကားကိုလည်း အနည်းငယ် တတ်ကျွမ်းသေးသည်။' (အတိုင်ပင်ခံစာတမ်း ပိုဒ်ရေ ၁၀၇ နှင့် ၂၁၄ မှ။)

ယခုအမျိုးသားစာကြည့်တိုက်ရှိ၊ မိုင်းခိုင်းဝန်၏ ပုရပိုက်အမှတ်အသားဖြစ်သော မိုင်းခိုင်းမှတ်စုအရ၊ ၁၁၉၁ ခုနှစ်တွင် ဦးစသည် မြဝတီမြို့ကို အသုံးကံကျေးခံ သနားတော်မူခြင်းခံရ၍ ဝန်ကြီးခန့်အပ်ခြင်းခံရသည်ဟု ဆိုသည်။ သို့ရာတွင် ကုန်းဘောင်ဆက် မဟာရာဇဝင်ကမူ ၁၁၉၀ ပြည့်နှစ် နတ်တော်လဆန်း ၁၄ ရက်နေ့တွင် မင်းကြီးမဟာသီဟသူရသည် အဂ္ဂမဟာသေနာပတိဝန်ကြီး ခန့်အပ်ခြင်းခံရသည်ဟု အခိုင်အမာ ဆိုထားလေရာ၊ ဝန်ကြီးဖြစ်သောနှစ်ကို ၁၁၉၀ ပြည့်နှစ်ဟုပင် အတည်ယူရချိမ့်မည်။

ဦးစ စားရသော မြဝတီမြို့မှာ ဘိုးတော်ဘုရားလက်ထက် စစ်တမ်းယူရာဝယ်၊ ရွာသူကြီး တဆယ့်လေးနယ်နှင့် မြို့သူကြီးတနယ် ပါဝင်သော မြို့ဖြစ်သည်။ ထိုမြို့မှာ ရေဝတီနှင့် မတဲမြစ်ဆုံရာ ဒေသ၌ ရှိသည်။ ဗြိတိသျှ အုပ်ချုပ်ရေးအောက်၌ ထိုမြို့သည် သရက်ခရိုင်၊ ကာမမြို့နယ်အပိုင် ကျေးရွာအဖြစ်သို့ ရွေ့လျောသွားခဲ့သည်။

မေဂျာဗားနေး၏ မှတ်တမ်းများအရ ဦးစသည် မြဝတီဝန်ကြီးအဖြစ်နှင့် အမှုထမ်းနေစဉ်၊ ဝန်ကြီးကတော်မှာ နောက်ဆုံး ဟံသာဝတီဘုရင်၏ မြေးတော်တဦး ဖြစ်သည်ဟု သိရသည်။ သမီးများ ရှိကြောင်းကိုလည်း ကဝိရတနာကျမ်းကဆိုသည်။

ဦးစသည် မြဝတီဝန်ကြီးအဖြစ်ဖြင့် နိုင်ငံတော်အတွက် အရေးပါအရာရောက်စွာ ဆောင်ရွက်ခဲ့သော ကိစ္စတရပ်ရှိသေးသည်။ ထိုကိစ္စမှာ နှောင်းရာဇဝင်တို့တွင် ကဘော်ချိုင့်ဝှမ်းဒေသဟု ခေါ်သည့် ခန်းပတ်မြစ်ဝှမ်းဒေသ ကိစ္စ ဖြစ်သည်။ ၁၁၉၁ ခုနှစ်၌ အိန္ဒိယဘုရင်ခံချုပ်သည် အဆိုပါ ခန်းပတ်မြစ်ဝှမ်းဒေသကို မဏိပူရစော်ဘွား ဂမ္ဘီယာဆင်း (ဂမ္ဘီရရှိန်) အား ပေးအပ်ရန်ကြံရွယ်သည်။ ထိုအချက်ကို မြဝတီဝန်ကြီးဦးစသည် ဗြိတိသျှကိုယ်စားလှယ်ဖြစ်သူ မေဂျာဗားနေးမှတဆင့် အပြင်းအထန် ကန့်ကွက်ပြောဆိုရသည်။ နောက်ဆုံးတွင် ဗားနေးကိုယ်တိုင်က ခန်းပတ်မြစ်ဝှမ်းကို မြန်မာတို့အား ပြန်ပေးရန် ထောက်ခံပြောဆိုသဖြင့် ဤကိစ္စသည် ပြေပြစ်စွာပြီးဆုံးခြင်းသို့ ရောက်လေသည်။

မြဝတီဝန်ကြီးဦးစသည် ဤသို့ဖြင့် နိုင်ငံတော်၏အရေးကို မလစ်ဟင်းရလေအောင် ကသည်းမဟာရာဇာ ထောင်လွှားသည့်အချိန် အသက် ၄၇ နှစ်အရွယ်မှသည်၊ ခန်းပတ်မြစ်ဝှမ်းကိစ္စ၌ အင်္ဂလိပ်တို့နှင့် အပြေအပြစ် စေ့စပ်သည့်အချိန် အသက် ၆၄ နှစ်အရွယ်အထိ၊ အမှုတော်ကို ကျေပြွန်စွာ ထမ်းရွက်ခဲ့သည်။ ဤအထဲတွင် သူ၏ဝါသနာဘာဂီအတိုင်း ကဗျာဂီတ အရေးအသားတို့ကိုလည်း အကြောင်းအခွင့်ဆိုက်လာတိုင်း ရေးသားမြဲ ရေးသားခဲ့သည်။ စင်စစ် မြဝတီဝန်ကြီးသည် စစ်သားစာဆိုတဦးဖြစ်၏။ စစ်တိုက်ရာတွင် စစ်သားကောင်းပီပီ ရှပ်ရှပ်ချွံချွံ တိုက်ခိုက်ခဲ့သော်လည်း၊ စာဆိုအနေနှင့်မူကား နူးညံ့သိမ်မွေ့သော စိတ်ထား ရှိ၏။ ထိုကြောင့် ထီးတွင်း နန်းတွင်း၌ ဦးစသည် 'စစ' ဟူ၍ အမြတ်တနိုး ခေါ်ဝေါ်ခြင်းကို ခံရလေသည်။ ၁၁၈၃ ခုနှစ်ဖွား ဘကြီးတော်၏သမီးတော်၊ နောင်အခါ မင်းတုန်းမင်းတရားကြီး၏ အလယ်နန်းတော်မိဖုရား ဖြစ်လာသော စုဖုရားသည် ဦးစအား ငယ်စဉ်ကပင်လျှင် မိမိ၏ဆွေရင်းမျိုးချာသဖွယ် ခင်မင်ရင်းနှီးခဲ့ဟန် လက္ခဏာရှိသည်။ တနေ့သောအခါ စုဖုရားသည် ဦးစ၏ရင်ခွင်ပေါ်သို့တက်၍၊ 'စစရယ်၊ လေးငါးရက်ရှိပြီ၊ စစကိုမတွေ့ရ၊ ဘယ်ကိုသွားနေတုံး၊ စစကို လွမ်းလိုက်ထာ' ဟု ဆိုသည်နှင့်၊ ဦးစသည် 'သည်လိုသာ လာရိတ္တန်းမှဖြင့်၊ ကျွန်းချည့်မယ်ဇေယာခွန်ချင် ကိုးပြည်ထောင်ရှင်၊ ရာမင်းဖျား နှစ်ပါးလွန်ကြည်လင်လှတယ် ဘုန်းပြင်ရှိဘူး။' ဟူသောသီချင်းကို ရေးသားစပ်ဆိုလေသည်။

မြဝတီ ဝန်ကြီးသည် အထက်၌ ဖော်ပြသကဲ့သို့ နိုင်ငံတော်၏ အရေးတို့ကို ပြောင်မြောက်အောင် ထမ်းရွက်ခဲ့သည်မှန်သော်လည်း၊ ကံဇာတာညှိုးခိုက်တွင် အရေးတော်ပုံတရပ်နှင့် ရင်ဆိုင်တွေ့ရချေသည်။ သက္ကရာဇ် ၁၁၉၇ ခုနှစ်တွင် ဘကြီးတော်ဘုရားသည် ကိုယ်တော်ကျန်းခံ့တော်မမူသည်နှင့် မိဖုရားခေါင်ကြီး (နန်းမတော်မယ်နု) ၏မောင်တော် စလင်းမြို့စား မင်းသားကြီးမောင်အိုအား မှူးတော်မတ်တော်တို့နှင့် တိုင်ပင်၍ တိုင်းပြည့်ဝန်ကို ထမ်းရွက်ရန် လွှဲအပ်တော်မူသည်။ ထိုအခါ စလင်းမြို့စားမင်းသားကြီးသည် ဘကြီးတော်ဘုရား၏ ညီတော် သာယာဝတီမင်းကို အယုံအကြည်မရှိ၊ နှလုံးစိတ်ဝမ်းမချ၊ အထူးအထွေ ထင်မှတ်သောကြောင့်၊ စဉ့်ကူအုံမြို့သူကြီး မောင်ရေးသည် လူဆိုးလူသွမ်းတို့ကို ပူးပေါင်းလက်ခံ စည်းကြပ်ပြီးလျှင်၊ သာယာဝတီမင်း အိမ်မှာ ဝင်ထွက်ရှိနေသည်ဟု စွပ်စွဲလေသည်။ ထိုနောက် သာယာဝတီမင်းထံ မောင်ရေးအား ပေးအပ်ရမည်ဟု တောင်းဆိုသောအခါ၊ သာယာဝတီမင်းသည် မောင်ရေးမှာ အိမ်တော်တွင် မထမ်း မရွက် မရှိ မနေကြောင်းနှင့် နောင်တော်အား ဆရာတော်တို့မှ တဆင့် သိသာအောင် ပန်ကြားလေသည်။ သို့သော် စလင်းမင်းသားကြီး၏ ဩဇာသည် လွှမ်းမိုးလာသည်နှင့် သာယာဝတီမင်းသည် ရွှေဘိုသို့ထွက်သွားပြီးလျှင်၊ ပုန်ကန်ရန် စီစဉ်၏။ သို့သော် ဘကြီးတော်နှင့် သာယာဝတီမင်းတို့မှာ ညီရင်းအစ်ကို ဖြစ်



မြဝတီဦးစခေတ် အတွင်းဝန်ကတော်၊ အတွင်းဝန်၊ စာရေးတော်ကြီး

ရုံမျှသာမက၊ ဘိုးတော်ဘုရား၏သြဝါဒကို အစဉ်နှလုံးပိုက်သူများဖြစ်ကြ၍၊ မျှူးမတ်နှင့် ဆွေတော်မျိုးတော်အပေါင်းတို့က စေ့စပ်ခြင်းကို နှစ်ဦးနှစ်ဖက် လက်ခံစပြုလာလေသည်။ (ဘကြီးတော်။ သာယာဝတီမင်း — လည်းရှု။) ထိုအခါ စလင်းမြို့စား မင်းသားကြီးသည် သူ၏အသက်စည်းစိမ်တို့ငဲ့၍ ကိုယ်လွတ်ရုန်းရန်အလို့ငှာ၊ ဘကြီးတော်ဘုရား၏သားတော် ညောင်ရမ်းမင်းသားအား တိုင်းပြည်အပ်နှင်းမည်ဟု အမှုထမ်း လူခုနစ်ထောင် ကျော်တို့ကို သိမ်းသွင်းလေ၏။ ထိုအခါ ပင်းတလဲမြို့စားသည် ညောင်ရမ်းမင်းတပ်တွင် တပ်ဦးကလိုက်၍ အမှုကိုထမ်းလေသည်။

ဤအရေးတော်ပုံတွင် မြဝတီဝန်ကြီးဦးစမှာ ဘကြီးတော်ဘုရားက စလင်းမြို့စားမင်းသားကြီးကို တိုင်းပြည်အမှုထမ်းရွက်ရန် အာဏာလွှဲအပ်သည်တွင် အတိုင်ပင်ခံ မျှူးကြီးမတ်ရာတဦး အဖြစ်ဖြင့် ပါဝင်ခဲ့ရဟန် လက္ခဏာရှိသည်။ ထို့ကြောင့် သာယာဝတီမင်း ရွှေဘိုသို့စံနေစဉ် မောင်းထောင်ဆရာတော် ရှင်ဥေယျမမှ အမှူးရှိသော ဆရာတော်သုံးပါးနှင့်တကွ မလွန်မင်းသားတို့က စေ့စပ်သည်တွင် သာယာဝတီမင်းက စလင်းစား၊ ပင်းတလဲစား၊ မြဝတီဝန်ကြီးမဟာသီဟသူရ (ဦးစ)၊ ဆောမြို့စားအတွင်းဝန်စသော သူတို့ကို သူ့အားပေးအပ်ရန် တောင်းဆိုလေသည်။ ထိုအခါ စလင်းမြို့စားမင်းသားကြီးနှင့် ပင်းတလဲမြို့စားတို့က တိုင်းပြည်ငြိမ်ဝပ်ပိပြားရေးကို ထောက်ထား၍၊ အပြစ်ပြုသော်ခံပါမည်၊ ခွင့်လွှတ်သော် ချမ်းသာပါမည်၊ ညီတော်မင်းတရားထံ လိုက်သွားပါမည်ဟု လျှောက်ထားသဖြင့်၊ သာယာဝတီမင်း တောင်းဆိုသောလူစုကို ပေးအပ်လိုက်လေသည်။

ထို့ကြောင့် ၁၁၉၉ ခု နှစ်တွင် ရွှေဘိုမင်းဟူ၍ရင်း၊ ကုန်းဘောင်မင်းဟူ၍ရင်း အမည်တွင်သော သာယာဝတီမင်း (၁၁၉၉–၁၂၀၈) သည် ဘကြီးတော်ဘုရားကိုနန်းချ၍ နန်းတက်သောအခါ ဦးစတို့လူစုကို ၁၁၉၉ ခု ကဆုန်လပြည့်ကျော် ၇ ရက်နေ့တွင် ထောင်သွင်းအကျဉ်းထားလေသည်။ သာယာဝတီမင်း၏ အမိန့်တော်စကားအရ မြဝတီဝန်ကြီး၏မှုပြစ်မှာ 'ဝန်ကြီးစ (အစရှိသူတို့) သည် ခမည်းတော်ဘုရား၊ နောင်တော်မင်းတရား ငယ်ကျေးငယ်ကျွန် ဖြစ်သည်နှင့်အညီ၊စားကျေးမြို့ရွာ ရာကြီးထူးကြီးနှင့် နောင်တော်မင်းတရား သူကောင်းပြုကို ခံပြီးလျှင် နောင်တော် မင်းတရားကျန်းခံ့သာယာတော်မမူလျှင်ပင် စလင်းစားနှင့် တရောတရွက်ထည်း ပေါင်းသင်းပြီးလျှင် ပြည်အလုံးကို မငြိမ်မဝပ်အောင် စီရင်သူဖြစ်ကြသည်။' ဟူလေသည်။ ပြင်စည်မင်းသား၏ အမှတ်အသားအရသော်ကား သာယာဝတီမင်း ရွှေဘိုသို့ထွက်စဉ်အခါ တွေ့မိရာအရပ်က ဖမ်းဆီး ပို့အပ်ရန်လွှတ်တော်ကထုတ်သည့် ဆင့်စာတွင် ရှေးထုံးစံကိုမလိုက်နာဘဲ သာယာဝတီမင်း၏ ငယ်မည်တော်ကို ထည့်သွင်းသည့်ပြင် (၄) တပ်၍လည်း လွန်ကျူးအောင် ဦးစက ရေးသားသဖြင့် သာယာဝတီမင်းက အမျက်တော်ရှိလေသည်ဟုဆို

သည်။ ဗဒုံနေး၏ အစီရင်ခံစာအရ သိရသောအချက်တို့မှာ၊ သာယာဝတီမင်းသည် အင်းဝမှ ကျောက်မြောင်းမြို့သို့ ပြောင်းရွှေ့ စံနေတော်မူရန်၊ စင်ကိုင်းမြို့မှတဆင့် ထွက်ချီတော်မူစဉ်၊ မြဝတီဝန်ကြီးဦးစသည် စလင်းမြို့စား မင်းသားကြီးနှင့်အတူ အကျဉ်းသား ဘဝဖြင့် သာမန်လှေကို စီး၍ လိုက်ပါရသည်။ ခရစ် ၁၈၃၇ ခုနှစ် ဇွန်လ ၉ ရက်နေ့တွင် စလင်းမြို့စားနှင့် မြဝတီဝန်ကြီးတို့ပါဝင်သော အကျဉ်းသားတစုသည် ဆေးဖြူသုတ်ထားသော ယောက်မများကို ကိုယ်စီကိုင်၍ စစ်ကိုင်းမြို့တွင်းတွင် လှည့်လည်ပြသသည်ကို ခံကြရသည်။ အဓိပ္ပါယ်မှာ ထိုသူတို့သည် နိုင်ငံတော်၏ငြိမ်းချမ်းမှုကို ပျက်ပြားအောင် ယောက်မကဲ့သို့မွှေသောသူများဖြစ်ကြသည် ဟူသော သဘောပင် ဖြစ်သည်။ ထိုနောက် ကျောက်မြောင်းသို့ ရောက်သောအခါ သာယာဝတီမင်းအား 'ကုန်းဘောင်ပရမေဇေယျာဘိ' ချီ ဘုန်းတော်ဖွဲ့ပတ်ပျိုးကိုစီကုံးဆက်သသောကြောင့် ဦးစသည် အကျဉ်းမှလွတ်ရုံမျှမကသေး၊ မဟာသီရိဇေယသူရ ဟူသော ဘွဲ့ကို ရ၍၊ မြင်းတင်အခွန်ကိုလည်း သနားတော်မြတ်ခံရသည်ဟု အိမ်ရှေ့အတွင်းဝန် ဦးသင်၏ မှတ်တမ်းတွင် ဆိုသည်။

ထိုသို့ လွတ်ရသော်လည်း ခဏတာမျှသာဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် တလခန့် အကြာတွင် ပြန်လည်အဖမ်းခံရ၍ ထောင်သွင်း အကျဉ်းခံရပြန်သောကြောင့်ဖြစ်သည်။ သာယာဝတီမင်းသည် ကျောက်မြောင်း၌ ခြောက်လမျှသာစံပြီးလျှင် အမရပူရမြို့သို့ ပြန်လည်စံနေပြန်သည်။

သို့ဖြင့် အကျဉ်းသမားအဖြစ်နေလာရာ ၁၂၀၁ ခုနှစ်တွင် သာသနာပြု သဲအင်းဆရာတော်ကြီး ဘဝပြောင်းသည်နှင့် ကြုံလေသည်။ ယင်းသက္ကရာဇ် တန်ဆောင်မုန်း လဆန်း ၁၃ ရက်နေ့တွင် သာယာဝတီမင်းသည် မင်းမိဖုရား အပေါင်း ခြံရံလျက် ဘဝပြောင်းတော်မူသော ဆရာတော်ဘုရားကို မလွှိကာတန်ဆာလှူရန် ထွက်တော်မူသည်။ ထိုအခါ မင်းလမ်းမကို ဦးစ အပါအဝင် အကျဉ်းသားများသည် ပြင်ဆင်ကြရသည်။

ဝန်ကြီးဟောင်းဦးစသည် သံခြေကျဉ်းအဆင့်ဆင့်နှင့် ၇၃ နှစ်မျှသောမိမိ၏အသက်ကိုပင် မငဲ့နိုင်ရှာဘဲ လမ်းပြင်နေရသည်ကို သမီးတော်စုဖုရားကြီး မြင်လေသော် ရွှေပြာသာဒ်ရထားကို ရပ်တန့်စေလျက်၊ ဝန်ကြီးဟောင်းစစကို ခေါ်လိုက်ရမည်ဟု အမိန့်တော် ရှိသောကြောင့် နောက်တော်လိုက်တို့က ဆင့်ခေါ်ရလေသည်။ ဦးစလည်း ရထားတော်အနီးသို့ ချဉ်းကပ်လာပြီးလျှင် ပုဆစ်ဒူးတုပ်ဝပ်လျက် ရှိခိုးကာနေလေသည်။

ဤအခါ အရှင်စုဖုရားကြီးက ထောင်၌ခံနေရသော ဆင်းရဲခြင်းအကြောင်းများကို မေးမြန်းတော်မူလေလျှင် ဝန်ကြီးဟောင်းဦးစက ရာဇဝတ်တော်ပန်းကိုပန်ဆင်၍ ထောင်တွင် ၂ နှစ်ကျော်ကြာရှိခဲ့ရာ နေ့ညဉ့်နာရီမလပ် ထိတ်လန့်တကြားအသက်ဆံဖျား နေရကြောင်းများကို သနားတော်မူလောက်အောင် ရွှေနားတော်သင့် တင်ရာတွင် အရှင်စုဖုရားကြီးက အနောက်စမုတ် တန်ဆောင်တိုင်ပွဲတော်သို့ ခမည်းတော်ထွက်တော်မူလိမ့်မည်။ ထိုအခါ သီဆိုရန် ဘုန်းတော်ဖွဲ့ရေးပေးရမည်အကြောင်း အမိန့်တော်ရှိလေသည်။ ဦးစလည်း ကုန်းဘောင်နေမင်း၊ ဘုန်းရောင်ဝေရှင်းချီ သီချင်းကိုရေး၍ စုဖုရားကြီးအမိန့်တော်အတိုင်း ရုပ်သေးမင်းသားဆွဲ မောင်ရွှေသာသို့ ပေးအပ်လေသည်။

တန်ဆောင်မုန်းလပြည့်ကျော် ၃ ရက်နေ့ အနောက်စမုတ်ရုပ်သေးပွဲသို့ သာယာဝတီမင်း ထွက်တော်မူသည်။ ဤအခါ ရုပ်သေး မင်းသားမင်းသမီးထွက်ပြီးလျှင် ကုန်းဘောင်နေမင်း အစချီသော ပတ်ပျိုး၊ သံထောက်၊ လော်ကနတ်သံများကို မောင်ရွှေသာကဆို၍ သီချင်းအချဉ်၊ မည်သူရေးသနည်းဟု မေးတော်မူရာ၊ ထောင်တွင် ရာဇဝတ်ဒဏ်ခံနေရသော ဝန်ကြီးဟောင်းစေယ ရေးကြောင်းမှစ၍ ပညာရှိတဦးဖြစ်ခြင်းကြောင့် ချမ်းသာပေးသင့်သည့် သဘောနိမိတ်များကို သမီးတော်စုဖုရားကြီးက ရွှေနားတော်သင့် တင်ရာတွင် ခွင့်ပေးတော်မူ၍ ဦးစကို ညဉ့်တွင်းချင်းပင် ထောင်ကလွှတ်တော်မူသည်ဟု ပြင်စည်မင်းသားအမှတ်အသားတွင် ဆိုလေသည်။ ဗြိတိသျှကိုယ်စားလှယ် မက္ကလောက်၏မှတ်တမ်းအရဆိုလျှင် ဦးစကို ခရစ် ၁၈၃၉ ခုနှစ် ဧပြီလ ၆ ရက်နေ့တွင် အကျဉ်းမှလွှတ်လိုက်သည်ဟုဆိုသည်။

၁၂၀၂ ခုနှစ်သို့ ရောက်သောအခါ လယ်ထွန်မင်္ဂလာအခါတော်အတွက် သီချင်း ရေးသားဆက်သွင်းရမည်ဟု သာယာဝတီမင်းက အမိန့်တော်ရှိသဖြင့် ဆဒ္ဒန်ပိုဒ်ဘုန်းမြင့်နရိန္ဒာချီသီချင်းကို ရေးသားကြောင်း ဦးစ ကိုယ်တိုင် မှတ်တမ်းတင်ခဲ့ပေသည်။

နောက်ပုဂံမင်း (၁၂၀၈–၁၂၁၄) လက်ထက်တွင် မြင်းမူရွာကို သနားတော်မြတ်ခံရသည်ဟု အိမ်ရှေ့အတွင်းဝန် ဦးသင်၏မှတ်တမ်းကဆိုသည်။

ထိုစဉ်အခါက မင်းတုန်းမင်းသားသည် ဦးစကို ယုံမှတ်ခင်မင်ပုံရသည်။ သက္ကရာဇ် ၁၂၁၀ ပြည့်နှစ်တွင် မင်းတုန်းမင်းသားက ဦးစအား အသက် ၂၅ နှစ်မှသည် မြင်းမူရွာစားမဟာသီရိဇေယသူရ အသက် ၈၃ နှစ်တိုင် ရေးသားပြုစုခဲ့သည့် သီချင်းအမျိုးမျိုးကို စုဆောင်းရမည်ဟု အမိန့်တော်ရှိသဖြင့် မြဝတီဝန်ကြီးစုဆောင်းခဲ့သောစာစုမှာ ယနေ့တိုင်အောင် မန္တလေးမြို့ အငြိမ်းစား သစ်တောအရေးပိုင်မင်း ဦးမောင်မောင်ကျော်ထံတွင် ရှိပေသည်။

၁၂၁၄ ခုနှစ်တွင် မင်းတုန်းမင်း (၁၂၁၄–၁၂၄၀) မင်းအဖြစ်ကိုယူတော်မူပြီးလျှင် ရွှေဘိုမြို့၌စံနေတော်မူစဉ် ဦးစသည် ရွှေတော်သို့ဝင်ထွက်ခစားရသည်။ တနေ့သောအခါ

မင်းတုန်းမင်းသည် မဟာနန္ဒာကန်တော်အတွင်း မဟာမေဃဝန်ဥယျာဉ်တော် စံနန်းတော်၌ စံနေတော်မူစဉ် ကုန်းဘောင်ပရမေခ်ီ ကုန်းဘောင်ဖွဲ့ပတ်ပျိုးကို ရေးသား၍ ဦးစဆက်သောအခါ၊ စစ အမှုတော်ကိုထမ်းနိုင်ပါဦးမည်လားဟု အမိန့်တော်ရှိကြောင်း၊ ဦးစကလည်း အမှုတော်ကိုထမ်းနိုင်သေးကြောင်း တင်လျှောက်ပုံများကို ပြင်စည်မင်းသားကြီးကိုယ်တိုင် မြင်ကြားခဲ့ရသည်ဟု မှတ်တမ်း တင်ခဲ့လေသည်။ ဤတွင် ကုန်းဘောင်ပရမေခ်ီ ဘုန်းတော်ဖွဲ့ကို သာယာဝတီမင်းအားဆက်၍ အကျဉ်းမှ ပဌမအကြိမ် လွတ်ရသည်ဟုဆိုသော အတွင်းဝန်မင်း ဦးသင်၏မှတ်တမ်းကို ဆင်ခြင်ရန်ရှိပေသည်။ ပြင်စည်မင်းသားကြီး၏အဆိုသာလျှင် ခိုင်ခံ့သည် မှတ်ယူဖွယ်ရှိပေသည်။ ထိုအခါ မြဝတီဝန်ကြီး ဦးစသည် အသက် ၈၆ နှစ်ရှိလေပြီ။ ထိုအသက်အရွယ်၌ပင် ဦးစသည် ကံကုန်လေသည်။ မိုင်းခိုင်းမှတ်စုအရ မြဝတီဝန်ကြီးဦးစသည် ၁၂၁၄ ခုနှစ်တွင် ရတနာသိင်္ဃရွှေဘုံမြို့ သူဇာတံခါးတွင်းတွင် ကံကုန်ရာ၊ တော်နေ ရာနေတို့နည်း သင်္ဂြိုဟ်ရသည်ဟုဆိုလေသည်။ ကုန်းဘောင်ဆက် မဟာရာဇဝင်၌ကစ်း ယင်းသင်္ဂြိုဟ်သည့်ကာလကို ၁၂၁၅ ခုသိတင်းကျွတ်လဟုပြဆိုသည်။

မြဝတီဝန်ကြီးဦးစသည် ပတ်ပျိုး၊ ကြိုး၊ ယိုးဒယား၊ ဖွဲ့၊ သီချင်းခံစသည်တို့ကို ကိုးကြောင်းရေးပေစာ ဆယ့်ငါးအင်္ဂါခန့် ရေးသားခဲ့သည်။ (မြန်မာဂီတ — ရှု။) ရေးသားခဲ့သောပတ်ပျိုးတို့မှာ ဟောင်းသည်ဟုမရှိဘဲ၊ ယနေ့တိုင် ထူးခြားသစ်လွင်လျက် ရှိလေသည်။ ယင်းတို့အနက် ယခုခေတ်တိုင် အထူးခေတ်စားဆဲဖြစ်သော ပတ်ပျိုးတို့မှာ သာဆန်းရင်ဗွေ၊ ဘုံပျံနေနန်း၊ မှိုင်းမှုန်ပြာဝေ၊ အထူးထူးငယ်နှင့်၊သော်တင့်ဆီး၊ စိန်ချယ်ခြူးသန်း၊ စိန်မြလျှံချယ်၊ အစရှိသော ပတ်ပျိုးများဖြစ်ကြသည်။ အထူးသဖြင့် ၁၂၀၁ ခုနှစ်တွင် ကုန်းဘောင်မင်းအား ဆက်သွင်းသော ကုန်းဘောင်နေမင်းချီ ဘုန်းတော်ဖွဲ့ပတ်ပျိုးမှာ ကံဇာတာနိမ့်၍ တိမ်မြုပ်နေသော ဦးစကို ပြန်၍ဖော်ပေးသော ပတ်ပျိုးဖြစ်ပေသည်။

မြဝတီဝန်ကြီး၏ ယိုးဒယားသီချင်းများသည် မြန်မာဂီတလောကတွင် များစွာ အရေးပါလေသည်။ မြန်မာစာပေသမိုင်းအလိုအရ မြဝတီဝန်ကြီး၏ ယိုးဒယားသီချင်းများကို ယိုးဒယားနှဲသွား၊ ချူချာ၊ ယိုးဒယားကြေးသွား ဟု ခွဲထားသည်။ ယိုးဒယားနှဲသွားတွင် အိုသာတင့်ဆုံးလေ ချီ အိနောင်ဇာတ်ထွက်ယိုးဒယားမှာ အလွန်ထင်ရှားသည်။ ယိုးဒယား ချူချာ သီချင်းကို မြန်မာ စကားဖြင့် လိုက်၍ရေးသော လွမ်းပိုအောင် ညိုမင်းလွင် ချီ သီချင်းမှာ ယနေ့တိုင် ဂီတအနုပညာသမားတို့၏ အကြိုက်ဖြစ်နေသည်။

ကြိုးသီချင်းများဆိုင်ရာ၌၊ မြဝတီဝန်ကြီးသည် ဘုံဆောင်မြင့်ချီဖောင်လားကြိုး၊ ဇေယျာမြို့ချီဖောင်ငင်ကြိုး၊ စိမ်းလဲ့လဲ့ညိုပြာချီ ဖောင်ဆိုက်ကြိုး ဆိုသော ကြိုးသုံးပုဒ်နှင့် သာနိုးပျော်ဖွယ်ကြိုးငါးပုဒ်ကို သူ့ထက်ရှေးကျသော စာဆိုတော်ကြီးများ၏ တေးသွားများ အလိုက် ဖွဲ့နွဲ့စီကုံးခဲ့လေသည်။

ဖွဲ့သီချင်းများ၌ ဂန္ဓမာတောင်ချီ မဉ္ဇူသကနတ်ပန်းဖွဲ့နှင့် ဥကင်ဘုံမြင့်သီဟာသနချီ ပလ္လင်ရှစ်ခန်းဖွဲ့တို့သည် လွန်စွာကျော်စော၏။

သီချင်းခံတို့၌ မြဝတီဝန်ကြီး၏ ထူးမခြားနားမှာ မင်္ဂလာပွဲလမ်းသဘင်တိုင်း၌ ယနေ့တိုင် ဆိုကြ တီးကြရသော ပတ်သီချင်းခံကြီး ဖြစ်သည်။ ထိုပတ်သီချင်းခံကြီးမှာ ဘကြီးတော်လက်ထက် အင်းဝမြို့တွင် စံနေတော်မူစဉ်၊ တနေ့သောညဉ့် ညီလာခံ အချိန်တွင် စွယ်တော်ဘုရားမှ ရောင်ခြည်တော်လွှတ်ရာ၊ ယင်း အဖြစ်အပျက် အကြောင်းအရာကို အမတ်ကြီး မဟာမင်္ဂလသင်္ကြံ ဘွဲ့ခံ မောင်းထောင်ဆရာကြီးဦးမြတ်နေနှင့်တိုင်ပင်၍ ရေးသားဆက်သွင်းစေ ဟူသောအမိန့်အရ နံနက်ညီလာခံတွင် မြဝတီဝန်ကြီး ရေးသားဆက်သွင်းသည်ဟု အမှတ်အသားရှိလေသည်။

ထို့ပြင် သာယာဝတီမင်းလက်ထက်ရေး ထောင်ရောင်နေကသာ ရွှေဘုန်းဝင်း ချီ ဘုန်းတော်ဖွဲ့ သန်ကောင်သီချင်းခံသည်လည်း ယခုတိုင် ခေတ်စားလျက်ရှိလေသည်။ အခြားဘုန်းတော်ဖွဲ့ သီချင်းခံတို့မှာ စုံသာမြိုင်လယ်၊ ဇေယျာရွှေမြေ စသည်တို့ ဖြစ်ကြသည်။ ဇေယျာရွှေမြေမှာ စောင်းတီးရန်အတွက် ရည်စူး၍၊ ဘကြီးတော်ဘုရား အမိန့်တော်ဖြင့် ၁၁၈၁ ခုနှစ်တွင် ရေးသားသော သီချင်းဖြစ်သည်။

ခရစ် ၁၈၃၀ ပြည့်နှစ် (၁၁၉၂ ခုနှစ်) ဩဂုတ်လ ၇ ရက်နေ့ညတွင် အင်္ဂလိပ်ကိုယ်စားလှယ် မေဂျာဗားနေးသည် ရွှေနန်းတော်ကြီးသို့ဝင်၍ ဘကြီးတော်ဘုရား၏ရှေ့တော်၌ ရာမဇာတ်တော်ကြီးကို ကြည့်သည်။ ထိုအခါ ဦးစ ရေးသော ဘုန်းတော်ဖွဲ့တပုဒ်ကိုကြားရသည်။ ဦးစသည် ဗရင်ဂျီမမွှသီချင်းသံတခုခုကိုအတုယူ၍ ဤဘုန်းတော်ဖွဲ့ကို ရေးသားပုံရကြောင်းဖြင့် ဗားနေးက မှန်းဆမှတ်တမ်းတင်ခဲ့လေသည်။

ထို့ပြင် မွန်သံသီချင်းများအနက် ၁၂၀၃ ခုနှစ် သာယာဝတီမင်းသည် ရွှေတိဂုံစေတီတော်အနောက်ဖက်တွင် ယာယီတဲနန်း ဆောက်လုပ်စံနေတော်မူစဉ်၊ အမရပူရနေပြည်တော်သို့ လွမ်းဆွတ်သတိရကြောင်းဖြင့် မြဝတီဝန်ကြီးဦးစအားရေးသားစပ်ဆိုစေသည့် စိန်ခြယ်ညီးလင်း အစချီ ဥက္ကလာပပြန်မွန်သီချင်းသည် ထင်ရှားသည်။

ထိုမှတပါးလည်း မြင်းခင်းသဘင်၊ ဂူလီသဘင် ရင်တော်မူသည့် အခါများတွင် ဆက်သွင်းရသော တျာချင်းများ၊ လယ်ထွန်မင်္ဂလာသီချင်းများ၊ နှတ်ယိုင်သံများ စသည်ဖြင့် သီချင်းအမျိုးအမည်ပေါင်း များစွာတို့ကို မြဝတီဝန်ကြီး ရေးသားသီကုံးခဲ့လေသည်။

မြဝတီဝန်ကြီးသည် ဆင်ဖြူရှင်မင်းတရားကြီး လက်ထက်မှ


မြဝတီဦးစခေတ် ဝန်ထောက်နှင့်ဝန်ထောက်ကတော်

သည် မင်းတုန်းမင်းတရားကြီး လက်ထက်တိုင် မင်းရှစ်ဆက်ကိုမှီလိုက်သော အသက်ကိုးဆယ်နီးပါးနေရသည့် စစ်သားစာဆိုပုဂ္ဂိုလ်ကျော် ဖြစ်သည်။ အထူးသဖြင့် ဘိုးတော်ဘုရားနှင့် ဘကြီးတော်ဘုရားတို့လက်ထက်တွင် ခေတ်၏သဘောမှာ ပညာအရပ်ရပ်တို့ကို စူးစမ်းရှာဖွေလိုသော သဘောဖြစ်သည်။ ယင်းသို့ စူးစမ်းရှာဖွေရာ၌ တိမ်မြုပ်နေသော ရှေးဟောင်းပညာရပ်များအပြင် နိုင်ငံခြားသားတို့နှင့်ကူးလူးဆက်ဆံရာမှ တွေ့ရှိရသော အသစ်အသစ်သော ခေတ်မှီပညာရပ်များကိုပါစူးစမ်းရှာဖွေကြသည်ဖြစ်၏။ သာဓကအားဖြင့် ပြရသော်၊ ဘိုးတော်ဘုရား နန်းတက်၍ မကြာမြင့်မီပင် ၁၁၄၅ ခုနှစ်တွင် မြန်မာဘုရင်တို့၏ မင်းခမ်းမင်းနားနှင့်တကွ ရှေးဟောင်းယဉ်ကျေးမှုတို့ကိုပြဆိုရာဖြစ်သော ရွှေဘုံနိဒါန်းကို အထက်က ပြဆိုခဲ့သည့်အတိုင်း၊ အိမ်ရှေ့အတွင်းဝန်က ပြုစုခဲ့သည်။ မြဝတီဝန်ကြီး ဦးစ ကိုယ်တိုင်ပင်လျှင် ၃၇ မင်း နတ်ချင်းများကို စုံစမ်းရှာဖွေ မှတ်တမ်းတင်၍ ယိုးဒယားဇာတ်ချင်းများကိုလည်း ပြုစုရသည်။

၉၂၅ ခုနှစ်ကပင်လျှင် ဘုရင့်နောင်သည် အနုပညာသည်များကိုယိုးဒယားမှခေါ်ဆောင်လာ၍၊ မြန်မာ့ဌာနီတွင် ယိုးဒယား အဆို အတီး အက အနုပညာတို့ ပြန့်ပွားအောင် ဆောင်ရွက်ရင်းရှိခဲ့သည်။ ၁၁၂၈ ခုနှစ်လောက်တွင် ဆင်ဖြူရှင်မင်းသည် ယိုးဒယားမှ အနုပညာသည်အမျိုးမျိုးတို့ကို ယူဆောင်လာခဲ့ပြန်ရာ၊ ရှေးအစဉ်ကိုလိုက်၍ ယိုးဒယားယဉ်ကျေးမှုများသည် မြန်မာ့ယဉ်ကျေးမှုအသွင်သို့ ကူးပြောင်းခဲ့ပြန်သည်။

အရှေ့ဖက် ယိုးဒယားမှ ပညာရပ်တို့သာမက၊ အနောက်ဖက် တိုင်းပြည်များမှ ပညာရပ်တို့သည်လည်း မြန်မာနိုင်ငံသို့ရောက်ရှိလာလေရာ၊ အသစ်အသစ်သော ပညာရပ်တို့ကို မြန်မာတို့သည် စူးစမ်းလေ့လာကြကုန်သည်။ ဥဒါဟရုဏ်အားဖြင့်ဆိုသော် မြန်မာနိုင်ငံသို့ အမေရိကန်လူမျိုး ဆရာယုဒသန်၊ အင်္ဂလိပ်လူမျိုး ကပ္ပိတန်လျှင် (ကက်ပတိန်လိန်း) တို့ရောက်လာခဲ့သည်။ (ယုဒသန် — ရှု။) ပညာအရာ၌ ဝါသနာထုံသော မက္ခရာမင်းသားကြီးသည် ဆရာယုဒသန်၊ ကပ္ပိတန်လျှင် တို့အပြင် အခြားသော အနောက်တိုင်းသားတို့ထံမှ တဆင့်ရအပ်သော သိုးဆောင်းအဘိဓာန်ကျမ်း၊ စွယ်စုံကျမ်း စသည်တို့ကို မြန်မာပြန်ဆိုပြုစုသည်။ မက္ခရာမင်းသားနှင့် ကပ္ပိတန်လျှင်တို့ ပြုစုသည့် အင်္ဂလိပ်မြန်မာအဘိဓာန်မှာ အစောဆုံး ဖြစ်၍ ယနေ့တိုင် ရှိပေသေးသည်။ (မက္ခရာမင်းသားကြီး။ စွယ်စုံကျမ်း — ရှု။) တခေတ်တည်းတွင် ပဌမ မောင်းထောင်ဆရာတော် အစရှိသော ပညာရှင်တို့သည်လည်း အိန္ဒိယတိုင်းမှလာသော သက္ကတဘာသာဖြင့်ရေးထားသည့် သဒ္ဒါ၊ ဗေဒင်၊ တက်ကျမ်း၊ အလင်္ကာ၊ ဆန်း၊ အဘိဓာန်၊ ဇ္ဇောတိဟာသ၊ နီတိ၊ ဓမ္မသတ်၊ ဆေးကျမ်း နှစ်ရာကျော်တို့ကို လေ့လာဆည်းပူးကြ၍ အချို့ကို မြန်မာသို့ပြန်ဆိုကြသည်။ စစ်မက်ရေးရာ ကင်းရှင်း၍ အဆိုပါ အိန္ဒိယပညာနှင့် သိုးဆောင်းပညာတို့ကို ပညာရှိတို့ အလိုအတိုင်း မြန်မာတို့ ဆက်လက် ရှာဖွေ လေ့လာ ပြန်ဆို သင်ကြား ပို့ချ နိုင်ခဲ့ပါမူ မြန်မာတို့၏ ပညာအဆင့်အတန်းမှာ များစွာမြင့်မားလျက် ရှိနေပေရာသည်။

ထိုထိုသော ထင်ရှားသည့် မြန်မာပညာရှင်တို့သည် များသောအားဖြင့် မြဝတီဝန်ကြီးဦးစနှင့် ခေတ်ပြိုင်ပုဂ္ဂိုလ်များ ဖြစ်ကြပေသည်။ တွင်းသင်းတိုက်ဝန် မဟာစည်သူ၊ ရကန် ဦးတိုး၊ ကျည်းကန်ရှင်ကြီး နန္ဒဓဇ၊ တောပုသျှင်ဥက္ကံသမာလာ၊ မုံရွေးဆရာတော်၊ မင်းဘူး ဦးသြဘာသ၊ ဒုတိယနဝဒေး စသော ပုဂ္ဂိုလ်ကျော်တို့မှာ မြဝတီဝန်ကြီးဦးစနှင့် တခေတ်တည်းတွင် ပေါ်ပေါက်ကြသူများ ဖြစ်ကြသည်။ စင်စစ် မုံရွေးဆရာတော်နှင့် မြဝတီဝန်ကြီးဦးစတို့သည် သက်တူရွယ်တူများ ဖြစ်ကြပေသည်။ (ထွန်းညို၊ ဦး။ တိုး၊ ဦး၊



ဘိုးတော်ဘုရားလက်ထက် (၁၁၄၃ – ၁၁၈၁) အမရပူရနန်းတော် ညီလာခံသဘင်

ကယ်၍ လူ့လောကတွင် စကားဟူ၍မရှိပါက၊ လူတို့၏ ပေါင်းသင်းဆက်ဆံရေးသည် ငင်း၊ ယဉ်ကျေးမှုသည်ငင်း၊ မည်မျှဆုတ်ယုတ်နိမ့်ကျသွားမည်ကို တွေးဆချင့်ချိန်နိုင်ပေသည်။

ဆက်သွယ်ရေးဆိုရာ၌ စကားမှ အပဖြစ်သော ဆက်သွယ်ရေးတို့လည်း ရှိပေသေးသည်။ မိမိဆိုလိုသော အကြောင်းအရာကို လက်ဟန်၊ ခြေဟန်၊ အမူအရာ အားဖြင့်လည်း ဖော်ပြနိုင်သည်။ ပန်းချီကား၊ အရုပ်ကားဖြင့်လည်း ဖော်ပြနိုင်သည်။ အချက်ပြ၍လည်းဖော်ပြနိုင်သည်။သို့ဖြစ်လင့်ကစား၊ အထက်ပါဆက်သွယ်ရေးကိစ္စတို့သည် လူအချင်းချင်း နှုတ်ဖြင့် စကားပြောဆိုဆက်သွယ်ခြင်းလောက် ထိရောက်လှသည်မဟုတ်ချေ။

ရွှေတိုက်စိုး။ ကျည်းကန်ရှင်ကြီး။ မုံရွေးဆရာတော်။ ဩဘာသ၊ ဦး၊ မင်းဘူးဆရာတော်။ နဝဒေး၊ ဝက်မစွတ်မြို့စား — ရှ။) ဤသို့ ခေတ်ဟောင်းခေတ်သစ်၊ ပြည်တွင်းပြည်ပ၊ လောကီလောကုတ္တရာ ပညာဗဟုသုတ အရပ်ရပ်တို့နှင့်တကွ မြန်မာစာပေ မြန်မာမှုတို့ ထွန်းကားသော ခေတ်ကြီး အတွင်း မြဝတီဝန်ကြီးဦးစ၏ အမည်မှာ အတီးအမှုတ်၊ အဖွဲ့အဆို၊ အကအခုန်၊ ကဗျာလင်္ကာနှင့်စပ်၍ ထူးချွန်စွာ ပေါ်လွင်ထင်ရှားလေသတည်း။

စကား။ ။လူတဦး၏အတွေးအခေါ်ကို အခြားတဦးက သိရှိနားလည်စေရန် အလို့ငှာ စကားသည် အရေးပါအရာရောက်သော 'ဆက်သွယ်ရေး' ပစ္စည်းတရပ် ဖြစ်သည်။ လူတဦးက အခြားလူတဦးအား မိမိစိတ်၌ဖြစ်ပေါ်သော အကြောင်းကိစ္စကို ဖွင့်ဟ ထုတ်ဖော်လိုလျှင်၊ စကားဖြင့် ထုတ်ဖော်ပြောကြားနိုင်သည်။ နားထောင်ရသောသူကလည်း ပြောဆိုသူ၏ စကားကိုကြားရလျှင်၊ ဆိုလိုသည့် အဓိပ္ပါယ်ကို နားလည်သည်။ မိမိက ပြန်လည်ပြောဆိုလိုသည့်ကိစ္စရှိကလည်း၊ စကားဖြင့်ပင် ပြန်လည်ပြောကြားနိုင်သည်။ စကားကို ကျွန်ုပ်တို့ နေ့တိုင်းပြောဆိုနေကြငြားသော်လည်း၊ အမှုမဲ့ အမှတ်မဲ့ကြောင့်သာ စကား၏ စူးရှထက်မြက်လှသော 'ဆက်သွယ်ရေး' တန်ခိုးအာနိသင်ကို ဂရုမပြုမိကြခြင်းဖြစ်၏။ တကယ် စေ့စေ့စပ်စပ် သုံးသပ်လျှင်မူကား၊ စကားသည် လူ့ဘောင်အဖွဲ့အစည်းတွင် မည်မျှ ကျေးဇူးပြုလျက်ရှိသည်ကို သိမြင်လာနိုင်ကြပေသည်။ အ

## စကားဆိုသည်ကားအဘယ်နည်း

စကားဆိုသည်မှာ လူတဦးနှင့်တဦး ဆက်သွယ်ရာတွင် အဓိပ္ပါယ်ပေါ်အောင် နှုတ်မှပေါင်းစပ်ဖွဲ့စည်းကာ ထွက်ပေါ်လာသော အစီအစဉ် စည်းစနစ်ရှိသည့် အသံ 'သင်္ကေတ' များပင်ဖြစ်သည်ဟု ဆိုဖွယ်ရာရှိသည်။ လွယ်သောဥပမာကို ဆောင်ရသော် 'ထမင်းစားကြစို့ဟေ့' ဟူသောဝါကျပြည့် စကားတွင် (၁) ထမင်း–စား–ကြ–စို့–ဟေ့ စသောစကားလုံးတို့သည် သင်္ကေတနှုတ်သံများဖြစ်ကြ၏။ (၂) ယင်းစကားသံတို့သည် စနစ်တကျအစီအစဉ်ဖြင့် ပေါင်းစပ်ဖွဲ့စည်း၍ထွက်လာသည်။ အကယ်၍ 'ထမင်း–ဟေ့–ကြ–စို့–စား' ဟု အစီအစဉ်ကင်းမဲ့သော အသံတို့ကို ရွတ်ဆိုခဲ့ပါလျှင် ထိုအသံစဉ်တို့သည် အဓိပ္ပါယ်ကင်းမဲ့ပေလိမ့်မည်။ ထို့ကြောင့် စည်းစနစ်တကျနှင့် အဓိပ္ပါယ်ပေါ်အောင် အသံစဉ်၍ ထွက်လာရသောနှုတ်သံ (ဝါ) စကားသံများဖြစ်ရပေသည်။

လူ၏နှုတ်မှ ထွက်သော အသံတိုင်းသည်လည်း စကားမဟုတ်ပေ။ ဥပမာ၊ လေချွန်တက်သောအသံ၊ ချောင်းဆိုးသံ၊ နှာချေသံ၊ ညည်းတွားသံ စသော အသံတို့သည် နှုတ်ထွက်အသံများ ဖြစ်ကြသော်လည်း လူတဦးနှင့်တဦး ဆက်သွယ်ပြောကြားရာ၌ အသုံးပြုသော 'စကားသံ' များ မဟုတ်ကြချေ။

ထိုသို့ 'စကားသံ' မဟုတ်သည့် သာမန်နှုတ်သံများမှာမူ

တိရစ္ဆာန်ဇလောကဌ်ပင် ရှိပေသည်။ ဥပမာဆိုလျှင်၊ ခွေးဟောင်သံ၊ ကျားဟိန်းသံ၊ ကြောင်အော်သံ၊ ကြက်တွန်သံ၊ မြင်းဟီသံ အစရှိသည်တို့ဖြစ်ကြ၏။

စကားကို ကျွန်ုပ်တို့ နေ့စဉ်နေ့တိုင်းပြောနေကျဖြစ်၍ အမှုမဲ့အမှတ်မဲ့ဖြင့် လွယ်လွယ်ကူကူ ပြောဆိုလိုက်ကြသော်လည်း၊ စကားလုံးများ မည်သို့မည်ပုံထွက်လာရသည်၊ လူတဦးနှင့်တဦး စကားဖြင့်ဆက်သွယ်ရာ၌ စကားမပြောမီအချိန်နှင့် စကားပြော၍ဆုံးသည့်အချိန် အကြားတွင် လူ၏စိတ်နှလုံး၌ မည်သို့မည်ပုံ လှုပ်ရှား ထိခိုက်ခြင်း ဖြစ်ပေါ်ရသည် တို့ကိုမူ တစေ့တစပ် လေ့လာစူးစမ်းကြည့်မှသာလျှင် အံ့သြဖွယ်ရာ အချက်အလက်များကို သိရှိကြရသည် ဖြစ်ပေသည်။

လူတဦးသည် မိမိပြောဆိုလိုသည့်အကြောင်းတခုကို နှုတ်ဖြင့် ဖွင့်ဟပြောဆိုရန် ကြံဆလိုက်သည်နှင့် တပြိုင်နက်၊ နဗ်ကြော (ဝါ) အာရုံကြောများ နိုးကြွလာ၍ ပါးစပ်မှ စကားသံ ထွက်လာသည့်တိုင်အောင် ထိုနဗ်ကြောများက သက်ဆိုင်ရာ ကြွက်သားများကို လှုပ်ရှားစေသည်ဟု ဆိုသည်။ (နဗ်ကြောများ — လည်း ရှု။) နဗ်ကြောများကြောင့် လှုပ်ရှားလာသောကြွက်သားတို့မှာ လူ၏ခါးလယ်မှနားရွက်အထိဖြစ်သော ကိုယ်ခန္ဓာ ဒေသ အပိုင်းအခြား အတွင်းရှိ ကြွက်သားများဖြစ်သည်ဟု ဆိုသည်။ ဤနည်းဖြင့်စကားကို ပြောဆိုလိုက်ရာ၌ အသံလှိုင်းများသည် ပတ်ဝန်းကျင်သို့ ပျံ့နှံ့ကာ နားထောင်သူ၏ နားစည်သို့ ရောက်လေသည်။ ထိုမှတဆင့် အသံလှိုင်းများသည် နားထောင်သူ၏အတွင်းနားသို့ ရောက်ပြီးလျှင်၊ ထိုမှတဆင့် နဗ်ကြောများသို့ ရောက်ရှိသွားလေသည်။ ထိုအခါ သက်ဆိုင်ရာဦးနှောက် အင်္ဂါစုသည် စကားပြောသူ၏ ဆိုလိုသောအဓိပ္ပါယ်ကို အာရုံခံယူသဖြင့် သိမှုသည် ဖြစ်ပေါ်လာ၏ဟု ဆိုကြသည်။

စကားကို လူ့ယဉ်ကျေးမှု အင်္ဂါရပ်ကြီးတခု အနေဖြင့် အသိအမှတ်ပြု၍ ထားကြပေသည်။ အမှန်ဆိုလျှင် စကားကို မည်သူမဆို အမိဝမ်းမှကျွတ်ကတည်းက တတ်မြောက်လာကြသည်မဟုတ်ပေ။ ကလေးသူငယ်အရွယ်မှစ၍ တဆင့်တဆင့် သင်ကြား မှတ်သား၍သာ တတ်မြောက်လာကြခြင်းဖြစ်သည်။ ထို့ကြောင့်လည်း လူ့ဘောင်အဖွဲ့အစည်း၏ အလေ့အထဖြစ်သော စကားပြောမှုကို လူတိုင်းတတ်ကျွမ်းရသည့် အခြင်းအရာမှာ လူ့ယဉ်ကျေးမှုအင်္ဂါရပ်တခု ဖြစ်လေသည်။

စကား၌ အင်္ဂါတရပ်ရှိသေး၏။ ထိုအင်္ဂါရပ်မှာ အခြားမဟုတ်။ လူ့ဘောင်အဖွဲ့အစည်းကြီးကို ဘာသာစကားအလိုက် နယ်ပယ်ခွဲခြား၍ သွေးစည်းသတ်မှတ်ခြင်းပင်ဖြစ်သည်။ ဆိုလိုသည်ကား၊ ဘာသာစကားတခုကို နားလည်တတ်ကျွမ်းသူ အချင်းချင်းသည် လူ့ဘောင်အဖွဲ့အစည်းတခုအနေဖြင့် စည်းစည်းလုံးလုံး ပေါင်းသင်းဆက်ဆံနိုင်ကြ၍၊ အခြားဘာသာစကားကို ပြောကြားသောသူတို့နှင့်မူ ဘာသာစကား အခက်အခဲကြောင့် မိမိတို့ အချင်းချင်း ဆက်ဆံပေါင်းသင်းရသကဲ့သို့ ချောမောပြေပြစ်ခြင်း မဖြစ်နိုင်ချေ။

ထို့ကြောင့်လည်း ဘာသာစကားသည် လူ့အဖွဲ့အစည်းတခုကို ဒေသတခုအနေနှင့် သီးခြား၍ ဖွဲ့စည်းပေးတတ်သောသဘောရှိသည်ဟု ဆိုအပ်သည်။ ထိုသို့သော ဘာသာစကား စည်းမျဉ်းနယ်ပယ်များကို ကျော်ဖြတ်၍ အခြားလူ့အဖွဲ့အစည်းများနှင့် ပေါင်းသင်းဆက်ဆံနိုင်သူမျိုးမှာကား အခြားမဟုတ်၊ မိမိဘာသာစကားအပြင် အခြားဘာသာစကားများကိုလည်း တတ်ကျွမ်းပြောဆိုနိုင်သော ပုဂ္ဂိုလ်များပင် ဖြစ်ချေသည်။

စကား၏ စွမ်းအင်သတ္တိကြီးတရပ်လည်း ရှိသေးသည်။ လူတိုင်းလူတိုင်းသည် အချင်းချင်း ဆက်သွယ်ပေါင်းသင်းရာတွင် စကားဖြင့် ပြောကြားနားလည်ကြသည်ကား မှန်၏။ စကားကို လူတိုင်းပြောတတ်သော်လည်း ပြောရာတွင် ထိရောက်မှုချင်းကား မတူကြချေ။ လေယူလေသိမ်းတွင် သူတပါးထက် ထူးချွန်ကောင်းမွန်အောင် ပြောနိုင်သူများလည်းရှိသည်။ မိမိပြောလိုသည့်အဓိပ္ပါယ်ကို သူတပါးထက် ရှင်းလင်းပြတ်သားအောင် ပြောနိုင်သူများလည်းရှိသည်။ သူတပါး၏နားတွင် စွဲငြိမ့်၍သွားလောက်အောင် ပြောနိုင်သူများလည်းရှိသည်။ အခြားတဖက်က ကြည့်ပြန်လျှင်လည်း၊ သူတထူးနားမခံသာအောင် အပြောကြမ်းသူများလည်းရှိသည်။ မိမိပြောဆိုသည့် အဓိပ္ပါယ်ကို မရောက်ဘဲ၊ ရှုပ်ထွေးသွားခြင်းဖြင့် နားထောင်သူ၏အာရုံကို ပြားစေသော စကားပြောသူများလည်းရှိသည်။ ထို့ကြောင့်လည်း စကားအရာနှင့် ပတ်သက်၍ ‘နှုတ်ချိုလျှို့တပါး’၊ ‘ချစ်စေလို ခံတွင်းလက်လေးသစ်၊ မုန်းစေလို ခံတွင်းလက်လေးသစ်’ ဟူသော စကားပုံဆိုရိုးများ ရှိနေသည် မဟုတ်ပါလော။ (စကားပြောအတတ် — ရှု။)

မည်သို့ပင်ဖြစ်စေ စကား၏ အခြေခံ အဓိကဂုဏ်ပုဒ်ကြီးသည် လူ့ယဉ်ကျေးမှု တည်သမျှကာလပတ်လုံး တည်မြဲနေမည်ဖြစ်၏။ ထိုဂုဏ်ပုဒ်ကြီးကား အခြားမဟုတ်၊ လူအချင်းချင်းကို လူ့အဖွဲ့အစည်းတရပ်ဖြစ်လာအောင် ပေါင်းစည်းပေးသည့် ‘ဆက်သွယ်ရေး’ သဘောပင်ဖြစ်လေသည်။

လူတို့ရေးသားအသုံးပြုသော ‘စာ’ မှာ ‘စကား’ ၏ နောက် ကာလအတန်ကြာမှ ပေါ်လာခဲ့ခြင်း ဖြစ်သည်။ စကားသည် မူရင်းဒြဗ်ဝတ္ထု၊ မူရင်းအတွေးအခေါ်၊ မူရင်း စိတ်လှုပ်ရှားမှုတို့၏ အသံသင်္ကေတများဖြစ်သကဲ့သို့၊ ထိုနည်းအတူ စာသည် စကား၏သင်္ကေတလက္ခဏာပင် ဖြစ်တော့သည်။ စာသည် ပင်ရင်းမဟုတ်၊ စကားသာ ပင်ရင်းဖြစ်သည်။

ဗိုလ်ဗကို။

**စကားကြီးဆယ်မျိုး**။ ။စကားပြောသည့်အရာတွင်ကျွမ်းကျင်လိမ်မာစေရန် နည်းအမျိုးမျိုးတို့ကို စကားကြီးဆယ်မျိုးဟူ၍ မြန်မာစာ၌ ခွဲခြားသတ်မှတ်ထားသည်။ ထိုဆယ်မျိုးမှာ ‘ ရေကူးညာတင်၊ ကောက်ပင်ရိတ်လှီး၊ ရေစီးဖောင်ဆန်၊ အိုးတန်ဆန်ခပ်၊ ဆိပ်ပွတ်ကျည်ပွေ့၊ ဆင်ဝှေ့ရန်ရှောင်၊ တောင်သူယာခုတ်၊ ကြက်ဆုတ်ခွပ်ပစ်၊ ရေစစ်ကရား၊ ရေသွားသည့်သွင်၊ ခက်တင်မောင်းနင်း၊ ဆိုခြင်းစကား ဤ ၁၀ ပါး ’ ဟူ၍ ခွဲခြားသတ်မှတ်ထားသည်။

## ၁။ ရေကူးညာတင်ပြောနည်း

မြစ်တဖက်မှ လိုရာဆိပ်ကမ်းသို့ ကူးလိုလျှင်၊ မြစ်ညာကတင်၍ ကူးမှ လိုရာသို့ရောက်သကဲ့သို့၊ မိမိအလိုရှိရာသို့ရောက်အောင် အထက်က တင်ကူး၍ ပြောခြင်းကို ရေကူးညာတင်ပြောနည်းဟု ခေါ်သည်။ ရှေးအခါက သမားတော်ဇီဝကသည် အူထုံးသော သင်္ဘေးသားကို ကုသရာတွင် ခုနစ်ရက်ခန့်အိပ်စေလိုသည်ကို ခုနစ်လခန့်အိပ်နိုင်မည်လောဟု မေး၏။ သင်္ဘေးသားက မအိပ်နိုင်ပါဟု ဆိုသည်တွင် ခြောက်လခန့်အိပ်နိုင်ပါမည်လော စသည်ဖြင့် တရွေ့ရွေ့ ဆုတ်ကာ ဆုတ်ကာ မေး၏။ နောက်ဆုံးလိုရင်းဖြစ်သော ခုနစ်ရက်သို့ရောက်ခါမှ သင်္ဘေးသားကို ခုနစ်ရက်အိပ်စေပြီးလျှင် ဝမ်းကိုခွဲ၍အူထုံးကိုဖြေသည်။ ဤစကားမျိုးသည် ရေကူးညာတင်ဆိုသောစကားမျိုး ဖြစ်၏။ အရပ်သားအသုံးအနှုန်း၌ ဒူးလောက်တင် ရင်လောက်ကျ ဟူသော စကား၏ အဓိပ္ပါယ်ကဲ့သို့ပင် ဖြစ်သည်။

## ၂။ ကောက်ပင်ရိတ်လှီးပြောနည်း

စပါးရိတ်လျှင် ကောက်ပင်ကို လက်တဖက်ဖြင့် ဆုပ်သိမ်းကာ တံစဉ်ဖြင့် အရင်းမှဖြတ်၍ ရိတ်ယူသကဲ့သို့၊ တဖက်လူ၏စကားကို သိမ်းကျုံး ဖမ်းယူပြီးမှ၊ အရင်းက ဖြတ်၍ ပိုင်အောင် ပြောခြင်းသည် ကောက်ပင်ရိတ်လှီး ပြောနည်းဖြစ်၏။ ရှေးအခါက သင်္ဘေးသားတယောက်သည် ဖျင်းတကောင်ကို လေးနှင့်ပစ်၍ယူလာသည်ကို အခြားသင်္ဘေးသားတယောက်က မြင်၍၊ လိုချင်သဖြင့် ‘ ဤဖျင်းသည် တနေ့လျှင် ရွှေစင်တကျပ်သား အန်ထုတ်ပေးလေ့ရှိသော ငါ၏ဖျင်းဖြစ်သည် ’ ဟုစွပ်စွဲ၏။ ထိုအခါ လေးနှင့်ပစ်သူက ‘ ထိုသို့အန်ထုတ်ပေးလာသည်မှာ မည်မျှကြာပြီနည်း ’ ဟု မေးရာ၊ ဖျင်းရှင်ဆိုသူက ‘ တနှစ်ရှိပြီ ’ ဟု ထပ်၍ဖြေ၏။ ထိုအခါမှ လေးနှင့်ပစ်သူက ‘ မိမိအိမ်ရှေ့တွင် ပုံထားသောရွှေစင်ပုံကြီးမှ တနေ့လျှင် တကျပ်သား ပျောက်ဆုံးခဲ့သည်မှာ တနှစ်ရှိခဲ့ပြီဖြစ်ရာ၊ ယနေ့မှ သူခိုးကိုမိသည်။ ဖျင်းသည်သူခိုးဖြစ်၍ ဖျင်းရှင်သည် သူခိုးလက်ခံဖြစ်သည်။ ထိုကြောင့် တနှစ်တွက် ရွှေသုံးပိသာခြောက်ဆယ်သား လျော်ပေးရမည် ’ ဟူ၍ တောင်းလေ၏။ ထိုကြောင့် ဖျင်းကိုလိုချင်သောသင်္ဘေးသားသည် အလျော်ပေးရလေ၏။ ဤသို့ တဖက်လူ၏စကားကို ဖမ်းပြီးမှ ပိုင်လောက်အောင်ပြောခြင်းသည် ကောက်ပင်ရိတ်လှီးပြောနည်းမည်၏။

## ၃။ ရေစီးဖောင်ဆန်ပြောနည်း

ဖောင်ကြီးသည် အညာသို့ဆန်သောကာလ၊ လိုရာသန္တရှိသမျှကိုတင်ယူ၍ ဖြည်းညှင်းသာယာစွာ ဆန်လျှင်၊ လိုရာအရပ်သို့ ရောက်နိုင်၏။ ဤဥပမာကဲ့သို့ စကားအရာတွင်လည်း ဥပမာ ဥပမေယျတို့ဖြင့် ဖြည်းညှင်းသာယာစွာ လိုရာရောက်အောင် ပြောသောစကားသည် ရေစီးဖောင်ဆန်မည်၏။ ဟံသာဝတီဘုရင် ရာဇာဓိရာဇ်မင်းလက်ထက်၊ ဒွါရာဝတီမင်း စစ်ချီလာရာတွင်၊ ရာဇာဓိရာဇ်က သံစေလွှတ်ရာ၌ စာသဝဏ်တွင် ‘ အဆွေတော် ’ ဟုရေးသည်ကို၊ ဒွါရာဝတီမင်းက မနှစ်သက်လေ။ ထိုကြောင့် ပဝတ္တိမင်းက ဇာတိအားဖြင့်မင်းဖြစ်သသူကို အဆွေတော်ဟု ခေါ်ဝေါ်သည်မှာမသင့်။ ဤအရေးကိုပြေအောင် သံတော်တို့ကချေလည်စေ။ မချေလည်နိုင်လျှင် ဆိအိုးကင်း၌ထည့်၍ ကြော်ရမည်ဟု ဒွါရာဝတီမင်းက သံတော်တို့ကိုမိန့်လေ၏။ ထိုအခါ သံတော်တို့က ‘ အဆွေတော် ’ ဟု ရေးခြင်းသည် ဘုရားရှင်တို့မှစ၍ တပည့်သား သံဃာနှင့် တကွ ရေမြေ့ရှင်တို့ တိုင်အောင် ခေါ်ဝေါ်သည့်ထုံးစံဖြစ်ကြောင်း၊ ဘုရားရှင်တို့သည် ဘုရားရှင်ချင်းကိုသာ ညီတော်နောင်တော် ခေါ်၏။ သံဃာတို့သည် သံဃာအချင်းချင်းကိုသာ ညီတော် နောင်တော်ခေါ်၏။ လူ့ဘဝမှ တော်စပ်သောဆွေမျိုးများကိုကား ဤသို့မခေါ်ချေ။ ထိုအတူ ဘုရင်မင်းမြတ်တို့သည်လည်း ထီးနန်း မစံသေးသော ဆွေတော်မျိုးတော် တို့ကို အဆွေတော်ဟုခေါ်ရိုးမရှိ။ နန်းစံဘုရင်ချင်းကိုသာ အဆွေတော်ခေါ်ရိုးဖြစ်၍ ရာဇာဓိရာဇ်မှာလည်းဟံသာဝတီရွှေနန်းရှင်ဖြစ်သောကြောင့် အဆွေတော်ဟုရေးရပါသည် ဟု သံတို့က လျှောက်ထား၏။ ထိုအခါ၊ ဒွါရာဝတီမင်းနှင့် ပါလာသောပညာရှိမှူးမတ်တို့က ယခုချေပသည့် စကားသည် သဗ္ဗညုရှင်တော်ဘုရားတို့ကို ဥပမာပြု၍ တပည့်သားသံဃာတော်နှင့်တကွ ရေမြေ့ရှင်တို့တိုင်အောင် ခေါ်ဝေါ်ပြီးသည့်ထုံးစံနှင့် ချေလည်ခြင်းဖြစ်သည်ဟု ချီးမွမ်းကြသဖြင့်၊ ဒွါရာဝတီမင်းလည်း စကားချေလည်သည် သင့်ပေ၏ဟု ဆုလပ်များစွာပေးလေသည်။ ဤကဲ့သို့ ဥပမာ ဥပမေယျတို့ဖြင့် လိုရာရောက်အောင် ပြောခြင်း သည် ရေစီးဖောင်ဆန်ပြောခြင်းပင်ဖြစ်၏။

## ၄။ အိုးတန်ဆန်ခပ်ပြောနည်း

အိုးနှင့်ဆန်သည် တန်အောင်ချက်လျှင် နူးနပ်စွာ သုံး

ဆောင်ရသကဲ့သို့ စကားအရာတွင်လည်း မယုတ်မလွန်နှင့် လိုရင်းရောက်အောင် ပြောဆိုခြင်းသည် အိုးတန်ဆန်ခပ် ပြောနည်းဖြစ်၏။ ဘုရားအလောင်း သုဝဏ္ဏသာမသည် မြားဆိပ်သင့်၍ လဲနေရာ၊ မိဖ ၂ ပါးအား သိကြားမင်းက သားရှင်စေလိုသလော၊ ရွှေအိုးလိုချင်သလော၊ မျက်စိမြင်ချင်သလောဟု မေးရာတွင် သားရွှေအိုးထမ်းလာသည်ကို မြင်ချင်ပါသည်ဟု ဖြေသဖြင့် လိုအပ်သမျှ ပြည့်စုံ၏။ ထိုသို့အလိုရှိသောစကားကို မယုတ်မလွန်ပြောခြင်းသည် အိုးတန်ဆန်ခပ် ပြောနည်းဖြစ်၏။

## ၅။ ဆိပ္ပတ်ကျည်ပွေ့ပြောနည်း

ဆိကိုရအောင်ပွတ်သည့်အခါတွင် အထပ်ထပ်အခါခါ ပွတ်ရသကဲ့သို့ အလိုရှိသောစကားကို အထပ်ထပ်ပြောခြင်းသည် ဆိပ္ပတ်ကျည်ပွေ့ပြောနည်း ဖြစ်၏။ ရှေးအခါ မင်းတပါးသည် ဘုရားတည်မည်ပြုရာ၊ ဘုရားပိန္နဲတိုင်ကို မန်ကျည်းနှစ်ဖြင့် လုပ်ရသော် မကောင်းလောဟု အမတ်ကြီးအားမေး၏။ အမတ်ကြီးက 'မန်ကျည်းနှစ်လည်းကောင်း၏၊ ကျွန်းသားလည်း ကောင်း၏' ဟု ဖြေသည်။ ဤသို့ ဘုရင်မေးသမျှသော သစ်သားများတွင် ကျွန်းသား ကောင်းကြောင်းကို ထပ်တလဲလဲ ထည့်၍ ပြောသဖြင့်၊ ကျွန်းသားကိုပင် ဘုရားပိန္နဲတိုင်လုပ်ရလေသည်။ ထိုသို့ အလိုရှိသောစကားကို ထပ်တလဲလဲပြောခြင်းသည် ဆိပ္ပတ်ကျည်ပွေ့ပြောနည်းမည်၏။

## ၆။ ဆင်ဇော့ရန်ရှောင်ပြောနည်း

ဆင်ဇော့မည်ဟုလိုက်လျှင် လွတ်ရာလွတ်ကြောင်း တိမ်းရှောင်က ချမ်းသာသကဲ့သို့၊ စကားအရာတွင်လည်း မိမိအဖို့ဘေးရောက်မည့်စကားကို ရှောင်လွှဲ၍ပြောဆိုခြင်းသည် ဆင်ဇော့ရန်ရှောင် ပြောနည်းပင်ဖြစ်၏။ ရှေးအခါက အိမ်ရှေ့မင်းတပါးသည် ကျောင်းဆောက်ရာ၊ ကျောင်းတိုင်ကို ယက်မအောက် မြေကြီးထိအောင် ရွှေချလေသည်။ ထိုသည်ကို မှူးဝန်က ကေရာဇ်ကိုတုပ၍မြေကြီးထိရွှေမချသင့်ဟု အောက်ခြေမှရွှေများကို တိုက်ဖျက်ပစ်လေ၏။ ထိုအခါ အိမ်ရှေ့မင်းသည် အမျက်ထွက်၍စစ်မေးလေရာ၊ မှူးဝန်သည် တိုက်ရိုက်မလျှောက်ဘဲ၊ စကားတိမ်းရှောင်၍၊ 'အရှင်အိမ်ရှေ့မင်းသည် နောင် ကေရာဇ်မင်း ဖြစ်မည့်သူ ဖြစ်ပါသည်။ မင်းကေရာဇ်မဖြစ်မီ ရွှေအပြည့်ချ၍ ကျောင်းဆောက်သော် မင်းကေရာဇ် ဖြစ်သည့်အခါ မူလဆောက်သောကျောင်းနှင့် မင်းဖြစ်မှဆောက်သောကျောင်းသည် အတူတူပင်၊ ခြားနားခြင်းမရှိပါလေဟု ဆိုရန်ရှိသောကြောင့် မင်းဖြစ်သည့် ကာလ ကျောင်းဆောက်တော်မူလျှင် နောင်ကိုချရန် ရွှေအခင်းကို ချန်လှပ်ထားရပါမည်' ဟု လျှောက်တင်လေ၏။ ဤသို့ လျှောက်တင်သည့်အတွက် အသက်ချမ်းသာရလေသည်။ ဤကဲ့သို့ ဘေးလွတ်အောင် တိမ်းရှောင်၍ပြောခြင်းသည် ဆင်ဇော့ရန်ရှောင်ပြောခြင်းပင်ဖြစ်၏။

## ၇။ တောင်သူယာခုတ်ပြောနည်း

တောင်သူတို့သည် ယာခုတ်လျှင် ချုံငယ်သစ်ပင်ငယ်တို့ကို ဦးစွာရှင်းလင်းခုတ်ထွင်ပြီးမှ သစ်ပင်ကြီးများကို လှဲသကဲ့သို့ စကားအရာတွင် ဦးစွာ စကားငယ်ကိုပြော၍၊ နောက်မှ စကားကြီးများကို ဖိပြောခြင်းဖြင့် အနိုင်ယူသည်ကို တောင်သူယာခုတ်ပြောနည်းဟု ခေါ်သည်။ ရှေးအခါက ဝိဒေဟရာဇ်မင်းကြီး၏ သိန်းအမတ်နှင့် မဟောသဓာ ပညာရှိသုခမိန်သည် ပညာနှင့်ဥစ္စာ မည်သည်က မြတ်ကြောင်း ငြင်းခုံကြရာတွင်၊ မဟောသဓာသည် ပဌမဦးစွာ သေးငယ်သော ဥပမာတို့ဖြင့်သာ တင်ပြပြောဆို၍ နောက်ဆုံးတွင် လောက သုံးပါးတွင် အတုမရှိသော သဗ္ဗညုတ ဉာဏ်တော်ကို ရတော်မူသော မြတ်စွာဘုရားထက် အဘယ်ဥစ္စာရှိသူမှ သာလွန်နိုင်မည် မဟုတ်၍၊ ဥစ္စာရှိထက် ပညာရှိ မြတ်ပေ၏ဟု စကားကြီးဖြင့် ပိတ်၍ဆိုလေသည်။ ဤသို့ဖြင့် အနိုင်ရလေ၏။ ဤကဲ့သို့ စကားငယ်ကိုပြောပြီးမှ စကားကြီးဖြင့် ပိတ်၍ဆိုခြင်းသည် တောင်သူယာခုတ်ပြောနည်းမည်၏။

## ၈။ ကြက်ဆုတ်ခွပ်ပစ်ပြောနည်း

ကြက်တို့၏သဘောသည် ခွပ်မည်ပြုသောအခါ နောက်သို့ဆုတ်ဟန်ပြု၍ အကယ်ခွပ်သောအခါမှသာ စီး၍ခွပ်သကဲ့သို့ စကားအရာတွင် သူ့အလိုကို လိုက်တန်သရွေ့လိုက်ပြီးလျှင်၊ စီးသာသောအခါမှ စီးလျက်ပြောသော စကားမျိုးသည် ကြက်ဆုတ်ခွပ်ပစ် ပြောနည်း စကားမျိုးမည်၏။ ဦးပေါ်ဦး၏ လျှောက်ထုံးဖြစ်သော ကဝိသေတ္တုမဉ္ဇူသာကျမ်းတွင် ဖော်ပြထားသော အောက်ပါအကြောင်းရပ်တို့သည် ကြက်ဆုတ်ခွပ်ပစ်စကားမျိုးဖြစ်သည်။ တရံရောအခါ အမရပူရ နေပြည်တော်ကြီးအတွင်း တရုပ်လူမျိုး ငရွှေကြည် ခေါက်ဆွဲဖိုမှ မီးထလောင်ကျွမ်းရာ နန်းတော်ကြီးမှစ၍ ရှိရှိသမျှ မီးသင့်လောင်ကျွမ်းကုန်ရကား၊ ခေါက်ဆွဲဖိုရှင် ငရွှေကြည်သည် လက်လွတ်ထွက်ပြေးတိမ်းရှောင်နေ၏။ ထိုအခိုက်တွင် ဂန္ဓာလရာဇ်ပြည့်ရှင် ချင်းလုံဦးတည်မင်းက လျှောင်းတူရဲနှင့် အဖော် ၂ ဦးတို့ကို သံခန့်လျက် ပဏ္ဏာလက်ဆောင်များ၊ ကုန်စည်ဝယ်ရန် ငွေတော်ရှစ်သိန်း၊ ကုန်တင်ရန် လားကောင်ရေ ခုနစ်ထောင်ကျော်တို့နှင့် အမရပူရသို့ လွှတ်လိုက်၏။ ထိုသူတို့ ရန်ကင်းတောင်အနီးတွင် စခန်းချနေစဉ် စစ်ကိုင်းမင်း၏ အိမ်တော်သား တို့သည် လက်နက်လုံ့ခြားအမြောက်အမြားနှင့် တရုပ်ကုန်သည်တို့ကို တိုက်ခိုက်လုယူကြရာ လားတို့လည်း တကွဲတပြား၊ တရုပ်တို့လည်း ဒဏ်ရာဒဏ်ချက်အများရကြ၏။ ထိုအခါ တရုပ်သံတို့က မင်း

တရားကြီးအား ထိုအကြောင်းကို အစီရင်ခံလျက် ဒဏ်ရာဒဏ်ချက်ရရှိသည်တို့ကိုမဟာမိတ်နိုင်ငံချင်းဖြစ်သဖြင့်မပြောမဆိုလိုကြောင်း၊ အထည်ပစ္စည်းဝယ်ရန် လွှတ်လိုက်သောငွေတော်ရှစ်သိန်းကိုသာ ပေးလျော်ပါမည့်အကြောင်း၊ ယင်းသို့မဟုတ်ပါက လုယက်သူတို့ကို ပေးအပ်ပါမည့်အကြောင်း လျှောက်ထားလေ၏။

ဘုရင်မင်းမြတ်သည် ထိုအရေးကို ဆောင်ရွက်စေရန် အမတ်ကြီးဦးပေါ်ဦးအား တာဝန်လွှဲတော်မူ၏။ အမတ်ကြီးဦးပေါ်ဦးလည်း တရုပ်တို့အား ညှော်ဝတ်ကျေပြန်စွာပြုပြီးလျှင် တရုပ်သံတို့တောင်းဆိုသော လျော်ကြေးအတွက် ဤသို့ စကားဆိုသည်။ ဘုရင် ဦးတည်မင်း၏ အမိန့်စာချွန်ကို ဖတ်သိရသည့်အတိုင်း ကျွန်ုပ်တို့က ပေးလျော်ပါမည်။ တရုပ်ကုန်သည်တို့၌ ပျောက်ဆုံးသော ပစ္စည်းအရပ်ရပ်ကိုသာ နောင်အခါကျန်ပါသေးသည်ဟု မဆိုရစေရန်၊ ထမင်းစားသောတူကိုမျှမချန် ယခုတခါတည်း စာရင်းတင်ပါဟု ဆိုလေ၏။ တရုပ်တို့က ငွေတော်ရှစ်သိန်းနှင့် မိမိတို့ပိုင်ငွေနှင့်ပေါင်းသော် ကိုးသိန်းခန့် ပျောက်ပါသည်ဟု ဆို၏။ ထိုအခါ ဦးပေါ်ဦးက ထိုငွေကိုပေးလျော်ပါမည် ယခုအမရပူရနေပြည်တော်မှ ရွှေနန်းတော်ကြီးနှင့် တကွ တစမကျန် တရုပ်လူမျိုး ငရွှေကြည် ခေါက်ဆွဲဖိုမှစ၍ မီးလောင်ခံရသည်ကို သံမင်းတို့ အသိပင်ဖြစ်သည်။ သို့အတွက် မူလမီးရှင် တရုပ်ငရွှေကြည်ကို ကျွန်ုပ်တို့လက်သို့ အပ်စေလိုပါသည်။ တရုပ်ငရွှေကြည် လက်ဝယ်ရောက်လျှင် ပျောက်ဆုံးငွေကိုးသိန်းကို ရပါစေမည်ဟု ပြန်ကြားလေသည်။ တရုပ်သံတို့လည်း ငရွှေကြည်အားရှာဖွေရာ မတွေ့သဖြင့် မရနိုင်ကြောင်း စကားပြန်၏။ ထိုအခါ ဦးပေါ်ဦးက နှစ်တိုင်းနှစ်ပြည် မဟာမိတ်ဖြစ်ကြသည်မှာ နှစ်ရှည်လ များခဲ့ပြီ။ မိတ်မပျက်စေခြင်းအကျိုးငှာ တိမ်းရှောင်နေသူ တရုပ်ငရွှေကြည်တယောက်ကိုသာ ပေးအပ်ပါ ဆိုသည်ကို ရှာဖွေမရသဖြင့် မအပ်နိုင်ဆိုချေသည်။ ကျွန်ုပ်တို့ထံ တောင်းရမ်းသော ခားပြတို့မှာ လူများစွာဖြစ်၍ အဘယ်မှာရှာကြံ၍ အပ်နိုင်ပါအံ့နည်း။ ပေးလျော်စေလိုသော ငွေကိုးသိန်းမှာလည်း၊ တရုပ်လူမျိုး ငရွှေကြည်၏ မီးအတွက် ပျက်စီးသော ပစ္စည်းတန်ဖိုးမှာ ကုဋေငါးဆယ်မျှမကရှိချေသည်။ ယင်းငွေများကို ကျွန်ုပ်တို့သည် နှစ်ပြည့်တပြည် အကြည်တော် မပျက်ရှိကြစေခြင်းငှာ သံမင်းတို့ဘုရင်ထံ တောင်းခံခြင်း မပြုပါ။ ကျွန်ုပ်တို့ထံတွင် ပျောက်ဆုံးသော ငွေကိုးသိန်းခန့်လောက်ကို တောင်းခံခြင်းပြုသည်မှာ ပြည်ထောင်တကာ မင်းများစွာတို့ ကြားခါစင်စစ် ရယ်ဖွယ်ကြီးဖြစ်ပေလိမ့်မည်။ သို့ဖြစ်၍ ဤတရားကို စဉ်းစားပြီးမှ ‘တောင်းခံသင့်ကြောင်းကို သံမင်းတို့မင်းထံ လျှောက်ထားပါဟုဆို၏။ ထိုအခါ သံအမတ်တို့၏ တင်ဆက်လွှာအရ ဦးတည်မင်းက လျော်ကြေးငွေမတောင်းစေတော့ဘဲ၊ ပြန်လာရန် အကြောင်းကြားလေသည်။ ဤကဲ့သို့ စကားကို ဦးစွာ၌ အလျှော့ပေးပြီးလျှင် စီးသာသည့်အခါမှ စီး၍ပြောခြင်းသည် ကြက်ဆုတ်ခွပ်ပစ်ပြောခြင်းမည်၏။

### ၉။ ရေစစ်ကရား ရေသွားသောသွင်ပြောနည်း

ရေစစ်သော မမ္မကရိုဏ်ကို ရေတွင်နှစ်၍ ရေပြည့်လျှင် အပေါက်ကို လက်နှင့်ပိတ်ယူပါက ရေမထွက်နိုင်သကဲ့သို့ တဖက်လူ၏စကားကို ပိတ်မိအောင် ပြောသောစကားသည် ရေစစ်ကရား ရေသွားသောသွင် ပြောနည်းမည်၏။ ရှေးအခါက သူငယ် ၄ ယောက်နှင့် သူအိုတယောက်သည် မယုံဘူး ဆိုသူကို ကျွန်ပြုစတမ်းဟု ချိန်းချက်၍ ယုံတမ်းစကားပြောကြ၏။ ပဌမသူငယ်က ‘ငါငယ်စဉ်က အမိဝမ်းတွင်း၌ ပဋိသန္ဓေနေစဉ် အမိဖြစ်သူ ချဉ်သီးစားချင်ကြောင်း သိသဖြင့် ဝမ်းမှထွက်၍ ချဉ်သီးရှာပေးသည်။ ယုံကြည်သလော’ ဟုဆိုရာ ကျန်လူများက ယုံသည်ဟုဆို၏။ ဒုတိယသူငယ်က ‘ငါသည်မန်ကျည်းသီးစားချင်သောကြောင့် ခြေမကို ကိုင်ပစ်ကာ မန်ကျည်းပင်ပေါ်သို့ တက်သည်။ မန်ကျည်းသီး တင်းပေါင်းများစွာဆွတ်ပြီးလျှင် မဆင်းနိုင်၍ အိမ်မှလှေကားကို ပြန်၍ယူကာ ဆင်းရသည်။ ယုံကြသလော’ ဟုမေးရာ ယုံပါ၏ဟု ဆိုကြ၏။ တတိယသူငယ်ကလည်း ‘ငါသည်ငါးစားချင်သောကြောင့် ရေတွင်ငုပ်၍ ငါးကိုဖမ်းပြီး ရေထဲမှာပင် မီးဖုတ်၍စား၏။ ယုံကြသလော’ ဟုဆိုရာ ယုံပါ၏ဟုပြောကြ၏။ စတုတ္ထသူငယ်ကတဖန် ‘ငါ့မိဖအိမ်သည် အလွန်မြင့်၏။ အိမ်မှကျွန်မ၏ ဖွားမြင်စသားသည် ကြမ်းပေါက်မှကျရာ ဆံပင်ဆွတ်ဆွတ်ဖြူမှ အောက်သို့ရောက်၏။ ယုံကြသလော’ ဟုမေး၏။ ကျန်လူများက ယုံပါ၏ဟုဆို၏။ နောက်ဆုံးတွင် သူအိုက ‘ငါသည် ဝါပင်တပင်စိုက်၏။ ထိုဝါပင်မှ ဝါသီး ၄ သီးသီးသည်။ ထိုဝါသီးများမှ သူငယ် ၄ ယောက်ပေါ်ပေါက်သည်ကို ငါ၏ကျွန်ပြုထားသည်။ ထိုသူငယ်တို့သည် ငါ့ထံမှထွက်ပြေးကြသည်ကို ငါရှာဖွေနေသည်မှာ ယခုမှတွေ့ရသည်။ သင်တို့ ၄ ယောက်သည် ငါ့ကျွန်ဖြစ်သည်။ ယုံကြသလော’ ဟုမေး၏။ သူငယ် ၄ ယောက်မှာ ယုံပါ၏ဟု ဆိုလျှင်လည်း သူအို၏ကျွန်၊ မယုံပါဟု ဆိုလျှင်လည်း သူအို၏ကျွန်သာ ဖြစ်ကြရ၏။ ဤသို့ သူ့စကားကို ပိတ်မိအောင် ပြောသောစကားသည် ရေစစ်ကရားပြောနည်းဖြစ်၏။

### ၁၀။ ခက်တင်မောင်းနှင်းပြောနည်း

သူ့စကားကို ဟုတ်၏ဟုလည်း မဆို၊ မဟုတ်ဟုလည်း မဆိုဘဲ၊ မတင်မကျ ပြောသောစကားသည် ခက်တင်မောင်းနှင်းပြောနည်းဖြစ်၏။ ရှေးအခါ မင်းမှုထမ်းတစုက လူဆိုး

တယောက်အား ဖမ်းဆီး၍ သတ်မည်ပြုသည်တွင်၊ လူဆိုးက ငါသည် တောင်ဘီလူးဆရာတော်၏တူဖြစ်သည်ဟုဆိုရာ၊ မှန် မမှန်မေးရန် ဆရာတော်ထံသို့ ခေါ် သွားကြ၏။ ကျောင်း ရောက်၍ ဆရာတော်အား မေးလျှောက်ကြရာ ဆရာတော် က မဟုတ်ဘူးဆိုလျှင် ဤသူသေမည်၊ ဟုတ်၏ဆိုလျှင်လည်း ငါမုသားရောက်မည်ဟုကြံ၍ 'ဤသူငါ့တူမဟုတ်ဟု မည်သူ ပြောသနည်း' ဟု မိန့်တော်မူ၏။ မင်းမှုထမ်းတို့လည်း ထပ်၍မလျှောက်ဝံ့သဖြင့် ပြန်သွားရ၏။ ဤသို့ဖြင့် လူဆိုး လည်း ချမ်းသာရရ၏။ ဤကဲ့သို့ မတင်မကျပြောခြင်းကို ခက်တင်မောင်းနင်းပြောနည်းဟု ခေါ် ၏။

**စကားဇာစ်မြစ်ပညာရပ်။** ။စကားတလုံး၏ အရင်း အမြစ်ကိုစစ်သောပညာသည် အင်္ဂလိပ်ဘာသာဖြင့် အက်တီ မော်လိုဂျီဟုမည်၏။ ထိုပညာမှာ စကားတလုံး၏အဓိပ္ပါယ် အမျိုးမျိုး ပြောင်းလာပုံ၊ အခြား ဘာသာစကားများ နှင့် အဆက်အသွယ်ရှိပုံ၊ စကားလုံးများ တိုးတက်ပေါက်ပွား လာပုံ စသော စကားလုံး၏ သမိုင်းကို အရင်းအမြစ်မှစ၍ လေ့လာခြင်းဖြစ်သည်။

ထိုပညာတွင် ဘာသာစကားပညာရပ်လည်း အကျုံး ဝင်၏။ (ဘာသာစကားပညာရပ် — ရှု။) စကားအရင်း အမြစ်ပညာမှာ ဆာ ဝီလျံဂျုန်းဆိုသူ (ခရစ် ၁၇၄၆–၁၇၉၄) ပညာရှိကြီး တဦးက ဥရောပတိုက်သို့ သက္ကတဘာသာကို ယူဆောင်လာသောအခါကျမှ တိုးတက်လာသည်။ အက် တီမော်လိုဂျီပညာက စကားတလုံး၏ဆိုလိုရင်းကို ရှင်းရှင်း လင်းလင်းနှင့် ပြည့်ပြည့်စုံစုံ နားလည်နိုင်အောင် ကူညီ၏။ ထို ပြင် ခက်ခဲနက်နဲသော စကား လုံးနှင့် ရှည်လျားသောစကား လုံးတို့၏ အဓိပ္ပါယ်ကို ဖော်ရာ၌ လည်း ကူညီပေ၏။ ထိုကြောင့် ဘာသာစကား ကျွမ်းကျင်မှုတွင် အက်တီမော်လိုဂျီကို အထူး လေ့ လာသင့်၏။

**စကားတောင်စားဝတ္ထု။** စကားတောင်စားဝတ္ထုဟူ၍ ဒဏ္ဍာရီစကားများကို စုပေါင်း ပြီးလျှင် ပြုစုထားသောစာအုပ် သည် ခရစ် ၁၉၀၆ ခုနှစ်နှင့် ၁၉၁၀ ပြည့်နှစ်ကြားတွင် ပုံနှိပ် ထုတ်ဝေခဲ့ရာ၊ မြန်မာဂန္ထဝင်တွင် ထင်ရှားသော စာအုပ်တအုပ် ဖြစ်သည်။ ပြုစုရေးသားသူမှာ သံရွာမင်းသား၏မြေး၊ ဝန် စာရေး ဦးကြီးဖြစ်သည်။

'မောင်ရင်မောင်၊ မမယ်မ' ဝတ္ထုသည် ၁၉၀၄ ခုနှစ်တွင် ပေါ် ခဲ့ရာ၊ လူကြိုက်များသဖြင့် ယင်းဝတ္ထုကိုလိုက်၍၊ မောင် မှိုင်းဝတ္ထု စသည်တို့ ပေါ် လာ လေသည်။ မောင်မှိုင်းဝတ္ထု၊ မြကလေးဝတ္ထု၊ စိန်ကလေးဝတ္ထုများ ရေးပြီးနောက် လူ ကြိုက်များသဖြင့် ထို စကားတောင်စား ဝတ္ထုကို ဗဟုသုတ ရှာမှီးလိုသူတို့အတွက် ထပ်မံရေးသားပါသည်ဟု ဝတ္ထုနိဒါန်း တွင် ဆိုထားလေသည်။

ထိုနိဒါန်းတွင် အမြွက်ဖော်ပြထားသည့်အတိုင်း၊ စကား တောင်စားဝတ္ထုကို ဝတ္ထုရေးသူ ဦးကြီး က ပင်ကိုယ်စိတ်ကူး ဖြင့် ဖန်တီးရေးလိုက်ခြင်းမဟုတ်ပေ။ ဝတ္ထုပါအကြောင်း ရပ်များမှာ ရှေးအစဉ်အဆက် နန်းတွင်းမှအစ အရပ်ထဲအထိ မြန်မာတို့ ပြောလေ့ပြောထရှိသည်များကို မှတ်သား၍ စာ တင်ကာ ဝတ္ထုဖွဲ့ရေးလိုက်ခြင်းဖြစ်၏။ ထိုကြောင့်လည်း စကားတောင်စား၊ ပခန်းသား၊ ချည်ပါသားဟူသောအမည် များနှင့် ယင်းတို့၏ စရိုက်များကို ဝတ္ထုမပေါ် ခင်ကပင် မြန် မာများ ပြောစမှတ်ပြုခဲ့ကြ၏။

ဝတ္ထုဇာတ်အိမ်ဖွဲ့သောခေတ်မှာ အင်းဝမြို့ ကောင်းစားစဉ် ကဖြစ်သည်။ ဇာတ်ဆောင်တို့မှာ နောင်အခါတွင် စကား တောင်စားအမတ်ဟူ၍ ထင်ရှားမည့် နာမည်ရင်းမရှိသူနှင့်၊ ပခန်းသား ငလက်တို၊ ချည်ပါသား ငညိုတို့ ဖြစ်ကြသည်။ ထိုသုံးယောက်အနက် စကားတောင်စားက ပို၍စကားအရာ တွင် ကျွမ်းကျင်လေသည်။ ထိုကြောင့် စကားတောင်စား



စကားတောင်စားသည် ကလေးလိမ့်ကျသော်လည်း ကြည့်ရမည်ဟုမှာထား၍ လက်ပိုက်ကာသာ ကြည့်နေ၏။

သည် ပညာရှိအမတ်အဖြစ် ခန့်အပ်ခံရ၍ ဘုရင့်ထံပါးတွင် ခစားရလေသည်။ ဓညဝတီ ရခိုင်ပြည်သို့ သံတမန်ခန့်အပ်စေလွှတ်ရာတွင်လည်း ဓညဝတီဘုရင်နှင့် မှူးမတ်ပညာရှိတို့၏ ပညာစမ်းမှုကို အောင်မြင်စွာ ဖြေဆိုဆောင်ရွက်နိုင်သောကြောင့် ချီးမွမ်းခံရသည်။

ပခန်းသား လေက်တိုနှင့် ချည်ပါသားညိုတို့ကား စကားကျွမ်းကျင်သော်လည်း လိမ်လည်ကောက်ကျစ်သော စိတ်သဘောရှိ၏။ လူတဦးတယောက်အား လိမ်လည်လှည့်ဖြားခြင်းမပြုရလျှင် မနေတတ်သူများဖြစ်ကြ၏။ ထိုကြောင့် သူတို့အချင်းချင်းလည်း လိမ်လည်၏။ သူတို့ချင်း လိမ်ကောက်၍ မရသောအခါတွင်လည်း နှစ်ဦးသဘောတူ ပူးပေါင်း၍ လိမ်လည်ကြ၏။ သို့ဖြစ်၍ အင်းဝမြို့တော်မှ စုန်ဆင်းကာ မြစ်ရိုးတလျှောက်နှင့် အောက်မြို့ကျေးရွာဖြစ်သော ညောင်တုန်း၊ ဝါးခယ်မ၊ မြောင်းမြ၊ ပုသိမ်မြို့များတိုင် လှည့်လည်၍ လိမ်လည်လှည့်ဖြားကာ အသက်မွေးကြသည်။ အသင့်မတူ အိမ်သူမဖြစ် ဆိုသည့်အတိုင်း စိတ်သဘောချင်းတူကြသူ မခါကြီး၊ မကျေးဥတို့နှင့်ပေါင်းဖက်မိရာတွင် လိမ်ကောက်မှုမှာ ပိုမိုများပြားလာလေသည်။

ထိုကြောင့်ပင် နှုတ်ရေးစကားတတ်နှင့် စကားအကော်အကတ် ပြောလာလျှင် ထိုသူအား စကားတောင်စားဟူ၍ ၎င်း၊ စကားတံ ရှည်ရှည်နှင့် ဆင်ခြေများများသုံး၍ လှည့်ပတ်ပြောလာလျှင် ထိုသူအား ပခန်းသား၊ ချည်ပါသားဟူ၍ ၎င်း တင်စားခေါ်ဝေါ်လေ့ရှိကြသည်။

### စကားတောင်စားဝတ္ထုမှကောက်နုတ်ချက်

တနေ့သ၌စာရေးကြီးကတော်သည် မိမိအိမ်၌မုန့်အိုးကင်းကပ်လုပ်၍၊ မိမိယောကျ်ားစာရေးကြီးကို စားစေလိုသောကြောင့် စကားတောင်စားကို ခေါ်ရန် နန်းတော်ထဲသို့စေလွှတ်လိုက်ရာ၊ လွှတ်တော်ပေါ်သို့ တက်သွားပြီးလျှင်၊ လှေကားဦးကစ၍ မာရဘင်နားသို့ ကျရောက်သည် တိုင်အောင်၊ အသံကျယ်စွာနှင့် ပြင်းထန်စွာ ဟစ်အော်ပြီးလျှင်၊ စာရေးတော်ကြီးမင်း၊ စာရေးကြီးကတော်က မုန့်အိုးကင်းကပ်စားရအောင် မြန်မြန်လာပါ အခေါ်စေလွှတ်ပါသည်ဟု ပြောဆိုသောအခါ၊ ကြားသမျှ မင်းပရိသတ်တို့သည် ဝိုင်း၍ပြောင်လှောင်ရယ်မောကြလေ၏။ ထိုအခါ စာရေးတော်ကြီးသည် တော်ရာသို့ခေါ်ပြီးလျှင် ထိပ်ကိုပုတ်၍၊ မောင်မင်းသည် မင်းပရိသတ်တို့အလယ်၌ ငါ့ကိုအရှက်ရအောင် မုန့်အိုးကင်းကပ်ကိုစားရန် ဟစ်အော်၍ခေါ်သည်။ နောင်တစုံတရာကိစ္စရှိလျှင် လူပရိသတ်တို့ရှေ့ ဟစ်အော်၍မခေါ်နှင့်၊ မျက်ရိပ်မျက်ခြေ မျက်စနှင့်ခေါ်ရမည်ဟု ပြောဆိုလေ၏။ စကားတောင်စားလည်း နောင် တစုံတရာကိစ္စရှိလျှင်၊ မျက်စနှင့်ခေါ်ပါမည်ဟု ပြောဆိုလေ၏။

တရံရောအခါ အိမ်နှင့်မနီးမဝေး မီးလောင်သောအခါ၊ အိမ်ထောင်မှုပရိဘောဂတို့ကို အိမ်ပြင်သို့ သယ်ထုတ်ကြရာ၊ စာရေးကြီးကတော်က ပေါ့ပေါ့ပါးပါးကိုသာ သယ်ပါဟူ၍၊ အဖိုးတန်သောပစ္စည်းများကို ယူစေလို၍ ပြောပါသည်ကို စကားတောင်စားသည် အိမ်အောက်က ပေါ့ပါးသောဖွဲတောင်းတွေကို ချီ၍ထုတ်လေ၏။ ထိုအခါ စာရေးကြီးကတော်က ပေါ့ပေါ့ပါးပါးကို သယ်ပါဆိုတာကို အဘယ်ကြောင့် ဖွဲတောင်းကိုသယ်ရသလဲဟု မေးမြန်းရာ၊ ဖွဲတောင်းသည် အပေါ့ဆုံးဖြစ်၍ သယ်ပါသည်ဟု ပြောဆိုသောအခါ၊ စာရေးကြီးကတော်က မင်းမသယ်ပါနှင့်တော့၊ စာရေးတော်ကြီးကိုသာ မြန်မြန်ခေါ်ပေးပါဟု ပြောဆိုလေ၏။

ထိုအခါ စကားတောင်စားသည် နန်းတော်သို့ဝင်သွား၍ လှေကားတော်ဦးက ထိုင်ပြီး၊ မျက်စပစ်၍သာ နေလေ၏။ အချိန်ကုန်၍ စာရေးကြီး ပြင်ဖက်သို့ထွက်လာသောအခါ မျက်စပစ်သည်ကိုမြင်၍၊ မောင်မင်းသည် သည်နေရာမှာ ထိုင်၍ မျက်ခုံးကို ဘယ်အတွက်ကြောင့် လှုပ်၍နေသနည်းဟု မေးသောအခါ စကားတောင်စားသည် စာရေးတော်ကြီးနားနားကိုကပ်၍ မီးလောင်သည်ဟုပြောလေ၏။ ထိုအခါ စာရေးတော်ကြီးက ပြင်ဖက်သို့ထွက်ကြည့်သောအခါ မီးခိုးကိုမမြင်ရ၍၊ ဘယ်အချိန်ကလောင်သနည်းဟု မေးမြန်း၏။ စကားတောင်စားက နေ့လယ်ကပင်လောင်ပါသည်ဟု ပြောဆိုသောအခါ၊ မင်းရောက်တာ ဘဲ့ကလောက်ကြာပြီလဲဟု မေးမြန်းလေ၏။ စကားတောင်စားကလည်း နေ့လယ်ကပင် ကျွန်တော်ရောက်ပါသည်။ စာရေးတော်ကြီးမင်းက မျက်စနှင့်သာ ခေါ်ရမည် မှာထားသောကြောင့် မျက်စပစ်၍ ခေါ်နေပါသည်ဟု ပြောဆိုလေ၏။ ထိုအခါ စာရေးကြီးသည် အိမ်သို့ ပျာယီးပျာယာ၊ ပြန်၍သွားသောအခါ၊ ကံအားလျော်စွာ အိမ်အနီးကျမှ မီးငြိမ်း၍သွားသောကြောင့် ပစ္စည်းများကို ပြန်၍ အိမ်ပေါ်သို့ သယ်ပြီးသည်နောက်မှ ရောက်ကြလေ၏။ ထိုအခါ နေ့လယ်ကမီးလောင်၍အခေါ်ခိုင်းသည်ကို ညနေမှလာရမည်လားဟု စာရေးကြီးကတော်က ပြောဆိုသောအခါ၊ စကားတောင်စားသည် မျက်စပစ်၍နေသည်ကို ငါမသိသောကြောင့် ကြန့်ကြာပါသည်ဟု ပြောဆိုသကာလ၊ စာရေးကြီးကတော်က အိမ်မှာလဲ အရေးအကြောင်းရှိ၍လည်း အသုံးမကျ၊ စကားအရာမှာလည်း အင်မတန်ကတ်သည်။ မင်းသွားတော့ဟု နှင်ပြန်လေ၏။ ထိုအခါ လနှစ်လမြင်ရမှ သွားမည်ဟုပြောဆိုပြီးလျှင်၊ အတင်းကပ်၍ နေမြဲနေထိုင်လေ၏။ တနေ့သ၌ စာရေးကြီးကတော်သည် ဝယ်ခြမ်းရန်အများရှိ၍ ကလေးကိုပုခက်ထဲ၌ သိပ်ပြီးလျှင် စကားတောင်စားကို ကလေးကြည့်ရစ်ပါဟု မှာထားခဲ့လေ၏။ စာရေးကြီးကတော် ဈေးသို့သွား၍ အတော်ကြာသောအခါ၊ ကလေးနိုး၍ ငိုပြီးလျှင်

ပုခက်ပေါ်မှလိမ့်ကျလေ၏။ စကားတောင်စားသည် လက်ပိုက်၍ ထိုင်ပြီးလျှင် သေသေချာချာ ကြည့်လေ၏။ ထိုနောက် ကလေးသည် လေးဖက်ထောက်၍ သွားပြီးလျှင်၊ လှေကားပေါက်ဝမှ ဒလိမ့်ဒလိမ့် ကျသွားလေ၏။ စကားတောင်စားသည် ကျပုံနှင့်တကွ သေသေချာချာ ကြည့်၍ မှတ်သားပြီးလျှင်၊ ကလေးအနီး၌ဆင်းပြီးလျှင် မျက်တောင်မခတ်ဘဲ ရပ်၍ကြည့်လေ၏။

ထိုအခါ ကလေးသည် ထိပ်ပေါက်၍ သွေးသံရဲရဲနှင့် မြောနေအောင် ငိုလေ၏။ ထိုအခါ စာရေးကြီးကတော်သည် ဈေးကပြန်လာရာ၊ အဝေးကမြင်၍ ရင်ပတ်ကိုတီးပြီးလျှင်၊ ကလေးကို ကြည့်ရစ်ပါဟု မှာထားပါလျက်၊ မင်းမကြည့်သောကြောင့် ကလေးတကိုယ်လုံးသည် သွေးရဲရဲသံရဲရဲနှင့် နေသည်ကို မင်းသည် မမြင်ဘူးလားဟု အော်ငေါက်၍မေးသောအခါ စကားတောင်စားသည် ရွှေကြက်ယက်ဘုရားကို ဖူးရပါစေရဲ့၊ ကျွန်တော်ကြည့်ပါသည်။ အဦးအစ ပဌမကလေးသည် ပုခက်ပေါ်ကတကြိမ်ကျပါသည်။ ထိုနောက်မှ လေးဖက်ထောက်၍ လာပြီးလျှင် လှေကားပေါက်ဝက ဒလိမ့်ဒလိမ့်ကျသွားပြီးလျှင်၊ လှေကားဘောင်နှင့် ဦးခေါင်းနှင့် ရိုက်မိပါသည်။ ကျွန်တော်လည်း ကြည့်ရမည်မှာထားသည့်အတိုင်း စေ့စေ့စပ်စပ် ကလေးကိုသာ ကြည့်၍နေပါသည်ဟု ပြောဆိုသောအတွင်း စာရေးတော်ကြီးသည် နန်းတော်မှလာ၍ အကြောင်းအရာကို မေးမြန်းပြီးလျှင်၊ ထိုနေ့ည၊ လလည်းအလွန်သာသည်နှင့် ရေအင်တုံထဲ၌ လရိပ်ကို မြင်သောအခါ၊ စာရေးကြီးသတိရ၍၊ စကားတောင်စားကို ခေါ်ပြီးလျှင်၊ မိုးပေါ်၌လတလ၊ ရေထဲ၌တလ၊ လနှစ်လရှိပြီဖြစ်သောကြောင့် မင်းအိမ်ကိုသွားတော့ဟု နှင်လိုက်ရလေ၏။ စကားတောင်စားလည်း နှစ်လရှိပေပြီဟူ၍ပြောဆိုပြီးလျှင်၊ နောက်ကို နှစ်လလောက် ကျွန်တော်နေပါရစေအုံးတော့ဟု ပြောဆိုသောအခါ၊ စာရေးကြီးကတော်က အလို မောင်မင်းကြီးသား၊ မောင့်ခြေဖျားကို ဦးသုံးကြိမ်ချပါရဲ့၊ ကြွတော်မူပါတော့ ပြောဆိုသောကြောင့် စကားတောင်စားသည် အမိအိမ်သို့ပြန်သွားလေ၏။

**စကားထာ**။ ။စကား၏ အနက်အဓိပ္ပါယ်ကို ကွယ်ဝှက်၍ ပုစ္ဆာထုတ်ခြင်းသည်စကားထာဖြစ်သည်။ ဤသို့ပုစ္ဆာထုတ်ခြင်းကို စကားထာဝှက်သည်ဟု ခေါ်သည်။ စကားထာဝှက်သည်ကို မဖြေနိုင်လျှင် ပန်းပေးသည်ဟု ဆိုရသည်။ ထိုအခါ စကားထာဝှက်သူက အဖြေကို ပြောပြရသည်။ စကားထာဝှက်ခြင်းသည် မြန်မာတို့၏ ရှေးဟောင်းဓလေ့ဖြစ်သည်။ အခြားလူမျိုးတို့သည်လည်း တဦးနှင့်တဦး ဉာဏ်စမ်းရန် စကားထာဝှက်တတ်၏။ စကားထာကို မိန်းကလေးများက စတင်ဝှက်၍ ယောကျ်ားကလေးများကဖြေကြရသည်။ မဟောသဓဇာတ်တော်တွင် ဘုရားအလောင်းမဟောသဓာသည် အမရာကို တွေ့ရာဝယ် အမည်ကိုမေးလေ၏။ အမရာက ထိုအမေးကို ဖြေရာ၌ 'ကျွန်ုပ်၏အမည်သည် ဖြစ်ဆဲ၊ ဖြစ်ပြီး၊ ဖြစ်လတ္တံ့သော ကာလသုံးပါးတွင် မရှိသောအမည်ပါတည်း' ဟု စကားထာဝှက်၍ ဆို၏။ ဤတွင် မဟောသဓာက ကာလသုံးပါး၌ မရှိသောအမည်ကား အမရာဖြစ်၏ဟု စကားထာ၏ အဖြေမှန်ကို ဖော်လိုက်၏။ အမရာကား မသေခြင်းကိုဆိုသည်။ ထိုအပြင် အမရာက မိမိ၏ဖခင်သည် သင်္ချိုင်းကုန်း၌ လယ်လုပ်ကြောင်းကို စကားဖြောင့်ဖြောင့်မဆိုဘဲ၊ လူတို့တကြိမ်ရောက်က တခေါက်ပြန်မလာသောအရပ်၌ လယ်လုပ်ပါသည်ဟု စကားထာဖြင့် ဝှက်၍ဆို၏။ ဤကား မိန်းကလေးများကမေး၍ ယောကျ်ားကလေးများကဖြေသော စကားထာနမူနာတည်း။

မြန်မာမှုတွင် စကားထာ အမျိုးမျိုးရှိသည်။ ကာရန်အားဖြင့်ဝှက်သော စကားထာ၊ ဥပမာအားဖြင့်ဝှက်သောစကားထာ၊ အနက်အားဖြင့် ဝှက်သော စကားထာ၊ စကားလိမ်အားဖြင့်ဝှက်သော စကားထာ၊ သင်္ချာအားဖြင့်ဝှက်သောစကားထာဟူ၍ အမျိုးမျိုးရှိသည်။

ကာရန်အားဖြင့်ဝှက်သော စကားထာများနှင့် အဖြေများမှာ

(မေး) တောင်ကိုတောင်ကြား၊ ပေါက်သည့်ဝါး၊ အဖျားခပ်သွယ်သွယ်။

(ဖြေ) အိမ်ကိုအိမ်ကြား၊ ပေါက်သည့်သား၊ စကားခပ်ကြွယ်ကြွယ်။

(မေး) ညောင်ပင်ပတ်လည်၊ ချစ်ခုံတည်၊ ဈေးသည်မလား၊ ချည်ချလား။

(ဖြေ) မောင်ရှင်သစ်ကယ်၊ လူထွက်တယ်၊ ဆန်းတယ်လလား၊ သည်လလား။

(မေး) ဓားဝယ်ချောင်းမှာ၊ဒေါင်းတွေ့တယ်။

(ဖြေ) ငယ်ကပေါင်းမို့၊ အောင်းမေ့တယ်။ ဟူသည်တို့ဖြစ်ကြသည်။

ဥပမာအားဖြင့် ဝှက်သောစကားထာများမှာ 'ရေပတ်လည်ဆောင်၊ အလည်ခေါင်သောင်ထွန်း၊ မိန်းမလှကျွန်း' ဟူသောစကားထာ၊ 'မဖွပ်ဘဲဖြူသည့် နတ်ပုဆိုး၊ မလောင်းဘဲပြည့်သည့် နတ်ရေအိုး' ဟူသည့် စကားထာနှင့် 'ကျူပြင်ကြိုး၊ ကျူပြင်ကြား၊ လောင်းကလေးနှင့်သွား' ဟူသောစကားထာမျိုးတို့ဖြစ်သည်။ ထိုစကားထာတို့၏ အဖြေကို ဝှက်ထားသည့် စကားထာတွင်ပါသော ဥပမာနှင့်ကိုက်ညီအောင်ရှာရသည်။ ကျောက်မျှဉ်သည် အမျိုးသမီးများအလှပြင်ရန်ဖြစ်၍ ဘေးပတ်လည်တွင်ရေမြောင်းပါရှိနေသည့်အတွက် ရေဝန်းရံလျက်ရှိသော ကျွန်းကလေးကဲ့သို့ ဖြစ်နေသော



ဘုရားအလောင်းမဟောသဓာနှင့်အမရာတို့တွေ့ဆုံ၍ စကားထာ မေးဖြေနေကြပုံ

ကြောင့် 'ရေပတ်လည်ဆောင်၊ အလည်ခေါင်သောင်ထွန်း၊ မိန်းမလှကျွန်း' ဟူ၍ ကျွန်းကိုပမာပေးကာ ကျောက်ပျဉ်ကို စကားထာဝှက်လေသည်။ အုန်းသီးအဆန်သည် မဖွပ်ဘဲနှင့် အလိုအလျောက် ဖြူဖွေးနေသည့်နည်းတူ အုန်းရည်မှာလည်း အလိုအလျောက် ဖြည့်သူမရှိဘဲ ပြည့်နေသည်ကို ရည်ရွယ်၍ 'မဖွပ်ဘဲဖြူသည့် နတ်ပုဆိုး၊ မလောင်းဘဲပြည့်သည့် နတ်ရေအိုး' ဟု နတ်ပုဆိုး၊ နတ်ရေအိုး တို့ကို ဥပမာ ပေးလျက် အုန်းသီးကို စကားထာဝှက်လေသည်။ ကျူပင်အကြား၌ လောင်းလှေတို့ လှော်ခတ် သွားလာသကဲ့သို့ ကျူပင်နှင့်တူသော ရက်ကန်းလှာ ၂ ခုအကြားဝယ် လောင်းလှေနှင့်တူသော ရက်ကန်းလွန်းအိမ်သည် လူးလာတုံ့ခပ် သွားလာနေသည့်အတွက် ရက်ကန်းလွန်းအိမ်ကို 'ကျူပင်ကြို ကျူပင်ကြား၊ လောင်းကလေးနှင့်သွား' ဟူ၍ ဥပမာတင်စားကာ စကားထာဝှက်ကြလေသည်။

အနက်အားဖြင့် ဝှက်သော စကားထာတို့မှာ 'ရင်၌ထားသားလည်းမဟုတ်၊ မြေမသက် ငှက်လည်းမဟုတ်၊ အမြီးကောက် မျောက်လည်းမဟုတ်၊ မုတ်ဆိတ်ဖွား ကုလားမဟုတ်' ဟု စောင်းကောက်ကိုဝှက်သော စကားထာ၊ 'ကဆယ့်ခြောက်ပြည် အပိုင်စိုးသော်လည်း မင်းမျိုးမဟုတ်ပါ၊ ရှေးကုသိုလ် ကံမကောင်း၍ ခေါင်းခြေလက်မပါ' ဟု ၁၆ ပြည်ဝင်တင်းတောင်းကိုဝှက်သော စကားထာ၊ 'သဒ္ဒါလည်းမတတ်၊ ပရမတ်ကိုလည်းမကြေ၊ လူ့ရှေ့မှာအမြဲနေ၊ မှန်လျှင်မှန်စေ၊ မမှန်လေက လျှာထုတ်ပြ' ဟု ချိန်ခွင်ကိုဝှက်သောစကားထာများဖြစ်ကြ၏။ (ပဟေဠိ — ရှု။)

သင်္ချာအားဖြင့် ဝှက်သော စကားထာတို့မှာ 'အလံတရာမြေ၊ တွင်းမှာခွေ၊ တနေ့လက်နှစ်သစ်၊ ကျွန်တော်မ သက္ကရာဇ်' ဟု မိန်းကလေးက မိမိ၏အသက်ကိုဝှက်သော စကားထာနှင့် 'ခိုမှာကားခွဲ၊ ဝမ်းဘဲငါးကျပ်၊ စာတမတ်ကို၊ မပြတ်နေ့ညှ၊ ရောင်းဝယ်ကြသည်၊ ငှက်လှအစိတ်၊ ကြေးအစိတ်' ဟု လင်္ကာစပ်ဆိုလျက် ဝှက်ခဲ့သော စကားထာ စသည်တို့ ဖြစ်ကြ၏။ ယင်းနှစ်ခုတွင် ပဌမစကားထာကိုတွက်လျှင် အလံတရာကိုလက်သစ်ဖွဲ့သော် ၉၆၀၀ ရရှိ၏။ ထို ၉၆၀၀ လက်သစ်ကို တနေ့လျှင်လက်နှစ်သစ်ဆိုသည့်အတွက် လက်နှစ်သစ်နှင့် စားသော် ရလဒ်သည် ၄၈၀၀ ရ၏။ ထိုအတွက် ထိုမိန်းကလေး၏အသက်မှာ ရက်ပေါင်း ၄၈၀၀ ဖြစ်သည်။ ထိုရက်ပေါင်းကို လဖွဲ့လျှင် လပေါင်း ၁၆၀ ရ၍နှစ်ဖွဲ့သော် ၁၃ နှစ်နှင့် ၄ လရသည်။ မွေးသက္ကရာဇ်ကိုလိုသော် ကောဇာသက္ကရာဇ်မှ ယင်း ၁၃ နှစ်နှင့် ၄ လကို နုတ်သော်

မွေး သက္ကရာဇ် ရသည်။ ဒုတိယစကားထာ ဖြစ်သော 'ခိုမှာ ကားခွဲ၊ ဝမ်းဘဲငါးကျပ်၊ စာတမတ်' ကိုဖြေကြားရာ၌ 'ခိုမှာ နှစ်မတ်၊ ဝယ်မှတ်လည်းပြု၊ ဆဲ့ရှစ်ခုကို၊ တွက်စုကြေးမှာ၊ကိုး ကျပ်သာတည့်၊ ငှက်သာဝမ်းဘဲ၊ ဝယ်မြဲသုံးခု၊ တခုငါးကျပ်၊ ရလဒ်တွက်ဖွယ်၊ တဆယ်ငါးကျပ်၊ ရမြဲလဒ်ဟု၊ လေးခုစာမှာ၊ မတ်စီသာတည့်၊ များစွာပေါင်းငြား၊ ငှက်ကားအစိတ်၊ ကြေး အစိတ်။' ဟူ၍ ရှေးပုဂ္ဂိုလ်များ တွက်ချက်၍ရသည့်သင်္ချာ တို့ကို လင်္ကာဖြင့် အထက်ပါအတိုင်း ဖြေကြား ခဲ့လေသည်။

စကားလိမ်အားဖြင့်ဝှက်သော စကားထာ၌၊ စကားလိမ်၏ သဘောမှာ တပါးသူတို့ မသိ နားမလည်နိုင် ကြစေရန် မူရင်းစကားလုံးများ၏ အသံကာရန်ကို ရှေ့နောက်ပြောင်း ပြန်ပြုထားခြင်းဖြင့်၎င်း၊ အသံကာရန်ကိုလိုက်၍ စကားလုံးပို ထည့်သွင်းအသုံးပြုခြင်းဖြင့်၎င်း စကားဝှက်၍ ပြောခြင်းဖြစ် သည်။ ပမာဆိုသော် လောကဓံကို လံကဓော၊ အဝိဇ္ဇာကို အဝါဇိတ်၊ နောင်မသိကို နီမသောင်ဟူ၍ စကားကိုလိမ်ကာ ရေးသားပြောဆိုခြင်းမျိုးဖြစ်၏။ ထိုပြင် အောက်တွင်ဖော် ပြမည့် ဥပမာစကားထာများမှ ထွက်ပေါ်လာသည့် ငုံမွေ၊ မာလုံ ဟူသော စကားလုံးများသည် ငွေမုံ၊ မုံလာဟူသော စကားများ၏ စကားလိမ်များဖြစ်ကြသည်။

စကားလိမ်အားဖြင့် ဝှက်သောစကားထာများမှာ 'စပယ် ဖူး၊ ဆီးယောင်းမ' ဟူသော စကားထာဖြစ်သည်။ စပယ် ဖူးစမှာ ငုံသည်။ ဆီးယောင်းမမှာ မွေရသည်။ နှစ်ခုပေါင်း သော် ငုံမွေ၊ ငွေမုံ ဟူ၍ဖြစ်၏။ ထိုအတူ 'ကျောက်စရစ်ခဲ စောင်ဖြူခြုံ' ဟူသောစကားလိမ်မှာ ကျောက်စရစ်ခဲသည် မာ၍၊ စောင်ဖြူခြုံက လုံသည်။ ထို့ကြောင့် အဖြေမှာ မာ လုံ၊ မုံလာဖြစ်၏။

ရှေးသူဟောင်းတို့၏ စကားထာမှာ ဩကာသလောက ပတ်ဝန်းကျင်ကိုမှီး၍ ဝှက်ဆိုကြသည်ဟု ဂရိပညာရှိ အယ် ရစ္စတိုတယ်က ဆိုသည်။ ပမာဆိုသော် လေကိုဝှက်ရာ၌ 'မရပ်မနား အမြဲတစေပျံသန်းနေသည်ကား အဘယ်နည်း' ဟူ၍ဝှက်သည်။ ရှေးခေတ် ဂရိလူမျိုးတို့သည် စကားထာ ဝှက်သည်ကို များစွာနှစ်ခြိုက်ကြ၏။ စကားထာဝှက်တမ်း ကစားရာ၌ အသက်ကိုပင် အပေါင်ပြုကြလေသည်။ သို့ဖြင့် စကားထာဝှက်ရာ၌ အသက်ပေါင်းများစွာ ဆုံးရှုံးခဲ့ကြဘူး သည်။ ဂရိကဗျာဆရာကြီး ဟိုးမားသည် စကားထာတခုကို မဖြေဆိုနိုင်သောကြောင့် အရှက်ရကာ စိတ်ထိခိုက်သဖြင့် သေဆုံးရသည်ဟုအဆိုရှိသည်။

ကမ္ဘာအနှံ့ အပြားတွင် စကားထာများ ခေတ်စားသည်။ ခရစ်ယန်ကျမ်းစာ၊ ကိုရန်ကျမ်းစာများ တွင် စကားထာ များကို တွေ့နိုင်သည်။ အီဂျစ်ရေဗျူန်နှင့် ပါးရှင်း စကားထာ များလည်း ရှိသေးသည်။ မြန်မာကျမ်းစာ၊ ပုံပြင်များတွင် လည်း စကားထာများ၊ ပဟေဠိများ တွေ့ရ၏။

စကားထာပညာ သည် အကျိုးအကြောင်း နှိုင်းဆမှုကို အထောက်အပံ့ပြုသည်။ တဆင့်ပြီး တဆင့် ကြံဆရသဖြင့် ဉာဏ်ကို ရှင်စေသည်။ စိတ်ကူးကောင်းကို ရစေသည်။ သို့သော် ယခုခေတ်၌ကား စကားထာပညာကို လူငယ်လူ ရွယ်တို့သည် စိတ်ပျော်ရွှင်ရုံမျှ လေ့လာကြလေသည်။

**စကားပုံ**။ ။စကားပုံဆိုသည်မှာ စကားပြောဆိုရာတွင် ပိုမိုထိရောက်စေရန် ခိုင်းနှိုင်းပြောဆိုလေ့ရှိသော စကားမျိုး ဖြစ်သည်။ မြန်မာစကားပုံများမှာ အကြောင်းရပ် အမျိုး မျိုးကိုလိုက်၍ ထောင်ပေါင်းများစွာရှိ၏။ ပညာရှိသတိဖြစ် ခဲ့၊ တနွယ်ငင်တစင်ပါ၊ နဂိုရှိမှနဂိုးထွက် စသော စကား လုံးသိပ်သည်းသည့် စကားပုံများလည်းရှိသည်။ မင်းသား ကြီး မလုပ်ရ၍ ပတ်မကြီးကိုဖောက်ပစ်သည်၊ အလကားရ သည့်နွားကို သွားဖြဲ၍ကြည့်သည်၊ အရိပ်သုံး ပါး နားမလည် ချေသူငယ် ကျားစာဖြစ်သည် ဟူသော စကားလုံးကျဲသည့် စကားပုံများလည်း ရှိသည်။ များသောအားဖြင့် စကား လုံးနည်းနည်းနှင့် အဓိပ္ပါယ်လေးနက်သည်ကများသည်။

တခါတရံ မိမိဆိုလိုသည့်အချက်ကို စကားပုံဖြင့် အစား ထိုး၍ ပြောနိုင်၏။ ပမာအားဖြင့် ပင်ကိုယ် အစွမ်းမရှိ သော်လည်း ကံကောင်းထောက်မ သောကြောင့် အလုပ် အကိုင် တစုံတခု ဖြစ်မြောက် သွားသည်ကို တိုက်ရိုက်မ ပြောလိုလျှင်၊ ကြက်ကန်း ဆန်အိုးတိုးမိသည် ဟူ၍၎င်း၊ သူတပါးကူညီမှုကြောင့် အရေးကိစ္စအောင်မြင်သွားလျှင် စိုင် ကော်လို့ချုံပေါ် ရောက်သည်ဟူ၍၎င်း သုံးလေ့ရှိကြသည်။

အချို့စကားပုံများမှာ သတိပြုဖွယ်၊ နာယူဖွယ် ဥပဒေ များဖြစ်ကြ၏။ နေပြောနောက်ကြည့်၊ ညပြောအောက် ကြည့်၊ လသာတုန်းဗိုင်းငင်၊ နှုတ်ချိုလျှင်လျှိုတပါး စသည့် မှတ်သားဖွယ်ရာ စကားပုံများပင် ဖြစ်လေသည်။ ဆုံးမစာ ဆန်သော စကားပုံများကို ကန်တော်မင်းကျောင်း မေတ္တာ စာ၊ ကျည်းကန်ရှင်ကြီး မေတ္တာစာ၊ ဦးပုည မေတ္တာစာ၊ ဘိုးသူတော်ဦးနု၏ စကားပုံများမှ ထုတ်နုတ်သုံးစွဲကြသည်။ ယင်းစကားပုံများမှာ လင်္ကာများဖြစ်သောကြောင့် မှတ်ရ လွယ်၏။ မပေးဘဲကိုမလိုလင့်၊ မမေးဘဲကို မဆိုလင့်၊ အထင် နှင့် မဆီမဆိုင်ရှိတတ်သည်၊ အမြင်နှင့် မညီနိုင်ရှိတတ်သည်၊ ဗုဒ္ဓဆာဃာကို တွယ်ရမည်၊ ရုပ်လုတာကို ပယ်ရမည် ဟူ၍ စပ်ဆိုထားသည့် စကားပုံများဖြစ်သည်။

ပုံပြင်ဝတ္ထုတခုခုကို ပုံဆောင်၍ပြောသော စကားပုံများ လည်း ရှိ၏။ ရှေး မြန်မာမင်းများ လက်ထက်တွင် ရာဇဂုရု ဘွဲ့တံဆိပ်တော်ရ မင်းဆရာတော်ကြီးများအနက် မောင်း ထောင်ဆရာတော်၊ သင်္ဂဇာဆရာတော်၊ ဗန်းမော်ဆရာ တော်၊ သစ်ဆိမ့်ဆရာတော်၊ ခင်မကန်ဆရာတော်၊ စလင်း ဆရာတော်၊ ဘုရားကြီးဆရာတော် စသည့် ကျော်စောသော



တောသားမိုက်ကလေ့စီးသလိုမလုပ်နှင့်ဟု လှိုင်ထိပ်ခေါင်တင်အား သင်္ဂဇာဆရာတော်က ဆိုဆုံးမနေပုံ

ပေဘူးဟု မိန့်ကြားဘူးလေသည်။ အလားတူစကားပုံမျိုးကို ပုံပြင်ဝတ္ထုများ၊ ဒဏ္ဍာရီများ၊ ဇာတ်ကြီးဆယ်ဖွဲ့၊ ၅၅၀ ဇာတ်တော်များ၊ ကာလပေါ်ဝတ္ထုများ၊ သတင်းစာပါ အဖြစ်အပျက်များ စသည်တို့မှ ကိုးကား၍ ပြောလေ့ရှိလေသည်။

ဆရာတော်ကြီးများ၏ စကားပုံများသည် ဝတ္ထုဇာတ်ကြောင်းကို ညွှန်ပြပြောဆိုသည်က များလေသည်။ ဤသို့နောက်ခံပြုသော ပုံပြင်မှာလည်း ရယ်ရွှင်ဖွယ် ကောင်းလှပေသည်။ ဥပမာပြရသော် မင်းတုန်းမင်းတရားကြီး လက်ထက်အခါက အိမ်ရှေ့မိဖုရား လှိုင်ထိပ်ခေါင်တင်သည် သင်္ဂဇာဆရာတော်ဘုရားကြီးအားပင့်၍ ဆွမ်းဘောဇဉ်ဆက်ကပ်လှူဒါန်းပြီးနောက် ဆရာတော်ဘုရားအား မောင်တော် အိမ်ရှေ့မင်းသည် ကာမဂုဏ်၌ တင်းတိမ်ရောင့်ရဲခြင်း မရှိပါသဖြင့် နည်းပြ၍ ဆုံးမပေးတော်မူပါဘုရားဟု လျှောက်ထားလေသည်။ ထိုအခါ ဆရာတော်ဘုရားက အိမ်ရှေ့မိဖုရား လျှောက်စကားအရ ဆုံးမရဦးမည်၊ သို့သော် တဖက်သားကိုတု၍ အကုသိုလ်အမှုကို ပြုင်မကျင့်ထိုက် 'တောသားမိုက်လေ့စီးသလို မလုပ်နှင့်' ဟု မိန့်ကြားလျက်၊ စကားပုံ၏ ဇာတ်ကြောင်းကို ဟောပြလေသည်။ တောသားတယောက်သည် မြင်းစီး၍ မြို့နေ မိတ်ဆွေတဦး၏ အိမ်တွင် ခေတ္တတည်းခိုနေထိုင်၏။ အိမ်ရှင်မြို့သားသည် ကြောမှကြောရစေဟူသော စိတ်ထားနှင့် တောသား၏မြင်းကို အခေါက်ခေါက်အပြန်ပြန် စီးနင်းရာ ချွေးဒီးဒီးကျသည်ကို မြင်သော်၊ တောသားသည် ဒေါသထွက်လျက် လက်စားချေမည်အကြံနှင့် မြို့သား၏လှေကိုယူကာ တက်ကိုကိုင်မြှောက်၍ လူးလာ တွံခပ် လှော်လေသည်။ သို့သော် လှေမှာကား မမော၊ လူသာလျှင် မောသဖြင့် နင့်ကိုငါကြော၍ မောရုံသာရှိသည် မချေမိဘူးဟု ဆို၏။ ထိုအတူ မိဖုရားကြီးသည် အိမ်ရှေ့မင်း မြင်းစီးသည့်အချက်များကြောင့် လက်စားချေရန် လှေလှော်မည်မကြံနှင့် မဟန်

**စကားပြေ**။ ။မိမိဆိုလိုသောအနက်အဓိပ္ပါယ်ကို တပါးသူတို့ သိရှိနားလည်စေရန် နေ့စဉ်သုံးစကားတို့ဖြင့် ကာရန်မပါဘဲ ရေးသားခြင်းသည် စကားပြေဖြစ်၏။ သာမန်အားဖြင့် လူတို့နေ့စဉ် ပြောဆိုရေးသားနေကြသော စကားနှင့်စာတို့သည် စကားပြေ ဖြစ်၏။ မြန်မာစာပေလောက၌မူကား စာပေသဘောသက်ရောက်သော စီကုံးနှန်းဖွဲ့ပုံကိုသာလျှင် စကားပြေဟု အသိအမှတ်ပြုကြသည်။ ပါဠိဘာသာ၊ သက္ကတဘာသာတို့တွင် (၁) ပဇ္ဇ (၂) ဂဇ္ဇ (၃) ဝိမိဿ ဟူ၍ စီကုံးနှန်းဖွဲ့ပုံ သုံးမျိုးရှိသည်။ သာမန်အားဖြင့် ပြောဆိုရေးသားနေကြသော စကားပြေမျိုးသည် ပဇ္ဇမည်၏။ မတြာ ကာရန် စသည်တို့ဖြင့် ဖွဲ့စီအပ်သော လင်္ကာမျိုးသည် ဂဇ္ဇမည်၏။ စကားပြေနှင့်လင်္ကာကို ရောပြွမ်းဖက်စပ် စီကုံးအပ်သော အဖွဲ့မျိုးသည် ဝိမိဿမည်၏။ မြန်မာဘာသာ၌ကား စီကုံးနှန်းဖွဲ့ပုံ နှစ်မျိုးသာ ရှိသည်။ ယင်းတို့ကား (၁) လင်္ကာနှင့် (၂) စကားပြေ ဖြစ်သည်။

မြန်မာစာပေလောကတွင် ရှေးအကျဆုံးနှင့် အများဆုံးတွေ့ရသည်မှာ စကားပြေဖြစ်သည်။ ပုဂံခေတ် ကျောက်စာတို့သည် စကားပြေဖြစ်ကြ၏။ မြန်မာတို့၏ ဇာတ်၊ နိပါတ်၊ ဝတ္ထု၊ ရာဇဝင် ဟူသည်တို့သည် များသောအားဖြင့် စကားပြေဖြင့်သာ ရေးသားထားသော စာများဖြစ်ကြ၏။ ယခုခေတ် သတင်းစာတို့သည် စကားပြေဖြစ်ကြ၏။ မြန်မာစကားပြေကို (၁) စကားပြေရိုးရိုးနှင့် (၂) ကာရန်ဖောက် စကားပြေဟု နှစ်မျိုးခွဲနိုင်ရာသည်။ စကားပြေရိုးရိုးတွင် ခေတ်အလျောက် နေ့စဉ်သုံးစွဲနေကျ စကားတို့ဖြင့် ရေးသားထားသော မြန်မာသက်သက် စကားပြေနှင့် ဘာသာပြန် စကားပြေဟူ၍ နှစ်မျိုးခွဲနိုင်သည်။ ဘာသာပြန်ဟူရာ၌လည်း နိဿယပြန်နှင့် ပါဠိလျှောက်ပြန်ဟု ရှိလေသည်။ ပုဂံကျောက်စာများ၊ ဦးကုလား မဟာရာဇဝင်ကြီး၊ ဩဝါဒ်တီအရေးတော်ပုံ စသည်တို့သည် မြန်မာသက်သက် စကားပြေ

ဖြစ်ကြ၏။ ငါးရာ့ငါးဆယ်ဇာတ်နိပါတ်များ၊ ဓမ္မပဒ ဝတ္ထုတော်ကြီး၊ ရဲ့ဇာဓိရာဇ် အရေးတော်ပုံ စသည်တို့သည် ဘာသာပြန် စကားပြေ ဖြစ်ကြ၏။ ကန်တော်မင်းကျောင်း မေတ္တာစာ၊ သျှင်ဥက္ကံသမာလာ တရားစာ၊ ဦးပုည ဝတ္ထုပေါင်းချုပ် စသည်တို့သည် ကာရန်ဖောက် စကားပြေ ဖြစ်ကြသည်။

မြန်မာသက်သက် စကားပြေရိုးရိုးအဖို့ ပုဂံကျောက်စာမှ မြစေတီကျောက်စာကို ကောက်နုတ် ဖော်ပြလိုပေသည်။

'ဘုရားသခင် သာသနာ အနှစ် တထောင် ခြောက်ရာ နှစ်ဆယ်ရှစ်နှစ် လွန်လေပြီးရကား ဤ အရိမဒ္ဒနပုရ မည်သော ပြည်၌အား သီရိတြိ ဘုဝနာဒိတျ ဓမ္မရာဇ် မည်သော မင်းဖြစ်၏။ ထိုမင်း၏ ပယ်မယား တယောက်သောကား တရိလောက ဝဋံသကာဒေဝီ မည်၏။ ထိုပယ်မယားသား တမူလည်း ရာဇကုမာ မည်၏။ ထိုမင်းကား ကျွန်သုံးရွာတည်း ပယ်မယားအားပေး၏။ ထိုပယ်မယား သေခဲ့ရကား ထိုပယ်မယား တန်ဆာနှင့် ထိုကျွန်သုံးရွာသောနှင့်တည်း ထိုပယ်မယားသား ရာဇကုမာမည်သောအား မင်းပေးတုံ၏။'

ယခုခေတ် စကားပြေအရေးအသားနှင့် ပုဂံခေတ် စကားပြေ အရေးအသားတို့ မည်မျှပြောင်းလဲလာပုံကို သာဓကပြသောအားဖြင့် ဤခေတ်ထုတ် သတင်းစာတစောင်၏ စကားပြေအရေးအသားကို အောက်ပါအတိုင်း သာဓကပြလိုပေသည်။

'လေးနိုင်ငံ ဘောလုံးပွဲကြီးကား စလေပြီ။ အောင်ဆန်းကစားကွင်းကြီးမှာ သကြားလုံး ပရွက်ဆိတ်အုံသကဲ့သို့ လူထုပရိသတ်ကြီး ရှုစိရှုစိနှင့် ဖွေးဖွေးလှုပ်နေတော့သည်။ အောက်တိုဘာလ ၂၃ ရက် သောကြာနေ့ကစတင်၍ အိန္ဒိယနှင့် ပါကစ္စတန်တို့ ယှဉ်ပြိုင်ကစားကြရာ၊ အိန္ဒိယက ၁ ဂိုး၊ ဂိုးမရှိနှင့် အနိုင်ရရှိသွား၏။

မနေ့က မြန်မာနိုင်ငံနှင့် သီဟိုဠ်တို့ ကစားကြရာ၊ ပဌမနေ့ကထက်ပင် လူထုကြီးသည် ပိုများလာသည်ဟု ထင်ရ၏။ အောင်ဆန်းကွင်းကြီးအတွင်း အရှေ့ဘက်တွင် အလံတိုင်ကြီးသုံးတိုင် စိုက်ထူထား၍၊ ဘောလုံးသမားများ ကွင်းထဲသို့ဆင်းလာကြသောအခါ မြန်မာအလံနှင့် သီဟိုဠ်အလံတို့ကို လွှင့်ထူလိုက်၏။ ကြက်သရေရှိပါဘိတောင်း။'

ဘာသာပြန်ရာ၌ ပါဠိတချက် အနက်တချက် ယှဉ်၍ပြန်ဆိုသည်ကို နိသျှပြန်ဟုခေါ်ကြသည်။ ယင်းနိသျှပြန်စကားပြေကို လောကနီတိပါဠိ အနက်မှ ထုတ်နုတ်၍ အောက်တွင် ပုံစံပြလိုက်သည်။

'လောကေ လောက၌၊ အပ္ပဿုတော နည်းသောသုတရှိသူသည်၊ အပ္ပံ အနည်းငယ်သော၊ သုတံ သုတကို၊ ဗဟုံမညတိ အများအောက်မေ့တတ်၏။ မာနဝါ မာန်ရှိတတ်၏။ ကိမိဝ အဘယ်ကဲ့သို့နည်းဟူမူကား၊ သိန္ဒုဒကံ သမုဒ္ဒရာရေကို၊ အပ္ပဿန္တော မမြင်စဖူးသော၊ မဏ္ဍုကော ဖားသူငယ်သည်၊ ကူပေ တွင်း၌၊ တောယံ ရေကို၊ ဗဟုံ မညတိဣဝ အများထင်သကဲ့သို့တည်း။'

ပါဠိလျှောက် စကားပြေကို ဥဒါဟရုဏ် ပြသောအားဖြင့် ငါးရာ့ငါးဆယ်မှ နစ္စဇာတ်ကိုကောက်နုတ်ဖော်ပြလိုပါသည်။

'လွန်လေပြီးသောအခါ ကမ္ဘာဦး၌ ခြေလေးချောင်းရှိကုန်သော သတ္တဝါတို့၌ မင်းပြုကုန်၏။ အာနန္ဒာငါးကို ငါးတို့၏မင်း ပြုကုန်၏။ ရွှေဟင်္သာကို ငှက်တို့၏မင်း ပြုကုန်၏။ ထိုရွှေဟင်္သာမင်း၏ သမီးဖြစ်သော ဟင်္သာမယ်သည် အလွန် အဆင်းလှ၏။ ထိုဟင်္သာမင်းသည် သမီးအား ဆုကိုပေး၏။ ဟင်္သာမငယ်သည် မိမိ စိတ်နှစ်သက်သောလင်ကို စုံစမ်းစေ၏။ ဟင်္သာမင်းသည် ထိုဟင်္သာမယ်အား ဆုပေး၍ ဟိမဝန္တာ၌ အလုံးစုံသောငှက်တို့ကိုစည်းဝေးစေ၏။ အထူးထူး အပြားပြား ရှိကုန်သော ဟင်္သာ ဥဒေါင်း အစရှိကုန်သော ငှက်အပေါင်းတို့သည် တပေါင်းတည်းလာကုန်၍ တခုသော ကြီးစွာသော ကျောက်ဖျာအပြင်၌ စည်းဝေးကုန်၏။ ဟင်္သာမင်းသည် မိမိစိတ်နှစ်သက်သောလင်ကို လာ၍ ယူစေသတည်းဟု သမီးကိုခေါ်စေ၏။ ထိုဟင်္သာမငယ်သည် ငှက်အပေါင်းကိုကြည့်သည်ရှိသော် ပတ္တမြားအဆင်းနှင့်တူသော လည်ရှိသော ဆန်းကြယ်သော မြီးဖြန့်ရှိသော ဥဒေါင်းသည် ငါ၏လင်ဖြစ်စေသတည်းဟု ကြား၏။'

မြန်မာစာပေသည် ပါဠိစာပေနှင့်မကင်းချေ။ ထိုကြောင့် ဘာသာပြန်ဟူရာ၌၊ များသောအားဖြင့် ပါဠိမှပြန်ဆိုခြင်းကို ဆိုလိုပေသည်။ ဘာသာပြန် စကားပြေမှာ ပါဠိဂတိကို လိုက်၍နေရသောကြောင့် မြန်မာစကားပြေရိုးရိုးနှင့်မတူဘဲ ခြားနားလျက်ရှိသည်။ ထိုခြားနားချက်ကို သိလွယ်အောင် ထပ်မံ၍ မိလိန္ဒပဉှာဝတ္ထုမှ သာဓက ထုတ်နုတ်ပြလိုသည်။

'မင်းကြီး၊ ဥပမာသော်ကား ကြက်မအား ရေကြည်လည်းမဖြစ်အံ့၊ အဥလည်းမဖြစ်ရာ။ ထိုအခါ အကြင်ရေကြည်လည်းဖြစ်၏။ အကြင်ဥလည်းဖြစ်၏။ ထိုနှစ်ပါးသော ရေကြည် အဥတို့သည် အချင်းချင်းမှီ၍ တပြိုင်နက်သာလျှင် ထိုကြက်ဥတို့၏ ဖြစ်ခြင်းတရားသည် ထင်ရှားစွာဖြစ်၏။ မင်းကြီး၊ ထိုအတူရင်း ထိုပဋိသန္ဓေကာလ၌ နာမ်တရားချည်းလည်း မဖြစ်ရာ၊ ရုပ်တရားချည်းလည်း မဖြစ်ရာ။ ထိုပဋိသန္ဓေကာလ၌ အကြင်နာမ်တရားလည်း ဖြစ်ရာ၏။ အကြင်ရုပ်တရားလည်း ဖြစ်ရာ၏။ ထိုနှစ်ပါးစုံသော တရားတို့သည် အချင်းချင်းမှီ၍ တပြိုင်နက် ပဋိသန္ဓေနေသည်ဖြစ်၏။ ဤသို့ဖြစ်သည်ရှိသော်၊ ထိုနာမ်ရုပ် တရားနှစ်ပါးတို့သည် ကာလရှည်ကြာစွာဖြစ်၏။'

ကာရန်ဖောက်စကားပြေအဖို့ ဦးပုည ဝတ္ထုပေါင်းချုပ်မှ သူအိုမကြီးဝတ္ထုကို ကောက်နုတ်ဖော်ပြလိုပါသည်။

‘ထိုအခါ သာဝတ္ထိပြည်သူ၊ ခေါင်းဖြူဖွေးဖွေး၊ ချင်းသေးထမိအို၊ လက်တိုအကျီနွမ်းနှင့်၊ အသက်တမ်းခေါင်ခိုက်၍၊ ပြာဆိုက်အောင်မွဲလှသော ဒါယိကာမကြီး တဦးသည်၊ မြူးတူးဝမ်းသာ၊ သဒ္ဓါလောက်လုံ၊ ပြည်သူတို့ပြုပုံကို၊ အာရုံသက်ဝင်၊ ဇောပီတိ ရှင်လှ၍၊ လှူချင်သည့်ဝိတက်နှင့်၊ အသက်ကိုမတာတွယ်၊ အရွယ်ကိုမရွေး၊ ချွေးတဖိုက်ဖိုက်၊ အားတိုက်ခြိုးခြံ၊ အစေခံလုပ်ငန်းဖြင့်၊ ပင်ပန်းစွာ ကြံစည်၍၊ တပြည်စသုံးခွက်စ၊ ဆန်ကြမ်းမျှကို၊ ရလတ်သောခါ၊ ဝမ်းစာမချင်း၊ ဆန်ရင်းကို ဆွမ်းလုပ်၊ ဆန်နုပ်ကို ယာဂုကျို၊ အတိုအထွာ၊ ဟင်းလျာဝယ်ဘို့၊ တချို့ကိုထား၊ ဤသို့အားဖြင့်၊ ကြိုးစားလုံ့လ၊ ဆွမ်းကိစ္စပြီးစေသတည်း။’

စာပေ၌ စကားပြေသည် အချက်အခြာ မဏ္ဍိုင်ဖြစ်၏။ စကားပြေကို လူတို့ နေ့စဉ်သုံးစွဲနေကြသည် မှန်၏။ သို့သော် စကားပြေကောင်းတို့သည် ရှားလှပေသည်။ စကားပြေကောင်း ရေးတတ်သော လူမျိုးတို့၏ စာပေသည် ကြီးပွားတိုးတက်၏။ စာပေ ကြီးပွား တိုးတက်သည်နှင့်အမျှ လူမျိုးလည်း ကြီးပွားတိုးတက်၏။ စကားပြေကောင်း ရေးတတ်၍ စာပေ ကြီးပွားတိုးတက်သည်ကို သာဓကပြရလျှင်၊ အင်္ဂလိပ်စာပေကို ပြနိုင်ပေသည်။ ထို့ကြောင့် စကားပြေ စီကုံးနှုန်းဖွဲ့ပုံ အလွန်တရာ အရေးကြီးသည်ကို သတိချပ်သင့်လှပေသည်။’

**စကားပြောကြေးနန်း။**။ ‘မစ္စတာဝပ်ဆင် ခဏလာပါအုံး၊ တွေ့ချင်လို့’ ဟူသောအသံကို အိမ်အောက်ထပ်ရှိ ဝပ်ဆင်က ကြားရသဖြင့် သူ၏ဆရာ ဂရေဟမ်ဗဲ ရှိရာ အိမ်ပေါ်ထပ်သို့ပြေး၍တက်လာခဲ့လေသည်။ ထိုအသံကား ၁၈၇၆ ခုနှစ်တွင် တယ်လီဖုန်း ခေါ် စကားပြောကြေးနန်းဖြင့် ပဌမအကြိမ် အောင်မြင်စွာ စကားပြောလိုက်သော အသံ ဖြစ်ပေသည်။

အယ်လက်ဇန္ဒာ ဂရေဟမ် ဗဲသည် စကော့လူမျိုး ဖြစ်သည်။ သူသည် သူ့လက်ထောက်ဖြစ်သူ တောမတ် ဝပ်ဆင် နှင့်အတူ အမေရိကန်နိုင်ငံ ဗော်စတန်မြို့တွင် စကားပြော ကြေးနန်းကို လပေါင်းများစွာ ကြံစည်အားထုတ်ခဲ့ရာမှ အထက်ပါအတိုင်း အောင်မြင်သွားခြင်းဖြစ်သည်။ (ဗဲ, ဧအ၊ ဂျီ — ရှ။)

အမှန်မှာ ဂရေဟမ်ဗဲထက် ဦး၍ ၁၈၆၀ ပြည့်နှစ်တွင် ယိုဟန်း ဖိလစ်ဆိုသူ ဂျာမန် သိပ္ပံပညာရှင်တဦးက စကားပြော ကြေးနန်းကရိယာတမျိုးကို ကြံစည်တီထွင်ဘူးသည်။ သို့ရာတွင် သူ၏ကြံစည်ချက်မှာ သဘောအယူအားဖြင့် မှန်ကန်နေသော်လည်း လက်တွေ့အောင်မြင်အောင် မစွမ်းဆောင်နိုင်ခဲ့ပေ။ ဗဲလက်ထက်သို့ရောက်မှ လက်တွေ့အောင်မြင်လာပြီးလျှင် ထိုအချိန်မှစ၍ ကမ္ဘာပေါ်တွင် ခေတ်သုံး စကားပြောကြေးနန်း ကရိယာများ အနှံ့အပြား ပေါ်ပေါက် အသုံးများလာနိုင်ခဲ့ခြင်း ဖြစ်လေသည်။

### စကားပြောကြေးနန်းပြုလုပ်ပုံသဘော

စကားပြောကြေးနန်းတွင် (၁) စကားပြောခွက် (၂) လျှပ်စစ်ဓာတ်နှင့် (၃) နားထောင်ခွက်ဟူ၍ ပစ္စည်းသုံးမျိုး အဓိကပါဝင်သည်။ စကားပြောခွက်ထဲသို့ စကားပြောလိုက်သောအခါ ပါးစပ်မှ အသံလှိုင်းတို့သည် စကားပြောခွက်တွင် တပ်ဆင်ထားသော ဒိုင်အာဖရမ် ခေါ် ပါးလွှာသည့် သတ္တုချပ်ပြားကို တုန်ခါစေသည်။ ထိုတုန်ခါမှုများက ကြေးနန်းကြိုးတလျှောက်တွင် လျှပ်စစ်ဓာတ်စီးကြောင်းကို အသံနှင့်လိုက်၍ မညီညာသော ပြောင်းလဲမှုများ ဖြစ်ပေါ်စေသည်။ ထိုမှအခြားတဖက်ရှိ နားထောင်ခွက်တွင်ရှိသော လျှပ်စစ်သံလိုက်၌ အလားတူ မညီညာသည့်အားများကိုဖြစ်ပေါ်စေသည်။ ထိုသံလိုက်က အနီးရှိသတ္တုချပ်ပြားကို ဆွဲငင်သဖြင့် စကားပြောခွက်တွင် ရှိသော သတ္တုချပ်ပြား အတိုင်း တုန်ခါစေပြန်သည်။ ထိုကဲ့သို့ တုန်ခါမှုကြောင့်



မြင်ပမှလာသောကြေးနန်းကြိုးများကို ဗဟိုလမ်းလွှဲခလုတ်ခုံအတွင်းရှိ သက်ဆိုင်ရာ စကားပြောကြေးနန်းနံပတ်များနှင့် ဆက်သွယ်ခွဲဝေပေးရာဌာန

စကားပြောသူ၏စကားသံအတိုင်း နားထောင်ခွက်ထဲမှ ပြန်လည်ကြားရခြင်းဖြစ်ပေသည်။

၁၈၈၀ ပြည့်နှစ်လောက်မှစ၍ နိုင်ငံကြီးတိုင်း လိုလိုတွင် စကားပြောကြေးနန်း ကရိယာများကို တပ်ဆင် အသုံးပြုလာခဲ့ကြသည်။ ပဌမတွင် စကားပြောကြေးနန်းကို ခရီးတိုမျှား၌သာ အသုံးပြုနိုင်ခဲ့ကြ၏။ သို့သော် သိပ္ပံဆရာတို့၏ အဆင့်ဆင့်ပြုပြင်ကြိုးစားမှုများကြောင့် မကြာမီပင် ဝေးလံကွာလှမ်းသော ခရီးများသို့ ပြောဆိုနိုင်လာကြသည်။ ယခုအခါ စကားပြောကြေးနန်းကို ကုန်းပေါ်တွင်သာမက၊ ရေခြားလျက်ရှိသော နေရာများသို့ပါ ဆက်သွယ်အသုံးပြုနေကြပေပြီ။ ရေခြားလျက်ရှိသော နေရာများသို့ ဆက်သွယ်ရာတွင် ကြေးနန်းကြိုးများကို ရေမဝင်နိုင်သည့် ပိုက်လုံးများ၌ထည့်ကာ ရေအောက်တွင်ချထားပြီးလျှင် တဖက်နှင့်တဖက်ကို ဆက်ပေးရလေသည်။ (ရေအောက်ကြေးနန်း — ရှု။)

ရှေးက စကားပြောခွက်နှင့် နားထောင်ခွက်တို့မှာ သီးခြားဖြစ်ကြ၏။ ယခုခေတ်တွင်မူ တဆက်တည်းပြုလုပ်ထားသဖြင့် လက်တဖက်တည်းဖြင့်ပင် ကရိယာနှစ်ခုစလုံးကို လွယ်ကူစွာကိုင်ပြီးလျှင် ပြောလိုသည့်စကားကို ပြောယင်းနှင့်တဖက်မှ ပြန်လည်ပြောဆိုသည့်စကားကိုလည်း နားထောင်နိုင်လေသည်။



စတင်တီထွင်ချိန်မှစ၍ ယနေ့အထိ ကောားပြောကြေးနန်းခွက် အဆင့်ဆင့်တိုးတက်ပြောင်းလဲလာပုံ

တယ်လီဖုန်းစကားပြောလိုလျှင် ပြောလိုသူသည် ပြောခွက်ကို တင်ခုံမှ မယူလိုက်ရသည်။ ထိုအခါ လျှပ်စစ်ဓာတ်သည် ကြေးနန်းကြိုးတလျှောက်စီး၍ ဗဟိုဌာန၌ရှိသော ခလုတ်ခုံက မီးလုံးတလုံးကို လင်းစေသည်။ လင်းနေသော မီးလုံးကိုကြည့်၍ အော်ပရေတာသည် မည်သည့်တယ်လီဖုန်းနံပတ်က စကားပြောလိုကြောင်းကို သိသည်။ ထိုအခါ အော်ပရေတာသည် ထိုသူအား မည်သည့်တယ်လီဖုန်းနံပတ်နှင့် စကားပြောလိုကြောင်းမေး၍ ပြောလိုသည့် တယ်လီဖုန်းနံပတ်ကို သိရသောအခါ ထိုနံပတ်နှင့် ဆက်သွယ်ပေးလိုက်သည်။ ထိုအခါ ပြောလိုသောတယ်လီဖုန်းတွင် အသံသွား၍မြည်သည်။ တယ်လီဖုန်းမြည်သံကြားရသူသည် နားထောင်ခွက်ကို မယူ၍ နားထောင်လိုက်လျှင် တဖက်ကပြောသူ၏ စကားများကို ကြားနိုင်သည်။ မိမိကလည်း ပြောခွက်တွင် စကားပြန်ပြောနိုင်၏။ စကားပြောပြီးလျှင် ပြောခွက်နှင့် နားထောင်ခွက်တို့ကို တယ်လီဖုန်းခုံပေါ်တွင် ပြန်ချထားရသည်။ ထိုအခါ အော်ပရေတာသည် တဖက်နှင့်တဖက် ဆက်ပေးထားသောကြိုးကို ဖြုတ်လိုက်သည်။

ယခုအခါ ကြားလူက ဆက်သွယ်ပေးမှ စကားပြောနိုင်



ကြေးနန်းကြိုးအပျက်အစီးကိုစစ်ဆေးသောစက်ကရိယာ

သောအထက်ပါနည်းထက် သာလွန်ကောင်းမွန်သော အော်တိုမက်တစ် ဒိုင်ယယ် တယ်လီဖုန်းများ ပေါ်နေပြီဖြစ်သည်။ ထို တယ်လီဖုန်းဖြင့် စကားပြောသောအခါ၊ ပြောသော နံပတ်ကို တယ်လီဖုန်းရှိ ဒိုင်ယယ်အဝိုင်းတွင် လက်နှင့်လှည့်ပေးခြင်းဖြင့် အလိုလို တဖက်ကတယ်လီဖုန်းတွင် အသံသွား၍ မြည်သည်။ ထိုစံနစ်ဖြင့် စကားပြောလိုသူတို့သည် တိုက်ရိုက် စကားပြောနိုင်ကြပေသည်။ အော်တိုမက်တစ် ဒိုင်ယယ် တယ်လီဖုန်းကို အသုံးပြုရာ၌ ကရော့စဗားစံနစ်သည် နောက်ဆုံးပေါ် စံနစ်ဖြစ်၍ မြို့ကြီးပြကြီးများတွင် ထိုစံနစ်ကိုအသုံးများကြသည်။

ဒိုင်ယယ် တယ်လီဖုန်းတွင် ပဌမ အသုံးပြုသော စံနစ်မှာ စတက်ဗိုင်စတက် ခေါ် တဆင့်စီ စီမံယူသည့်စံနစ်ဖြစ်သည်။ ဒုတိယစံနစ်မှာ ပန်နယ်စံနစ်ဖြစ်သည်။ ထိုစံနစ်နှစ်မျိုးလုံး၌ စက်သဘော သက်ဝင်လျက်ရှိသည်။ အဘယ်ကြောင့်ဆိုသော် ထိုစံနစ်များ၌ အလိုရှိသည့် တယ်လီဖုန်းနံပတ်ကိုရအောင် အဆက်အသွယ်ခလုတ်များအပေါ်တွင် စက်နှင့်စီမံထားသော ဝိုက်ပါးများက စမ်း၍ရှာယူရခြင်းကြောင့်ဖြစ်သည်။ နောက်ဆုံးပေါ် ကရော့စဗားစံနစ်တွင်မူ စက်နှင့်လုပ်ထားသော ဝိုက်ပါးများ အစား လျှပ်စစ်ရီလေးတိုက်အဆက်အသွယ်ခလုတ်များကို အသုံးပြုသည်။ ကရော့စဗားစံနစ်သည် အခြားစံနစ်များထက် ပို၍အရာရောက်ခြင်းကြောင့် ထိုစံနစ်ကို မြို့ကြီးများတွင်သုံးကြသည်။

**စကားပြောအတတ်။** ။လူတို့သည်အချိန်တန်လျှင်စကားတတ်စမြဲပင်ဖြစ်၏။ သို့သော် စကားတတ်သူတိုင်း အပြောတတ်ပြီဟု မဆိုနိုင်ချေ။ စကားပြောရာ၌ မိမိဆိုလိုသော အဓိပ္ပါယ်သို့ရောက်အောင် စကားလုံးကို နေရာတကျအသုံးပြုတတ်ဖို့လိုသည်။ နားထောင်သူ၏ စိတ်နှလုံးကို သိမ်းကျုံးဆွဲငင်တတ်ဖို့ လိုသည်။ ထိုကြောင့် စကားပြောခြင်းသည် အတတ်ပညာတခုပင်ဖြစ်၏။ အချို့သောသူတို့သည် အာဝဇ္ဇန်းကောင်း၏။ သို့သော် အာဝဇ္ဇန်းကောင်းတိုင်း စကားပြောတတ်ပြီဟု မဆိုနိုင်။ အချို့ကား သဒ္ဒါနည်းကျကျ စကားပြောတတ်၏။ သဒ္ဒါတတ်၍ စာတတ်သည်ဟု ခေါ်နိုင်စေကာမူ၊ သဒ္ဒါတတ်တိုင်းလည်း စကားပြောတတ်ပြီဟု မဆိုနိုင်။ စကားပြောသူ၏စိတ်၌ ပေါ်လာသော အဓိပ္ပါယ်ကို ဥပမာ ဥပမေယျတို့နှင့် တန်ဆာဆင်၍၊ စကား



ရန်ကုန်မြို့၊ စကားပြောကြေးနန်းဗဟိုဌာနလမ်းလွှဲခလုတ်ခုံ

အသုံးအနှုန်း ပြေပြစ်ပြီးလျှင်၊ စကား၏အလေးအနက်ကို ထင်ပေါ်အောင် လေယူလေသိမ်းကောင်းကောင်း သရုပ်ဖော်ပေးနိုင်မှသာ စကားပြောကောင်းသည်ဟုဆိုနိုင်သည်။

စကားပြောအတတ်သည် ဂရိနိုင်ငံ၌ စတင်ထွန်းကားလာသည်ဟု အနောက်နိုင်ငံသားတို့က ယူဆကြသည်။ ဂရိလူမျိုးတို့သည် စကားပြောအတတ်ကို ဟောပြောမှုပညာတရပ် အနေနှင့် လိုက်စားခဲ့ကြ၏။ ရှေးဟောင်း ဆိုးဖစ်များသည် စကားပြောရာနှင့် ဆိုင်သော တက္ကနယများကို ကြံဆခဲ့ကြသည်။ စကားပြောနည်း ဆိုင်ရာ စည်းကမ်းများကို သတ်မှတ်ကြသည်။ ထိုစည်းကမ်းသတ်မှတ်ချက်များသည် ယခုတိုင် အသုံးကျ အဖိုးတန်လျက်ရှိသည်။

မြန်မာတို့၏စာပေကျမ်းဂန်၌ကား စကားပြောအတတ်ကို အထောက်အပံ့ပြုသောကျမ်းများ ရှိသည်။ ပါဠိကျမ်းဂန်လာ မိလိန္ဒပဥှာသည် ဗုဒ္ဓမြတ်စွာ၏ နက်နဲသောတရားတို့ကို ဖွင့်ဆိုရာ ကျမ်းဂန်တရပ်မျှသာမက၊ စကားပြောအတတ်၌ အကျုံးဝင်သော တက္ကနယတို့ကိုဖော်ပြရာ ကျမ်းဂန်လည်း ဖြစ်ပေသည်။ မြန်မာတို့၌ စကားအရာ အင်္ဂါလေးတန်နှင့် စကားကြီးဆယ်မျိုးဟူသည်တို့မှာ စကားပြောအတတ်ဆိုင်ရာနည်းဥပဒေများဖြစ်သည်။ (စကားကြီးဆယ်မျိုး—ရှု။)

စကားပြောရာ၌ ပြောဆိုသောစကားလုံး၏ အဓိပ္ပါယ်သည် ပြောင်မြောက်ရသည်။ မိမိသုံးစွဲလိုက်သော စကားလုံးသည် မိမိအလိုရှိအပ်သော သရုပ်ကို ဆောင်နိုင်စွမ်းရှိရမည်။ သို့မှသာ ကြားနာသူ၏ စိတ်နှလုံးတွင် ဆိုလိုရင်းအဓိပ္ပါယ်တို့သည် ပန်းချီကားချပ်မှာ ထင်လင်းစွာ ပေါ်ပေါက်လာနိုင်လိမ့်မည်။ ဤအာသီသ ပြည့်မြောက်စေရန်မှာ ဥပမာ ဥပမေယျများ၊ ဥပစာ စကားများ၊ ဥဒါဟရဏ်များသည် အရေးကြီးလေသည်။ စကားပြောရာတွင် အသက်ဝင်လာအောင် ဟာသကိုလည်း သုံးရသည်။ အကြောင်းနှင့်အကျိုး ဆက်စပ်၍လည်း ပြောရသည်။ နားထောင်သူတို့၏ အာရုံကို ဖမ်းယူနိုင်ရန်အလို့ငှာ၊ အသံသြဇာနှင့် ဟန်အမူအရာ ရှိရသည်။ စကားပြောရာတွင် ပြီသပြတ်သားခြင်း သည်လည်း စကားပြော အတတ်၌ အရေးကြီးသောအင်္ဂါတရပ် ဖြစ်ပေသည်။

**စကီးစီးခြင်း**။ ။ရေခဲသော တိုင်းပြည်များတွင် ရေခဲပြင်ပေါ်၌ စကီး ဟု ခေါ်သော သစ်သားလျှောဖိနပ် စီးနင်း၍ ခရီးသွားလာကြသည်ကို စကီးစီးခြင်းဟု ခေါ်သည်။ ထိုလျှောဖိနပ်မှာ သာမန်အားဖြင့် ၃ လက်မမှ ၅ လက်မအထိ ပြက်ရှိသည်။ အလျားမှာ ၅ ပေမှ ၈ ပေအထိ ရှည်သည်။ အထုမှာ တလက်မနှင့်တမတ်ခန့် ထူသည်။ ဖိနပ်၏ ဦးရောနောက်ပါ ရှည်မျှောမျှောရှိသည်။ စကီးနှင့် စကိတ်တို့ ခြားနားချက်မှာ စကီးသည် သစ်သားဖိနပ်ဖြစ်၍၊ စကိတ်မှာ ရိုးရိုးသားရေဖိနပ် အောက် တွင် တပ်ဆင်ထားနိုင်သော သံမဏိပြားကရိယာဖြစ်သည်။ (စကိတ်စီးခြင်းလည်း — ရှု။) လျှောဖိနပ်ကို စီးမည်ပြုသည့်အခါ ထိုဖိနပ်ကို ခြေဖမိုးနှင့် ခြေမျက်စိတို့တွင် အခိုင်အမာချည်နှောင်တုပ်ပိုး၍စီးရသည်။

ရေခဲသောတိုင်းပြည်များတွင် လျှောဖိနပ်စီးခြင်းဓလေ့မှာ ရှေးဟောင်းကပင် ရှိနှင့်ပြီဟု သိရသော်လည်း လျှောဖိနပ်စီးခြင်းကို ကစားခုန်စားတရပ် အနေဖြင့် တီထွင်ကြသည်မှာ များစွာမကြာသေးချေ။ ခရစ် ၁၈၆၀ ပြည့်နှစ်လောက်က နော်ဝေးနိုင်ငံတွင် စကီးစီးခြင်းကို ကစား ခုန် စား ပြိုင်ပွဲ တရပ် အနေ နှင့် ကျင်းပခဲ့ရာမှ အစပြု၍ စကန်ဒီနေးဗီးယားကျွန်းဆွယ် တလျှောက်ရှိ နိုင်ငံများသို့ ထိုစကီးစီးခြင်းအလေ့အထ သည်ပျံ့နှံ့သွားလေသည်။ ထိုနောက် ၌ကား ဥရောပတိုက်တွင်သာမက ဩစတြေးလီးယားတိုက်နှင့် နယူးဇီလန်ပြည်တို့တွင်လည်း စကီးစီးခြင်း ခေတ်စားလာခဲ့သည်မှာ ယနေ့တိုင်အောင်ပင်ဖြစ်သည်။

စကီးစီးခြင်း၌ တောင်ထက်မှ တောင်အောက်သို့သာ လျှောချစီးဆင်းနိုင်သည်မဟုတ်၊ တောင်အောက်မှလည်း တောင်ထိပ်သို့စီးတက်နိုင်သည်။ ဤသို့ အနိမ့်မှ အမြင့်သို့တက်နိုင်ရန်၊ တောင်ဝှေးများကို အသုံးပြုရသည်။



စကီးအမြင့်ခုန်စီး၍ တောင်ပေါ်မှတောင်အောက်သို့ ခွန့်ခွန့်စားစားဆင်းလာပုံ

များသော အားဖြင့် ထိုတောင်ဝှေးတို့၏အောက်ခြေ၌ ဘီး တပ်လျက်ပါရှိသည်။ သို့ရာတွင် အမြင့်သို့ တက်သောအခါ၊ စကီးဖိနပ်ကို တည့်တည့်မတ်မတ်စီး၍ လျှောက်ရန် မဖြစ်နိုင်ချေ။ ထိုအခါ၌ ကျွမ်းကျင်မှုလိုလေသည်။ စကီး စီး သူသည် ခြေကိုခွင်၍၊ စကီး ဖိနပ်ကို သွား ရာလမ်း ကြောင်း၌ ကန့်လန့်ဖြတ် ၍ချပြီး လျှင် လျှောက်ရသည်။ ဤသို့ လျှောက်သည့် အခါ၊ စကီး ဖိနပ်ရာသည် ဆီးနှင်း ဖွေး ဖွေး ထဲတွင် ကင်းခြေများ လျှော က် သွား ၍ ကျန် ရစ် သော ကင်းခြေများ ခြေရာသဏ္ဍာန် ကျန်ရစ်သည်။

စကီးစီးပြိုင်ပွဲများတွင် ပြိုင်ပွဲဝင်တို့သည် သတ်မှတ်ထား သော ပန်းထွက်မှုပန်းတိုင်သို့ အတိုဆုံးခရီးဖြင့် အမြန်ဆုံး ရောက်အောင် လျှောစီး ကြရသည်။ အတိုဆုံး ခရီး ဖြင့် ရောက်ရလေအောင် မတ်စောက်သောချောက်များကို ခုန် ဆင်းရသည်မှာ စွန့်စားခြင်း တရပ်ပင် ဖြစ်သည်။ အချို့ ကစားနည်းမှာ တောင်ကုန်းမှ မိုင် ၆၀ နှုန်းမျှဖြင့် လျှော ဆင်းပြီး လျှင် သတ်မှတ် ထား သောနေရာသို့ ရောက်လျှင် လေထဲတွင်ခုန်တက်ရသည်။ အချို့သော ကစားပွဲတို့၌ကား၊ တောင်ကမ်းပါးစောင်းတလျှောက်တွင် ခုန်၍ဆင်းရသည်။



ဆိုဗီယက်ရုရှားနိုင်ငံ ဆရာအတတ်သင်ကျောင်းမှ ကျောင်းသူကျောင်းသားအချို့ စကီးစီးထွက်လာကြစဉ်

**စကုမြို့။** ။မင်းဘူးခရိုင် တောင်ပိုင်းတွင်ရှိ၍ စကုမြို့နယ် ရုံးစိုက်ရာမြို့ ဖြစ်သည်။ မင်းဘူး၊ စလင်း သွား မော်တော်



စကုမြို့အဝင်တွင်ဖူးမြင်ရသောထေရ်ကြီးစေတီတော်

ကားလမ်းတွင် မင်းဘူးမြို့၏ အနောက်မြောက်ဖက် ၁၁ မိုင် အကွာ၌ တည်ရှိသည်။ မြို့နယ်၏အကျယ်အဝန်းမှာ စတု ရန်းမိုင် ၅၄၂ ခန့်ရှိသည်။

မြန်မာမင်းများလက်ထက်တွင်၊ စကုမြို့ဝန်ဟူ၍ သီးခြား ထားရှိပြီး အုပ်ချုပ်စေခဲ့သည်။ ရှေးခေတ် စကုမြို့ဝန်၊ မြို့ သူကြီးတို့ တည်ဆောက်ကိုးကွယ်ခဲ့သော လေးထပ်ကျောင်း၊ သုံးထပ်ကျောင်း၊ မှန်ကင်းကျောင်း၊ ကန်ဦးကျောင်းစသည့် ကျောင်းကြီး များ တွင် ဇာတ်နိပါတ်တော်များကို သရုပ် ဖော်ထား သည့် ရှေးမြန်မာ ပန်းပုလက်ရာတို့ကို ယခုတိုင် တွေ့နိုင်သေးသည်။

စကုမြို့နယ်၏ အဓိကလုပ်ငန်းမှာ လယ်ယာစိုက်ပျိုးခြင်း ဖြစ်၏။ လယ်ယာစိုက်ပျိုးခြင်းများကို မန်းချောင်းမှ ဆည် မြောင်းများဖြင့် ရေသွင်းစိုက်ပျိုးသည်။ စကုနယ်မှထွက် သည့် စကုဖြတ် ခေါ် သော စပါးသည် နာမည်ကြီး၏။ 'စပါးမှာ စကုဖြတ်၊ မယားမှာ တခုလပ်' ဟုပင် ဆိုရိုးရှိ ခဲ့သည်။

မြတ်စွာဘုရား၏ ခြေတော်ရာနှစ်ဆူရှိသော ရွှေစက်တော် ဘုရားသည် စကုမြို့နယ်အတွင်း၌ပင် ရှိ၏။ ရွှေစက်တော် ဘုရားပွဲ ကျင်းပသည့် တပို့တွဲနှင့် တပေါင်းလတို့တွင် မြန်မာ နိုင်ငံအရပ်ရပ်မှ ဘုရားဖူးများ လာရောက်ကြလေသည်။

စကုမြို့ဟု အမည်တွင်ရခြင်းကို တကောင်းခေတ်မှ မဟာ သမ္ဗဝ စူဠသမ္ဗဝတို့၏အကြောင်းနှင့် ဆက်စပ်ပြောလေ့ရှိကြ သည်။ ထိုမျက်မမြင်မင်းသား နှစ်ပါးတို့အား ဧရာဝတီမြစ် ရိုးတွင် ဖောင်ဖြင့်မျှောလိုက်ရာ စစ်ကိုင်းမှ စန္ဒမုခီ ဘီလူးမ သည် ဖောင်ပေါ်တွင် အတူ စီးလိုက်ခဲ့လေသည်။ လမ်း တွင် စားမြိန်စာများကို ခိုးစားသော ဘီလူးမအားမိ၍ မင်း သားများက သတ်မည်အပြုတွင် မျက်စိ အလင်းရအောင်

ကုပေးပါမည်ဟု ကတိပြုချက်ကြောင့် အသက်ချမ်းသာပေး လိုက်၏။ ထိုနေရာမှစ၍ မင်းသားနှစ်ပါးအား မျက်စိအလင်း ရအောင် စတင်ကုသပေးသည့်အတွက် စကု ဟု ခေါ်ကြောင်း အဆိုရှိ၏။

စကုမြို့၏လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ ၅,၁၅၂ ယောက်မျှဖြစ်သည်။



ဆာဝေါ်လတာ စကော့

**စကော့, ဆာဝေါ်လတာ (ခရစ် ၁၇၇၁–၁၈၃၂)။** ။ စကော့လူမျိုး ကဗျာစာဆိုနှင့်ဝတ္ထုရေးဆရာကြီး ဆာဝေါ်လတာ စကော့သည် ၁၇၇၁ ခုနှစ် ဩဂုတ်လ ၁၅ ရက်နေ့တွင် စကော့တလန်ပြည် အက်ဒင်ဗာရာမြို့တော်၌ ဖွားမြင်သည်။ သူ၏ဖခင်မှာ အက်ဒင်ဗာရာမြို့၌ ရှေ့နေစာရေးဖြစ်သည်။ စကော့၏မိခင်မှာ အက်ဒင်ဗာရာတက္ကသိုလ် ဆေးပညာ ပါမောက္ခကြီး ဒေါက်တာ ဂျွန် ရားသားဖို့၏ သမီးဖြစ်သည်။

စကော့သည် ကလေးဘဝ၌ လွန်စွာချူချာခဲ့၏။ သူငယ်နာရောဂါကြောင့် နို့စို့အရွယ်ကပင် ခြေထောက်များ မသန်မစွမ်း ဖြစ်ခဲ့ရသည်။ ကျန်းမာရေးတွင် ဤမျှပင် ချို့တဲ့ခဲ့သော်လည်း စိတ်အလွန်မြန်သော သူငယ်ကလေးဖြစ်၏။ ထို့အတွက် မည်သူကမျှ သူ့အား ဖိနှိပ်ချုပ်ချယ်ခြင်းမပြုဘဲ သူ့ဖာသာပဓိ နေစေခဲ့ကြသည်။ စကော့သည် ငယ်ရွယ်စဉ်ကပင် စာဖတ်ဝါသနာပါသဖြင့် စာဖတ်ခြင်းဖြင့်သာ အချိန်ကိုကုန်လွန်စေခဲ့၏။ ထိုဝါသနာသည် နောင်အခါ သူ့အား များစွာအကျိုးဖြစ်ထွန်းစေခဲ့သည်။

စကော့သည် အရွယ်ရောက်၍ အတော်အသင့် လမ်းလျှောက်နိုင်ပြီးလျှင် ကျောင်းကို မှန်မှန်တက်နိုင်လောက်အောင် သန်စွမ်းလာသည့်အခါ၊ အက်ဒင်ဗာရာ အထက်တန်းကျောင်းတွင် ပညာသင်ကြားလေသည်။ စာဖတ်ဝါသနာထုံ၍ စာပေမျိုးစုံကို လေ့လာခဲ့သည့်အလျောက် အရွယ်နှင့်မလိုက်အောင်ပင် ဗဟုသုတ ကြွယ်ဝလာလေသည်။ ဉာဏ်ရှင်ကာပညာထက်မြက်လှသဖြင့် အထန်းထဲတွင် ပဌမစွဲသည်သာ များလေသည်။ ကျောင်းသား ဘဝ၌ရှင်း၊ သူ့ဖခင်အား ကူညီကာ အလုပ်လုပ်ပေးရသောအခါ၌ရှင်း၊ တက္ကသိုလ်တွင် ပညာဆက်လက် ဆည်းပူးသောအခါ၌ရှင်း၊ ဥပဒေသင်တန်းတက်စဉ်၌ရှင်း၊ တက္ကသိုလ်နှင့် ပြင်ပ စကားရည်လု အသင်းအဖွဲ့များတွင် ဝင်ရောက်ဆောင်ရွက်စဉ်၌ရှင်း၊ ဝါသနာပါရင်းဖြစ်သော စာပေ လေ့လာလိုက်စားခြင်းကို လက်မလွှတ်ပေ။ ပြင်သစ်စာကို ကျောင်းသားကလေး ဘဝကပင် ကောင်းစွာ တတ်မြောက်ခဲ့၍၊ ဣတာလျံစာကို ၁၅ နှစ်အရွယ်မတိုင်မီကပင် လေ့လာလိုက်စားခဲ့လေသည်။

ခြေထောက် မသန်စွမ်းသည့်ပြင် မကြာခဏဖျားနာတတ်သောကြောင့် စကော့၏ကိုယ်ခန္ဓာမှာ ကြုံလှီသေးကွေးနေလိမ့်မည်ဟု တွေးထင်ဖွယ်ရာရှိသော်လည်း၊ စင်စစ် စကော့သည် အံ့ဩလောက်အောင်ပင် အရပ်အမောင်း ထွားကျိုင်း၍ ကိုယ်ခန္ဓာတောင့်တင်း၏။ စိတ်နေသဘောထား ဖြောင့်စင်းဖြူစင်၍ မျက်နှာမှာ အစဉ်သဖြင့် ရွှင်လန်းသည်။

စကော့၏ဖခင်သည် မူလက သားဖြစ်သူအား သူ၏ခြေရာကိုနင်းစေလိုသည့် ရည်ရွယ်ချက်ဖြင့်၊ အသက် ၁၆ နှစ်အရွယ်တွင် သူ၏အလုပ်၌ ဝင်ရောက်ကူညီ လုပ်ကိုင်စေသည်။ သို့ရာတွင် စကော့သည် ဖခင်ဖြစ်သူ၏အလုပ်တွင် စိတ်မဝင်စားဘဲ၊ အထက်တန်းကျသော ဝတ်လုံတော်ရ အလုပ်ကိုသာ ပို၍ လိုလားနှစ်သက်သည့်အားလျော်စွာ ဥပဒေပညာကို ကြိုးစားလေ့လာပြီးနောက်၊ ၁၇၉၂ ခုနှစ် အသက် ၂၁ နှစ်အရွယ်တွင် အထက်တန်းရှေ့နေကြီးဘွဲ့ထူးကို ဆွတ်ခူးခဲ့လေသည်။ စကော့သည် လေးနှစ်ထက်မနည်း ဥပဒေပညာကို အပတ်တကုတ် ကြိုးစား လေ့လာခဲ့သော်လည်း၊ ရှေ့နေအလုပ်နှင့် အရိုးထုတ်ရန် မကြံရွယ်ဘဲ၊ အားလပ်ချိန်များများရ၍ စာပေပညာကို လေ့လာလိုက်စားရန် အခွင့်အရေးရှိသော အလုပ်ကောင်းတခုကိုသာ လုပ်ကိုင်ရန်ရည်ရွယ်ရင်းရှိခဲ့လေသည်။

ရည်ရွယ်ခဲ့သည့်အလျောက်၊ ၁၇၉၉ ခုနှစ်တွင် ဆဲလကတ်ရှိုင်ယာနယ်၏ မြို့ဝန်အလုပ်ကို တနှစ်လျှင် ရိက္ခာတော်ငွေ ပေါင် ၃၀၀ ခန့်နှင့် လုပ်ကိုင်ရလေသည်။ တာဝန်အလွန်နည်းသည့် အလုပ်ဖြစ်သောကြောင့် စာပေကိုလိုက်စားရန် အချိန်များစွာရရှိခဲ့လေသည်။ ၁၈၀၆ ခုနှစ်တွင်တဖန် စက်ရှင်ရုံး စာရေးတော်ကြီးအလုပ်ကို ပူးတွဲလက်ခံရပြန်သည်။ ထိုအလုပ်မှာ မြို့ဝန်အလုပ်ထက် တာဝန် အနည်းငယ် ပို၍

ကြီးလေးသော်လည်း စကော့သည် ထိုအလုပ်ကို ၂၅ နှစ် တိုင်တိုင် စွဲမြဲစွာ လုပ်ကိုင်ခဲ့လေသည်။ ၁၈၁၂ ခုနှစ်မှ စ၍ စက်ရှင်ရုံး စာရေးတော်ကြီး အလုပ် နှင့် မြို့ဝန်အလုပ်တို့မှ စုပေါင်းရရှိသောနှစ်စဉ်ဝင်ငွေမှာပေါင် ၁,၆၀၀ ခန့်ဖြစ်လေသည်။ ထိုအချိန်မှစ၍ ဝါသနာပါရင်းဖြစ်သော စာရေးခြင်းအလုပ်ကို ကောင်းစွာလိုက်စားနိုင်ခဲ့လေသည်။

စကော့သည် ကဗျာစာဆိုအဖြစ်ဖြင့် ဦးစွာ နာမည်ထွက်လေသည်။ သူ၏ ပဌမ လက်ရာများကား ဂျာမန်တေးကဗျာတို့ကို ဘာသာပြန်ဆို ရေးသားခဲ့ခြင်းပင်ဖြစ်သည်။ ၁၈၀၂ ခုနှစ်တွင် 'စကော့တလန်နယ်ခြား သီချင်းများ' အမည်ရှိ ကဗျာစာအုပ်ကို ရေးသားထုတ်ဝေခဲ့၏။ ၁၈၀၅ ခုနှစ်တွင် 'နောက်ဆုံး ဂီတစာဆို၏ တေးသံ' အမည်ရှိ ကဗျာများကို ရေးသားထုတ်ဝေပြန်သည်။ ထိုစာအုပ်သည် စကော့အား ထိပ်တန်းကဗျာစာဆိုကြီး၏ အဆင့်အတန်းသို့ မြှင့်တင်ပေးခဲ့လေသည်။ မိမိ၏စာအုပ်များကို လူကြိုက်များလာကြောင်း တွေ့ရှိရသောအခါ စကော့သည် လွန်စွာအားတက်ပြီးလျှင် စါရေးခြင်းအလုပ်ကိုသာ လုပ်ကိုင်ရန် တခါတည်းဆုံးဖြတ်လိုက်လေသည်။ ထိုသို့ဆုံးဖြတ်လိုက်သည့်အလျောက်လည်း ကိုယ်ရေးကိစ္စများကို အဆင်ပြေရန် စီမံဆောင်ရွက်ရပြန်သည်။ ရှားလော့ကာပန်းတီယေးဆိုသူ ပြင်သစ်အမျိုးသမီးတဦးနှင့် ၁၇၉၇ ခုနှစ်တွင် ထိမ်းမြားခဲ့သည်တွင် စကော့သည် အက်ဒင်ဗာရာမြို့မှ ၆ မိုင်ကွာ အရပ်၌ ပြောင်းရွှေ့နေထိုင်ခဲ့၏။ ထိုနောက် သားထောက်သမီးခံများ ထွန်းကားလာကာ အိမ်ထောင်မှာ ကြီးလာပြီဖြစ်သည့်ပြင် စာပေနှင့်သာ မွေ့လျော်နေလိုသော ဆန္ဒကြောင့် တွိမြစ်ကမ်းခြေရှိခြံနေရာတခုကိုဝယ်ယူ၍ ပြောင်းရွှေ့နေထိုင်ခဲ့ပြန်သည်။

စကော့သည် ကဗျာလက်ာပေါင်း အမြောက်အမြားရေးသားခဲ့၏။ ကဗျာများကို ရေးပြီးနောက် ဝတ္ထုများကို စတင်ရေးသားလေသည်။ စကော့ရေးသည့် ဝတ္ထုအများအပြားတွင် ကမ္ဘာကျော်ဝတ္ထု များစွာပါရှိလေသည်။ ၁၈၁၄ ခုနှစ်တွင် ရှေးဦးစွာထွက်သည့် စကော့၏ဝတ္ထုမှာ 'ဝေဗာလေ' အမည်ရှိ၍ ထိုဝတ္ထုထွက်ပြီးနောက် အစဉ်အလိုက် ရေးသားထုတ်ဝေသော ဝတ္ထုများကို 'ဝေဗာလေဝတ္ထုစဉ်' ဟု အမည်ပေးထားလေသည်။ စကော့သည် နှစ်ပေါင်းများစွာ ရေးသားခဲ့သည့်ဝတ္ထုများတွင် သူ၏ အမည်ရင်းကို လျှို့ဝှက်ထားခဲ့၏။ ထိုသို့လျှို့ဝှက်ထားသောကြောင့်လည်း၊ အမည်မဖေါ် ပုဂ္ဂိုလ်ကျော်ကြီး၏ အကြောင်းကို သိလိုဇော သန်နေကြသော စာဖတ်ပရိသတ်တို့သည် သူ၏လက်ရာများကို ပို၍ ဖတ်လိုကြည့်လိုလာကြလေသည်။ စကော့သည် မကြာမီပင် ရာဇဝင်ဝတ္ထုရေးဆရာအဖြစ်ဖြင့် ပိုမိုထင်ရှားလာလေသည်။ ၁၈၁၈ ခုနှစ်တွင် ဘုရင်မင်းမြတ်သည် စကော့အား မှူးမတ်ငယ်အဆောင်အရွက်ဖြင့် ဆာဘွဲ့ကို အပ်နှင်းကာ သူကောင်းပြုတော်မူခဲ့လေသည်။

၁၈၂၆ ခုနှစ်တွင် စကော့၏စာအုပ်ထုတ်ဝေသူသည် စီးပွားပျက်ကာ လူမွဲစာခံသွားရသဖြင့် အကြွေးငွေ ပေါင် ၁၃၀, ၀၀၀ ခန့်ကိုပေးဆပ်ရန်အတွက် တာဝန်သည် စကော့အပေါ် သို့ ကျရောက်လာခဲ့သည်။ သို့ရာတွင် လူမသန်စွမ်းသလောက် စိတ်ထားထက်လှသော စာဆိုကြီးစကော့သည် အနည်းငယ်မျှ တုန်လှုပ်ခြင်းမရှိဘဲ ပေးဆပ်ရန်ရှိသမျှ ကြွေးမြီများကို အပြေအကျေ ပေးဆပ်ရန် တာဝန်ယူလိုက်လေသည်။

အကုသိုလ်ကံတို့မည်သည် တခုပြီးတခု ဆက်တိုက် လာတတ်သော သဘော ရှိသည့် အတိုင်း စကော့၏ ချစ်ဇနီးသည် ၁၈၂၆ ခုနှစ်တွင် ကွယ်လွန် အနိစ္စရောက်သွားလေသည်။ စကော့ကိုယ်တိုင်လည်း ဒူလာနှင့် သွက်ချာပါဒလေဖြတ်ရောဂါများ စွဲကပ်လာသည်။ သို့ရာတွင် စကော့သည် စိတ်ပျက် အားငယ်ခြင်း မရှိဘဲ သူ၏ တာဝန် များကို ကျေပြွန်စွာ ထမ်းဆောင်သွားခဲ့သည်။ စကော့သည် မနားမနေ ကြိုးစား၍ ကြွေးမြီ ဟူသမျှတို့ကို စာမူပိုင်အာမခံငွေများနှင့် ဖလှယ်ကာ ပေးဆပ် လိုက်သည်။ ကြွေးမြီတို့မှာ စကော့ကွယ်လွန်ပြီးနောက် မျှားမကြာမီအတွင်း၌ ရှင်းပြီးဖြစ်သွားလေသည်။

အလုပ်သုံးလေးမျိုးကို မလစ်ဟင်းရအောင် ဇွဲသန်သန်ဖြင့် ဆောင်ရွက်ခြင်းကြောင့် စကော့၏ကျန်းမာရေးကို ထိခိုက်လာလေတော့၏။ ဆရာဝန်များ၏ အကြံပေးချက်အရ စကော့သည် ကျန်းမာရေးအတွက်၊ မြေထဲပင်လယ်သို့ အစိုးရကစီမံပေးသော သင်္ဘောတစင်းဖြင့် ခရီးထွက်ခဲ့လေသည်။ သို့ရာတွင် လောကကြီးတွင် ကြာရှည်စွာ နေရတော့မည် မဟုတ်ကြောင်း ကိုယ်တိုင်သိရှိလာသောစကော့သည် သူ၏ နေရင်းအရပ်သို့ အမြန်ပြန်ပို့ခိုင်းလေသည်။ စကော့တလန်ပြည်သို့ ပြန်ရောက်ပြီးနောက် ၁၈၃၂ ခုနှစ် စက်တင်ဘာလ ၂၁ ရက်နေ့တွင် ကမ္ဘာကျော် ကဗျာစာဆိုနှင့် ဝတ္ထုရေးဆရာကြီး ဆာ ဝေါ်လတာ စကော့ သည် ဘဝတပါးသို့ ကူးပြောင်းသွားလေတော့သတည်း။

**စကော့, အာ၊ အက် (ဗ)** (ခရစ် ၁၈၆၈–၁၉၁၂)။ ။ ရေဗတ် ဖေလကွန် စကော့ မှာ ဗြိတိသျှလူမျိုး၊ ရေတပ်ဗိုလ် တဦးဖြစ်၍၊ သိပ္ပံပညာ သုတေသန လုပ်ငန်း အတွက်၊ တောင်ဝင်ရိုးစွန်းသို့ သွားရောက် စွန့်စားရှာဖွေသူ ဖြစ်၏။ ဒက်ဗွန်ပို့မြို့တွင် မွေးဖွား၍၊ ရေတပ်တွင် ဝင်ရောက် အမှုထမ်းရာ ၁၈၉၇ ခုနှစ်တွင် ရေတပ်ဗိုလ်ကြီးဖြစ်လာလေသည်။

၁၉၀၁ ခုနှစ်တွင် သူ၏စွန့်စားမှုသတ္တိနှင့် ခေါင်းဆောင်

နိုင်သော အရည်အချင်းကြောင့် တောင်ဝင်ရိုးစွန်းသို့ သွားရောက်မည့်အဖွဲ့ကို ဦးစီးရန် တာဝန်လွှဲအပ်ခြင်းခံရသည်။ ထိုကြောင့် 'ဒစ်စကပ်ဗာရီ' အမည်ရှိ သင်္ဘောဖြင့် အဖွဲ့ကို အုပ်ချုပ်ကာ လိုက်ခဲ့လေသည်။ ထိုအကြိမ်မှာ တောင်ဝင်ရိုးစွန်းသို့ စကော့ သွားရောက်သည့် ပဌမအကြိမ် ဖြစ်၍ ၁၉၀၁ ခုနှစ်မှ ၁၉၀၄ ခုနှစ်အထိ သုံးနှစ်ခန့်မျှ ကြာလေသည်။

တောင်ဝင်ရိုးစွန်းမှ နေရပ်သို့ ချောမောစွာ ပြန် ရောက် လာသော် စကော့သည် ရေတပ်တွင် အမှုထမ်းပြန်၏။ ၁၉၁၀ ပြည့်နှစ်တွင် ပဌမအကြိမ်က မပြီးဆုံးခဲ့သောလုပ်ငန်းများကို ဆက်လက်စူးစမ်းလုပ်ကိုင်ရန်၊ တောင်ဝင်ရိုးစွန်းသို့ ခရီးထွက်ရပြန်သည်။ စကော့တို့ အဖွဲ့ကို ဗြိတိသျှနှင့် ဒိုမိနီယန်အစိုးရများက စရိတ်ထောက်ပံ့လေသည်။

၁၉၁၀ ပြည့်နှစ် နိုဝင်ဘာလတွင်၊ စကော့တို့လူစုသည် စွတ်ဖားများဖြင့် တောင်ဝင်ရိုးစွန်းသို့ ခရီးစထွက်ကြလေသည်။ ရာသီဥတုမှာ ဆိုးရွားလှသဖြင့် တောင်ဝင်ရိုးသို့သွားကြရာဝယ်၊ အလွန်တရာ ကြံ့ခိုင်သော စိတ်ဓာတ်၊ ဇွဲသတ္တိတို့ဖြင့် အားခဲကာ၊ ခဲယဉ်းပင်ပန်းစွာ သွားရောက်ကြရ၏။ ဤသို့ဖြင့် ၁၉၁၂ ခုနှစ် ဇန္နဝါရီလ ၁၈ ရက်နေ့တွင် တောင်ဝင်ရိုးစွန်းသို့ ရောက်ရှိကြ၏။ သို့သော် နော်ဝေးနိုင်ငံသား၊ အားမန်ဆင်လူစုက တောင်ဝင်ရိုးစွန်းနေရာတွင် တလခန့်စော၍ အလံစိုက်ခဲ့သည်ကို တွေ့ကြသဖြင့် စကော့တို့ထက် အလျင်ဦးသွားကြောင်း သိကြရလေသည်။ (အားမန်ဆင်, အာ — ရှု။)


တောင်ဝင်ရိုးစွန်းသို့ စွန့်စားသွားရောက်ခဲ့သူ ကက်ပတိန်စကော့

ထိုနေရာမှ ရိက္ခာထောက်စခန်းသို့ ပြန်လှည့်ကြသည့် အပြန်ခရီးတွင် စကော့တို့လူစုသည်၊ ဖျားနာခြင်း၊ ရိက္ခာမလုံလောက်ခြင်း၊ ရာသီဥတု၏ဆိုးရွားခြင်း ဘေးဒုက္ခတို့ကို တွေ့ကြုံကြရလေတော့၏။ စကော့နှင့် အဖော်လေးဦးတို့သည် ထိုဘေးဒုက္ခများကို အလျှော့မပေးဘဲ၊ အစွမ်းကုန်ကြိုးစား တွန်းလှန်ကြပါသော်လည်း၊ အက်ဗန်း အမည်ရှိ စကော့၏ လက်ထောက်မှာ၊ ဖေဖွာရီလတွင် သေဆုံးရလေ၏။ နောက်တလလောက်တွင် အုတ်အမည်ရှိ အဖွဲ့ဝင်တဦးမှာလည်း မိမိ၏ မယှဉ်နိုင်သော အခြေအနေကြောင့် အခြားအဖွဲ့ဝင်တို့အား ဝန်မလေးစေလိုသည်ကတကြောင်း၊ မိမိအတွက် ဝန်ပေါ့သဖြင့်၊ ကျန်အဖော်များ သက်သာရာရစေရန်က တကြောင်းတို့ကို ထောက်ထား၍ နှင်းမုန်တိုင်းထဲသို့ အတင်းထွက်သွားကာ အသက်စွန့်လိုက်လေသည်။

သို့ဖြစ်လင့်ကစား စကော့နှင့်ကျန်အဖော်နှစ်ဦးဖြစ်သော ဒေါက်တာဝီလဆန်နှင့် လက်ဖတင်နင်ဗောင်းဝါးတို့မှာ အုတ်မြော်လင့်သကဲ့သို့ သက်သာခွင့်မရရှာချေ။ ရိက္ခာပြတ်သည့်ပြင် ရာသီဥတုမှာ ပို၍ဆိုးရွားလာရာ ထိုသူသုံးဦးမှာ ၁၉၁၂ ခုနှစ် မတ်လ ၂၇ ရက်နေ့လောက်တွင် သေဆုံးရှာကြလေ၏။

စကော့၏ အဖွဲ့အား အရှာထွက်ခဲ့သော ကယ်ဆယ်ရေးအဖွဲ့သည် ၁၉၁၂ ခုနှစ် နိုဝင်ဘာလတွင်မှ စကော့တို့၏အလောင်းများကို တွေ့ရှိကြရလေသည်။ စကော့သည် မိမိတို့ စူးစမ်းရခဲ့သမျှ၊ တွေ့ကြုံဆောင်ရွက်ခဲ့သမျှကို မှတ်တမ်းတင်ခဲ့ရာ၊ သေခါနီးဆဲဆဲတွင် မရေးနိုင် ရေးနိုင်နှင့်ပင် မှတ်တမ်းတင်ခဲ့သေးသည်။ သူတို့၏ မှတ်တမ်းများကို ဖတ်ရှုကြရာတွင် စကော့နှင့် အဖွဲ့သားများသည် ယောကျ်ားကောင်းပီသစွာ အာဇာနည်စိတ်ဖြင့် ဒုက္ခဆင်းရဲအမျိုးမျိုးခံ၍ ရည်ရွယ်ချက် ဖြစ်မြောက်အောင် ဆောင်ရွက်ခဲ့ပုံများကို အံ့ဩချီးမွမ်းစိတ်၊ သနားစိတ်တို့ဖြင့် ဖတ်ရှုကြရလေသည်။

စကော့၏အဖွဲ့သားများမှာ အသက်ပင်ဆုံးကြသော်လည်း သူတို့၏ စူးစမ်းလေ့လာထားခဲ့သည့် အချက်များမှာ သိပ္ပံပညာရပ်အတွက် အဖိုးမဖြတ်နိုင်အောင် အသုံးဝင်လှသည်။ ထိုကြောင့် ဗြိတိသျှလူမျိုးတို့၏ စွန့်စားမှု သမိုင်းတွင် စကော့၏အမည်မှာ မော်ကွန်းဝင်ဖြစ်၍၊ လန်ဒန်မြို့ ဝါတာလူးရပ်ကွက်တွင် စကော့၏ ရုပ်ပုံကို ကြေးရုပ် ထုထားကြလေသည်။

ကျန်ရစ်သူ စကော့၏ ဇနီးနှင့် သားအတွက် တိုင်းသားပြည်သူတို့က ရန်ပုံငွေများ ကောက်ခံပေး၍ ဘုရင်မင်းမြတ်ကမူ ကွယ်လွန်သူစကော့အား ကေ၊ စီ၊ ဘီ၊ ဘွဲ့ထူးဖြင့် ချီးမြှင့်လေရာ ဇနီးသည်မှာလည်း လေဒီစကော့ဟူ၍ ဖြစ်လာလေသည်။




စကော့တလန်ပြည်။ ။စကော့တလန်ပြည်သည် ဗြိတိသျှကျွန်းစု၏ မြောက်ပိုင်းဒေသတွင် တည်ရှိသည်။ ရှေးအခါက ဂုဏ်ယံ့ထီး ကိုယ့်နန်းဖြင့် တသီးတခြား လွတ်လပ်သောနိုင်ငံတခု ဖြစ်ခဲ့သော်လည်း ၁၇၀၇ ခုနှစ်၏နောက်ပိုင်းတွင်မူ ဗြိတိန်နိုင်ငံတွင် အပါအဝင်ဖြစ်ခဲ့သည်။ အရှေ့ဖက်တွင် မြောက်ပင်လယ်ဖြင့်၎င်း၊ အနောက်နှင့် မြောက်ဖက်တွင် အတ္တလန္တိတ် သမုဒ္ဒရာဖြင့်၎င်း၊ ဝန်းရံလျက်ရှိသော စကော့တလန်ပြည်မှာ ကမ်းရိုးတန်းတလျှောက် အလွန်အကွေ့အကောက် များ၍ ကျွန်းစုအများ ပါဝင်သည်။ အနောက်ဖက်တွင် ဟက်ဗရိဒီးကျွန်းစုရှိ၍ မြောက်ဖက်တွင် အော့ကနီနှင့် ရှက်တလန်ကျွန်းစုများရှိသည်။ စကော့တလန်ပြည်၏ အကျယ်အဝန်းမှာ စတုရန်းမိုင် ၃၀,၄၁၀ ရှိ၏။ ၁၉၅၁ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၅,၀၉၅,၉၆၉ ယောက်ရှိသည်။ စကော့တလန်ပြည်၌ သာယာကြည်နူးဖွယ်ကောင်းသော အင်းအိုင်အများအပြားကို တွေ့နိုင်၍ လော့လိုမန်မှာ အကြီးဆုံးအိုင်ဖြစ်သည်။ ဤကဲ့သို့ အင်းအိုင်များ၊ လွင်ပြင်များ၊ တောင်ကုန်းများဖြင့် သာယာလှသော စကော့တလန်ပြည်မှာ ပထဝီဝင်သဘောအားဖြင့် မြောက်ပိုင်းတောင်ကုန်းဒေသ၊ အလယ်ပိုင်းမြေနိမ့်ဒေသနှင့် တောင်ပိုင်းကုန်းမြင့်ဒေသဟူ၍ သုံးပိုင်းခွဲခြားလျက်ရှိသည်။

မြောက်ဖက်တောင်ကုန်းဒေသသည် ပျမ်းမျှခြင်းအားဖြင့် ပင်လယ်ပြင်မှ ပေ ၁၅၀၀ မြင့်၍ တောင်ထူထပ်ပြီးလျှင် သီးနှံ မစိုက်ပျိုးနိုင်ချေ။ တောင်ကြားများ၌ နွားမွေးမြူရေးအတွက် စားကျက်များ၊ အမဲလိုက်စခန်းများနှင့် ရေအားလျှပ်စစ်အတွက် ရေစီးသန်သောမြစ်များ ရှိသည်။ ဤဒေသ၌ ဗြိတိသျှကျွန်းစု၏ အမြင့်ဆုံးတောင်ဖြစ်သော ဂရမ်ပီယန်တောင်တန်းပါဝင်၍ အင်းအိုင်များဖြင့် သာယာသော ရှုမျှော်ခင်းများရှိသည်။ စာရေးဆရာကြီး ဆာဝေါလတာစကော့သည် ယင်းရှုမျှော်ခင်းများ အကြောင်းကို ကဗျာများ စပ်ဆိုရေးသားခဲ့လေသည်။ အလယ်ပိုင်း မြေနိမ့်ဒေသသည် အသင့်အတင့်စိုက်ပျိုးနိုင်သဖြင့် ဂျုံ၊ မြင်းစားဂျုံ၊ မုယောစပါးနှင့် အခြားသီးနှံများ စိုက်ပျိုး၍ နွားနို့လုပ်ငန်းကိုလည်း လုပ်ကိုင်သည်။ ကျောက်မီးသွေး၊ သံနှင့် ရေနံလုပ်ငန်းများကို ဤဒေသ၌ တွေ့နိုင်၏။ တောင်ဖက်ကုန်းမြင့်ဒေသ၌ မြေသြဇာမကောင်းလှသော်လည်းသီးနှံအမျိုးမျိုးကို စိုက်ပျိုးကြသည်။ နွား၊ မြင်း၊ သိုးများမွေးမြူရောင်းချခြင်းမှာ အဓိကလုပ်ငန်းဖြစ်သည်။

စကော့တလန်ပြည်သည် ကမ္ဘာ့မြောက်ပိုင်း၌ ကျရောက်လျက်ရှိသော်လည်း ပင်လယ်ရေက ဝန်းရံလျက်ရှိသည့်ပြင် ပင်လယ်ရေပူချောင်းမှ တိုက်ခတ်သောလေကြောင့် ရာသီဥတုမှာ မပြင်းထန်လှချေ။ အနောက်ဖက် တောင်တန်းများ၌ တနှစ်လျှင် ပျမ်းမျှမိုးရေချိန် လက်မ ၁၀၀ မှ ၁၅၀ အထိရရှိ၍ အရှေ့ဖက်တွင်မူ မိုးရေချိန် ၂၅ လက်မမှ လက်မ ၆၀ အထိသာ ရရှိသဖြင့် ပို၍ခြောက်သွေ့လေသည်။

ဂလပ်စဂိုးမြို့မှာ စကော့တလန်ပြည်တွင် အကြီးဆုံးမြို့ဖြစ်၍ စက်မှုလက်မှုလုပ်ငန်းများရှိသည်။ ယင်းမြို့အနီးတွင် ကျောက်မီးသွေးတွင်းများနှင့် သင်္ဘောကျင်းများ ရှိသဖြင့်

စကော့တလန်ပြည်၏ လူဦးရေထက်ဝက်ကျော်သည် ထိုမြို့အနီးတဝိုက်တွင် နေထိုင်ကြသည်။ ဂလပ်စကိုးမြို့၏အနောက်တောင်ဖက်တွင် တည်ရှိသော ပေ့ဇလီမြို့သည် အပ်ချည်ကြိုးလုပ်ငန်းကြောင့် ထင်ရှားသည်။ အဗာဒင်းမြို့၌ အဝတ်အထည်ရက်လုပ်ခြင်းနှင့် ငါးဖမ်းခြင်းလုပ်ငန်းများရှိ၍ နှမ်းဖတ်ကျောက်များကိုလည်း တူးဖော်ရောင်းချခြင်းပြုသည်။ ဒန်ဒီမြို့တွင် သင်္ဘောတည်ဆောက်ခြင်းနှင့် စက်မှုလုပ်ငန်းများရှိသည့်ပြင် လင်နင်ထည်အများဆုံးထွက်သည်။ ဝီစကီအရက်နှင့် ဓာတုဗေဒဆိုင်ရာပစ္စည်းများကိုမူ စကော့တလန်ပြည်အရပ်ရပ်၌ လုပ်ကိုင်ကြသည်။ စကော့တလန်ပြည်၏ မြို့တော်မှာ အက်ဒင်ဗာရာမြို့ဖြစ်၍ ပညာဗဟုသုတဆိုင်ရာ သုတေသီလုပ်ငန်းများဖြင့် ထင်ရှားလေသည်။



ကားလင်းခေါ် စကော့ကစားနည်းဆန်းတမျိုး

စကော့တလန်ပြည်၏ သမိုင်းကို လေ့လာပါမူ စစ်ပွဲများကို အများအပြား တွေ့ရပေမည်။ အင်္ဂလန်ပြည်ကို တိုက်ခိုက်အောင်မြင်ခဲ့သော နော်မန် လူမျိုးများ သည် စကော့တလန်ပြည် ကိုပါ တပါတည်း သိမ်းပိုက် လိုက် ကြသဖြင့် တိုင်းရင်းဖွားပစ်လူမျိုးများနှင့် အကြိမ်ကြိမ် စစ်တိုက်ခဲ့ကြသော်လည်း မအောင်မြင်ချေ။ ၅ ရာစုနှစ်သို့ရောက်သောအခါ အိုင်ယာလန်မှ စကော့လူမျိုးများသည် ယခုစကော့တလန်ပြည် (ထိုစဉ်က ကယ်လီဒိုးနီးယားဟု ခေါ်သည်။) အနောက်ဖက်ဒေသသို့ လာရောက်နေထိုင်ကြ၍ ၉ ရာစုနှစ်တွင် တိုင်းရင်းဖွား ပစ်လူမျိုးများ နှင့် ပူးပေါင်းကာ စကော့ဘုရင် ကင်း နက်မက်အယ်လပိုင်း လက်အောက်၌ စကော့တလန်ပြည်ကြီးကို တည်ထောင်ကြသည်။ ၁၃ ရာစုနှစ်သို့ရောက်သောအခါ အင်္ဂလန်ပြည့်ရှင် ပဌမ အက်ဒွပ်သည် စကော့တလန်ပြည်ကို သိမ်း၍ အင်္ဂလန်နှင့် ပူးပေါင်းရန်ကြံစည်အားထုတ်သည်တွင် ဆာဝီလျံဝေါလေ့ ခေါင်းဆောင်သော စကော့တို့က အပြင်းအထန်ခုခံကြသေးသော်လည်း ၁၂၉၈ ခုနှစ်တွင် ဝေါလေ့သည် ဖမ်းဆီးကွပ်မျက်ခြင်းခံရ၍ စကော့တို့ အရေးနိမ့်သွားခဲ့၏။ သို့သော် စကော့မျိုးချစ်ကြီး ရောဗတ်ဗရုစ က အင်္ဂလိပ်တို့အား ပြန်လည်တိုက်ခိုက်သဖြင့် အင်္ဂလန်ပြည့်ရှင် ဒုတိယ အက်ဒွပ် လက်ထက်တွင် စကော့လူမျိုးများသည် လွတ်လပ်ရေး ပြန်၍ရကြသည်။ အင်္ဂလန်ပြည့်ရှင် အယ်လစ်ဇဗက် ဘုရင်မ နတ်ရွာစံလျှင် စကော့ဘုရင် ဆဌမဂျိမ်းသည် အင်္ဂလန်ပြည်၏ ပဌမဂျိမ်းအဖြစ် ထီးနန်းဆက်ခံသောကြောင့် စကော့တလန်နှင့်အင်္ဂလန်တို့မှာ ဘုရင်တဦးတည်း၏လက်အောက်သို့ ကျရောက်ခဲ့လေသည်။ သို့သော် အုပ်ချုပ်ရေးမှာမူ တသီးတခြားစီပင် ဖြစ်သည်။ အင်္ဂလန်၌ ဖြစ်ပွားသော ပြည်တွင်းစစ်တွင် ပဌမ ချားဘုရင် ကွပ်မျက်ခြင်း ခံရပြီးနောက် စကော့တို့ ထကြွသည်တွင် အင်္ဂလိပ်တို့က စကော့တလန်ပြည် အား သိမ်းပိုက်လိုက်သည်။ သို့သော် ဒုတိယချားဘုရင် နန်းတက်သောအခါ စကော့တလန်ပြည်သည် လွတ်လပ်သော သီးခြားနိုင်ငံ ဖြစ်ပြန်လေသည်။ ၁၇၀၇ ခုနှစ်သို့ ကျရောက်သောအခါ၌မူ ပူးပေါင်းရေးအက်ဥပဒေအရ စကော့တလန်နှင့် အင်္ဂလန်မှာ တခုတည်းသော အစိုးရလက်အောက်တွင် တခုတည်းသောတိုင်းပြည်အဖြစ်သို့ ရောက်ရှိလေသည်။




စကော့တလန်ပြည်တည်နေရာပြမြေပုံ

၁၉ ရာစုနှစ်တွင် စကော့တလန်ပြည်သည် စက်ရုံကြီးများ၊ ရေအားလျှပ်စစ်ရုံကြီးများ၊ မီးရထားလမ်းများ စသည်တို့ကို အကြီးအကျယ် လုပ်ကိုင်လာခြင်းဖြင့် လူဦးရေထူထပ်၍ စက်မှုလက်မှု ထွန်းကားသောပြည် ဖြစ်လာသည်။ စက်မှုလက်မှု ထွန်းကားခြင်းကြောင့် စကော့လူမျိုးတို့မှာ လက်တွေ့အလုပ်တွင် စိတ်ဝင်စားသူများဖြစ်လာကြသည်။

### စကော့လူမျိုးများ၏ဘာသာနှင့်စာပေ

စကော့လူမျိုးများ၏ စာပေလောကတွင် စကော့ဘာသာ၊ အင်္ဂလိပ်ဘာသာနှင့် ရှေးဟောင်းဂေးလစ်ဘာသာဟူ၍ ဘာသာအမျိုးမျိုး ပါဝင်လျက် ရှိသောကြောင့် စကော့စာပေဟူရာ၌ များစွာအဓိပ္ပါယ်ကျယ်ဝန်း၍ အမျိုးမျိုး ယူဆနိုင်သည်။ ဂေးလစ်ဘာသာမှာ စကော့လူမျိုးထဲ၌ပင် နားလည်သူအလွန်နည်းသဖြင့် မထင်ရှားလှချေ။ တိုင်းရင်းသား စကော့ဘာသာနှင့် အင်္ဂလိပ်ဘာသာတို့ဖြင့် ရေးသားထားသော စာပေသာလျှင် ထင်ရှားသည်။

စကော့လူမျိုးများမှာ ရှေးနှစ်ပေါင်းများစွာကပင် ပြင်သစ်တို့နှင့် မဟာမိတ် ဖြစ်ခဲ့ကြသဖြင့် စကော့ဝေါဟာရအများပင် ပြင်သစ်မှ ဆင်းသက်လာကြောင်း တွေ့ရသည်။ ယခုအခါ အင်္ဂလိပ်ဝေါဟာရ၊ ပြင်သစ်ဝေါဟာရများနှင့် အဓိပ္ပါယ်တူ၍ စာလုံးပေါင်းနှင့် အသံထွက်ပုံ ကွဲပြားသော စကော့ဝေါဟာရ အများအပြားကို တွေ့နိုင်သည်။ သို့ရာတွင် လုံးဝ တသီးတခြားဖြစ်သော စကော့ဝေါဟာရများလည်း ရှိပေသေးသည်။ စကော့တို့၏ ရှေးအကျဆုံးစာပေမှာ ၁၃ ရာစုနှစ်ကရေးသားခဲ့သော တေးသီချင်းများဖြစ်၍ ယင်းခေတ်၏ ပဌမဦးဆုံးထင်ရှားလာသော ကဗျာဆရာမှာ တောမတ်ဆိုသူဖြစ်၏။ စကော့ခေါင်းဆောင်ကြီး ဘရုစ်၏ အတ္ထုပ္ပတ္တိကို ကဗျာလင်္ကာစီကုံးရေးသားခဲ့သော ဂျွန်ဗားဗားသည် ၁၄ ရာစုနှစ်က ထင်ရှားသော ကဗျာဆရာဖြစ်



စကော့အမျိုးသမီးကလေးတဦး ကခုန်နေပုံ



စကော့အမျိုးသား အိတ်ပြွေမှုတ်သမားတဦး

သည်။ ၁၅ ရာစုနှစ်ကား အင်္ဂလိပ်ကဗျာဆရာကြီး ချော်စာ၏ အရေးအသားမျိုးကိုလိုက်၍ရေးကြသောခေတ် ဖြစ်၍ စကော့ကဗျာဆရာကြီး ဝီလျံဒန်ဗားသည် ထိုခေတ်၏ ကဗျာဆရာ အကျော်အမော်ပင် ဖြစ်၏။ ယင်းခေတ်ကုန်ဆုံးခါနီးတွင် ကဗျာဆရာ ဂယ်ဗင်ဒေါက်ဂလပ်သည် 'အီးနီးယစ်' ကဗျာကို စကော့ဘာသာသို့ပြန်ဆိုခဲ့၏။

၁၅ ရာစုနှစ်၏ နောက်ပိုင်းခေတ်များတွင်မူ ကဗျာလင်္ကာဖွဲ့နွဲ့မှု နည်းပါးသွား၍ စကားပြေနှင့် တေးသီချင်းများ ရေးစပ်မှု ခေတ်စားလာသည်။ 'ဂျိမ်းဟော့'၊ 'လေဒီနိန်း'၊ 'အယ်လန်ကန္နင်ဂမ်' စသော ကဗျာဆရာများ ပေါ်ပေါက်ခဲ့သော်လည်း စကားပြေဆရာ ဂျွန်နော့၏ 'ခရစ်ယန် သာသနာ အရေးပုံ သမိုင်း' ကဲ့သို့သော စကားပြေများနှင့် သီချင်းရေးဆရာ ဖာဂဆန်နှင့် ရောဗတ်ဗန်းတို့၏



စကော့တလန်ပြည်ဘုရင်များစံမြန်းခဲ့သော တောလင်းရဲတိုက်ကြီး

သီချင်းများက ခေတ်စားနေသောကြောင့် တိမ်မြုပ်လျက်ရှိရသည်။ ယခုခေတ်၌ပင် ချားမာရေး၊ ဂျွန်ဗပ်ခန်၊ ဗိုင်အိုလက်ဂျေးကပ် စသော စကော့စာရေးဆရာအများအပြားပင် စကော့ဘာသာဖြင့် စာပေရေးသားလျက်ရှိကြ၏။

စကော့စာရေးဆရာများမှာ အင်္ဂလိပ်ဘာသာဖြင့် စာပေရေးသားမှု၌လည်း ပြောင်မြောက်ကြလေသည်။ ယထာဘူတပညာရှင် ဒေးဗစ်ဟယွမ်း၊ ဘောဂဗေဒပညာရှင် အဒမ်စမစ်၊ စကားပြေဆရာ ဗော့ဇဝဲ၊ ဝတ္ထုရေးဆရာ စမောလက်နှင့် ကဗျာဆရာ ဂျိမ်းသွန်မဆင်တို့ကား ၁၈ ရာစုခေတ်က အင်္ဂလိပ်စာပေနယ်အတွင်း ထင်ရှားလာသော စကော့စာရေးဆရာများ ဖြစ်ကြ၏။ ၁၉ ရာစုနှစ်၌ ကျော်ကြားလာသောစာရေးဆရာနှစ်ဦးမှာ ဆာဝေါလတာစကော့နှင့် ရောဗတ် လူဝီ စတီဗင်ဆန်တို့ ဖြစ်ကြသည်။ ဆာဝေါလတာစကော့၏ ကဗျာများနှင့် စတီဗင်ဆန်၏ ပုံဝတ္ထုများမှာ ယနေ့တိုင် လူကြိုက်များလျက် ရှိကြသေး၏။ ထိုပုဂ္ဂိုလ်များမှတပါး အခြားအသင့်အတင့်ကျော်ကြားသောစကော့စာရေးဆရာများမှာ ဂျွန်ဂေါ၊ တောမတ်ကာလိုင်း၊ဆာဂျိမ်းဗယ်ရီ၊နေအိုမီမစ်ချီဆန်စသောပုဂ္ဂိုလ်များဖြစ်ကြပေသည်။

**စကစ်တယ်ကစားခြင်း။** ။စကစ်တယ်ကစားခြင်းဆိုသည်မှာ သစ်သားတိုင်ငယ်များကို သတ်မှတ်ထားသောအကွာအဝေးမှ သစ်သား သို့မဟုတ် ကြက်ပေါင်စေးဘောလုံးဖြင့် လှိမ့်ကာ တိုက်ချရသော အလွန်ရှေးကျသည့် အနောက်နိုင်ငံ ကစားနည်းတမျိုးဖြစ်သည်။ ထိုကစားနည်းမျိုးကို ယနေ့တိုင် အနောက်နိုင်ငံရှိ လမ်းဘေးထမင်းဆိုင်များ ကဲ့သို့သော နေရာများတွင် ကစားလျက်ပင် ရှိသေးသည်။ ဤကစားနည်း၏ မူလဒေသမှာ ဂျာမနီနိုင်ငံဖြစ်၍ အေဒီ ၂၀၀ သို့မဟုတ် ၃၀၀ ပြည့်နှစ်ခန့်က စတင်ပေါ်ပေါက်ခဲ့သည်။ စကစ်တယ်ကစားခြင်းမှာ အလယ်ခေတ် ဥရောပနိုင်ငံများတွင် များစွာ ခေတ်စားခဲ့၍ ရှေးအခါက ကျောက်ခဲလုံးဖြင့် လှိမ့်ချကစားရသော ပြင်ပကစားခုန်စားနည်းတခုဖြစ်၏။ သို့သော် နောင်အခါ၌မူ အိမ်တွင်းကစားနည်းတခုအဖြစ်သို့ ရောက်ရှိခဲ့လေသည်။ ဤကစားနည်းကို ဒေသအလိုက် အမျိုးမျိုး ခေါ်ဝေါ်ကြသော်လည်း စကစ်တယ်ဟူသောအမည်မှာ ဒပ်ချ်လူမျိုးတို့ ခေါ်ဝေါ်သုံးစွဲကြသော အမည်ဖြစ်သည်။ စကစ်တယ် ကစားနည်းကို ၁၇၀၀ ပြည့်နှစ်၌ အမေရိကန်ပြည်ထောင်စု နယူးယော့မြို့သို့ ဒပ်ချ်လူမျိုးတို့ ယူဆောင်ခဲ့ကြသည်။ စကစ်တယ်ကစားနည်းတွင် မူလက သစ်သားတိုင်ငယ် ၉ တိုင်ပါဝင်သဖြင့် စကစ်တယ်ကစားခြင်းကို 'ကိုးတိုင်ကစားခြင်း' ဟူ၍လည်း ခေါ်၏။ နယူးယော့မြို့တွင် ဤကစားနည်းကို လူကြိုက်အလွန်များလာသောအခါ အစိုးရကပင် တားမြစ်ခဲ့ရသေးလေသည်။ သို့သော် စကစ်တယ်ကစားသူများသည် ဥပဒေကိုရှောင်ကွင်းသည့်အနေဖြင့် သစ်သားတိုင် ကိုးတိုင်အစား ဆယ်တိုင်အသုံးပြုလာကြ၏။

စကစ်တယ်ကစားခြင်းတွင် ပါဝင်ကြသောပစ္စည်းများမှာ တိုင်၊ ဘောလုံး၊ ဘောလုံးလှိမ့်ရာ လမ်းကြောင်းတို့ဖြစ်ကြသည်။ တိုင်ကို မာကျောသည့် မေပယ်သစ်သားဖြင့်လုပ်

သည်။ တိုင်အမြင့် ၁ ပေ ၃ လက်မရှိသည်။ ပုလင်းသဏ္ဌာန် ဖြစ်သည်။ ဘောလုံးလှိမ့်ရာ လမ်းကြောင်းကိုမူ ရော်ဗာနှင့်သော်၎င်း၊ သစ်သားနှင့်သော်၎င်း ပြောင်ချော ပြုလုပ်ထားရသည်။ ရံဖန်ရံခါ မှန်ကူကွက် ဖော်ထားသည်လည်း ရှိ၏။ လမ်းကြောင်းမှာ အလျားပေ ၆၀၊ အနံ ၃ ပေခွဲရှိသည်။ ထိုလမ်းကြောင်း၏ အဆုံးစွန်ဖက်တွင် ဘောလုံးဖြင့်လှိမ့်၍ တိုက်ချလိုက်သော သစ်သား တိုင်ငယ်များ ကျဆင်းရန် တွင်းတခုရှိ၏။ လမ်းကြောင်း၏ ဝဲယာတလျှောက်တွင်မူ လမ်းကြောင်းအတိုင်းမသွားသော ဘောလုံးများကျဆင်းရန် ၉ လက်မကျယ်၍ ၃ ပေခွဲနက်သော မြောင်းရှိလေသည်။

စကစ်တယ် ကစားနည်းမှာ ကစားသူသည် သတ်မှတ်ထားသောစည်းမှနေ၍ လမ်းကြောင်းအဆုံးရှိ စကစ်တယ်ခေါ် သစ်သားတိုင်ငယ် ၁၀ တိုင်ကို ဘောလုံးဖြင့် လှိမ့်၍ တိုက်ချရခြင်းဖြစ်သည်။ စကစ်တယ် တပွဲလျှင် အလှည့်ပေါင်း ၁၀ ကြိမ်ရှိ၍ တကြိမ်လျှင် ၂ ခါကျ ဘောလုံးကို လှိမ့်ချနိုင်ခွင့်ရှိသည်။ မိမိအလှည့်တွင် သစ်သားတိုင်ငယ် ၁၀ တိုင်စလုံးကို တချီတည်းနှင့်လဲအောင်မလှဲနိုင်လျှင် ဒုတိယတချီ ထပ်မံလှဲချနိုင်ခွင့်ရှိသည်။ သစ်သားတိုင်ငယ် အားလုံးကို တချီတည်းနှင့် လှဲချနိုင်လျှင် ၁၀ မှတ်ရ၍၊ ဘောလုံးကို ဒုတိယတချီ ထပ်မံလှိမ့်ချခွင့် မရှိပေ။ နောက်တကြိမ် မိမိအလှည့်သို့ ရောက်၍ ဘောလုံးကိုလှိမ့်ရသည့်အခါ မိမိက ဒုတိယအလှည့်တွင်မှရရှိသော အမှတ်များကို ပဌမအလှည့်က တချီတည်းနှင့် ရရှိခဲ့သော ၁၀ မှတ်နှင့် ပေါင်း၍ အမှတ်ဇယားရှိ ပဌမဇယားကွက်တွင် ရေးမှတ်ရသည်။ အကယ်၍ ပဌမအလှည့်တွင် သစ်သားတိုင် ၁၀ တိုင်စလုံးလဲကျရန် ဘောလုံးကို နှစ်ချီလှိမ့်ရသော် ယင်းမှရသော ၁၀ မှတ်ကို ဒုတိယအလှည့်၏ ပဌမအချီတွင်ရရှိသော အမှတ်နှင့်သာပေါင်း၍ အမှတ်ဇယားရှိ ပဌမဇယားကွက်တွင် ရေးမှတ်ရသည်။ စကစ်တယ် ကစားသည့်အကြိမ်တိုင်းတွင် သစ်သားတိုင်ငယ် အားလုံးကို တချီတည်းနှင့်ချည်း လှဲချနိုင်လျှင် ၃ ကြိမ်မြောက်သောအခါ၌ စုစုပေါင်း ရရှိခဲ့သောအမှတ် ၃၀ ကို အမှတ်ဇယား၏ ပဌမဇယားကွက်တွင် ရေးမှတ်ရသည်။ နောက်အကြိမ်များအတွက်မူ ဒုတိယဇယားကွက်မှ အဆုံးအထိ တကွက်ပြီးတကွက် အမှတ် ၃၀ စီတိုး၍ ရေးမှတ်သွားရသည်။ စကစ်တယ်ကစားပွဲတွင် အလှည့်ပေါင်း ၁၀ ကြိမ်ရှိသကဲ့သို့ အမှတ်ဇယားတွင်လည်း ၁၀ ကွက်ရှိသည်။ စကစ်တယ် ကစားခြင်း အရှုံးအနိုင်မှာ အမှတ်အနည်းအများပေါ်တွင် တည်သဖြင့် တချီတည်းနှင့် သစ်သားတိုင်အားလုံးကို လှဲချနိုင်သည့်အကြိမ်ပေါင်းများသောသူသည် နိုင်လေသည်။ စကစ်တယ်ကစားနည်းများမှာ အမျိုးမျိုးရှိ၍ ပြိုင်ပွဲများကျင်းပရာ၌လည်း တယောက်



ကစားပွဲမစတင်မီ စကစ်တယ်ခေါ် သစ်သားတိုင်ငယ်များကို စည်းကမ်းတကျထောင်နေပုံ



ကစားသူသည် သစ်သားတိုင်ငယ်များကိုတိုက်ချရန် ဘောလုံးကို ချိန်ရွယ်၍ ဤသို့လှိမ့်ပစ်ရသည်။



မီတာ ၁၀,၀၀၀ အမျိုးသမီးစကိတ်အမြန်စီးပြိုင်ပွဲ (၁၉၅၅ ခုနှစ်)

ချင်း၊ နှစ်ယောက်တွဲ စသော ပြိုင်ပွဲများ အပြင် လူငါးဦး ပါဝင်သော အဖွဲ့လိုက်ပြိုင်ပွဲများကိုလည်း ကျင်းပလေ့ရှိ၏။

**စကိတ်စီးခြင်း။** ။စကိတ်စီးခြင်းဆိုသည်မှာ ဖိနပ်တွင် သံမဏိပြားကိုတပ်၍ ရေခဲပြင် သို့မဟုတ် မာကျောညီညာ သော သမံတလင်း၊ ကတ္တရာစေးလမ်း စသော မျက်နှာပြင် များတွင် လျှောတိုက်၍ စီးနင်းသွားလာခြင်း ဖြစ်သည်။ သံမဏိပြားများ မပေါ်ပေါက်သေးသော ရှေးခေတ်ကမူ အရိုးကို ခြေထောက်တွင်ချည်ပြီးလျှင် တောင်ဝှေးကို အား ပြု၍ ရေခဲပြင်များတွင် လျှောတိုက် စီးနင်းလေ့ရှိကြ၏။ ယင်းသို့ ခြေတွင်တပ်ဆင်စီးနင်းရသောအရာကိုပင် စကိတ် ဟုခေါ်လေသည်။ သံမဏိကို လူတို့သုံးစွဲလာကြမှသာ၊ ရေ ခဲပြင်တွင် စီးနင်းရသော စကိတ်မှာ သံမဏိပြားဖြစ်လာ၍ အခြားမျက်နှာပြင်များအတွက်မူ ရှိလာစကိတ်ခေါ် သံမဏိ ဘီးငယ်ကလေးများတပ်ဆင်ထားသော စကိတ်မျိုးကို သုံးစွဲ လာကြသည်။ စကိတ်စီးရာဌာနကိုလိုက်၍ စကိတ်နှစ်မျိုး ရှိသကဲ့သို့ အလှစီး၊ အမြန်စီး စသော မိမိစီးနင်းမည့်ဟန်ကို လိုက်၍လည်း စကိတ်ပုံစံအမျိုးမျိုးရှိလေသည်။ စကိတ် စီးရာတွင် အရေးကြီးသောအချက် ၄ ရပ်ကိုလိုက်နာရပေ သည်။ ထိုအချက်များမှာ (၁) ခြေထိပ်တို့ကို ဘေးသို့ ကားပေးရန်၊ (၂) ရှေ့သို့အားယူပြီးလျှင် ကိုယ်၏အလေး ချိန်ကို ခြေနှစ်ဖက်ပေါ်၌ထိန်းထားရန်၊ (၃) ခြေကိုတဖက် ပြီးမှတဖက် ကျဲကျဲလှမ်းရန်၊ (၄) ခြေကျည်းဝတ်ကို မြဲမြံ စွာထိန်းထားနိုင်ရန်တို့ ဖြစ်ကြသည်။

ဆောင်းရာသီတွင် ရေခဲလေ့ရှိသော အလွန်အေးသည့် မြောက်ပိုင်းနိုင်ငံများတွင် စကိတ်စီးခြင်းအလေ့အထ ခေတ် စားလာခဲ့သည်မှာ နှစ်ပေါင်းအလွန်ကြာလေပြီ။ မြောက် ပိုင်းနိုင်ငံများဖြစ်သော စကန်ဒီနေးဗီးယား၊ ဖင်းလန်နှင့် ဟော်လန်နိုင်ငံများမှာ စကိတ်စီးခြင်းကို ဦးစွာလိုက်စားခဲ့ သော နိုင်ငံများဖြစ်သည်။ အမြန်စီး၊ အလှစီး စသော စကိတ်စီးပြိုင်ပွဲများကို ဥရောပတိုက်နှင့် မြောက်အမေရိက ထိုက်တို့တွင် အနှံ့အပြား ကျင်းပလာခဲ့ကြသည်မှာ နှစ် ပေါင်း ၁၀၀ ပင်ရှိပြီဖြစ်သော်လည်း၊ ၁၉၂၄ ခုနှစ်ကျမှသာ ကမ္ဘာ့အိုလင်းပစ်ကစားပွဲများတွင် ဆောင်းရာသီ ပြေးခုန် ကစားပွဲတခုအဖြစ်ဖြင့် ပါဝင်ခဲ့လေသည်။ သိပ္ပံပညာဖြင့် ရေခဲပြင်များကို ဖန်တီးပြုလုပ်နိုင်စွမ်းရှိလာသောအခါ ရေမ ခဲသောအရပ်များ၌ပင် ကစားရုံကြီးများဆောက်၍ စကိတ် စီးနိုင်ကြလေသည်။ ယခုအခါ အင်္ဂလန်ပြည်နှင့်တကွ ကမ္ဘာ့အရပ်ရပ်၌ ထိုကဲ့သို့သောကစားရုံကြီးပေါင်း ၃၀ နီး ပါးရှိလေသည်။

စကိတ် အမြန်စီးတွင် စကန်ဒီနေးဗီးယား လူမျိုးများ ကို မည်သူမျှ မမှီချေ။ ဤခေတ်၌ ကမ္ဘာ့ စကိတ် အလှ စီးပြိုင်ပွဲတွင် ပဌမ စွဲသူမှာ နော်ဝေးနိုင်ငံမှ ဆို နီ ယာ ဟိန်း အမည်ရှိ အမျိုးသမီး ဖြစ်လေသည်။ အမျိုးသား နှင့် အမျိုးသမီး နှစ်ယောက်တွဲ၊ စကိတ် အမြန်စီး ပြိုင်ပွဲများ ကျင်းပသောအခါ အမျိုးသမီးများသည် အမျိုးသားများ ထက် စကိတ်စီးခြင်း တွင် ပိုမို ကျွမ်းကျင်ကြောင်း တွေ့ရ ပေသည်။



အရွယ်နုပျိုခြင်းကိုပေးစွမ်းနိုင်သော အိဒူးနာနတ်သမီးက နတ်ပန်းသီးစွန့်ကြဲနေပုံ (စကန်ဒီနေးဗီးယားပုံပြင်မှ)

စကန်ဒီနေးဗီးယား။ ။ပထဝီဝင်သဘောအရ၊ စကန်ဒီနေးဗီးယားဆိုသည်မှာ ဆွီဒင်၊ နော်ဝေးနှင့် ဒိန်းမတ်နိုင်ငံများကို ဆိုလိုသည်။ နော်ဝေးနှင့် ဆွီဒင်နိုင်ငံတို့သည် ဥရောပမြောက်ပိုင်းရှိ စကန်ဒီနေးဗီးယားကျွန်းဆွယ်၌ပါဝင်သောနိုင်ငံများ ဖြစ်ကြသည်။ အထက်ဖော်ပြပါ နိုင်ငံသုံးနိုင်ငံသည် ခရစ် ၇၅၀ ပြည့်နှစ်ခန့်မှ ၁၄ ရာစုနှစ်အထိ သီးခြားနိုင်ငံများအဖြစ် တည်ရှိခဲ့လေသည်။ သို့သော်လည်း ၁၃၉၇ ခုနှစ်မှစ၍ ၁၅၂၃ ခုနှစ်အထိ ထိုသုံးနိုင်ငံတို့သည် အချင်းချင်းပူးပေါင်း၍ အစိုးရအဖွဲ့ကို ဖွဲ့စည်းတည်ထောင်ခဲ့ကြ၏။ ထိုနိုင်ငံများအနက် ဒိန်းမတ်နှင့် နော်ဝေးနိုင်ငံများသည် ၁၈၁၅ ခုနှစ် ဗီယင်းနားကွန်ဂရက်အထိ ပူးပေါင်းခဲ့လေသည်။ ဤစကန်ဒီနေးဗီးယား နိုင်ငံများက ကိုလိုနီနယ်သစ်များ ဖွင့်သောအခါ၌၊ ယခုအခါ လွတ်လပ်သောသမတနိုင်ငံဖြစ်သည့် အိုက်စလန်ကျွန်းသည် ဒိန်းမတ်နိုင်ငံသို့ သိမ်းသွင်းခြင်းခံရ၍၊ ဂရင်းလန်းကျွန်းသည် ဒိန်းမတ်နိုင်ငံ၏ ကိုလိုနီနယ်ဖြစ်ခဲ့ရလေသည်။ စကန်ဒီနေးဗီးယားနိုင်ငံများသည် မျိုးရိုး၊ ဘာသာစကားနှင့် သမိုင်းတို့၌ တနိုင်ငံနှင့် တနိုင်ငံ တူကြသည်။ စကန်ဒီနေးဗီးယားအမည်ခံ အထက်ပါဒေသ အားလုံး သည် ကမ္ဘာ၏ မြောက်အစွန်ဆုံးဖက်၌ ကျရောက်နေ၍ အလွန် အေးသော ဆောင်းဒဏ်ကို ကြာရှည်ခံရ၏။ ထိုဒေသများ၌ နေ့ရောင်မြင်ရသည့် နွေးသော နွေဥတုအချိန်ကာလသည် တိုတောင်းလှ၏။ ပင်လယ်ဖြင့် ဝန်းရံနေသောကြောင့် ကျောက်ဆောင် တောင်ကမ်းပါးတို့ကို ပင်လယ်လှိုင်းရိုက်သံများ အစဉ်ကြားနေရ၏။ စကန်ဒီနေးဗီးယား ကျွန်းဆွယ်ဒေသသည် တခါက ရေခဲပြင် အတိဖုံးလွှမ်းနေသဖြင့် လူသူတဦးတယောက်မျှမနေနိုင်ဖြစ်ခဲ့သည်။ သို့ရာတွင် ဘီစီ ၁၀,၀၀၀ မှ ၆၀၀၀ ပြည့်နှစ်ကြား ကာလအတွင်း ထိုရေခဲပြင်များသည် မြောက်ဖက်သို့ ရွေ့သွားပြီးနောက် စကန်ဒီနေးဗီးယား ကျွန်းဆွယ်တွင် လူများ နေထိုင်နိုင်လာကြ၏။ ထိုဒေသများ၌ ဦးစွာတင်ပါသည်များနှင့် မုဆိုးများသာ စတင်နေထိုင်ကြသည်။ ရေခဲများပျော်သွားသောအခါ ထိုသူတို့သည် တဖြည်းဖြည်း မြောက်ဖက်သို့ တိုး၍တိုး၍ နယ်ချဲ့နေထိုင်ကြ၏။ အလွန်ရှေးကျသော စကန်ဒီနေးဗီးယန်းလူမျိုးတို့သည် အများအားဖြင့် အရှေ့ဖက်ပင်လယ်နက်ဖက်မှ လာရောက်နေထိုင်သူများဖြစ်ကြ၏။ ယင်းတို့သည် လူရိုင်းများသာဖြစ်သည်။ လယ်ယာစိုက်ပျိုးမှုကို နားမလည်။ ခေတ်သတ္တုနှင့် တွင်းထွက်ပစ္စည်းများကို အသုံးမချတတ်။ တိရစ္ဆာန်များကိုလည်း ခိုင်းစေနိုင်ရန် ယဉ်ကျေးအောင် မဆုံးမတတ်ချေ။ လက်နက်ကရိယာများကို ကျောက်ဖြင့်လုပ်၍ သုံးကြ၏။ ကျောက်ခေတ်က လူရိုင်းများကဲ့သို့ပင် အသိပညာတိုးတက်မှု ဘာမျှမရှိသေးချေ။

ယခုစကန်ဒီနေးဗီးယား၌ နေထိုင်ကြသော လူမျိုးများမှာ စင်စစ် ထိုလူရိုင်းများမှ ဆင်းသက်ပေါက်ပွားလာကြသူများ မဟုတ်ချေ။ ယခုနေထိုင်သူများမှာ ဂျာမန်လူမျိုးများနှင့် သွေးစပ်၍ အချို့ကား အင်္ဂလိပ်နှင့် သွေးစပ်ကြ၏။ နှစ်ပေါင်း လေးထောင်ကျော်လောက်က ဂျာမန် သို့မဟုတ် တျူတန် အမျိုးအနွယ်ဝင်များသည် စကန်ဒီနေးဗီးယားသို့

သွားရောက် နေထိုင်ကြ၏။ သူတို့သည် အရည်အခြင်း သာ၍ လက်နက်စုံလင်သဖြင့် ရှိရင်းစွဲလူရိုင်းများကို မောင်းနှင် ထုတ်ပစ် လိုက်ကြသည်။ (တျူတန်လူမျိုး — ရှု။) သူတို့နှင့်အတူ ကိုးကွယ်သည့် အယူဝါဒလည်း ပါလာ၏။ သူတို့ကိုးကွယ်သည်မှာ အိုးဒင်နတ်ဖြစ်၏။ စကန်ဒီနေးဗီးယန်းလူမျိုးတို့သည် ထကြွဝီရိယ ရှိသည်။ သူတို့၏တိုင်းပြည်ကို ပင်လယ်က ပတ်လည်ဝိုင်းထားသဖြင့် သူတို့သည် လှိုင်းလေပြင်းထန်သော ပင်လယ်ထဲသို့ သွားရောက်စွန့်စားကာ စီးပွားရှာလိုသော စိတ်ရှိသည်။ ရှေးခေတ်ဗိုက်ကင်းလူမျိုးအဖြစ်ရှိစဉ်အခါက စစ်တိုက်ခန်း၊ စွန့်စားခန်းများနှင့် နတ်များ လူစွမ်းကောင်းများအကြောင်းကို သီချင်းသီဆို၍ ၎င်း၊ ပုံပြင်များပြော၍၎င်း ခြီးကျူးလေ့ရှိကြ၏။ နောင်တွင် ထိုပုံပြင်နှင့် သီချင်းများကို စာဖြင့်ရေးမှတ်ထားကြသည်။ ထိုကဲ့သို့ ရေးမှတ်ထားသော ရှေးဟောင်းပုံပြင်များအနက် ကဗျာစာဆိုကြီး အက်ဒါကြီး (၁၀ နှင့် ၁၁ ရာစုနှစ်) နှင့် စကားပြေစာဆို အက်ဒါငယ် (၁၂ ရာစုနှစ်) တို့၏ လက်ရာများမှာ ယခုတိုင်ကျန်ရှိသေးသည်။ ယင်းပုဂ္ဂိုလ်ကြီးများရေးသားသော ပုံပြင်များမှ အိုးဒင်နှင့်သော စသော စကန်ဒီနေးဗီးယားနတ်များ အကြောင်းမှာ ထင်ရှားသည်။

ခေတ်သစ်စကန်ဒီနေးဗီးယန်းစာပေမှာ ၁၈ ရာစုအတွင်းက စတင် ပေါ်ပေါက်လာ၍ ထုံးဟောင်း ပုံပြင်များ၊ သက်ကြီးစကား သက်ငယ် ကြားရသည့် ရှေး ပုံဝတ္ထုတိုများ၊ ဒဏ္ဍာရီပုံပြင်များဖြင့် ပြည့်နေပေ၏။ ယခုခေတ်၌ စကန်ဒီနေးဗီးယန်း စာပေများမှာ ထိပ်တန်းသို့ တိုးတက်နေပြီဟု ဆိုရပေမည်။ စကန်ဒီနေးဗီးယားမှ ကမ္ဘာကျော် စာရေးဆရာကြီးများ အမြောက်အမြား ထွက်ပေါ်နေသည်ကို ကြည့်ခြင်းဖြင့် ထိုတိုင်းပြည်၏ စာပေအခြေအနေကို အကဲခတ်နိုင်လောက်ပေ၏။ ဒိန်းနှင့်နော်ဝေးကပြား ဖြစ်သော ဟောလဗတ် (ခရစ် ၁၆၈၄-၁၇၅၄) မှာ ဥရောပမြောက်ပိုင်းတွင် ထင်ရှားသော ပြဇာတ်ရေးဆရာကြီးဖြစ်၍ ဆွီဒင်လူမျိုး တင်းနေး (ခရစ် ၁၇၈၂-၁၈၄၆)မှာ နာမည်ကျော်ကဗျာဆရာတဦးဖြစ်၏။ ဒိန်းမတ်နိုင်ငံမှ ဟန်းအင်ဒါဆန် (ခရစ် ၁၈၀၅-၁၈၇၅) သည် ပုံပြောကောင်းသူ ဖြစ်၍ သူ၏ဒဏ္ဍာရီပုံပြင်များကို တကမ္ဘာလုံးက နှစ်သက်ကြ၏။ (အင်ဒါဆန်, ဟန်း — ရှု။) ၁၉ ရာစုနောက်ပိုင်း၌ ထင်ရှားကျော်စောသော စကန်ဒီနေးဗီးယား စာရေးဆရာများမှာ နော်ဝေးလူမျိုး ဖြစ်သော ပြဇာတ်ဆရာ ဟင်းနရစ် အစ်ဗဆင်၊ ပြဇာတ်နှင့်ဝတ္ထုရေးဆရာ ဗျန်းဆန်းတို့ဖြစ်၍ နိုဗဲဆုကြီးကို ဆွတ်ခူးသော ဆွီဒင်အမျိုးသမီး ဝတ္ထုရေးဆရာ ဆယ်မာလာဂါလေ့ဗ့်တို့ဖြစ်ကြသည်။ ဝတ္ထုရေးဆရာ ဆစ်ဂရစ်အွန်ဆက်မှာ စကန်ဒီနေးဗီးယန်း လူမျိုးတို့၏ ဘဝကို ဖော်ပြသဖြင့် အလယ်ခေတ်တွင် ထင်ရှားသည်။ (ဆွီဒင်နိုင်ငံ။ နော်ဝေးနိုင်ငံ။ ဒိန်းမတ်နိုင်ငံ — လည်းရှု။)


ဗိန်းအမျိုးသားလူရွယ်တဦး

**စကျင်ကျောက်။** ။ကျွန်ုပ်တို့ ထုံးကျောက်ဟုခေါ်သော ကျောက်နှင့်စကျင်ကျောက်တို့မှာ ဓာတ်သဘောအလိုအားဖြင့် ကယ်လဆီယမ်ကာဗွန်နိတ်များ ဖြစ်ကြသည်။ ကမ္ဘာပေါ်တွင် လူတို့ စတင်မပေါ်ပေါက်မီ နှစ်ပေါင်း သိန်းပေါင်းများစွာက ပင်လယ်များတွင် ဖော်ရာမိနစ်ဖာရာခေါ် အလွန်သေးငယ်သော သတ္တဝါတမျိုးရှိလေသည်။ ဖော်ရာမိနစ်ဖာရာတို့မှာ သတ္တဝါဟုဆိုရငြားသော်လည်း ဦးခေါင်း သို့မဟုတ် ခြေထောက်ဟူ၍ မပါရှိကြချေ။ အလွန်သေးငယ်သော ထေးများနှင့်ဆင်ဆင်တူ၍ အပြင်ဖက်တွင် အခွံဖြင့် ဖုံးအုပ်လျက်ရှိသည်။ ဤသတ္တဝါတို့သည် မရေမတွက်နိုင်လောက်အောင်များပြားလှသည့် အုပ်သင်းများဖွဲ့ကာ ပင်လယ်ရေမျက်နှာပြင်နားတွင် ကပ်လျက် နေထိုင်ကြသည်။ သေဆုံးသောအခါ သတ္တဝါတို့၏အခွံများသည် ရေအောက်တွင် အနည်ထိုင်သွားကြပြီး တဖြည်းဖြည်း စုပုံလျက်ရှိကြလေသည်။ ကာလကြာမြင့်သော် အထက်မှအနည်တို့၏ ဖိအားကြောင့် ထိုအခွံတို့သည် မြေဖြူနှင့် ထုံးကျောက် ဖြစ်သွားကြလေသည်။ ထုံးကျောက်မှတဖန် အလွန်ကြီးမားသော ဖိအားနှင့် အပူရှိန်ကြောင့် အသွင်ပြောင်းလဲ၍ စကျင်ကျောက် ဖြစ်လာကြလေသည်။

စကျင်ကျောက်မှာ အလွန်မာ၍ လှပသောကြောင့် ရှေးအခါကပင် ရုပ်လုံးထု ဆရာတို့သည် ကျောက်ရုပ်လုံးများ ထုလုပ်ရာ၌ ယင်းကို အသုံးပြုခဲ့ကြလေသည်။ ရှေးခေတ်ဂရိရုပ်လုံးထုဆရာများ အသုံးပြုခဲ့သော ပင်တဲလစ် စကျင်ကျောက်ကို အက်တစ်ကာမြို့၌ ရှိသည့် ပင်တဲလစ်ကပ်တောင်မှ ရရှိခဲ့ကြသည်။ ပယ်ရီယန် စကျင်ကျောက်မှာ ပါးရော့ကျွန်းမှရရှိသော စကျင်ကျောက်ဖြစ်သည်။ ထိုစကျင်ကျောက်ကို ဂရိလူမျိုးတို့သည် ကျောက်ရုပ်များနှင့် အဆောက်အအုံများ ဆောက်လုပ်ရန် အမြတ်တနိုးအသုံးပြုခဲ့ကြသည်။ ဗီးနပ် ဒါမဲဒီချီ ကျောက်ရုပ်သည် ပယ်ရီယန် စကျင်ကျောက်ဖြင့် ထုလုပ်ထားသော ကျောက်ရုပ်ဖြစ်သည်။ ယခုခေတ် နာမည်အကျော်ဆုံးရုပ်လုံးထု ဆရာများအသုံးပြုကြသည့် စကျင်ကျောက်မှာ ကာရာရာ စကျင်ကျောက်ဖြစ်သည်။ ဤကျောက်မျိုးဖြင့် မိုက်ကယ်အန်ဂျလိုနှင့် ကားနိုဗာ အမည်ရှိ ကမ္ဘာကျော်ရုပ်လုံးထုဆရာတို့သည် အကောင်းဆုံးလက်ရာကို ထုလုပ်ထားခဲ့ကြလေသည်။


စကျင်ကျောက်သိမ်တိုင်များ

အညစ်အကြေးကင်းစင်သော စကျင်ကျောက်သည် ဖြူဖွေးလျက်နေသည်။ သို့သော် တခါတရံ စကျင်ကျောက်တွင် အခြားဓာတ်ပစ္စည်းများ ရောနှောပါရှိတတ်ရာ ထိုသို့ရောနှောနေသော စကျင်ကျောက်တွင် ပစ္စည်းကို လိုက်၍ အရောင် အမျိုးမျိုး ရှိတတ်သည်။ ဤကျောက်မျိုးတွင် အချို့၌ အရောင်တပြင်တည်း ရှိတတ်၏။ အချို့မှာမူကား အပြောက် ထနေတတ်၏။ အဝါရောင်နှင့် အညိုရောင်ရှိသော မဟူရာ စကျင်ကျောက်သည် အလွန်ထင်ရှားသော အပြောက်ထကျောက်မျိုးဖြစ်သည်။ ထိုမဟူရာကျောက်ကို ကားသေ့နှင့် ရောမနိုင်ငံ ကောင်းစားစဉ်က အဆောက်အအုံများ ဆောက်လုပ်ရာ၌ များစွာ အသုံးပြုခဲ့ကြလေသည်။ ယခုလည်း ပြင်သစ်နိုင်ငံ၌ အမြတ်တနိုးအသုံးပြုလျက်ရှိသေးသည်။ ဤကျောက်တွင်ရှိသော အရောင်မှာ အိုင်းယန်း အောက်ဆိုက်ကြောင့် ဖြစ်သည်။ ကျောက်မီးသွေးရောနှောပါရှိသော စကျင်ကျောက်တွင် အမည်းရောင်ရှိသည်။ ဤကျောက်မျိုးကို ညောင်ရေအိုးများနှင့် မီးဖိုပေါ်တွင် ဆွဲချိတ်ထားရန် အလှပြအထည်များ ပြုလုပ်ရာ၌ သုံးသည်။ ကျောက်တွင်ရှိသော အမည်းရောင်မှာ ဩဂဲနစ်ပစ္စည်းကြောင့်ဖြစ်၍ မီးတိုက်ပေးသောအခါ ပျောက်ကွယ်သွားသည်။ စကျင်ကျောက်ကို အစိမ်းရောင်၊ မရန်းရောင်၊ အပြာရောင်စသော အရောင်များဖြင့်လည်း တွေ့ရတတ်၏။

စကျင်ကျောက် အမြောက်အမြား ထွက်သော နိုင်ငံများမှာ ဣတလီ၊ ပြင်သစ်၊ ဂျာမနီ၊ အင်္ဂလန် နှင့် အမေရိကန်ပြည်ထောင်စုနိုင်ငံတို့ ဖြစ်ကြသည်။ အိန္ဒိယနိုင်ငံ ရာဇပုတ္တနနယ်၌လည်း ထင်ရှားသော ကျောက်ကျင်းများရှိ၍ အာဂရာမြို့၌ ရှိသည့် အလွန်ကျော်ကြားသော တက်ဂျ မဟာသင်္ချိုင်းတော် အဆောက်အအုံကြီးမှာ ထိုကျောက်ကျင်းမှ စကျင်ကျောက်များဖြင့် တည်ဆောက်ထားသည် ဆို၏။ (တက်ဂျမဟာသင်္ချိုင်းတော် — ရှု။)


အမေရိကန်ပြည်ထောင်စုတွင် ကျောက်သားအကောင်းဆုံးထွက်သော ဗျောဂျီးယားပြည်နယ်မှ စကျင်ကျောက်ကျင်း

မြန်မာနိုင်ငံ၌ မန္တလေးမြို့မြောက်ဖက် မိုင် ၂၀ တွင် စကျင်တောင်ဟူ၍ ရှိသည်။ ထိုစကျင်တောင်မှ ကျောက်သည် ကျောက်ရုပ်များထုလုပ်ရန် ကောင်းမွန်သဖြင့် ထိုကျောက်ကိုတူးယူ၍ စစ်ကိုင်း၊ မန္တလေးမြို့များသို့ပို့ပြီးလျှင် ဘုရားရုပ်တုတော်များ၊ သိမ်တိုင်များ၊ ကျောက်စာချပ်များ ထုလုပ်ကြသည်။

စကျင်ကျောက်သည် နှမ်းဖတ်ကျောက်ထက် အပူကိုခံနိုင်ရည်ရှိသောကြောင့် မီးခံအဆောက်အအုံများ ဆောက်လုပ်ရန်အတွက် အထူးသင့်တော်သည်။ သို့သော် မိုးရေထိလျှင်ဖြစ်စေ၊ အက်ဆစ်ဓာတ်ငွေ့ပါရှိသော လေထုနှင့် တွေ့ထိလျှင်ဖြစ်စေ၊ စကျင်ကျောက်၏ မျက်နှာပြင်သည် ကြေမွသွားတတ်သည်။ (နှမ်းဖတ်ကျောက် — လည်းရှု။)

**စကြဝတေးမင်း။** ။စကြဝတေးမင်းမှာ ကျွန်းကြီးလေးကျွန်းနှင့် ကျွန်းငယ် အရံ ၂,၀၀၀ ကို အစိုးရသောမင်းဟု ကျမ်းဂန်များတွင်ဆိုသည်။ ဇမ္ဗူဒိပ်မင်းအပေါင်းက ဝပ်တွားခစားရသော မင်းဖြစ်သည်။

အလိုခပ်သိမ်းကို ပြည့်စေတတ်သော စကြာရတနာ ရှိသဖြင့် စကြဝတေးမင်းဟု ခေါ်သည်။ ယင်းမှ အစွဲပြု၍ အစွမ်း ထက်မြက်သော လှံ၊ ရထား၊ ခြေနင်း စသည်တို့ကို လှံစကြာ၊ ရထားစကြာ၊ ခြေနင်းစကြာ၊ စသည်ဖြင့် အသီးသီးခေါ်သည်။ စကြာမင်းကို မန္ဓာတုစကြာမင်း၊ မန္ဓာတ်မင်းဟုလည်း ခေါ်သည်။ စကြာမင်းတို့သည် ဇမ္ဗူဒိပ်ကျွန်း၌သာ ဖြစ်ပေါ်လေ့ရှိသည်။ ဂေါတမမြတ်စွာဘုရားအလောင်းသည် မဟာသမ္မတမင်းမှ စ၍ နှစ်ကျိပ်ရှစ်ပါးသောမင်းတို့တွင် ခုနစ်ဆက်မြောက် မန္ဓာတ်မင်းဖြစ်ဘူး၍ ကျွန်းငယ် အရံ ၂,၀၀၀ နှင့်တကွ ကျွန်းကြီးလေးကျွန်း၌ စကြဝတေးမင်းစည်းစိမ်ကို ခံစားတော်မူသည်။

စကြာမင်းတို့တွင် ဘုန်းကံ ကြီးမားသည့် အလျောက် ကျောက်မျက်ရတနာ၊ ဆင်ဖြူတော်ရတနာ၊ စကြာရတနာ၊ မိဖုရားရတနာ၊ သဌေးရတနာ၊ မြင်းရတနာ၊ ဆင်ရတနာဟူသောရတနာ ၇ ပါး ပြည့်စုံမြဲဖြစ်သည်။ သို့ရာတွင်စကြဝတေးမင်းပင်ဖြစ်လျက် ပေးကမ်းမှုအလှူဒါနမရှိ၍၊ စကြာရတနာ မရောက်သည်ကို သုတ်မဟာဝါပါဠိတော် ဇက္ကဝတ္တိသုတ်၌ ဟောကြားသည်ကို ထောက်၍ စကြာရတနာ မရောက်သော စကြာမင်းလည်းရှိသေးသည်ဟု သိမှတ်ရာသည်။

စကြာမင်းတို့တွင် အံ့ဖွယ်လေးပါးရှိမြဲဖြစ်သည်။ ယင်းတို့မှာ ဘုန်းပါရမီအလျောက်၊ အလွန်အဆင်းလှ၍ အသံသာယာခြင်း၊ သတ္တဝါတို့၏ ကောင်းကျိုးကို ဆောင်ရွက်တတ်ခြင်း၊ ကောင်းကင်ခရီးဖြင့် သွားတတ်ခြင်း၊ တရားနှင့်အညီ စိုးစံခြင်း ဟူလေသည်။ ယင်းဂုဏ်များကြောင့် အခြားသောမင်းတို့သည်ရင်း၊ ပုဏ္ဏားပရိသတ်တို့သည်ရင်း၊ သူကြွယ်ပရိသတ် တို့သည်ရင်း၊ ရသေ့ရဟန်း ပရိသတ် တို့သည်ရင်း အဆင်းကိုရှု၍မဝ၊ အသံကိုကြား၍မဝ၊ တရားစကားနှိုးနှော၍ မဝအောင် ဖြစ်ရသည်။

စကြာရတနာတန်ခိုးကြောင့် အခြားသောမင်းများ မတုပြိုင်နိုင်သော တဦးတည်း အရှင်သခင်ဖြစ်သည်။ ဂေါတမမြတ်စွာဘုရားအလောင်း သိဒ္ဓတ္ထမင်းသား ဖွားသည်တွင် လက္ခဏာဖတ်ပုဏ္ဏားတို့က မင်းသားငယ်သည် ဘုရားသော်ရင်း၊ စကြဝတေးမင်းသော်ရင်း ဖြစ်ရမည်ဟု ဗေဒင် ဟောကြားသည်ကို ထောက်၍ ဘုန်းကံ အလွန်ကြီးမားလွန်းမှ စကြဝတေးမင်းဖြစ်နိုင်ကြောင်းကို သိရသည်။ ရှေးစာပေဟောင်းတို့တွင်

အိုင်ဆဒ္ဒန်မှ၊ နတ်ဖန်ဆောင်သ၊ နေလတာဆူ၊ ကြေကျတူသို့၊ လေးဆူကျွန်းကြီး၊ ရံသီးပတ်ဝန်း၊ ကျွန်းငယ်နှစ်ထောင်၊ ကုန်အောင်ရစ်ခွေ၊ မြင်းမိုရ်ခြေတွင်၊ ရေပင်လယ်ဝိုက်၊ စက်နယ်တိုက်ကို၊ စိတ်လိုက်လိုပါ၊ လှည့်နိုင်စွာသော၊ စကြာမန္ဓာတ်၊ ဥက္ကဋ်ရွှေဘုန်း၊ လူမင်းဆုံးတို့၊ (မန်လည်ဆရာတော်)

မဟာနာဂိန်၊ ဂဇာသိရ်နှင့်၊ အရိန္ဒမာ၊ စကြာရွှေလှံ၊ မြင်းပျံအဿ၊ ဇာနေယျတို့၏သခင်၊ ဘုရင်မင်းမြတ်၊ သမုနတ်ဖြစ်တော်မူသဖြင့်၊ ရာဆူမကိုဋ်၊ သောင်းတိုက်ခွဲပါ၊ မဏ္ဍလာဝယ်၊ နှံပဏ္ဏာဆက်သွင်းလျက်၊ အာမင်းမင်းတို့၏ဦးညွတ်ရာ၊ စကြာမန္ဓာတ်၊ (ဆတိုင်မှတ်ဦးကူး) စသည်ဖြင့် ဖွဲ့ဆိုရေးသားကြသည်။

# နက်နဲလှစွာစကြာဝဠာ

စကြာဝဠာ၏တည်နေပုံသည် လူ့သမိုင်းစဉ်တလျှောက်၊ ယခုတိုင်ဖြေရှင်းမရသေးသော ပြဿနာတရပ်ဖြစ်သည်။ ဤဆောင်းပါးတွင်၊ နက္ခတ္တဗေဒ ပါရဂူများ၏ သိပ္ပံနည်းအရ ခေတ်မှီစွာ ဆန်းစစ် ရှာမှီးထားသော စကြာဝဠာ အကြောင်းသာမက၊ မြန်မာတို့၏ အစဉ်အလာအားဖြင့် စကြာဝဠာနှင့်စပ်လျဉ်း၍ ယူဆယုံကြည်ချက်များကို တင်ပြထားသည်။

**စကြာဝဠာ။** ။နက္ခတ္တဗေဒအရ ကျွန်ုပ်တို့၏ပတ်ဝန်းကျင်မှ အလွန် ဝေးကွာသည့် ကြယ်များအထိ အရာခပ်သိမ်းတို့သည် စကြာဝဠာတွင် အပါအဝင်ဖြစ်သည်။ (နက္ခတ္တဗေဒ — ရှု။) လူ၏သမိုင်းအစဉ်တလျှောက်တွင် စကြာဝဠာနှင့်စပ်လျဉ်းသော ယူဆချက် တို့သည် အစဉ် ပြောင်းလဲလျက်ရှိသည်။ ရှေးလူများသိသော စကြာဝဠာသည် သူတို့နေထိုင်သွားလာနေသော ကမ္ဘာ့အစိတ်အပိုင်း၊ သူတို့ကြားဘူးသည့် ကမ္ဘာ့အစိတ်အပိုင်းမျှသာဖြစ်သည်။ ယင်းအစိတ်အပိုင်းတို့ကို ကြည့်၍ ဆင်ခြင်သုံးသပ်ရာ၌ ရှေးသူဟောင်းအချို့တို့သည် ကောင်းကင်၌ မြင်ရသော ကြယ်များကား ကမ္ဘာမြေကြီးမှ ကောင်းကင်သို့ ဘုန်းသမ္ဘာရှင်တို့က ယူဆောင်သွားသော လူနှင့်တိရစ္ဆာန်တို့၏ ခန္ဓာကိုယ်များ ဖြစ်သည်ဟု အယူရှိကြသည်။ နေနှင့်လတို့ကိုမူ နတ်များဖြစ်သည်ဟု ယူဆကြလေသည်။

ရှေးလူများ သည် စကြာဝဠာ အကြောင်းကို သူတို့သိသမျှ အမျိုးမျိုး ရှင်းလင်းဖော်ပြခဲ့ကြသည်။ ဤသို့ဖော်ပြကြရာမှ ပုံဝတ္ထုအမြောက်အမြား ထွက်ပေါ်ခဲ့လေသည်။ ရှေး သိုးဆောင်း နိုင်ငံများတွင် အချို့က စကြာဝဠာသည် ကုန်းလိပ်ကြီး၏ကျောပေါ်၌ ဟန်လျက် တည်ရှိနေသည်ဟု ယုံကြည်ကြသည်။ ဂရိလူမျိုးတို့က ကမ္ဘာကို အက်တလတ်



ဤပုံပါကလေးငယ်နှစ်ဦးကဲ့သို့ စကြာဝဠာ၏တည်နေပုံကိုကြည့်ခွင့်ရပါလျှင် ဤသို့တွေ့မြင်ရပေမည်။ ပုံတွင် အလယ်ဗဟိုရှိနေကို ဂြိုဟ်တို့သည် လျှင်မြန်သောအဟုန်ဖြင့်လှည့်ပတ်နေကြသည်။ နေနှင့်အနီးဆုံးဂြိုဟ်ငယ်ကလေးမှာ မာကျူရီခေါ် ဗုဒ္ဓဟူးဂြိုဟ်ဖြစ်၏။ ယင်းဂြိုဟ်သည် နေကို ၈၈ ရက်တွင် တပတ်ပတ်မိသည်။ မာကျူရီဂြိုဟ်လမ်းအပြင်ဖက်တွင် ဗီးနပ်ဂြိုဟ်လမ်းရှိသည်။ ယင်းဂြိုဟ်သည် နေကို ၇ လနှင့်ရက်အနည်းငယ်ကျော်လွန်မှသာလျှင် တပတ်ပတ်မိသည်။ ဗီးနပ်ဂြိုဟ်လမ်းအပြင်ဖက်တွင် ကျွန်ုပ်တို့၏ကမ္ဘာဂြိုဟ်ကိုမြင်နိုင်သည်။ ကမ္ဘာနှင့်ကပ်လျက်ရှိသော အဖြူဝန်းကလေးမှာ လ ဖြစ်သည်။ ကမ္ဘာဂြိုဟ်လမ်းအပြင်ဖက်တွင် မားခေါ် အင်္ဂါဂြိုဟ်လမ်းရှိသည်။ မားဂြိုဟ်ကို လ ၂ ခုရံလျက်ရှိသည်။ နက္ခတ္တဗေဒပညာရှင်များ၏အဆိုအရ ယင်းဂြိုဟ်၏မျက်နှာပြင်တွင် တူးမြောင်းများယှက်သန်းလျက်ရှိသည်။ မားဂြိုဟ်လမ်း၏အပြင်ဖက်တွင် ဂြိုဟ်သိမ်ဂြိုဟ်မွှားတစု၏လမ်းကြောင်းရှိသည်။ ယင်းတို့ကား အကြောင်းတစုံတရာကြောင့် ကြေကွဲပျက်စီးသွားသောဂြိုဟ်တခုမှ ကြွင်းကျန်ရစ်သည့်အစိတ်အပိုင်းများဖြစ်မည်ဟု ယူဆကြသည်။ ထို့နောက် ဂြိုဟ်များအနက်အကြီးဆုံးဖြစ်သည့်ဂျူပီတာခေါ် ကြာသပတေးဂြိုဟ်ကို လ ၉ ခုခြံရံလျက်တွေ့မြင်နိုင်ပေသည်။ ဂျူပီတာအောက် ဒုတိယအကြီးဆုံးဂြိုဟ်ကား ဆက်တန် ခေါ် စနေဂြိုဟ်ဖြစ်သည်။ ယင်းဂြိုဟ်၏ပတ်လည်တွင် ခါးပတ်ကဲ့သို့ကွင်းများ ဝန်းရံ၍ပတ်ထားသည်။ ဂျူပီတာကဲ့သို့ပင် လ ၉ ခုခြံရံလျက်ရှိသည်။ သို့သော် ထိုလများနှင့်ကွင်းများကို အဝေးကြည့်မှန်ပြောင်းဖြင့်ကြည့်မှသာမြင်နိုင်သည်။ ဆက်တန် ဂြိုဟ်အောက်တွင် အကြီးဆုံးဂြိုဟ်မှာ လ ၄ ခုခြံရံလျက်ရှိသော ယူရေးနပ်ဂြိုဟ်ဖြစ်သည်။ ထို့နောက် လ ၁ ခုသာရှိသော နက်ပကျွန်းဂြိုဟ်ကိုတွေ့ရသည်။ နေမှအဝေးဆုံးအရပ်တွင် ပလူတိုဂြိုဟ်ရှိသည်။

ဆိုသည့် နတ်က ပခုံးပေါ်၌တင်ထားသည်ဟု ယုံကြည်ကြသည်။ ရှေးလူတို့သည် များသောအားဖြင့် စကြာဝဠာဗဟို၌ ကမ္ဘာမြေတည်ရှိသည်ဟု ထင်မှတ်ကြသည်။ နေ၊ လ၊ ကြယ်တို့သည် ကမ္ဘာကို လှည့်ပတ်၍ သွားကြသည်ဟု ယုံကြည်ကြသည်။ အချို့က ကမ္ဘာမြေကြီးပြားသည်ဟု ယုံကြည်ကြ၍ အရှေ့၊ အနောက်၊ တောင်၊ မြောက်ဖက်သို့ ခရီးဝေးဝေး သွားလျှင် ကမ္ဘာအစွန်းမှ လိမ့်ကျလိမ့်မည်ဟု ယုံကြည်ကြလေသည်။

လူများသည် တဖြည်းဖြည်း စကြာဝဠာ အကြောင်းကို ပို၍နားလည်လာကြ၏။ ခရစ် ၁၄၀၀ နှင့် ၁၅၀၀ ပြည့်နှစ်များအတွင်း၌ အနောက်နိုင်ငံသားတို့သည် နယ်သစ်များကို ရှာဖွေ တွေ့ရှိခဲ့ကြခြင်းကြောင့် လူတို့သည် ကမ္ဘာမြေကြီး၏ သာမန်ပုံသဏ္ဌာန်ကို သိရှိလာကြသည်။ နက္ခတ္တဗေဒပါရဂူများဖြစ်ကြသော ကော့ပါးနီကပ်၊ ပိုက်သက်ဂိုးရပ်၊ ဂယ်လီလေအို၊ ကက်ပလာ၊ နျူတန်တို့၏ သိမှုတွေ့မှုများကြောင့် ကမ္ဘာမြေကြီးသည် စကြာဝဠာ၏ဗဟို၌မရှိကြောင်းကို နားလည်လာကြသည်။ (ကော့ပါးနီကပ်, အင်။ ပိုက်သက်ဂိုးရပ်။ ဂယ်လီလေအို။ ကက်ပလာ, ဂျေ။ နျူတန်, ဆာအိုင်ဇက် – ရှု။) ကမ္ဘာမြေကြီးသည် မြောက်မြားစွာသော ဂြိုဟ်များ အနက် တခုမျှသာဖြစ်၍ ထိုဂြိုဟ်များအားလုံးက နေကိုလှည့်ပတ်လျက် သွားလာနေကြောင်းကိုပါ သိလာကြသည်။ ထိုပြင် နေသည် နဂါးငွေ့ အတွင်းရှိ အသိန်းအသန်းပေါင်းများစွာသောကြယ်တို့အနက် အလယ်အလတ်တန်းစား ကြယ်တလုံးမျှသာဖြစ်ကြောင်းကိုလည်း သိလာကြသည်။ (နေ။ ကြယ် — ရှု။)

မျက်မှောက်ခေတ် နက္ခတ္တဗေဒပညာရှင်များသည် စကြာ

ဝဠာကို ပိုရှုနက်နဲစွာကြံဆကြသည်။ စကြာဝဠာတွင် ကြယ်တို့သည် အခရာဖြစ်ကြောင်း သူတို့သိရှိကြသည်။ ကြယ်များစုပြုံလျက်ရှိရာဖြစ်သော နဂါးငွေ့အတွင်း၌ ကျွန်ုပ်တို့ကမ္ဘာမြေရှိသည်။ နဂါးငွေ့အတွင်း၌ ကြယ်အများအပြားရှိသကဲ့သို့ စကြာဝဠာ အတွင်း၌လည်း နဂါးငွေ့ အများအပြားရှိသည်ကို နက္ခတ္တဗေဒပညာရှင်များ ယခုအခါသိလာကြပေပြီ။ ထိုနဂါးငွေ့များအားလုံး စုပေါင်း၍ဖြစ်သော စကြာဝဠာကြီး၏ အရွယ်ပမာဏကို တိုင်းတာသောအခါ အလင်းနှစ် အသန်းအထောင်နှင့် တိုင်း တာ ရပေသည်။ အလင်းနှစ်ဆိုသည်မှာ တနှစ်အတွင်း အလင်းသွားသည့်ခရီးကိုဆိုလိုသည်။ အလင်းသည် တစက္ကန့်၌မိုင်ပေါင်း ၁၈၆,၀၀၀ သွားသည်။ အလင်းနှစ် တနှစ်သည် မိုင်ပေါင်း ခြောက်တြီလယန်နှင့် ညီမျှသည်။ တတြီလယန်သည် အင်္ဂလိပ်စံနစ်အရ တစ်နောက် သုညဆယ့်ရှစ်လုံးပါသည်။

အမေရိကန်နိုင်ငံ၊ မောင့်ဝီလဆန် နက္ခတ်မျှော်စင်၌ အချင်းလက်မ ၁၀၀ ရှိသော အဝေးကြည့်မှန်ပြောင်းကြီး တခု ရှိသည်။ ထိုမှန်ပြောင်းကြီးဖြင့် အလင်း နှစ်ပေါင်း ၅၀၀,၀၀၀,၀၀၀ ၌ရှိသောကြယ်များကို ဓာတ်ပုံရိုက်ကူးယူနိုင်ပေပြီ။ ထိုထက်ပို၍အားကောင်းသည့် အချင်းလက်မ ၂၀၀ ရှိမှန်ပြောင်းကြီးကို မောင့်ပလိုမာ၌ တပ်ဆင်ပြီးသောအခါတွင် ထိုအကွာအဝေးထက် နှစ်ဆမျှတိုး၍မြင်နိုင်ပေလိမ့်မည်။ သို့သော် ထိုမှန်ပြောင်းကြီးနှင့်ပင် ကြည့်စေကာမူ နဂါးငွေ့အားလုံးသည် သေးငယ်ပြီး မှေးမှိန်လျက်ပင်ရှိပေဦးမည်ဟု ဆိုလေသည်။

ကျွန်ုပ်တို့စကြာဝဠာ မည်မျှကြီးမားသည်ကို မည်သူမျှ အမှန်အကန် မသိချေ။ အိုင်းစတိုင်း၏ ရယ်လတစ်ဗတီသီအိုရီအရမှာ စကြာဝဠာကြီး၌ တိကျသည့်အရွယ်ရှိသည်ဟုဆိုသည်။ (အိုင်းစတိုင်း, အဲလဗတ် — ရှု။) သို့သော် ကျွန်ုပ်တို့သည် စကြာဝဠာ၏ နယ်နိမိတ်အကန့်အသတ်ကို မမြင်နိုင်ကြချေ။ အဘယ်ကြောင့်ဆိုသော် အာကာသသည် ခုံးလျက်ရှိပြီး ကမ္ဘာမြေကြီး၏မျက်နှာပြင်မှာကဲ့သို့ တိကျသောနယ်နိမိတ်များ မရှိခြင်းကြောင့် ဖြစ်သည်။ သို့ဖြစ်၍ ကြယ်တလုံးမှ အလင်းရောင်ခြည်သည် အာကာသအတွင်းသို့ ရောက်သွားပြီး ပျောက်သည်ဟူ၍ မရှိပေ။ ပမာအားဖြင့်၊ ကမ္ဘာမြေကြီးပေါ်တွင် တနေရာမှစ၍ ခရီးထွက်လျှင် နောက်ဆုံး၌ ကမ္ဘာကိုပတ်ကာ ထိုနေရာသို့သာပြန်၍ ရောက်လာသကဲ့သို့ ဖြစ်သည်။

ကျွန်ုပ်တို့၏စကြာဝဠာသည် အချိန်ရှိသ၍ ကျယ်ပြန့်ကြီးထွားလျက်ရှိသည်ဟုလည်း အိုင်းစတိုင်း က ဆိုသေးသည်။ ဝေးကွာသည့်နဂါးငွေ့များသည် နေမှ လျှင်မြန်စွာခွာလျက်ရှိပုံရသည်။ အဝေးဆုံးရှိနဂါးငွေ့များသည် အမြန်ဆုံးခွာလျက်ရှိပုံရသည်။ ထို့ကြောင့် ဤစကြာဝဠာကြီးသည် လေစည်ဖောင်းပြန့်ကားသကဲ့သို့ ပြန့်ကားလျက်ရှိပုံရသည်။ အချို့နက္ခတ္တဗေဒဆရာများကမူ စကြာဝဠာ ကျယ်ပြန့်သည်ထက် ပြန့်လျက်ရှိသည် ဆိုသော ယူဆချက်များကို မယုံကြည်ကြချေ။ သူတို့သည် နဂါးငွေ့များ နေမှခွာ၍ ရွေ့ရှားပုံရကြောင်းကို ရှင်းလင်းနိုင်သော နိယမကို ကြံဆလျက်ရှိကြသည်။

စကြာဝဠာနှင့် စပ်လျဉ်း၍ မြန်မာတို့၏ ရှေးအယူအဆများကိုလည်း ဖော်ပြရပေမည်။ ထိုအယူအဆများမှာ ရှေးဟိန္ဒူကျမ်းများမှ အဆင့်ဆင့် ဆင်းသက်လာသော အယူအဆများဖြစ်သည်။ သို့သော် ထိုအယူအဆများသည် ဗုဒ္ဓအယူဝါဒဆိုင်ရာ ကျမ်းဂန်များနှင့် ဆက်စပ်အကျုံးဝင်လျက်ရှိသည်ဟု အချို့ကယူဆကြ၏။ မြန်မာစာပေ အစဉ်အလာတလျှောက်တွင်လည်း အောက်၌ဖော်ပြအံ့သော အယူအဆများကို လက်ခံကိုးကားမှီငြမ်းပြု၍ ပျို့၊ ကဗျာ၊ လင်္ကာ၊ ရတုစသည်တို့ကို ရေးသားခဲ့ကြ၏။ မြန်မာတို့ရေးခဲ့သည့် ရာဇဝင်တော်ကြီးများ၌လည်း ကမ္ဘာတည်ဟန်နှင့် ကမ္ဘာဦးလူတို့အကြောင်းမှချီ၍ ရေးသားဖော်ပြလေ့ရှိရာ စကြာဝဠာတည်ပုံ၊ ပျက်ပုံ စသည်ကို ထည့်သွင်းဖော်ပြကြ၏။ စကြာဝဠာနှင့် စပ်လျဉ်း၍၊ စစ်ကဲတော်ကြီး ဦးရွှေနော် ပြုစုခဲ့သောအာဒိကပ္ပ ကမ္ဘာဦးကျမ်းသည် အကိုးကား ခံရဆုံး၊ အပြည့်စုံဆုံး ကျမ်း ဖြစ် ပေသည်။ (အာဒိကပ္ပကမ္ဘာဦးကျမ်း—ရှု။)

စကြာဝဠာဟူသည် ဩကာသလောကတွင် အပါအဝင်ဖြစ်သော ရေမြေတောတောင် အနေအထားအဖွဲ့အစည်းကို ပိုင်းခြား၍ ယေဘုယျအားဖြင့် ခေါ်ဝေါ်သော ဝေါဟာရဖြစ်၏။ မြင့်မိုရ်တောင်ကိုဗဟိုပြု၍ ဝန်းရံလျက်ရှိသော ကျွန်းကြီးလေးကျွန်းနှင့် အရံကျွန်းငယ်နှစ်ထောင်ကို နေဝန်းစင်း၊ လတစင်းက အလှည့်ကျအလင်းရောင်ပေးလျက်ရှိ၏။ ထိုသို့ နေတစင်း၊ လတစင်းနှင့်အတူတကွ၊ လေးကျွန်းတမြင့်မိုရ်အစုအဝေးကို စကြာဝဠာဟုခေါ်သည်။ စကြာဝဠာများသည် မရေတွက်နိုင်လောက်အောင် မြောက်မြားစွာ တည်ရှိ၏။ တထောင်သော စကြာဝဠာအစုကို စူဠလောကဓာတ်ဟုခေါ်၏။ ထိုအစုဆယ်စု (၁ဝ) စကြာဝဠာတသောင်းကို၊ မဇ္ဈိမလောကဓာတ်ဟု ခေါ်၏။ စကြာဝဠာများသည် အမြဲတည်နေသည်မဟုတ်ပေ။ ဖြစ်ပေါ်လိုက် ပျက်စီးလိုက်ရှိ၏။ အတူတကွ ဖြစ်ဖော်ဖြစ်ဖက်၊ ပျက်ဖော်ပျက်ဖက်ဖြစ်ကုန်သော စကြာဝဠာ ကုဋေတသိန်းစုကို မဟာလောကဓာတ်ဟုခေါ်၏။ ထိုထက်များပြား၍ ရေတွက်ခြင်းငှာမဆုံးနိုင်သော စကြာဝဠာအစုကိုမူကား အနန္တလောကဓာတ်ဟုခေါ်၏။ ယခု ကျွန်ုပ်တို့ မှီတင်းနေထိုင်သော စကြာဝဠာကား မဇ္ဈိမ လောကဓာတ်ဟု ခေါ်သော စကြာဝဠာတသောင်းစု၏ အလယ်ဗဟို၌ တည်ရှိ၏။ စကြာဝဠာတခု

လုံးကို အစိုးရသော မင်းကို စကြဝတေးမင်းဟု ခေါ်၏။ (စကြဝတေးမင်း — ရှု။)

ကမ္ဘာတည်ပြီးနောက်၊ ဗြဟ္မာတို့သည် ဗြဟ္မာပြည်မှစ တေ၍ လူ့ပြည်၌ ဥပပါတ်ကိုယ်ထင် ဖြစ်လာ၏။ ထိုနောက် သူတို့၏ဘုန်းကံမမှတာကြောင့် နေ လ ပေါ်လာ၏။ ဤသို့ ပေါ်သောနေ့၌ပင်လျှင် မြင့်မိုရ်၊ သတ္တရဘန်၊ သီတာ၊ သမုဒ္ဒရာလေးစင်း၊ ကျွန်းကြီးလေးကျွန်း၊ ကျွန်းငယ်နှစ်ထောင်၊ ဟိမဝန္တာတော၊ မြစ်ကြီး၊ အိုင်ကြီးနှင့် စကြာဝဠာတောင်သည် ပေါ်လာ၏။ ထိုစကြာဝဠာတောင်သည် မြင့်မိုရ်၊ သတ္တရဘန်၊ သမုဒ္ဒရာလေးစင်း၊ ကျွန်းကြီး လေးကျွန်း စသည်ကို ပတ်ပတ်လည် တံတိုင်းကြီးသဖွယ် ဝန်းရံထား၏။ ရေမှပေါ် ထွက်လာသော ဤစကြာဝဠာတောင်ကြီးကို အစွဲပြု၍ လေးကျွန်းတမြင့်မိုရ် အစုအဝေးကို စကြာဝဠာဟု ခေါ်ဝေါ်၏။

စကြာဝဠာတောင်၏ အမြင့်ကား၊ ရေပေါ်၌ ယူဇနာ ရှစ်သောင်းနှစ်ထောင် ရှိ၏။ ရေအောက်သို့လည်း ဇောတ ပထဝီအထိ ယူဇနာ ရှစ်သောင်း နှစ်ထောင်ရှိ၏။ ဇောတ ပထဝီကိုလွန်လျက် သိလာပထဝီအထိ ယူဇနာ ခုနစ်သောင်း ရှစ်ထောင် ထပ်မံ၍ အောက်သို့နက်လျက်တည်ရှိ၏။ စကြာဝဠာတောင်သည် သိလာပထဝီပေါ်တွင် အခြေစိုက်လျက် ရှိ၏။ သိလာပထဝီ၏ နိမိတ်အဝန်းသည် စကြာဝဠာ တောင်ပင်ဖြစ်၏။ သိလာပထဝီမျက်နှာပြင်မှ စကြာဝဠာ တောင်ထွတ်အထိ ယူဇနာပေါင်း နှစ်သိန်း လေးသောင်းနှစ် ထောင်ရှိ၏။ စကြာဝဠာတောင်အထွတ်များတို့သည် ကျေး နှုတ်သီးကဲ့သို့ အတွင်းသို့ ကွေးညွတ်ယောင်ယောင်ရှိ၏။

စကြာဝဠာတောင်နှင့် စကြာဝဠာအပါအဝင်၊ ကမ္ဘာကြီး ပျက်ပုံ တည်ပုံကို မည်သို့ သိရှိရသနည်း ဟူမူ၊ လောကဘိန ဝိဒ္ဓရသေ့သည်၊ စကြာဝဠာတံတိုင်းမှ ဆင်မြင်းအရွယ်ပမာ ဏရှိသော အက္ခရာများကို ဖန်ပုရပိုက်ပုလဲကညစ်တို့ဖြင့် ရေး ကူးခဲ့၍ ရသေ့အဆင့်ဆင့်တို့ ရေးသားဟောခဲ့သည်မှ သိရ သည်။ ထိုလောကဘိနဝိဒ္ဓရသေ့သည် ပဌမ မဟာသမ္မတ မင်း၏ တူဖြစ်၏။ မဟာသမ္မတ မင်းသည် စကြာဝဠာ တောင်ခြေ၌ရှိသော ဓမ္မသတ်ကျမ်းဂန်များကို ရေးကူးစေ၍၊ ထိုကျမ်းဂန်များနှင့်အညီ တရား ဆုံးဖြတ်စီရင်တော်မူ၏ဟု ဆိုလေသည်။

**စကြိုသူမြတ်။** ။အင်းဝခေတ် ဘုရင်မင်းခေါင်လက်ထက် သက္ကရာဇ် ၇၆၆ ခုနှစ်တွင် မွန်ဘုရင် ရာဇာဓိရာဇ် ပဌမ အကြိမ် ချီတက်တိုက်ခိုက်လာရာ စကြိုသူမြတ်သည် နှစ်ဦး နှစ်ဖက်မှ ဓားမကျိုး လှံမကျိုးရဘဲ ပြေငြိမ်းမှု ရစေရန် ဆောင်ရွက်ပေးသောကြောင့် မြန်မာနိုင်ငံသမိုင်းတွင် ထင် ရှားသည့် ရဟန်းတော်တပါးဖြစ်သည်။ ထိုရဟန်းတော် အား သမိုင်းစာအုပ်များ၌ ပင်းယစကြိုသူမြတ် ဟူ၍၎င်း၊ ပင်းယစကြိုသူမြတ် ဟူ၍၎င်း၊ ပင်းယသူကြိုဟူ၍၎င်း အမျိုး မျိုး ခေါ်ဝေါ် ရေးသားကြသည်ကို တွေ့ရသည်။

စကြိုသူမြတ်၏ ဘွဲ့တော်မှာ ရှင်ဇောတယန္တ ဖြစ်၏။ စလေမြို့ အရှင်မဟာယသ၏ တပည့်ဖြစ်၍ ရှင်ပင်စွယ်ကို ကျောင်းတိုက်တွင် သီတင်းသုံးသည်။ မင်းကြီးစွာစော်ကဲ လက်ထက်တွင် မြို့လုစားပင်ခဲ့သဖြင့် အင်းဝသို့ ရောက်လာ ၏။ အင်းဝသို့ရောက်လျှင် မြို့လုစားကို အပ်သဖြင့် ဆရာ ပြုရသည်။ သက္ကရာဇ် ၇၆၆ ခုနှစ်တွင် ဘုရင်မင်းခေါင်လက် ထက် မွန်ဘုရင် ရာဇာဓိရာဇ်သည် လှေကြီးလှေငယ် လေး ထောင်၊ ဗိုလ် တသိန်း ခြောက်သောင်းဖြင့် ရေကြောင်း ဆန်လာ၍ စစ်ကိုင်းမြို့ ရေဝန်းတွင် တပ်ချ၍ နေသည်။ (ရာဇာဓိရာဇ် — ရှု။) ဘုရင်မင်းခေါင်လည်း ဆရာတော် ရဟန်းသံဃာမှစ၍ မှူးကြီး မတ်ခိုင် အပေါင်းတို့ကို ပင့်ခေါ် ၍ မည်သို့ပြုရမည်ကို တိုင်ပင်တော်မူသည်။ မည်သည့်ဆရာ တော်သံဃာတော်၊ မှူးမတ် ကြီးငယ်မှ မည်သို့မျှ မလျှောက် ဆိတ်ဆိတ်နေကြကုန်၏။ ထိုအခါ အသက်သုံးဆယ့်တနှစ်၊ ဝါတော် တဆယ့်နှစ်ဝါ ရှိသော စကြိုသူမြတ်သည် ဘုန်း တော်ကြီးများ နောက်ကနေ၍ ဤသို့ဆို၏။ ‘သခင်သခင် များသည် တရားမင်းမြတ် အလှူတော်ခံ၍ သုံးဆောင် တော်မူသည်။ ပြည်ရေးရွာမှု အရေးကြီး၍ တိုင်ပင်တော် မူသည်ကို တဦးသော သခင်မှ သို့သင့်မည်၊ သို့မသင့်ဟု ဆို တော်မမူကုန်၊ မှူးမတ်များ လည်း တယောက်မျှ မလျှောက် ကြပါကုန်၊ မွန်မင်း အရံကိုဖြတ်၍ ပြန်လေအောင် အကြံကို မကြံကြပါကုန်၊ တိတ်တိတ်သာနေကြ၍ သင့်မည်လော’ ဟု ဆိုသည်။ ထိုစကားကိုကြားလျှင် သံဃာကြီးတို့က ‘သူ တော်မှတပါး မွန်မင်းခွာလေအောင် ကြံနိုင်မည့်သူမရှိ’ ဟု ပြက်ရယ်ပြုလျက် ဆိုကြကုန်သည်။ စကြိုသူမြတ်သည်ပြုံး၍ ဝန်ခံပြီးလျှင် ‘မွန်မင်း ရာဇာဓိရာဇ်ကိုသာ မဆိုနှင့်ဦး၊ ဇမ္ဗူ ဒိပ်မြေပြင်ဝယ်ရှိသော မင်းအပေါင်းတို့ လာရောက်သော် လည်း နှုတ်ရေးဖြင့် ပြန်လေအောင် ငါစွမ်းနိုင်၏’ ဟုဆို၏။ ဘုရင်မင်းခေါင်လည်း အားရတော်မူသဖြင့် ဆောင်ရွက်ရန် တောင်းပန်တော်မူသည်။

ထိုအခါ စကြိုသူမြတ်သည် ရာဇာဓိရာဇ်ထံသို့ မေတ္တာစာ ဆက်လေသည်။ ထိုမေတ္တာစာကား ‘စကြိုသူမြတ် နေ့ည၌ မပြတ်၊ မေတ္တာရည်ညွှန်း ပို့သွန်းအပ်သော သာသနဒါယ ကာ ဖြစ်တော်မူသော ဆင်ဖြူသခင် မဟာဓမ္မရာဇ်မင်းမြတ်၊ ငါသည် အသက်သုံးဆယ့်တစ်၊ ပဥ္စင်းဝါ တဆဲ့နှစ်ဝါရှိပြီး၊ နေ့ ည၌မပြတ် ပရိယတ္တိ၊ ပဋိပတ္တိ ကို ဖြည့်သည့် ကုသိုလ်အကျိုး ကိုခံတော်မူပါ။ သာသနဒါယကာ တရားမင်းမြတ် မျက်နှာ တော်ကို မြင်ချင်၍၊ ဟံသာဝတီ ရွှေမြို့တော်တိုင်အောင် စုန် ရောက်ပါမည် အကြံရှိသည်လည်း၊ လှေတက် လုပ်ဆောင် သည် မပြီးသေးသောကြောင့် မရောက်ဘဲ ရှိရလေသည်။

မဟာဓမ္မရာဇ် မင်းမြတ်သည် သာသနာတော်မြတ် စီးပွားကို ရှက်ဆောင်တော်မူသောမင်း ဖြစ်တော်မူသည်။ မျက်နှာတော်ကိုမြင်၍၊ သုစရိုက်၊ ဒုစရိုက်၊ ကုသိုလ် အကုသိုလ် နှင့် ယှဉ်သော စကားကို မပြောဟောရဘဲ၊ အနိစ္စရောက်လေသော်လည်း၊ ဒုဂ္ဂတိသို့သာ လားရာလေသည်။ မျက်နှာတော်ကိုမြင်၍ ဒါနကထာ၊ သီလကထာ အစရှိသော စကားတို့ကို ပြောဟောရမှ သေရခြင်းသည်ကား ကောင်းသော သုဂတိဘဝကို ရလေရာသည် ' ဟူသတည်း။

ရာဇာဓိရာဇ်လည်း နေပြည်တော်မှ အင်းဝသို့ ဆန်တက်လာရာ ရဟန်းတပါးကိုမျှ မမြင်ရ။ ယခု ရဟန်းတော်က တွေ့မြင်လို၍ မေတ္တာစာဆက်သည်ကို မမြင်လိုဟု ဆိုချေသော်၊ ရတနာသုံးပါးတွင် တပါးကို မျက်နှာလွှဲသည်ဟုကဲ့ရဲ့ရာဖြစ်မည်ဟု ကြံလျက်၊ စကြို့သူမြတ်အား ကွမ်းဖိတ်လျှုတော်မူ၏။ စကြို့သူမြတ်လည်း ကွမ်းဖိတ်ရလျှင်၊ ဘုရင်မင်းခေါင် အား လက်ဆောင် များ စီရင်စေသည်။ ထိုလက်ဆောင်များကို သီတင်းသည်နှင့် လူအိုတို့အား ဆောင်ယူစေလျက်၊ ဟိုင်းဆင်ကိုစီး၍ ထွက်တော်မူ၏။ ရာဇာဓိရာဇ်က ရွှေလောင်းဖြင့်ကူး၍ ခံလာရ၏။ ရာဇာဓိရာဇ်နေသော ရွှေဖောင်သို့ ရောက်ကာလ လက်ဆောင်များကို ပေးဆက်ပြီး၊ ခင်းထားအပ်သောနေရာ၌ နေပြီးသော် 'တလိုင်းပြည်ကသည် ပုဂံအဝ ရေမြေမြင့်သည်ကို လှေလှော်တက်ခတ်တို့ ပင်ပန်းမျှ ဆန်တော်မူလာသည်ကား အဘယ် အလိုတော်ရှိ၍ ဆန်တော်မူသနည်း ' ဟု မေးတော်မူသည်။ ရာဇာဓိရာဇ်က အထူးထူးသောအရပ်ကို ကြည့်ရှုလိုခြင်း၊ လက်နက်နိုင်ငံ ချဲ့ထွင်လိုခြင်း၊ ဘုန်းလက်ရုံးခွန်အားကို ပြလိုခြင်း၊ ပုဂံပြည် အင်းဝပြည်တို့တွင် ဘုရား ပုထိုး စေတီတို့ များသောကြောင့် ဖူးမြော်လိုခြင်း တည်းဟူသော အကြောင်းလေးပါးကြောင့် လာသည်ဟု ဆို၏။ ထိုစကားကိုကြားလျှင် စကြို့သူမြတ်သည် ပြုံးတော်မူ၍ တရားမင်းမြတ်တွင် သေနာပတိမရှိ ဆရာမရှိဟု ဆိုတော်မူသည်။ ရာဇာဓိရာဇ်က အဘယ်ကြောင့်ဆိုသနည်းဟု မေးလျှင် တရားမင်းမြတ်ဆိုသော အကြောင်း ၄ ပါးတွင် သုံးပါးသော အကြောင်းကား သူတပါးစည်းစိမ်ကို ငါ့စည်းစိမ်ဖြစ်အောင်ပြုမည်ဆိုသည်ကား၊ လောဘဇောနှင့်စပ်သော အရာဖြစ်၍ နတ်ရွာနိဗ္ဗာန်မှ ဖီလာဖြစ်သည်။ ထိုကြောင့် ဆရာမရှိဟု ဆိုခြင်းဖြစ်သည်။ သေနာပတိမရှိ ဆိုခြင်းကား၊ တရားမင်းခမည်းတော် ဆင်ဖြူသခင် ဗညားဦး မင်းပြုစဉ်က အင်းဝဘုရင်မင်းကြီးစွာနှင့် တမန်စေလွှတ်လျက် နှစ်ပြည်ထောင် မီးမသေ ရေမနောက်၊ ရွှေတပြားတည်းကဲ့သို့ဖြစ်၍ စည်ပင်သာယာ ဝပြောစွာဖြစ်သည်။ သာသန ဒါယကာတော်မင်းဖြစ်တော်မူလျှင် ရှေးမင်းတို့နည်းကို မဖျက်ဘဲ၊ မင်းနှစ်ပါးသည် အခြားမမြင်သကဲ့သို့ ဖြစ်၍ ပြည်သူ လူရဟန်းအပေါင်းတို့ ချမ်းသာမည်အကြောင်းကို မလျှောက်သောကြောင့် ပညာရှိ အမတ်သေနာပတိမရှိဟု ငါဆိုသည်ဟု မိန့်တော်မူလေသည်။ စကြို့သူမြတ်လည်း ဆက်လက်၍ အင်းဝပြည်၏ အခြေအနေ၊ လက်နက်အင်အားတို့ အကြောင်းကိုရှင်း၊ အင်းဝကမ်းဆိပ်သည် မိုးအခါကာလ၌ လှေတက်များ မထားဝံ့အောင် လေမိုး လှိုင်းတံပိုး ပြင်းထန် သည် ကိုရှင်းပြောပြလျက် မင်းနှစ်ပါး မေတ္တာသက်၍ စစ်မက်မဖြစ်လျှင် သတ္တဝါခပ်သိမ်း ချမ်းသာခြင်းမှ ပရိယတ္တိ ပဋိပတ္တိ သာသနာပြန့်ပွားစည်ပင်မည့်အကြောင်း၊ ထိုသို့ သာသနာပြန့်ပွားမှ ကောင်းမှုကုသိုလ် ပွားများလျက် မြတ်သောဆုကို ပြည့်တော်မူရာသည်ဟု ပြောဟော၏။

ထိုစဉ်တွင် ရာဇာဓိရာဇ် အမတ်တို့သည် ရွှေကြက်ယက်ဘုရားသခင့် ကျွန်သီးတော်တို့ကို ဖမ်းယူဆက်သလာသည်။ စကြို့သူမြတ်မြင်လျှင် တရားမင်းမြတ်သည် ကျေးဇူးရှင်ကို ကျေးဇူးမသိတကားဟူ၍ မိန့်တော်မူ၏။ ရာဇာဓိရာဇ်က မည်သူသည် ကျေးဇူးရှင်ဖြစ်ဘိသနည်းဟု မေးလျှင်၊ စကြို့သူမြတ်က တရားမင်းမြတ် ရှေးဘဝက ဘုရား ပစ္စေကဗုဒ္ဓါတို့ ပြုဘူးသော ကောင်းမှုကြောင့်သာ ဤသို့သော စည်းစိမ်ချမ်းသာကို ရပေသည်။ ယင်းသို့အကျိုးပြုတတ်သော ဘုရားသခင်၏ ကျွန်သီးတော်တို့ကို ဖမ်းယူညှဉ်းဆဲခြင်းသည် ကျေးဇူးရှင်၏ ကျေးဇူးတော်ကို မသိရာ မရောက်တံ့လောဟု မိန့်၏။ ထိုနောက်ဆက်လက်၍ ပစ္စုပ္ပန် သံသရာ စီးပွားနှစ်ပါးနှင့်စပ်လျက် မင်းဧကရာဇ် နှစ်ပါးတို့ကို မဟာမိတ်ဖြစ်အောင်ရှင်း၊ သတ္တဝါအပေါင်းတို့ကိုလည်း ချမ်းသာအောင်ရှင်း၊ မေတ္တာရပ်ခံလိုကြောင်း၊ မေတ္တာရပ်ခံချက်ကို ခွင့်ပြုလျှင် အင်းဝနှင့်ဟံသာဝတီတွင် ပျော်ရာ၌ သီတင်းသုံးမည်၊ နှစ်ပြည်ထောင် ရွှေတပြားတည်းကဲ့သို့ဖြစ်ရန် အကြောင်းကိုသာ ခွင့်ပြုပါဟု မိန့်ဆို၏။ ရာဇာဓိရာဇ်က မြန်မာနိုင်ငံကို လုပ်ကြံရန် လာသည်တွင် ဆရာတော်က တရားနှင့်အညီ ဟောကြား သောကြောင့် ပြန် စုန် တော့မည်ဟု ပြောဆိုလျက် စကြို့သူမြတ်အား လှူဖွယ်ဝတ္ထုများကို ရွှေကြက်ယက်ဘုရား၏ ကျွန်သီးတော်များနှင့်အတူအပ်၍ ရွှေကြက်ယက်တွင် စရပ်ဆောက်လုပ်လှူမည့်အကြောင်းကို လျှောက်ထားပြီးလျှင် အခြွေအရံအပေါင်းတို့ကို အင်းဝဖက်သို့ ရွှေလောင်းဖြင့်ပို့စေ၏။

စရပ်ဆောက်လုပ်ပြီးလျှင် စကြို့သူမြတ်နှင့် သံဃာတရာတို့ကိုပင့်၍ ဆွမ်းလုပ်ကျွေးကာ လှူဖွယ်ဝတ္ထုများ လှူဒါန်းပြီးနောက် ပြန်လည်ထွက်ခွာသွားလေသည်။ စကြို့သူမြတ်လည်း ရာဇာဓိရာဇ်၏ ပင့်လျှောက်ချက်အရ ဇလာကပင်းဟူသော ရွှေလှေတော်တွင် ရွှေပြသာဒ်နှင့်လိုက်ပါရသည်။ ရာဇာဓိရာဇ် ကျောက်တလုံးသို့ရောက်လျှင် ရွှေကြက်ယက်ဘုရားတွင် ဆောက်လုပ်လှူခဲ့သော စရပ် ကို မင်းခေါင်က

မိးရှို့ဖျက်ဆီးစေသည်ကိုမြင်လျှင် အမျက်ထွက်၍ အင်းဝသို့ တိုက်အံ့ဟု လှေအပေါင်းတို့ကို လှေဦးလှည့်စေသည်တွင် စကြိုသူမြတ်နှင့်အမတ်တို့ တရားပြသဖြင့် ဆက်လက်၍စုန် ဆင်းခဲ့သည်။ ပုဂံသို့ရောက်လျှင်၊ တန့်ကြည့်ဘုရားမြတ်စွာ အပါးတွင် ကျောင်းဆောက်၍ ပစ္စည်းလေးပါးနှင့်တကွ စကြိုသူမြတ်ကို လှူတော်မူလေသည်။

ယင်းသို့အားဖြင့် အင်းဝကို တိုက်အံ့ဟုလာသော မွန်ဘုရင် ရာဇာဓိရာဇ်နှင့် မြန်မာတို့အား ဓားမကျိုး လှံမကျိုးရစေဘဲ နှုတ်ရေးဖြင့်သာ အောင်မြင်စွာ ပြေငြိမ်းမှုရအောင်ဆောင်ရွက် နိုင်ခဲ့သောကြောင့် မြန်မာ့သမိုင်းတွင် ထင်ရှားသော ရဟန်းတော်ဖြစ်ခဲ့ပေသည်။ စကြိုသူမြတ်သည်စကားတတ် ကျမ်းတတ်ဖြစ်သည်ဟု အာစရိယဝံသစာဟောင်းတွင် ဆိုသည်ဟူ၍ မဟာရာဇဝင်ကြီးတွင် ဖော်ပြထားလေသည်။ စကြိုသူမြတ်၏ ဖွားသက္ကရာဇ်နှင့် ပျံလွန်တော်မူသည့် ခုနှစ်များကိုမူ မတွေ့ရပေ။


ရုရှနိုင်ငံခေါင်းဆောင်ကြီး ဂျီးဇက်စတာလင်

**စတာလင်, ဂျေ၊ ဗွီ** (ခရစ် ၁၈၇၉-၁၉၅၃)။ ။ရုရှနိုင်ငံ ခေါင်းဆောင်ကြီး ဖြစ်သော ဝန်ကြီးချုပ် ဂျီးဇက် စတာလင် သည် ကမ္ဘာကျော်ပုဂ္ဂိုလ်ကြီးတဦး ဖြစ်သည်။ ရုရှနိုင်ငံ ဂျော်ဂျီးယားပြည်နယ်အပိုင် ဂေါရီမြို့ကလေးရှိ လယ်သမား ဇနီးမောင်နှံတို့မှ ၁၈၇၉ ခုနှစ် ဒီဇင်ဘာလ ၂၁ ရက်နေ့တွင် ဖွားမြင်သည်။ စတာလင်၏ မူလနာမည်မှာ ယိုဆစ်ဗျစ်ဆာရီယိုနပ်ဗျစ် ယူဂါရှဗီလီ ဖြစ်၍၊ တော်လှန်ရေး လုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်သော အခါ၌ စတာလင် ဟူသော အမည်သို့ ပြောင်းခဲ့လေသည်။ စတာလင် ဟူသော ဝေါဟာရ၏အဓိပ္ပါယ်မှာ 'သံမဏိ' ဖြစ်သည်။

သားဖြစ်သူအား ဘုန်းကြီးလုပ်စေလိုသော မိခင်၏ဆန္ဒ အရ စတာလင်သည် ၉ နှစ်သားအရွယ်၌ ကျမ်းစာသင် ကျောင်းသို့ ဝင်ရောက် ပညာသင်ကြားလေသည်။ ထိုကျောင်း၌ ပညာဆုံးခန်းတိုင်၍ ၁၅ နှစ်အရွယ်ရောက်လျှင် ဂျော်ဂျီးယားပြည်နယ်၏ မြို့တော်ဖြစ်သော တစ်ဖလစ်မြို့ရှိ သာသနာ့ဝန်ထမ်း ဆိုင်ရာ ကျောင်းသို့ သွားရောက်ကာ ကျမ်းစာများကို ဆက်လက်ဆည်းပူးသည်။ ထိုကျောင်း၌ ပညာ ဆက်လက်ဆည်းပူးနေခိုက် အသက် ၁၉ နှစ်အရွယ်တွင် နိုင်ငံရေးအဖွဲ့အစည်းတခု ဖြစ်သော ရုရှ ဆိုရှယ် ဒီမိုကရက်တစ်ပါတီသို့ ဝင်ရောက်ခဲ့သဖြင့် တနှစ် အကြာတွင် သာသနာ့ဝန်ထမ်းကျောင်းမှ ထုတ်ပယ်ခြင်း ခံရလေသည်။ ထိုနောက် စတာလင်သည် တစ်ဖလစ်မြို့၌ပင် စာရေး အလုပ်ကို ဝင်ရောက် လုပ်ကိုင်ယင်း ဇာဘုရင် တော်လှန်ရေး လုပ်ငန်းများကို လျှို့ဝှက်လုပ်ကိုင်နေစဉ် ဘုရင့်အစိုးရသည် စတာလင်အား ၁၉၀၁ ခုနှစ် အလုပ်သမားများ ဆန္ဒပြပွဲတွင် ပါဝင်သည်ဟု ဖမ်းဆီးကာ ဆိုက်ဗီးရီးယားသို့ နယ်နှင်လိုက်လေသည်။ ၁၉၀၄ ခုနှစ်မှ ၁၉၁၇ ခုနှစ်များအတွင်း စတာလင်သည် ဆိုက်ဗီးရီးယားမှ လေးကြိမ်တိုင်တိုင် ထွက်ပြေးလွတ်မြောက်ခဲ့သော်လည်း နောက်ဆုံး၌ အဖမ်းခံရသည်ချည်းဖြစ်၏။

၁၉၀၃ ခုနှစ်တွင် ဗော်လရှီဗစ်နှင့် မင်ရှီဗစ် ဟူ၍ ရုရှဆိုရှယ် ဒီမိုကရက်တစ်ပါတီ နှစ်ခြမ်းကွဲသွားသောအခါ စတာလင်သည် လီနင်ဦးစီးသော ဗော်လရှီဗစ်အဖွဲ့သို့ လိုက်ပါခဲ့သည်။

ဆိုက်ဗီးရီးယားမှ မကြာခဏ ထွက်ပြေးလွတ်မြောက်ခိုက် အတွင်း စတာလင်သည် ဗော်လရှီဗစ်တို့၏ ပြည်သူ့တော်လှန်ရေး လုပ်ငန်းများကို စွမ်းလွန်းတမံ ဆောင်ရွက်လေ၏။ ထိုအတောအတွင်း စတာလင်သည် ၁၉၀၅ ခုနှစ်တွင် ဖင်လန်နိုင်ငံ၌ ကျင်းပသော ဗော်လရှီဗစ်ညီလာခံသို့ ကော်ကေးဆပ်နယ် ကိုယ်စားလှယ်အဖြစ် တက်ရောက်ခဲ့ရသဖြင့် ခေါင်းဆောင်ကြီး လီနင်နှင့် စတင်တွေ့ရှိခဲ့၍ ၁၉၁၂ ခုနှစ်တွင် ဗော်လရှီဗစ်တို့၏ ဗဟိုအမှုဆောင်တဦးဖြစ်လာသည်။ နောင်အခါ၌ ဆိုဗီယက် ရုရှ အစိုးရ၏ အာဘော်ဖြစ်လာမည့် ပရာဗဒါ သတင်းစာ၏စာတည်း အဖြစ်ဖြင့်လည်း ဝင်ရောက်လုပ်ကိုင်ခဲ့သေးသည်။

၁၉၁၇ ခုနှစ်တွင် ဇာဘုရင်အရေးနိမ့်၍ ရုရှတော်လှန်ရေး သမားများ ဖြစ်သော ဗော်လရှီဗစ်တို့ အာဏာရလာသော အခါ စတာလင်သည် လီနင်ဦးစီးသော ဆိုဗီယက် အစိုးရ အဖွဲ့သစ်တွင် လူမျိုးစုရေးရာဝန်ကြီး ဖြစ်လာသည်။ ဘုရင်စနစ်ကို ဆက်လက်ထားရှိလိုသော် ရုရှဖြူများသည် ဗော်လရှီဗစ်တို့၏ ဆိုဗီယက်အစိုးရကို ပုန်ကန်လေရာ စတာလင် သည် ဆိုဗီယက်အစိုးရဖက်မှ ရှုပ်ရှုပ်ချချ ခုခံတိုက်ခိုက်သဖြင့်

ထင်ရှားလာကာ တော်လှန်ရေး စစ်ဦးစီးအဖွဲ့ဝင်တဦး ဖြစ်လာလေ၏။ ၁၉၂၄ ခုနှစ်တွင် ဆိုဗီယက်အစိုးရ၏ ခေါင်းဆောင် လီနင် ကွယ်လွန်လျှင် ထိုရာထူးကို ဆက်ခံနိုင်သော ပုဂ္ဂိုလ်မှာ ဆိုဗီယက်အစိုးရတွင် ဒုတိယအကြီးဆုံးဖြစ်သော လီယွန် ထရော့စကီ ဆိုသူပင် ဖြစ်သည်။ သို့သော် စတာလင်သည် ထိုရာထူးကို မိမိ ဆက်ခံနိုင်ရေး အတွက် လီနင် မကွယ်လွန်မီက ရရှိလိုက်သော ကွန်မြူနစ်ပါတီ အထွေထွေ အတွင်းရေးမှူးချုပ်ရာထူးကို လက်ဝယ်ထားလျက် လီယွန် ထရော့စကီအား လီနင်ဝါဒ သေွဖီရေးသမားဟု ကြေညာကာ ကွန်မြူနစ်ပါတီမှရင်း၊ အစိုးရအဖွဲ့မှရင်း ထုတ်နုတ်၍ နိုင်ငံခြားသို့ နှင်လိုက်လေသည်။ (ထရော့စကီ, အယ်—ရှု။) ထိုနောက် စတာလင်သည် သူ၏ အစိုးရအဖွဲ့အား အတိုက်အခံပြု၍ ယှဉ်ပြိုင်သူများနှင့် သူ့အစိုးရအဖွဲ့၏ သြဇာကို မညောင်းသူတို့အား ဖယ်ရှားရန် လျှို့ဝှက်ရဲအဖွဲ့များ ဖွဲ့စည်းခဲ့လေသည်။ သို့နှင့်ပင် ရုရှနိုင်ငံ၏ အာဏာရှင် ခေါင်းဆောင်ကြီးဟု အများက အသိအမှတ် ပြုလာကြရလေသည်။

စတာလင်သည် ရုရှနိုင်ငံ ခေါင်းဆောင်ကြီးအဖြစ် အာဏာရလာသောအခါ မိမိတိုင်းပြည်ကို စိုက်ပျိုးရေးနိုင်ငံမှ စက်မှုလက်မှုနိုင်ငံအဖြစ်သို့ ပြုပြင်ပြောင်းလဲရန် ငါးနှစ်စီမံကိန်း တရပ်ကို ရေးဆွဲလေသည်။ ယင်း စီမံကိန်းကို အကောင်အထည်ဖော်ရာ၌ နှောင့်နှေး ကြန့်ကြာစေသော ကွန်မြူနစ်စည်းမျဉ်းအချို့ကို ပြုပြင်သည်။ ရုရှနိုင်ငံ၌ ရေအားသုံး လျှပ်စစ်ဓာတ် အားပေးစခန်းများ၊ စက်ရုံကြီးများ အများအပြား ပေါ်ပေါက်လာခဲ့သည်မှာ စတာလင်၏ ငါးနှစ်စီမံကိန်း ဆောင်ရွက်ချက်များပင် ဖြစ်၏။ သို့သော် ဒုတိယကမ္ဘာစစ်ကြီး ဖြစ်ပွားလာသဖြင့် ယင်းစီမံကိန်းများ၏ လုပ်ငန်းစဉ်များကို ရပ်ဆိုင်းခဲ့ရသည်။

ဒုတိယကမ္ဘာစစ်ကြီး ဖြစ်ပွားစ ၁၉၃၉ ခုနှစ် ဇက်တင်ဘာလတွင် စတာလင်သည် ဂျာမနီအာဏာရှင် ဟစ်တလာနှင့် မကျူးကျော်ရေးစာချုပ် ချုပ်ဆိုလေသည်။သို့သော် ဂျာမန်တို့၏ ပရိယာယ်ကို ကောင်းစွာ ရိပ်စားမိသော စတာလင်သည် ရုရှနိုင်ငံ ကာကွယ်ရေးအတွက် အစွမ်းကုန် ကြိုတင်ပြင်ဆင်မှုများ ပြုလေသည်။ ၁၉၄၁ ခုနှစ် ဇွန်လ ၂၂ ရက်နေ့တွင် ဂျာမန်တပ်များ ရုရှနိုင်ငံကို ရုတ်တရက် ဝင်တိုက်သောအခါ စတာလင်သည် ရုရှနိုင်ငံ၏ စစ်သေနာပတိချုပ်အဖြစ်ဖြင့် ဂျာမန်တို့အား ဝံ့ဝံ့စားစား ခုခံခဲ့လေသည်။ ထိုကဲ့သို့ ဂျာမန်တို့၏ထိုးစစ်ကို အလူးအလဲ ခုခံနေရခိုက် စတာလင်သည် ရုရှနိုင်ငံ၏ဝန်ကြီးချုပ် အဖြစ်ဖြင့်ရင်း၊ ကာကွယ်ရေးဝန်ကြီး အဖြစ်ဖြင့်ရင်း၊ ကွန်မြူနစ်ပါတီ အထွေထွေအတွင်းရေးမှူးချုပ် အဖြစ်ဖြင့်ရင်း၊ ကြီးလေးသော တာဝန် ဝတ်တရားများကို ပူးတွဲထမ်းဆောင်၍၊ ရုရှနိုင်ငံအား ဂျာမန်တို့လက်မှ ကယ်တင်ခဲ့သည်သာမက၊ ဂျာမနီအရှေ့ပိုင်းကိုပင်လျှင် သိမ်းပိုက်နိုင်ခဲ့လေသည်။ ထို့ကြောင့် ၁၉၄၃ ခုနှစ်တွင် မာရှယ်စစ်သူကြီး အဆင့်အတန်းကို ရရှိခဲ့လေသည်။

ဒုတိယကမ္ဘာစစ်ကြီး ပြီးသွားသောအခါ စတာလင်သည် ရုရှနိုင်ငံ ပြန်လည်ထူထောင်ရေး အတွက် စတုတ္ထ အကြိမ်မြောက် ငါးနှစ်စီမံကိန်းများကို ဆက်လက်လုပ်ကိုင်သွားခဲ့သည်။ ၁၉၄၇ ခုနှစ်တွင် စတာလင်သည် စစ်သူကြီးရာထူးကို စွန့်လွှတ်၍ ရုရှနိုင်ငံ၏ဝန်ကြီးချုပ်အဖြစ်ဖြင့်ဆောင်ရွက်ယင်း ၁၉၅၃ ခုနှစ် မတ်လ ၅ ရက်နေ့တွင် ကွယ်လွန်လေသည်။



**စတာလင်နှင့်ချာချီ**

ဒုတိယကမ္ဘာစစ်ကြီးအတွင်း ကရိုင်းမီးယားနယ် ယော်လတာမြို့တွင် ကျင်းပသော 'ကြီးသုံးကြီး' အစည်းအဝေး၌ ရုရှခေါင်းဆောင်ကြီး စတာလင်ကို ဗြိတိသျှဝန်ကြီးချုပ် ချာချီနှင့်အတူ တွေ့မြင်ရပုံ

**စတာလင်ဂရက်မြို့။** ။စတာလင်ဂရက်မြို့သည် ဆိုဗီယက်ရုရှနိုင်ငံရှိ စတာလင်ဂရက်နယ်၏ မြို့တော်ဖြစ်သည်။ ဗော်လဂါမြစ်၏ အနောက်ဖက်ကမ်းပေါ်တွင် တည်ရှိ၍ ၁၉၃၉ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၄၄၅,၄၇၆ ယောက်ရှိသည်။ ထိုမြို့၏ မူလအမည်မှာ ဆာရယ်ဆင် ဖြစ်သော်လည်း ၁၉၁၈ ခုနှစ် ရုရှတော်လှန်ရေးဖြစ်ပွားစဉ် ထိုမြို့ကို ဇာဘုရင်၏တပ်များလက်သို့ မကျရောက်စေရန် စတာလင်သည် ရုရှတော်လှန်ရေးသမား ဗော်လရှီဗစ်တို့အား ခေါင်းဆောင်၍ ခုခံကာကွယ်သည်ကို အစွဲပြု၍ စတာလင်ဂရက် ဟု



ပြန်လည်တည်ဆောက်ထားသောစတာလင်ဂရက်မြို့ကို ၁၉၅၅ ခုနှစ်တွင်တွေ့မြင်ရပုံ

အမည်ပြောင်းခဲ့သည်။ (စတာလင်, ဂျေ၊ဗွီ — ရှု။) တော်လှန်ရေးကြီး အပြီးတွင် ဘုရင်စံနစ် ကျဆုံးသွား၍ ဆိုဗီယက်တို့၏ အုပ်ချုပ်ရေး စံနစ်သစ်၌ ၁၉၂၂ ခုမှ ၁၉၄၂ ခုနှစ်အတွင်း စတာလင်ဂရက်မြို့သည် လယ်ထွန် စက်ကရိယာများ၊ လော်ရီကားများ၊ တင့်ကားများ စသည်တို့ကို ထုတ်လုပ်ရာ စက်မှုလုပ်ငန်းမြို့ကြီး တခုအဖြစ်သို့ တဟုန် တည်းတိုးတက်ခဲ့၏။ ရေနံတွင်းများနှင့် သစ်စက်များကိုလည်း ထိုမြို့၌ အများအပြား တွေ့ရှိနိုင်ပေသည်။

ဒုတိယကမ္ဘာစစ်ကြီး အတွင်းက ရုရှတို့သည် စတာလင်ဂရက်မြို့ကို အင်အားကြီးမားသော ဂျာမန်တပ်များလက်တွင်းသို့ မကျရောက်စေရန် ရှပ်ရှပ်ချွံချွံ ခုခံတိုက်ခိုက်ခဲ့သဖြင့် စတာလင်ဂရက်မြို့ တိုက်ပွဲမှာ ကမ္ဘာကျော်သော တိုက်ပွဲဖြစ်ခဲ့သည်။ ၁၉၄၂ ခုနှစ် နွေဦးပေါက်စတွင် အင်အားကြီးမားသော ဂျာမန်တပ်တို့သည် ဗော်လဂါမြစ်ကြောင်းခရီးကို အပိုင်စီးရန် စတာလင်ဂရက်မြို့ကို ဝင်ရောက် တိုက်ခိုက်ကြ၏။ ဂျာမန်တို့၏ အမြောက်ဒဏ် ဗုံးဒဏ်တို့ကြောင့် စတာလင်ဂရက်မြို့မှာ များစွာပျက်စီးခဲ့လေသည်။

ဂျာမန်တို့သည် ၁၉၄၂ ခုနှစ် စက်တင်ဘာလ ၁၄ ရက်နေ့မှ နိုဝင်ဘာလ ၁၅ ရက်ထိ၊ ၆၆ ရက်တိုင်တိုင် စတာလင်ဂရက်မြို့တော်ကို ဝန်းရံ သိမ်းပိုက်ထားနိုင်ခဲ့သည်။ သို့ရာတွင် ရုရှစစ်တပ်က ရှပ်ရှပ်ချွံချွံ ခုခံ၍ စတာလင်ဂရက်မြို့ကို ပြန်လည် သိမ်းပိုက်နိုင်ခဲ့သည်။ ထိုသို့သိမ်းပိုက်ပြီးနောက် ဂျာမန်တို့ကို ရုရှတို့က ပြန်လည်ထိုးစစ်ဆင်သည်တွင် ၁၉၄၃ ခုနှစ် ဖေဖွာရီလ ၂ ရက်နေ့၌ လူပေါင်း ၃၃၀,၀၀၀ ပါဝင်သော ဂျာမန်စစ်တပ်ကို ထိုတပ်၏စစ်သေနာပတိ ဖွန်ပေါလပ်နှင့်အတူ သုံ့ပန်း အဖြစ်နှင့် ဖမ်းဆီးရမိလိုက်လေသည်။ ကမ္ဘာ့စစ်အခြေအနေမှာ ဤတိုက်ပွဲ၏ အရှုံးအနိုင်ပေါ်တွင် များစွာတည်ခဲ့၏။ ထို့ကြောင့် ၁၉၄၄ ခုနှစ်၌ တဟီရန်းညီလာခံ ကျင်းပသောအခါ၊ ဗြိတိသျှနိုင်ငံ ဆင်ဌမဂျော့ဘုရင်သည် ရုရှနိုင်ငံဝန်ကြီးချုပ် စတာလင်အား ဗြိတိသျှလူမျိုးတို့၏ကိုယ်စား ရုရှလူမျိုးတို့အား အလေးပြုသော အထိမ်းအမှတ်ဖြင့် စတာလင်ဂရက် ဂုဏ်ထူးဆောင်ဓားမြှောင်ကို လက်ဆောင်အဖြစ် ပေးလေသည်။

**စတားကျင်ငါး။** ။စတားကျင်ငါး၏ ပုံပန်းမှာ ငဖောင်ရိုးနှင့် အလွန်တူသော်လည်း ငဖောင်ရိုးထက် များစွာ ဗလကောင်း၍ ကိုယ်အလေးချိန်လည်း ပို၍စီးသည်။ ကိုယ်အခွံမှ အကြေးတို့သည် စုပေါင်းလျက် အလယ်ဗဟိုတွင် တုံးတိတိကြီးဖြစ်သည်။ ရှည်လျားချွန်ထက်သော နှာသီးရိုးရှိ၍ ပါးစပ်မှာ အလွန်သေးငယ်သည်။ ပါးစပ်အတွင်း ဖက်၌ သွားများမပါရှိချေ။ ရေထဲက အပင်များနှင့် သတ္တဝါကလေးများကို စားသောက်သည်။ ရေကူးသည့်အခါ အလွန်လေးလံသဖြင့် ရေကူးသည်နှင့်မတူဘဲ ရေထဲတွင်ဖြည်းညင်းစွာ ဝပ်တွား သွားနေသည်နှင့် တူသည်။ ရေအောက်သံပြင်ကို နှာခေါင်းဖျားရှိ ဦးမှင်ကြီး ၄ ခုဖြင့် မွှေနှောက်၍ အစာရှာလေ့ရှိသည်။ အစာကိုတွေ့လျှင် ပါးစပ်ကို ကတော့သဖွယ်ပြုလုပ်ပြီးသော် စုတ်ယူမျိုသွင်းတတ်သည်။

စတားကျင်ငါးမျိုး မှန်လျှင် ပင်လယ်ထဲတွင်သာ အနေ

များသည်။ သို့သော်လည်း အချို့ စတားဂျင်ငါးများမှာမူ ရေချိုငါးများဖြစ်သည်။ အိုင်နေ စတားဂျင်ငါးမျိုးမှာ ၅ ပေမှ ၇ ပေအထိ ရှည်လျားသည်။ ဤငါးမျိုးကို မြောက်အမေရိကတိုက် ဂရိတ်လိတ်ဒေသ၌ တနှစ်ပတ်လုံး တွေ့ရသည်။ စတားဂျင်ငါးအားလုံးတို့၏ နေရင်းဇာတိမှာ ပင်လယ်သမုဒ္ဒရာ ဖြစ်သည်။ ပင်လယ်ကမ်းခြေ တလျှောက်သို့မဟုတ် ပင်လယ်အော် ပင်လယ်ကွေ့ စသည်တို့တွင်သာ အများအားဖြင့် နေလေ့ရှိသည်။ သို့သော်လည်း နှစ်စဉ်နှစ်တိုင်းပင် နွေဦးကာလ ကျရောက်သောအခါ၊ စတားဂျင်ငါးတို့သည် ပင်လယ်ရေကို စွန့်ခွာပြီးသော် ချောင်း၊မြောင်း၊ အင်း၊ အိုင် စသော ရေချိုရှိရာ အရပ်ဒေသများသို့ သွားရောက်၍ လအနည်းငယ်မျှ နေတတ်ကြသည်။

စတားဂျင်ငါးမျိုး မြောက်မြားစွာရှိသည်။ အမျိုးများသလောက် အရွယ်အစားလည်း လွန်စွာပင် ခြားနားသည်။ ပင်လယ်နက်နှင့် ကက်စပျန်ပင်လယ် အနီးအနားတွင် တွေ့ရသော စတားဂျင်ငါးမှာ ၂၄ ပေမျှ ရှည်လျား၍ အလေးချိန် ပေါင် ၂,၀၀၀ မျှစီးသည်။ ကြီးမားသော စတားဂျင်ငါးများကို တွေ့ရသည့်နည်းတူ သေးငယ်သော စတားဂျင်ငါးများကိုလည်း တွေ့ရ၏။ စတားဂျင်ငါးကလေးမျိုးသည် အလျား ၃ ပေခန့်မျှသာ ရှိသည်။ ယခုအထိ ကျွန်ုပ်တို့သိရှိရသလောက် စတားဂျင်ငါးမျိုးထဲတွင် ရုရှ စတားဂျင်ငါးသည် အကြီးမားဆုံးဖြစ်သည်။ ရုရှစတားဂျင်ငါးမှာ ပေါင်ချိန် ၃,၀၀၀ အထိပင်စီးသည်။

စတားဂျင်ငါးသည် ပင်လယ်အတွင်းမှ မြစ်၊ ချောင်း သဲကမ်းပါးပေါ် သို့ လာရောက်၍ ဥအုလေ့ရှိသည်။ စတားဂျင်ငါးမသည် တရာသီအတွင်း ဥပေါင်း ၃,၀၀၀,၀၀၀ မျှအထိ အုသည်။ သို့သော်လည်း မြစ်ထဲရှိ အခြားငါးသတ္တဝါများက စားပစ် လိုက်၍ ဥအများအပြား ပျက်စီးကြရကုန်သည်။ ထို့ကြောင့် အုသလောက် အဖတ်မတင်ဘဲရှိသည်။ ပေါက်ဖွားလာသည့် အခါတွင်လည်း ငါးကလေးများကို ငါးကြီးများက စားပစ်လိုက်ကြပြန်ရာ ငါးကလေး ဦးရေမှာ အတော်ပင် နည်းသွားသည်။ စတားဂျင်ငါး သည် ရေချိုအရပ်တွင်နေရန် နှစ်သက်သည့်အလျောက် တသက်လုံး မြစ်ထဲ၌ပင် နေတတ်ကြသည်။ သို့သော် စတားဂျင်ငါး များစွာတို့သည် ဆောင်းဥတုမတိုင်မီ ဇာတိဖြစ်သော ပင်လယ်သမုဒ္ဒရာအတွင်းသို့ မရောက်ရောက်အောင် ပြန်သွားတတ်ကြသည်။



စတားဂျင်ငါး

ငါးအပေါင်းတို့တွင် စတားဂျင်ငါးသည် အလွန်အဖိုးထိုက်တန်သည်။ အဘယ်ကြောင့်ဆိုသော် စတားဂျင်ငါးဥများကို ကောင်းစွာ ဆေးကြောပြီးနောက် ဆားစိမ်၍ ငါးဥသားနယ် ပြုလုပ်နိုင်သောကြောင့် ဖြစ်သည်။ ထိုမျှသာမက ဂျယ်လတင်ကိုလည်း စတားဂျင်ငါး၏ လေအိတ်မှ ထုတ်ယူနိုင်သေးသည်။ စတားဂျင်ငါးမှ အိုက်စင်ဂလပ် (ငါးစည်ဖောင်းကော်တမျိုး) ကိုလည်း ရသည်။ စတားဂျင်ငါး၏လေအိတ်မှာ ရှည်လျား၍ ငွေရောင်ထနေသည်။ ထိုလေအိတ်များကြောင့်ပင် စတားဂျင်ငါးတို့သည် လွယ်ကူစွာဖြင့် ရေပေါ်သို့ပေါ် လာနိုင်၊ ရေအောက်သို့ မြုပ်သွားနိုင်ကြပေသည်။ စတားဂျင် ငါးဥဆားနယ်မှာ အရသာကောင်းလှသဖြင့် တခါစားဘူးလျှင် စတားဂျင်ငါးကို အမှတ်ရလျက်ရှိတတ်သည်။

**စတီဖင်ဆန်, ဂျီ** (ခရစ် ၁၇၈၁–၁၈၄၈)။ ။ဂျော့စတီဖင်ဆန်သည် မီးရထားစက်ခေါင်းကို စတင်တီထွင်သော အင်္ဂလိပ်လူမျိုး အင်ဂျင်နီယာကြီးတဦးဖြစ်သည်။ ၁၇၈၁ ခုနှစ် ဇွန်လ ၉ ရက်နေ့တွင် အင်္ဂလန်ပြည် နျူးကပ်ဆဲမြို့အနီးရှိ ဝိုင်လမ်း ရွာကလေး၌ ဖွားမြင်၏။ စတီဖင်ဆန်၏ ဖခင်ဖြစ်သူမှာ ထိုရွာကလေးရှိ ကျောက်မီးသွေးတွင်း ရေစုတ်စက်၌ မီးထိုးသမားဖြစ်၍ များစွာ ဆင်းရဲနွမ်းပါးလေရကား သားသမီးများကို ကျောင်းသို့မပို့နိုင်ချေ။ ထို့ကြောင့် စတီဖင်ဆန်သည် လူမမယ် အရွယ်ကပင် နွားကျောင်းခြင်း၊ ကျောက်မီးသွေးတွင်း၌ ဝင်ရောက် ကူညီ ဆောင်ရွက်ခြင်း စသည်တို့ကို လုပ်ကိုင်ခဲ့ရလေသည်။ အသက် ၁၄ နှစ်သားအရွယ်တွင် ဖခင်ကြီး၏ လက်ထောက် မီးထိုးသမားအဖြစ်ဖြင့် ခန့်ထားခြင်းခံရ၍ ၁၇ နှစ်သားအရွယ်တွင် ရေစုတ်စက်ထိန်းသိမ်းရသော အလုပ်သမားအဖြစ်ဖြင့် အဆိုပါကျောက်မီးသွေးတွင်း၌ပင် အမှုထမ်းရလေသည်။ ထိုအခါ၌ စတီဖင်ဆန်သည် ရေစုတ်စက်ကို နေ့စဉ်ကြည့်ရှုနေရာမှ စက်၏သဘောကို စိတ်ဝင်စားလာသဖြင့် ဗိုလတန်နှင့်ဝပ်၏ ရေနွေးငွေ့စက်သဘောကို လေ့လာလိုသော်လည်း စာမတတ်သဖြင့် အခက်အခဲတွေ့ရပြန်သည်။ ထို့ကြောင့် စတီဖင်ဆန်သည် ၁၈ နှစ်သားအရွယ်၌ ညကျောင်းတက်၍ စာသင်၏။ ဤကဲ့သို့ အလုပ်တဖက်နှင့် ညကျောင်းတက်ကာ စက်မှုပညာကို ကြိုးစားလေ့လာခဲ့သော စတီဖင်ဆန်သည် ၁၈၁၂ ခုနှစ်၌ ကီလင်းဝပ်မြို့ရှိ ဟိုင်းပစ် ကျောက်မီးသွေးတွင်းတွင် အင်ဂျင်စက်များကို လုပ်ကိုင်သူအဖြစ် ခန့်ထားခြင်းခံရ၍ တနှစ်လျှင် ပေါင် ၁၀၀ ရလေသည်။ ၁၈၁၅ ခုနှစ်တွင် စတီဖင်ဆန်သည် ကျောက်မီးသွေးတွင်းတူးသမားများ ကိုင်ဆောင်

ရန် ဘေးကင်းမီးအိမ်တမျိုးကို တီထွင်ပြုလုပ်ခဲ့သဖြင့် သူ၏ အမည်မှာ စတင်ကျော်ကြားလာလေသည်။ စတီဖင်ဆန်နှင့် တချိန်တည်းမှာပင် ဆာ ဟမ်ဖရီ ဒေဗီ ဆိုသူကလည်း အလားတူ ဘေးကင်းမီးအိမ်မျိုးကို တီထွင်ခဲ့သဖြင့် မည်သူက အလျင်ဦးသည်ဟူ၍ အပြင်းအထန် ငြင်းခုံခဲ့ကြသော်လည်း တီထွင်ချက်နှစ်ရပ်မှာမူ တသီးတခြားစီပင်ဖြစ်၏။

ထိုခေတ်သမယက ကျောက်မီးသွေးများ သယ်ယူရာ၌ ကျောက်မီးသွေးတင် ရထားတွဲ များကို သစ်သား သို့မဟုတ် သံလမ်းပေါ်တွင်တင်၍ မြင်းများဖြင့် ဆွဲလေ့ရှိ၏။ စတီဖင်ဆန်သည် ထိုအလေ့အထကို လေ့လာရာမှ ရထားတွဲများကို ရေနွေးငွေ့စက်ခေါင်းဖြင့်ဆွဲရန် အကြံရသဖြင့် မိမိကျောက်မီးသွေးတွင်းကုမ္ပဏီမှ ငွေကြေးအကူအညီရယူ၍ မီးရထားစက်ခေါင်းတခု တီထွင်ရန် ကြိုးစားခဲ့လေသည်။ ကြိုးစားသည့်အတိုင်း အောင်မြင်သဖြင့် ၁၈၁၄ ခုနှစ်တွင် စတီဖင်ဆန်၏ 'ဗလူးခါး' အမည်ရှိသော မီးရထားသည် ကီလင်းဝပ် ကျောက်မီးသွေးတွင်းမှ သင်္ဘောဆိပ်သို့ ချောမောစွာ စတင်ခုတ်မောင်းနိုင်ခဲ့သည်။ ဒုတိယအကြိမ် ပြုလုပ်သော စက်၌ စတီဖင်ဆန်သည် အလဟဿထွက်သွားသော ရေနွေးငွေ့များကို ပြန်လည်အသုံးပြုခြင်းဖြင့် စက်အား ပိုမိုကောင်းလာစေရန် စီစဉ်လေသည်။ ၁၈၂၅ ခုနှစ်တွင် စတော့တန်နှင့် ဒါလင်တန်သွား မီးရထားလမ်းဖွင့်ပွဲ၌ စတင်ခုတ်မောင်းသော မီးရထားမှာ ကမ္ဘာပေါ်တွင် ပဌမဆုံး လူစီးနှင့် ကုန်တင်ရထားဖြစ်၍ တွဲများကို စတီဖင်ဆန်၏ လိုကိုမိုးတစ်ခေါ် မီးရထားစက်ခေါင်းဖြင့် ဆွဲလေသည်။ ၁၈၂၉ ခုနှစ်၌ လီဗာပူးနှင့် မန်ချက်စတာသွား မီး ရထား ကုမ္ပဏီမှ ကြီးမှူးကျင်းပသော မီးရထားစက်ခေါင်းပြိုင်ပွဲတွင် စတီဖင်ဆန်၏



ဂျော့ စတီဖင်ဆန်

'ရော့ကက်' ခေါ် စက်ခေါင်းက ပဌမရရှိ၍ ဆုငွေ ပေါင် ၅၀၀ ချီးမြှင့်ခြင်းခံရပြန်သည်။ (မီးရထားစက်ခေါင်း။ မီးရထားလမ်း — ရှု။)

ဤကဲ့သို့ ကိုယ့်ဒူး ကိုယ်ချွန် ကြိုးစားခဲ့သဖြင့် နောင်အခါ၌ စတီဖင်ဆန်သည် အင်္ဂလန်နှင့် ဥရောပတခွင်တွင် မီးရထားစက်ခေါင်းတည်ဆောက်ရေးနှင့် ရထားလမ်းဖောက်လုပ်ရေးဆိုင်ရာ အတိုင်ပင်ခံ အင်ဂျင်နီယာကြီး ဖြစ်ခဲ့လေသည်။



စတီဖင်ဆန်၏ သံကွင်းဆက်ကြိုးတပ်မီးရထားစက်ခေါင်း (၁၈၁၄ ခုနှစ်)



စတီဖင်ဆန်တီထွင်သော 'ရော့ကက်' မီးရထားစက်ခေါင်း (၁၈၂၉ ခုနှစ်)

သားဖြစ်သူ ရောဗတ်မှာလည်း ဖခင်ကြီး၏ခြေရာကို လိုက်နိုင်သည်သာမက အထူးသဖြင့် မီးရထားတန်တားများ ဆောက်လုပ်ခြင်း၌ ထင်ရှားကျော်ကြားသော အင်ဂျင်နီယာတဦး ဖြစ်ပေသည်။ ထိုနောက် ဂျော့စတီဗင်ဆန်သည် အသက်အရွယ် ကြီးရင့်လာပြီဖြစ်၍ ချက်စတာဖီး မြို့တွင် အနားယူနေခိုက် ၁၈၄၈ ခုနှစ် ဩဂုတ်လ ၁၂ ရက်နေ့၌ ကွယ်လွန်အနိစ္စရောက်လေသည်။

**စတီဗင်ဆန်, အာ၊ အယ်** (ခရစ် ၁၈၅၀–၁၈၉၄)။ ။ရောဗတ် လူဝီ စတီဗင်ဆန် သည် အင်္ဂလိပ်စာပေ လောက၌ ပုံဝတ္ထုများ ရေးသားခြင်းဖြင့် ကမ္ဘာကျော်ဖြစ်လာသော စာရေးဆရာကြီးတဦး ဖြစ်သည်။ ခရစ် ၁၈၅၀ ပြည့်နှစ် နိုဝင်ဘာလ ၁၃ ရက်နေ့တွင် စကော့တလန်ပြည် အက်ဒင်ဗာရာမြို့၌ ဖွားမြင်သည်။ ငယ်စဉ်က များစွာ ချူချာလှသဖြင့် ကျောင်းမှန်မှန်မတက်နိုင်ဘဲ အိမ်တွင်ပင် ယုယပြုစုခြင်းခံခဲ့ရ၏။ ရံဖန်ရံခါ မြို့ပြအင်ဂျင်နီယာဖြစ်သော ဖခင်နှင့်အတူ စကော့တလန် ကမ်းရိုးတလျှောက်ရှိ မီးပြတိုက်များသို့ လိုက်ပါသွားလေ့ရှိရာ စတီဗင်ဆန်သည် ငယ်စဉ်ကပင် ဆိပ်ကမ်းကျွန်းသောင တောတောင်တို့ဖြင့် သာယာလှသော စကော့တလန်ပြည် ရှုခင်းများကို နှစ်သက်စွဲလန်းမိခဲ့သည်။ နောင်အခါ၌ စတီဗင်ဆန်သည် ဥပဒေပညာကိုသင်ကြားတတ်မြောက်ခဲ့သော်လည်း၊ စာရေးခြင်းဖြင့်သာ အသက်မွေးရန် ဆုံးဖြတ်ခဲ့၏။


ရောဗတ် လူဝီ စတီဗင်ဆန်

မိမိ၏ကျန်းမာရေးအတွက် ပြင်သစ်၊ ဗဲလဂျီယမ်၊ ဂျာမနီနိုင်ငံများနှင့် စကော့တလန်ပြည် အနှံ့အပြားသို့ သွားရောက် လှည့်ပတ်ခဲ့ရသဖြင့် ခရီးသွား မှတ်တမ်းများဖြစ်သော 'ပြည်တွင်းခရီးစဉ်' ကို ၁၈၇၈ ခုနှစ်တွင်၎င်း၊ 'မြည်းနှင့်ခရီးသွားခြင်း' ကို ၁၈၇၉ ခုနှစ်တွင်၎င်း၊ ရေးသားထုတ်ဝေခဲ့သည်။ ၁၈၈၃ ခုနှစ်တွင် စတီဗင်ဆန်သည် 'ရတနာဒီပ' ဝတ္ထုကို ရေးသားထုတ်ဝေ၍ ၁၈၈၆ ခုနှစ်နှင့် ၁၈၉၃ ခုနှစ်များတွင် 'လူပြန်ပေး' နှင့် 'ကက်ထရီယိုးနား' ဝတ္ထုများကို ရေးသားခဲ့၏။ ဤဝတ္ထုသုံးပုဒ်အနက် 'ရတနာဒီပ' ဝတ္ထုသည် ယနေ့တိုင်လူကြိုက် များလျက် ရှိသော ကမ္ဘာကျော်ဝတ္ထု ဖြစ်သည်။ စတီဗင်ဆန်သည် ထိုဝတ္ထုဖြင့်ပင် ကမ္ဘာကျော် စာရေးဆရာကြီး တဦး ဖြစ်လာလေသည်။ ထိုဝတ္ထုများအပြင် စတီဗင်ဆန်သည် ကဗျာနှင့်ဝတ္ထုတိုများကိုလည်း အများအပြား စပ်ဆိုရေးသားခဲ့သေးသည်။ သို့သော် စတီဗင်ဆန်ကား အချို့သော စာရေးဆရာများ ကဲ့သို့ ကမ္ဘာ့လူတန်းစား ပြဿနာများနှင့် လူတို့၏ ဘဝတည်နေမှု အစရှိသည့် နက်နဲသော အတွေးအခေါ် အယူအဆများကို စိတ်ဝင်စားခြင်းမရှိပေ။ စိတ်ကူးကောင်းကောင်းဖြင့် ဆွတ်ပျံ့ဖွယ် စာပေများကိုသာ ရေးသားသည်။

၁၈၇၆ ခု အသက် ၂၆ နှစ်အရွယ်တွင် စတီဗင်ဆန်သည် မစ္စစ် အော့စဗန် အမည်ရှိ အမေရိကန်သူ မုဆိုးမတဦးနှင့် ပြင်သစ်ပြည်၌ တွေ့ဆုံကာ မေတ္တာသက်ဝင်ခဲ့ လေသည်။ ထိုနောက် မစ္စစ် အော့စဗန် မမာမကျန်းဖြစ်သည် ဟူ၍ သတင်းကြားရသဖြင့် စတီဗင်ဆန်သည် မစ္စစ် အော့စဗန် နေထိုင်ရာ အမေရိကန်နိုင်ငံ ကာလီဖိုးနီးယားပြည်နယ် ဆန်ဖရန်စစ္စကိုမြို့သို့ သွားရောက်ခဲ့သည်။ လမ်းခရီးတွင် အလွန်ဆင်းရဲပင်ပန်းသော်လည်း စတီဗင်ဆန်အဖို့ စာပေရေးသားရန် အချက်အလက် များစွာ ရရှိခဲ့၏။ ဆန်ဖရန်စစ္စကိုမြို့၌နေထိုင်စဉ် အဆုတ်ရောဂါ စွဲကပ်လာ၏။ သေရအံ့ဆဲဆဲဖြစ်နေသော စတီဗင်ဆန်မှာ မစ္စစ် အော့စဗန်၏ ဂရုတစိုက်ပြုစုမှုကြောင့်သာ နလံထူနိုင်ခဲ့လေသည်။

၁၈၈၀ ပြည့်နှစ်တွင် စတီဗင်ဆန်သည် မစ္စစ် အော့စဗန်နှင့် လက်ထပ်ပြီးလျှင် မိမိ၏ဇနီးနှင့်အတူ ဇနီးမှပါသော သားသမီးများကိုပါ ခေါ်ဆောင်၍ နေရင်းဒေသ စကော့တလန်ပြည်သို့ ပြန်ခဲ့သည်။ ဇနီးမှပါသော သားသမီးများအနက် မစ္စတာ လွိုက် အော့စဗန် ဆိုသူမှာ စတီဗင်ဆန်၏ဝတ္ထုအချို့တွင် ကူညီ ရေးသားခဲ့သည့်ပြင် သူကိုယ်တိုင်ကလည်း ထင်ရှားသော စာရေးဆရာတဦး ဖြစ်သည်။

စတီဗင်ဆန်သည် စကော့တလန်ပြည်၏ ပြင်းထန်သော ရာသီဥတုဒဏ်ကို မခံနိုင်သဖြင့် မိမိ၏ကျန်းမာရေးနှင့် သင့်တော်မည့် ဒေသကို နှစ်ပေါင်းများစွာ လှည့်လည်ရှာဖွေခဲ့သည်။ နောက်ဆုံး၌ ပစိဖိတ်သမုဒ္ဒရာတောင်ပိုင်းရှိ ဆမိုးဝါးကျွန်းစုကို တွေ့သဖြင့် အိမ်သားများနှင့်အတူ ထိုကျွန်းစုသို့ ပြောင်းရွှေ့နေထိုင်လေသည်။ ဤဆမိုးဝါးကျွန်းစုသို့ ရောက်၍ လေးနှစ်အကြာ ၁၈၉၄ ခု ဒီဇင်ဘာလ ၄ ရက်နေ့

တွင် စတီဗင်ဆန်သည် နှလုံးရောဂါဖြင့် ရုတ်တရက်ကွယ်လွန်လေသည်။

စတီဗင်ဆန်အား ပုံပြောဆရာကြီးတဦး အနေဖြင့် ချစ်ခင်ကြသော တိုင်းရင်းသားများသည် စတီဗင်ဆန်၏ ရုပ်ကလာပ်ကို ထိုကျွန်းစုရှိ ဗာအေးအား တောင်ထွတ်သို့ သယ်ယူ၍ ဂူသွင်းသင်္ဂြိုဟ်ကြသည်။ ထိုနေရာကား စတီဗင်ဆန် မကွယ်လွန်မီက သူ့အားသင်္ဂြိုဟ်ရန် မှာကြားခဲ့သောနေရာပင် ဖြစ်ပေသည်။

# ရတနာဒီပကျွန်း

ဂျင်ဟောကင်း၏ ဖခင် ဖွင့်လှစ်ထားသော ထမင်းဆိုင်၌ ကက်ပတိန် ဗစ်လီဗုန်း အမည်ဖြင့် သင်္ဘောသားတဦးသည် တည်းခိုနေထိုင်လျက်ရှိ၏။ ဗစ်လီဗုန်းသည် ခြေတဖက်မရှိသော သင်္ဘောသားတဦး သူ၏ထံသို့ လာရောက်မည်ကို အမြဲပင် စိုးရိမ်နေလေသည်။ တနေ့သော် ဗစ်လီဗုန်းထံသို့ မျက်မမြင် သူတောင်းစား ပျူး ရောက်လာ၏။ ထိုသူတောင်းစား ပြန်သွားပြီးနောက် ဗစ်လီဗုန်း သေဆုံးသွားလေသည်။ မသေဆုံးမီက သူ့နောက်သို့ ပင်လယ်ဓားပြများ လိုက်နေကြောင်း အထိမ်းအမှတ် တခုကို သူရရှိခဲ့ဘူး၏။ ဂျင်ဟောကင်းသည် ပင်လယ်ဓားပြများ မရောက်မီ ဗစ်လီဗုန်း၏ ပင်လယ်ခရီးဆောင် သေတ္တာဟောင်းကြီးကို ဖွင့်လှစ်၍ ရှာဖွေရာ ရတနာဒီပကျွန်း၏ မြေပုံကို တွေ့ရှိသဖြင့် ထိုမြေပုံကို သူ့မိတ်ဆွေများ ဖြစ်သော ဆရာဝန်ဒေါက်တာ လိုက်ဗဆေးနှင့် မြေပိုင်ရှင် ထရီလောနီ တို့ထံ ယူဆောင်သွား၏။ ရတနာဒီပကျွန်းရှိ ရွှေ၊ ငွေ၊ ရတနာများကို မြေပုံအတိုင်း သွားရောက်ရှာဖွေယူရေး အတွက် ထရီလောနီကပင် ငွေကြေးအကုန်အကျခံ၍၊ ဟစ္စပါညိုလာ အမည်ရှိ ရွက်သင်္ဘောကြီးတစင်းကို တည်ဆောက်လေ၏။ ထိုရွက်သင်္ဘောကြီးတွင် ကက်ပတိန် စမော လက်သည် တက်မကိုင်ဖြစ်၍ သင်္ဘောထမင်းချက်မှာ ခြေတဖက် မရှိသော လောင်းဂျွန်ဆီးလဗားဖြစ်သည်။

ကက်ပတိန် စမောလက်ကမူ လောင်းဂျွန်ဆီးလဗားနှင့် သင်္ဘောသား အားလုံး လိုလိုပင် ရတနာဒီပကျွန်းရှိ ရတနာများ၏ မူလပိုင်ရှင်ဖြစ်သော ပင်လယ်ဓားပြဗိုလ်ကြီး ကက်ပတိန် ဖလင့်၏ ယယ်သားများဖြစ်မည် ဟူ၍ သံသယဖြစ်လျက်ရှိသော်လည်း လမ်းခရီးတွင် မည်သို့မျှ တစုံတရာ မဖြစ်ပွားဘဲ ရတနာဒီပကျွန်းသို့ ချောမောစွာ ရောက်ကြလေသည်။ သို့ရာတွင် ကမ်းသို့ကပ်မိလျှင် ဂျင်သည် ဂျွန်ဆီးလဗားနှင့် အခြားသူတဦးတို့ ပြောစကားများကို ကြားရသောအခါ၊ ကက်ပတိန်စမောလက် ထင်သည့်အတိုင်း ဟုတ်မှန်နေကြောင်း တွေ့ရပေသည်။ ထိုအခိုက် သင်္ဘောသစးများမှာ ပုန်ကန်ထကြွရန် အချိန်ကို စောင့်ဆိုင်းလျက် ရှိလေပြီ။ သို့သော် ကက်ပတိန် စမောလက်က သင်္ဘောသားများအား ကမ်းပေါ်သို့ တက်ရောက်လည်ပတ်ခွင့် ပေးလိုက်ခြင်းဖြင့် ပုန်ကန်ထကြွမှု မဖြစ်ပွားတော့ချေ။ ပုန်ကန် ထကြွလိုသည့် သင်္ဘောသား ခြောက်ယောက် သာ သင်္ဘောပေါ်တွင် ကျန်ရှိခဲ့ရာ ဂျင်ဟောကင်းလည်း ကုန်းပေါ်သို့ဆင်းခဲ့၏။ ကျွန်းပေါ်တနေရာသို့ ရောက်သောအခါ ယခင်က သင်္ဘောတွင် ဂျွန်ဆီးလဗားနှင့်အတူ အလုပ်လုပ်ခဲ့ဘူးသည့်အပြင် ဆီးလဗားနှင့်လည်း မသင့်မြတ်သော ဗင်ဂန်းဆိုသူအား တွေ့ရှိလေသည်။ ဗင်ဂန်းမှာ ဤရတနာဒီပကျွန်းတွင် စွန့်ပစ်ထားခြင်းခံရသူ ဖြစ်သည်။ လောင်းဂျွန်ဆီးလဗား၏လူစုကို ခုခံတိုက်ခိုက်ရာ၌ ဂျင်တို့လူစုအား ဗင်ဂန်းက ကူညီမည်ဟု ဂတိပေးလေသည်။

ထိုအတောအတွင်း ကက်ပတိန် စမောလက်၊ ဒေါက်တာ လိုက်ဗဆေး၊ ထရီလောနီနှင့် သူ၏တပည့်သုံးဦးအပြင် ကျွန်ယုံ အေဗရာဟမ်ဂရေးတို့ ပါဝင်သော ကက်ပတိန်တို့လူစုသည် သင်္ဘောမှထွက်ခွာခဲ့ရာ လောင်းဂျွန်၏တပည့်များနှင့် တိုက်ခိုက်ရသဖြင့် ထရီလောနီး၏ တပည့်တဦး ကျဆုံး၍ အသက်ကယ်ကူးတို့လှေတစင်းလည်း ဆုံးရသည်။ ထိုနောက် ကက်ပတိန်စမောလက်တို့ လူစုသည် တောင်ကုန်းတခုပေါ်ရှိ သစ်တပ်အတွင်း တဲအိမ်တွင် စခန်းချနေကြသည်။ ကက်



ဆမိုးဝါးကျွန်းရှိ စာရေးဆရာကြီးစတီဗင်ဆန်၏သင်္ချိုင်းဂူ

ပတိန်၏အဖွဲ့သားများ စီးခဲ့သော လှေငယ်ကို သင်္ဘောသားများက ဖျက်ဆီးနေစဉ် ဂျင်လည်း ထိုသစ်တပ်တွင်းသို့ ရောက်ရှိလာလေသည်။

နောက်တနေ့နံနက် မိုးလင်းသောအခါ၌ ပင်လယ်ဓားပြများသည် ကက်ပတိန်တို့၏သစ်တပ်ကို လာရောက်တိုက်ခိုက်ကြသေး၏။ သို့သော် သူတို့ဖက်မှ ငါးယောက်ကျဆုံး၍ ဆုတ်ခွာ ထွက်ပြေးကြရလေသည်။ ကက်ပတိန်တို့ဖက်မှမူ ထရီလောနီး၏တပည့်နှစ်ဦး ကျဆုံး၍ ကက်ပတိန်ကိုယ်တိုင်လည်း ဒဏ်ရာရလေ၏။ နေ့လည်ပိုင်း၌ ဆရာဝန်သည် ဗင်ဂန်းအား ရှာဖွေရန် သစ်တပ်မှထွက်ခွာသွား၏။ ဂျင်လည်း တယောက်တည်း သစ်တပ်မှထွက်လာရာ ဗင်ဂန်း၏လှေကို တွေ့လေ၏။ ထိုလှေဖြင့် ရွက်သင်္ဘောကြီးဆီသို့ လှော်ခပ်သွား၍ ကျောက်ဆူးကြိုးများကို ဖြတ်လိုက်လေသည်။ ရေစီး အလွန် သန်သောကြောင့် ဂျင်သည် မိမိ၏လှေကိုပင် မထိန်းနိုင်ဘဲရှိရာ၊ နောက်ဆုံး၌ ခြေကုန်လက်ပန်းကျ၍အိပ်ပျော်လေ၏။ ဂျင်သည် အိပ်ရာမှနိုးသောအခါ လှေမှာ ခရီးဝေးသို့ ရေစီးရာမျောပါသွားကြောင်း တွေ့ရ၏။ ထိုပြင် ပဲ့ကိုင်မရှိဘဲ မျောနေသည့် ရွက်သင်္ဘောကြီးကိုလည်း ပြန်လည်တွေ့ရှိရလေသည်။ ဂျင်သည် သင်္ဘောပေါ်သို့တက်ရောက်ကြည့်ရှုရာ လူနှစ်ဦးကိုသာ တွေ့ရလေသည်။ ထိုလူနှစ်ဦးမှာလည်း အချင်းချင်းရန်ဖြစ်ကာ ထိုးသတ်ကြသဖြင့် တဦးမှာ သေဆုံးနေပြီဖြစ်၍ ကျန်တဦးမှာ ပြင်းထန်သော ဒဏ်ရာများဖြင့် လဲလျက်ရှိ၏။ ဂျင်လည်း ဒဏ်ရာဖြင့်လဲနေသူအား ပြုစု၍ ထိုသူ၏အကူအညီဖြင့် သင်္ဘောကို ဘေးရန်ကင်းလွတ်ရာ အရပ်သို့ ပြောင်းရွှေ့ ဆိုက်ကပ်ထား၏။ သို့သော် ဒဏ်ရာရသူသည် ဂျင်ကိုရန်ရှာသဖြင့် ဂျင်သည် ထိုသူအား သေနတ်နှင့်ပစ်သတ်လိုက်၏။ ထိုနောက် ဂျင်သည် ကမ်းပေါ်သို့တက်၍ ကက်ပတိန်တို့လူစုရှိရာ သစ်တပ်သို့သွားရာ သန်းကောင်ယံအချိန်၌သစ်တပ်သို့ရောက်လေ၏။ သို့သော် ထိုအချိန်၌ ကက်ပတိန်တို့လူစုသည် သစ်တပ်ကို စွန့်ခွာသွားနှင့်ကြပြီး ဖြစ်၍ သစ်တပ်မှာ လောင်းဂျွန်ဆီးလဗားနှင့် သူ၏နောက်လိုက် ပင်လယ်ဓားပြငါးဦးတို့လက်သို့ ကျရောက်လျက်ရှိ၏။ ပင်လယ်ဓားပြများသည် ဂျင်အား ဖမ်းဆီးလိုက်သည်သာမက တခါတည်း ကိစ္စတုံးသတ်ပစ်လိုကြ၏။ လောင်းဂျွန်ဆီးလဗားတဦးတည်းကသာ ဂျင်အားမသတ်ရန် ပြင်းပြင်းထန်ထန် ကန့်ကွက်သဖြင့် ပင်လယ်ဓားပြငါးဦးသည် လောင်းဂျွန်ဆီးလဗားကိုပင် ရန်မူရန်ကြံစည်ကြ၏။ သို့သော် လောင်းဂျွန်ဆီးလဗားက ဂျင်ကိုဓားစာခံအဖြစ် ထားရှိခြင်းဖြင့် မိမိတို့အတွက် အကျိုးရှိမည်ဖြစ်ကြောင်း ပြောဆိုသည့်ပြင် ဆရာဝန်က သူ့အားပေးခဲ့သော ရတနာဒီပကျွန်း မြေပုံကိုပါ ထုတ်ပြသောကြောင့် ငယ်သားများ ကျေအေးကုန်ကြသည်။

ထိုနောက် လောင်းဂျွန်ဆီးလဗား ခေါင်းဆောင်သော ပင်လယ်ဓားပြများသည် ရတနာဒီပကျွန်း မြေပုံဖြင့် ရတနာသိုက်အရှာထွက်ရာ၌ ဂျင်ကိုလည်း သူတို့နှင့်တပါတည်းခေါ်ဆောင်သွားကြ၏။ ပဌမဦးစွာ သူတို့သည် ပင်လယ်ဓားပြဗိုလ်ဟောင်း ကက်ပတိန်ဖလင့်က ရတနာသိုက်သို့သွားရာ အမှတ်အသားတခုအဖြစ် စီမံထားခဲ့သော အရိုးစုကို တွေ့ကြသည်။ နောက်ဆုံး၌ ရတနာသိုက်ရှိရာသို့ ရောက်သော်လည်း သိုက်တူးပြီးသားကိုသာ တွေ့ရလျှင် ဆီးလဗားနှင့် သူ၏နောက်လိုက် ငါးယောက်တို့မှာ အခြင်းများကြရလေသည်။ ဤကဲ့သို့ တယောက်နှင့်ငါးယောက် အခြင်းဖြစ်နေခိုက်တွင် ကက်ပတိန်နှင့် အဖွဲ့သားများ ရောက်ရှိလာ၍ ပစ်ခတ်ကြသည်တွင် ဆီးလဗား၏နောက်လိုက် ပင်လယ်ဓားပြနှစ်ဦး ကျဆုံး၍ သုံးဦးမှာ ထွက်ပြေးလွတ်မြောက်သွားလေ၏။ ဆီးလဗားကိုမူ ဂျင်ဟောကင်းအား ကယ်ဆယ်ခဲ့သူ ဖြစ်၍ ကက်ပတိန် စမောလက် ၏ အဖွဲ့သားများက အသက်ချမ်းသာပေးလေ၏။ ရတနာများကိုကား ကြာမြင့်စွာကပင် ဗင်ဂန်းက တွေ့ရှိခဲ့၍ မိမိ၏ကျောက်ဂူတွင်းသို့ ပြောင်းရွှေ့ သိမ်းဆည်းထားခဲ့လေသည်။ ထိုရတနာများကို ကျောက်ဂူမှ ရွက်သင်္ဘောပေါ်သို့ တင်ဆောင်ကြပြီးနောက် ထွက်ပြေးသော ပင်လယ်ဓားပြ သုံးဦးအတွက် ရိက္ခာများ ထားခဲ့၍ ရတနာဒီပသိုက်ရှာသူအားလုံးတို့သည် ရွက်များကို ဖွင့်လျက် ရတနာဒီပကျွန်းမှ ထွက်ခွာခဲ့ကြလေသတည်း။

**စတီရီယိုစကုပ်။** ။ပစ္စည်းတခုကို မျက်စိနှစ်လုံးဖြင့်ကြည့်ရာ၌ မျက်စိတဖက်က မြင်သကဲ့သို့ အခြားတဖက်ကလည်း အတူတူပင်မြင်သည်ဟု ယူဆကြသည်။ အမှန်မှာ လက်ျာဖက်မျက်စိသည် ပစ္စည်း၏လက်ျာဖက်ကို ပိုမြင်၍ လက်ဝဲဖက် မျက်စိကလည်း ထိုပစ္စည်း၏ လက်ဝဲဖက် ကို ပို၍ မြင်သည်။ လက်တွေ့သိလိုလျှင် မျက်စိတဖက်စီကို ပိတ်၍ ကြည့်ပါ။ မျက်စိနှစ်လုံးဖြင့် ပစ္စည်းတခုကိုကြည့်ရာ၌ ပုံနှစ်ပုံပေါ်မလာဘဲ တပုံတည်းပေါ်လာသည်။ ထိုသို့ပေါ်လာစေရန် အသိဉာဏ်က ပြုပြင်၍ပေးလေသည်။ ပစ္စည်း၏ ရုပ်လုံးပုံကို မြင်ရခြင်းမှာ မျက်စိနှစ်လုံးဖြင့် ကြည့်သောကြောင့် မြင်ရခြင်းပင် ဖြစ်လေသည်။ သာမန်ဓာတ်ပုံရိုက်ကရိယာသည် မျက်စိတဖက်တည်းကဲ့သို့သော မှန်ဘီလူးတခုသာရှိသဖြင့် ထိုကရိယာမျိုးဖြင့်ရိုက်ယူသော ဓာတ်ပုံများသည် ပြား၍နေကြသည်။

စတီရီယိုစကုပ်၏သဘောမှာ မျက်စိ၏သဘောအတိုင်းပင်ဖြစ်သည်။ (မျက်စိ — ရှု။) စတီရီယိုစကုပ်ပစ် ကင်မရာသည် ပစ္စည်းတခုကို ဓာတ်ပုံရိုက်ရာ၌ မှန်ဘီလူးတချပ်ကို ထိုပစ္စည်း ၏ လက်ျာဖက် သို့ အနည်းငယ် ပို၍ ရိုက်နိုင်ရန် အနည်းငယ်ရွှေထား၍ အခြားမှန်ဘီလူးတချပ်ကို ပစ္စည်း၏

လက်ဝဲဖက်သို့ အနည်းငယ်ပို၍ ရိုက်နိုင်ရန် အနည်းငယ်ရွှေ့ထားပြီး ဓာတ်ပုံနှစ်ခုကို တပြိုင်တည်းရိုက်ယူသည်။ ထိုစတီရီယို ဓာတ်ပုံနှစ်ခုကို ဘေးချင်းယှဉ်၍ ကပ်ထားသည်။ ထိုဓာတ်ပုံနှစ်ပုံကို မှန်ဘီလူးနှစ်ခု တပ်ဆင်ထားသည့် ကရိယာတွင် ထည့်၍ကြည့်လိုက်သောအခါ ထိုဓာတ်ပုံနှစ်ပုံသည် တပုံတည်းသဘောဖြင့် သဘာဝကျကျ ရုပ်လုံးဒြပ် ပေါ်လာသည်။ ထိုသို့ တပုံတည်း သဘာဝကျကျ ပေါ်လာစေရန် ကြည့်ရှုရသောမှန်ပြောင်းကို စတီရီယိုစကုပ်ဟု ခေါ်သည်။ စတီရီယိုစကုပ် ဟူသည်မှာ ဂရိဘာသာဝေါဟာရဖြစ်၍ မြန်မာဘာသာဖြင့် ဆိုရလျှင် ရုပ်လုံးဒြပ်ပေါ်အောင် ကြည့်ခြင်းဟု အဓိပ္ပါယ်ပေါက်သည်။

စတီရီယိုစကုပ်သည် ယခုခေတ်သစ်မှ ပေါ်ပေါက်လာသော ကရိယာဖြစ်သည်။ ပဌမအမျိုးအစားကို ၁၈၃၈ ခုနှစ်လောက်တွင် အင်္ဂလိပ်ရူပဗေဒကဝိတဦးဖြစ်သူ ဆာချားဝှီစတုန်း ဆိုသူက စတင်ပြုလုပ်ခဲ့လေသည်။ ထိုနောက် ၁၈၄၄ ခုနှစ်လောက်တွင် ဆာ ဒေးဗစ် ဗရူးစတား ဆိုသူက ပို၍ကောင်းအောင် ပြုပြင်ပြီးလျှင် လူကြိုက် အလွန်များသော လင်းစတီရီယိုစကုပ်ကို တီထွင်ခဲ့လေသည်။ လူသုံးများသော စတီရီယိုစကုပ်ကိုကား အော်လီဗာ ဝင်းဒဲ ဟုမ်းဆိုသူ တီထွင်ခဲ့လေသည်။

စတီရီယိုစကုပ်၏နည်းကို စစ်မြေပြင်တွင်သုံးသည့် မှန်ဘီလူးများတွင် အသုံးပြုလျက်ရှိသည်။ ရုပ်ရှင်ရိုက်ကူးသည့် စက်များတွင်လည်း အသုံးပြုနိုင်ရန်ကြံစည်ခဲ့ကြရာ အောင်မြင်ပြီဖြစ်၍ ယခုအခါ 'သရီးဒီ' ခေါ် ရုပ်လုံးပေါ်ရုပ်ရှင်ကားများကို ကျွန်ုပ်တို့ကြည့်ရှုနေကြရပြီဖြစ်သည်။



လေယာဉ်ပေါ်မှရိုက်ကူးထားသော ဓာတ်ပုံများကို သဘာဝကျကျ မြင်နိုင်ရန် စတီရီယိုစကုပ်ဖြင့်ကြည့်ရှုနေပုံ

**စတီရီယိုပုံသွင်းနည်း။** ။ခေတ်မှီပုံနှိပ်လုပ်ငန်းတွင် အီလက်ထရိုတိုက် (လျှပ်စစ်ပုံစံ) နှင့် စတီရီယိုတိုက် (စတီရီယိုပုံစံ) နှစ်မျိုးလုံးပင် ခေတ်စားလျက်ရှိသည်။ သို့သော် စတီရီယိုတိုက်မှာ အီလက်ထရိုတိုက်ထက် စရိတ်သက်သာခြင်း၊ အလွန်လျင်မြန်စွာ ပြုလုပ်နိုင်ခြင်းတို့ကြောင့် သတင်းစာတိုက်ကြီးများ၌ စတီရီယိုတိုက်ကိုသာ အသုံးပြုလေ့ရှိကြသည်။ ယခုအခါ စာအုပ်စာတမ်းရိုက်နှိပ်သော အခြားပုံနှိပ်တိုက်ကြီးများကပါ ဤပုံစံမျိုးကို တနေ့တခြား အသုံးများလာကြသည်ကို တွေ့ရသည်။

အဆိုပါ ပုံစံနှစ်မျိုးလုံးပင် စာစီထားပြီးသား စာဖောင်မှ ထပ်တူပြုလုပ်ယူသော မိတ္တူပုံစံများ ဖြစ်ကြ၏။ လျှပ်စစ်ပုံစံတွင် ဖယောင်းဖြင့် ပုံစံခွက်ပြုလုပ်၍ လျှပ်စစ်ဓာတ်ဖြင့် သတ္တုအသားတင်ပေးသည်။ စတီရီယိုပုံစံတွင် စက္ကူထူတမျိုးဖြင့် ပုံစံခွက်ပြုလုပ်၍ သတ္တုကို လျှပ်စစ်ဓာတ်နှင့် မဟုတ်ဘဲ၊ ရိုးရိုးအရည်ကျိုပြီး လောင်းချပုံသွင်းပေးသည်။

စတီရီယိုပုံသွင်းနည်းတွင် ရှေးဦးစွာ အပူဒဏ်ခံနိုင်သည့် စက္ကူထူတမျိုးကို ဖောင်သွင်းထားသော စာမျက်နှာပေါ်၌ အားနှင့်ဖိနှိပ်ပေးသည်။ ထိုအခါ စက္ကူထူပေါ်၌ စာဖောင်



ပုံသွင်းစက်အတွင်းရှိစတီရီယိုပုံစံကို ပြုပြင်နေပုံ

နှင့် ပြောင်းပြန်ဖြစ်သောပုံစံ ထင်လာသည်။ ထိုစက္ကူချပ်ကို မက်ထရစ် (မူလပုံစံခွက်) ဟု ခေါ်ကြသည်။ ထိုစက္ကူကို ပုံသွင်းစက်ထဲသို့ ထည့်သောအခါ စက်က စက္ကူကို ခုံးသွားစေ၍ စက္ကူသည် စက်ထဲ၌ အောက်ခံပုံစံခွက် အနေနှင့် တည်နေသည်။ ထိုနောက် အရည်ကျိုထားသော သတ္တုရည်ကို လောင်းထည့်ပေးသောအခါ ခုံးနေသောသတ္တုသား ခပ်ပါးပါး ပုံစံပြားကိုရ၏။ ထိုပုံစံပြားမှာ စတီရီယိုတိုက်ခေါ် ပုံစံပင်ဖြစ်သည်။

ဤနည်းတွင် အသုံးပြုသော စက္ကူထူတချပ်မှ ပုံစံပေါင်းများစွာ ပြုလုပ်နိုင်သည်။ ပုံစံများကို အခုံးပုံ မဟုတ်ဘဲ အပြားလိုက်အနေနှင့်လည်း ပြုလုပ်နိုင်၏။ ဤနည်းမှာ အီလက်ထရိုတိုက်ပုံသွင်းနည်းထက် လျင်မြန်သက်သာသည့်အတိုင်း ခေတ်မှီသတင်းစာတိုက်ကြီးများနှင့် ပုံနှိပ်တိုက်ကြီးများတွင် တနေ့ထက်တနေ့ ခေတ်စား၍ အသုံးများလာလေသည်။ (လျှပ်စစ်ပုံသွင်းနည်း။ စာအုပ်။ ပုံနှိပ်အတတ် — လည်းရှု။)



ဆာရစ်ချတ်စတီး

**စတီး, ဆာရစ်ချတ်** (ခရစ် ၁၆၇၂–၁၇၂၉)။ ။အင်္ဂလိပ်စာပေလောကတွင် စာမွန်များကို ရေးသားသော စာရေးဆရာကြီး ဂျိုးဇက်အက်ဒီဆန်၏ နာမည်နှင့် ဒွန်တွဲလျက်ရှိသောသူကား ဆာ ရစ်ချတ် စတီး ဖြစ်သည်။ စတီးသည် စာမွန် စာပေများ ရေးသားသူ အဖြစ်သာမက ပြဇာတ်များကို ရေးသားသူ အဖြစ်ဖြင့်၎င်း၊ နိုင်ငံရေးသမားအဖြစ်ဖြင့်၎င်း၊ ကျော်စောသော အိုင်းရစ်အမျိုးသားတဦး ဖြစ်သည်။ (အက်ဒီဆန်, ဂျိုးဇက်။ စာမွန် — လည်းရှု။)

စတီးသည် ၁၆၇၂ ခုနှစ် မတ်လတွင် အိုင်ယာလန်ပြည် ဒဗ္ဗလင်မြို့၌ မွေးဖွား၍ ၁၇၂၉ ခုနှစ် စက်တင်ဘာလ ၁ ရက်နေ့၌ ဝေလနယ် ကာမာသန်မြို့ အနီးတွင် ကွယ်လွန်လေသည်။ မိမိနှင့် သက်တူရွယ်တူဖြစ်သော ဂျိုးဇက်အက်ဒီဆန်နှင့်အတူ ချာတာဟောက်ကျောင်းနှင့် အောက်စဖို့တက္ကသိုလ်တို့တွင် စာသင်ခဲ့လေသည်။ သို့သော် တက္ကသိုလ်၌ ဒီဂရီရပြီးသည်အထိမနေဘဲ စစ်ထဲသို့ဝင်ခဲ့ရာ၊ ကက်ပတိန်ရာထူးအထိ ရောက်ရှိခဲ့သည်။ ၁၇၀၇ ခုနှစ်မှ ၁၇၁၀ ခုနှစ်အတွင်း၌မူ သတင်းပြန်ကြားဖြန့်ချိရေးအရာရှိအဖြစ် လုပ်ကိုင်ခဲ့ပြီးနောက် ပါလီမန်အမတ် ဖြစ်လာခဲ့သည်။ သို့သော် 'ကရိုက်ဆစ်' သတင်းစာတွင် သူတပါးအား အသရေပျက်စေသော ရေးသားမှုကြောင့်ပါလီမန်အမတ်အဖြစ်မှ ထုတ်ပယ်ခြင်းခံရလေသည်။ ထိုပြင် စတီးသည် စိတ်ခေတ်ပြင်းထန်လှသော ဝှစ်ပါတီဝင်တယောက် ဖြစ်ရကား ၁၇၁၀ ပြည့်နှစ်၌ တိုရီပါတီဝင်များ အာဏာရလာသောအခါတွင် သတင်း ပြန်ကြား ဖြန့်ချိရေး ရာထူးကို စွန့်လွှတ်လိုက်ရလေသည်။

စတီးသည် ပဋ္ဌမဂျော့ဘုရင်လက်ထက်၌ ရာထူးအမျိုးမျိုးတွင် ထမ်းရွက်ခဲ့ရပြီးလျှင် ၁၇၁၅ ခုနှစ်တွင် ဆာဘွဲ့ဖြင့် ချီးမြှင့် သူကောင်းပြုခြင်း ခံခဲ့ရသည်။ သူသည် နာမည်ကျော်ကစ်ကက်ကလပ်၏ အသင်းသားတယောက်ဖြစ်ပြီးလျှင်၊ ၁၇၀၇ ခုနှစ်တွင် ကမ္ဘာကျော် စာရေးဆရာကြီးဂျိုနသန်ဆွစ်နှင့် ပဋ္ဌမဆုံး စတင်သိကျွမ်းခဲ့သည်ဟု အဆိုရှိသည်။ (ဆွစ်, ဂျေ — လည်းရှု။) သို့သော် ၁၇၁၀ ပြည့်နှစ်တွင် ယင်းတို့နှစ်ဦး၏ ရင်းနှီးခင်မင်မှု ပျက်ပြယ်သွားသည့်ပြင် စတီးသည် ငယ်သူငယ်ချင်း ရောင်းရင်းဖက်ဖြစ်သူ အက်ဒီဆန်နှင့်လည်း ၁၇၁၉ ခုနှစ်တွင် ခိုက်ရန်ဖြစ်ပွားခဲ့လေသည်။

၁၇၀၉ ခုနှစ်မှ ၁၇၁၁ ခုနှစ်အတွင်းတွင် စတီးသည် 'တက်တလာ' ခေါ် သတင်းစာကို 'အိုင်ဇက်ဗစ်ကာစတပ်' ဟူသောနာမည်ဖြင့် စတင် တည်ထောင် ထုတ်ဝေခဲ့၍ ယင်းသတင်းစာအယ်ဒီတာ အဖြစ်ဖြင့်လည်း ဆောင်ရွက်ခဲ့သည်။ ထိုသတင်းစာအပြင် ၁၇၁၁ ခုနှစ်မှ ၁၇၁၂ ခုနှစ်အထိထုတ်ဝေခဲ့သော 'စပက်တေးတား' သတင်းစာတွင်လည်း စတီးသည် အက်ဒီဆန်မှအပ စာမွန်အများဆုံး ရေးသားခဲ့သူဖြစ်သည်။ ၁၇၁၃ ခုနှစ်တွင်မူ 'ဂါဒီယန်' ခေါ် သတင်းစာကို စတင်တည်ထောင်ထုတ်ဝေ၍ နက်စတာအိုင်းယန်းဆိုက် ဟူသော ကလောင်အမည်ဖြင့် စာမွန်များ အများဆုံးရေးသားခဲ့သည်။ ထိုနောက် တိုရီအစိုးရကို အတိုက်အခံပြုလုပ်ရန် အတွက် ၁၇၁၃ ခုနှစ် အောက်တိုဘာလတွင် 'အင်္ဂလိပ်လူမျိုး' ခေါ် သတင်းစာကို ထုတ်ဝေခဲ့ ပြန်လေသည်။ ၁၇၁၈ ခုနှစ်တွင် ထုတ်ဝေခဲ့သော 'ပလီဗီးယန်း' ခေါ် နိုင်ငံရေးစာစောင်တွင်မူ စတီးသည် ဝန်ကြီးဆန်ဒါလန်၏ မှူးမတ်မျိုးနွယ်ဥပဒေကြမ်းနှင့် စပ်လျဉ်း၍ သူ၏ရောင်းရင်းဖက် အက်ဒီဆန်၏အာဘော်ကို ဆန့်ကျင်ကာ ပြန်လှန်ချေပ

ရေးသားခဲ့လေသည်။ စတီး၏ နောက်ဆုံးစွန့်စားထုတ်ဝေမှုကား ၁၇၂၀ ပြည့်နှစ် ဇန္နဝါရီလမှ ဧပြီလအထိ ထုတ်ဝေခဲ့သော 'သီယေတာ' ခေါ် စာစောင်ပင် ဖြစ်သည်။ ထိုအချိန်၌ စတီးသည် နာမည်ကျော် ဒရူရီလိန်း ဇာတ်ရုံ၏ အမည်ကို မူပိုင်ရရှိထားသူဖြစ်ခဲ့လေပြီ။

စတီးသည် စာမွန် အမြောက်အမြားကို ရေးသားခဲ့ပြီးလျှင် ၁၇၁၄ ခုနှစ်တွင် သူရေးခဲ့သမျှသော စာများကို အကြောင်းပြု၍ 'တောင်းပန်ခြင်း' ခေါ် စာတပုဒ်ကို ရေးသားထုတ်ဝေခဲ့သည်။

**စတုမဓု။** ။စတုမဓုသည် စတုမဓုဟူသော ပါဠိဘာသာမှ ဆင်းသက်လာသည်။ စတု၏အနက်မှာ လေးခုသချော်၊ မဓု၏ အနက်မှာ အချိုအရသာဖြစ်၏။ ထိုကြောင့် စတုမဓုသည် အချို ၄ မျိုးဟု အဓိပ္ပါယ်ရ၏။ ထိုအချိုလေးမျိုးကား၊ ထောပတ်၊ တင်လဲ၊ ပျားရည်နှင့် ဆီ ဖြစ်သည်။ ယင်းလေးပါးကို အမျှစီပေါင်းစပ်လျက် နေ သို့မဟုတ် မီးဖြင့်ချက်လျှင် စတုမဓုဖြစ်သည်။

မြတ်စွာဘုရားသခင်က နိဿဂ္ဂိယပါစိတ်၊ ပတ္တဝဂ်၊ ဘေသဇ္ဇ သိက္ခာပုဒ်တွင် ရဟန်းတော်များသည် စတုမဓုကို ဆေးဝါးအဖြစ်ဖြင့် အခါမရွေး သုံးဆောင်နိုင်ကြောင်း ခွင့်ပြုတော်မူသည်ကိုထောက်၍ စတုမဓုသည် မြတ်စွာဘုရားလက်ထက်တော်ကပင် ရှိနှင့်ပြီးဖြစ်သည်ဟု သိရသည်။ သမန္တစက္ခုဒီပနီကျမ်း၊ ရှင်သီဝလိရုပ်တု ဓာတ်တော်အကြောင်းကို ဆိုရာ၌ 'မထေရ်လည်း ကောသလမင်း၏ နန်းတော်သို့သွား၏။ မင်းသည် သပိတ်တော်ကိုလှမ်း၍ ဤအခါသည် ဆွမ်း၏အခါမဟုတ်ပြီဟု သပိတ်ပြည့်အောင် စတုမဓုကိုလှူစေ၏။ မထေရ်လည်း စတုမဓုကိုယူ၍ ကြွတော်မူခဲ့၏။' ဟု တွေ့ရသည်။ သို့သော် ရဟန်းသံဃာတို့သည် စတုမဓုကို မွတ်သိပ်ဆာလောင်ရုံသက်သက်ဖြင့် မစားကောင်း၊ အားနည်းသောရောဂါနှင့် လေရောဂါစသည် ရှိသူတို့ စားကောင်းသည်ဟု ဝိနည်းတော်လာစကားကို အဋ္ဌကထာ ဋီကာဆရာတို့က ဖွင့်ထားသဖြင့် စတုမဓုသည် ထိုရောဂါများအတွက် ဆေးတပါးဖြစ်သည်ဟု ဆိုနိုင်ပေသည်။ ယင်းကို ပါရာဇိကဏ် အဋ္ဌကထာက ပို၍ထင်ရှားစေ၏။ ပါရာဇိကဏ်အဋ္ဌကထာ၌ 'ကောဏ္ဍတိဿထေရ်သည် လေအနာကိုကုအံ့သော ငှာ ဆွမ်းခံဝတ်ဖြင့် လှည့်လည်လတ်သော်၊ တလက်ဆွမ်းမျှလောက်သော ထောပတ်ကို မရ၍ အနာသည်းသဖြင့် ကုန်သော အာယုသင်္ခါရ ရှိသည် ဖြစ်၍ ရဟန်းအပေါင်းကို မမေ့မလျော့သော သတိတရားဖြင့်ဆုံးမ၍ ကောင်းကင်၌ တေဇောဓာတ်လျှင် အာရုံရှိသော တေဇောကသိုဏ်းကိုဝင်စား၍ ပရိနိဗ္ဗာန်ပြုတော်မူ၏။ အာသောကမင်းကြီးသည် ထိုအကြောင်းကိုကြား၍ ထေရဿမထေရ်အား ကောင်းစွာ အရိုအသေကိုပြု၍ ငါသို့သောမင်းမည်သည် မင်းအဖြစ်ကို ပြုပါလျက်သာလျှင် သခင်ရဟန်းတို့အား ဆေးပစ္စည်းတို့သည် ရခဲကုန်၏တကား။ ဤသို့ကြံ၍ မြို့၏တံခါးလေး ပေါက်တို့၌ လေးခုလေးခုသော ကန်တို့ကို တူးစေ၍ စတုမဓုဖြင့် ပြည့်စေ၍ လှူ၏။' ဟု လာရှိသည်က ထင်ရှားစေသည်။

ဇိနတ္ထပကာသနီကျမ်း၊ မြတ်စွာဘုရား ပရိနိဗ္ဗာန်စံတော်မူခြင်းကို အမတ်တို့က အဇာတသတ်မင်းအား လျှောက်ထားခန်း၌ 'ဤမင်းသည် ဘုရား လွန်တော်မူကြောင်းကို ကြားရလျှင်၊ တခဏခြင်း နှလုံးကွဲ၍ သေရာသည်။ ထိုကြောင့် ငါတို့သည် မင်း၏အသက်ကို စောင့်သင့်ပေသည် ဟုကြံ၍၊ လျှောင်းတန် ရုံသော ရွှေကျင်းသုံးခုကိုယူ၍၊ စတုမဓုဖြင့် ပြည့်စေပြီးသော်၊ မင်းကြီးထံသို့ ကပ်၍ ဤသို့ လျှောက်ကြ၏။ အရှင်မင်းကြီး အကျွန်ုပ်တို့သည် ကြောက်မက်ဖွယ်သော အိပ်မက်ကို မြင်ပါသည်။ ထိုအိပ်မက်ကို ဖျောက်ဖျက်စေချင်ပါသည်။ အရှင်မင်းကြီးသည် ဘွဲ့ဖြူပုဆိုးနှစ်ထည်ကို ဝတ်၍ နှာခေါင်းဝမျှကို ဘော်စေလျက်၊ ဤ စတုမဓု ကျင်းထဲ၌ အိပ်စက်တော်မူပါဟု ဆို၏။ ထိုစကားကိုကြားသောအခါ အဇာတသတ်မင်းကြီးကလည်း၊ ငါ၏အကျိုးစီးပွားကို ရှက်ဆောင်လို၍ ဆိုသည်ကို ဘယ်မှာ နားမထောင် ရှိတော့အံ့နည်းဆို၍ ထိုအမတ်တို့ လျှောက်ထားတိုင်း အိပ်ပေ၏။ ထိုအခါ အမတ် တယောက်သည် ဘုရား ပရိနိဗ္ဗာန်စံတော်မူရာ အရပ်ဆီသို့ လက်အုပ်ချီပြီးသော်၊ အရှင်မင်းကြီး၊ ကိုယ်တော်၏သံသယကို ပျောက်ပကျေနပ် စေတတ်သော ဘုန်းတော် အာနုဘော် တက်၍ အသက်ကိုရှည်စေတတ်သော ရိုသေလေးမြတ် ဆည်းကပ်ကိုးကွယ်ရာ ဖြစ်တော်မူသော မြတ်စွာဘုရားသည် ကုသိနာရုံပြည် အပါး၌ နိဗ္ဗာန်လားတော်မူချေပြီဟု လျှောက်တင်၏။ မင်းကြီးလည်း ထိုစကားကို ကြားလျှင်ပင် သစ်ပင်ထက်မှ ကျသောသူကဲ့သို့ သည်းအူလှိုက်ဖိုလျက် ကိုယ်အလုံးတုန်ဘိ၍ သတိမရ၊ တသ မိန်းမော၍ မြောလေ၏။ စိမ်အပ်သောစတုမဓုပင် ကျိုက်ကျိုက်ဆူ၍ အငွေ့ထွက်၏။ အမတ်တို့လည်း မင်း၏ကိုယ်ကိုချီ၍ တခုသောကျင်း၌ သိပ်ပြန်ကြသဖြင့် သတိရသောအခါ အမောင်တို့ အဘယ်ကိုဆိုကြသနည်းဟု မေးပြန်လျှင်၊ အရှင်မင်းကြီး မြတ်စွာဘုရား ပရိနိဗ္ဗာန်လားချေပြီဟု လျှောက်ကြ၏။ မင်းကြီးလည်း ရွှေနည်းတူ မိန်းမော၍ မြောပြန်သဖြင့် တတန်သောကျင်းသို့ ပြောင်းရ၏။' ဟု ဖော်ပြထားသည်ကိုထောက်၍ စတုမဓုသည် မဇ္ဈိမဒေသတိုက်၌ အသုံးပြုလေ့ပြုထရှိသော ပစ္စည်း တမျိုးဟု သိနိုင်သည်။

စတုမဓုကို ရှေးအခါက မုံ့ပြုလုပ်၍ရင်း၊ စတုမဓုနှင့်ယှဉ်သောဆွမ်းများပြုလုပ်၍ရင်း၊ ကျွေးမွေးပေးကမ်း လှူဒါန်း

ကြံကြောင်းကို မဟာဝင်ဝတ္ထု၌ ဗိန္ဒုသာရအကြောင်းတွင်၎င်း၊ ဇိနတ္ထပကာသနီကျမ်း၌ ရှင်ဥပဂုတ်ထေရ်သည် မာရ်နတ်သားကို ဆုံးမခြင်းတွင်၎င်း တွေ့ရသည်။ နရသာသနကျမ်းတွင် 'အပျော်ဆေးကာ၊ စတုမဓူ၊ ပေးကမ်းလှူသည်' ဟူလည်း ဖေါ်ပြထားသဖြင့် စတုမဓုကို ပေးလှူကြောင်း သိရ၏။ ယခုတိုင်အောင် စတုမဓုကို ရဟန်းတော်များအား ပေးလှူဆက်ကပ်ကြလေသည်။

**စတုမဟာရာဇ်**။ ။သုံးဆယ့်တဘုံ — ရှု။

**စတုရင်**။ ။စစ်ဘုရင်ကစားခြင်း — ရှု။

**စတုရင်္ဂဗလအမတ်**။ ။စတုရင်္ဂဗလအမတ်ကြီးသည် ပင်းယခေတ်မြန်မာစာပေ၌ ထင်ရှားသော စာဆိုတော်တဦးဖြစ်၍ဇာတိအားဖြင့်ပြည်မြို့သားဖြစ်သည်။ ဝိဇယာပုရအမည်ရှိ ပင်းယမြို့တည်နန်းတည် တစီးရှင် သီဟသူမင်းကြီး (မြန်မာ ၆၇၄–၆၈၄) ၏သားတော် ငါးစီးရှင်ကျော်စွာမင်း (၇၀၄–၇၁၂) သည် အမတ်ကြီးအား သူကောင်းပြု၏။ ထိုမင်း၏သားတော် လေးစီးရှင်ကျော်စွာခေါ် သီဟသူမင်း (၇၁၂–၇၂၂) လက်ထက်၌ အတွင်းဝန်အဖြစ် အမှုထမ်းနေစဉ် 'သီရိမဟာစတုရင်္ဂဗလ' ဘွဲ့ဖြင့် ချီးမြှင့်ခြင်း ခံရလေသည်။

ပိဋကတ်သုံးပုံကို ကောင်းစွာနှံ့စပ်သော အမတ်ကြီးသည် မာဂဓဘာသာ ဂန္ထန္တရ ကျမ်းများနှင့် သသ်ကရိဋ္ဌ်ဘာသာ ကျမ်းစာများတွင်လည်း ကောင်းစွာတတ်မြောက်သည်ဖြစ်၍ လင်္ကာဏာ တော်ငယ် ရှစ်ဆယ်ဂါထာ၊ တရာ့ရှစ်ကွက် ခြေတော်စက်နှင့်ဆိုင်သော ပါဒနက်သန်ဂါထာများ၊ 'ဟိတောပဒေသဝတ္ထု' (အင်္ဂါ ၂၀ ကျော်) နှင့် မာဂဓအဘိဓာန်ဋီကာကျမ်းတို့ကို ပြုခဲ့လေသည်။ ထို့ပြင် ရှေးရိုးမြန်မာတို့၏ လူ့ကျင့်ဝတ်၌ အလွန်အရေးပါသော လောကနီတိကျမ်းကိုလည်း ပါဠိဘာသာဖြင့် ပြုစုခဲ့လေရာ၊ ထိုကျမ်းကို ဆရာတော်ဦးဗုဓ်က မြန်မာနိဿယ ပြန်ဆိုခဲ့လေသည်။

အမတ်ကြီးကား ကျမ်းပြုဆရာသာမဟုတ် လင်္ကာဆရာလည်းဖြစ်သည်။ လေးစီးရှင်ကျော်စွာ၏ ကျော်စွာမင်းကျောင်း၌ သီတင်းသုံးတော်မူသော ရှင်နာဂိတ အမည်ရှိ ပေါက်ကန်ဆရာတော် ဟူ၍လည်း တွင်သော ဆုံးတွင်းပစ်ဆရာတော်ထံ မြတ်စွာဘုရား တရားတော်နှင့် စပ်လျဉ်း၍ အမတ်ကြီး ရေးသားသော 'ရွှေဘဝါးတော်အောက်' ချီ အမေးပုစ္ဆာ ပိုဒ်စုံရတုသည် ရတုသမိုင်းတွင် ရှေးဟောင်းဖြစ်၍၊ ကောင်းလည်း ကောင်းလှပေသည်။ ဤရတုမှာ လောကုတ္တရာကြောင်း သက်သက် ဖြစ်၍၊ သေခါနီးဇောပြန်ပုံကို 'မရဏာသန်၊ ဇောငါးတန်လျှင်၊ လွန်၍ခုနစ်၊ အဖြစ်သဘော' ဟူ၍၎င်း၊ ဝိပဿနာရှုပုံကို 'ဒွါရခြောက်ထပ်၊ ခြောက်ရပ်အာရုံ၊ ခြောက်စုံဝိညာဉ်၊ ခြောက်စဉ်ပီတိ၊ ဂတိငါးဖြာ၊ ရုပ်လေးမြာနှင့်' ဟူ၍၎င်း စပ်ဆို ရေးသားခဲ့သည်။ အမတ်ကြီးမှာ ယင်းရတုနှင့်ပင် စာပေလောက၌ များစွာ ထင်ရှားသည်။

**စတူးဝပ်ဘုရင်များ**။ ။စတူးဝပ်မင်းဆက်သည် ခရစ် ၁၄ ရာစုနှစ်နှင့် ၁၈ ရာစုနှစ်များအတွင်းက စကော့တလန်နှင့် အင်္ဂလန်ပြည်များတွင် အလွန်ထင်ရှားခဲ့သော မင်းဆက်ဖြစ်သည်။ စကော့တလန်ပြည့်ရှင် ရောဗတ်ဗရုစ (ခရစ် ၁၃၀၆–၁၃၂၉) ၏သမီးတော် မာဂျရီနှင့် ဝေါလတာ စတူးဝပ်တို့သင့်မြတ်ရာတွင် ဖွားမြင်သော သားတော် ဒုတိယရောဗတ် (၁၃၇၁–၁၃၉၀) သည် စတူးဝပ်မင်းဆက်ကို စတင်တည်ထောင်၍ စကော့တလန်ပြည်တွင် မင်းပြုသည်။ ဒုတိယရောဗတ်ဘုရင် နတ်ရွာစံပြီးနောက် တတိယ ရောဗတ်ဘုရင်နှင့် ပဌမ၊ ဒုတိယ၊ တတိယ၊ စတုတ္ထ၊ ပဥ္စမ ဂျိမ်းဘုရင်များ၊ စကော့ဘုရင်မ မေရီ တို့သည် စကော့တလန်ပြည်အား အစဉ်အဆက် အုပ်ချုပ်သွားသော စတူးဝပ်မင်းဆက်များဖြစ်ကြသည်။



စတူးဝပ်မင်းဆက်ကိုစတင်သူ ဒုတိယရောဗတ်ဘုရင်

အင်္ဂလန်ပြည်၌ ပဌမ အယ်လစ်ဇဗက် ဘုရင်မ (၁၅၅၈–၁၆၀၃) နတ်ရွာစံလျှင် စကော့ဘုရင်မ မေရီ၏ သားတော် စကော့တလန်ပြည့်ရှင် ဆဋ္ဌမ ဂျိမ်းသည် ပဌမဂျိမ်း (၁၆၀၃–၁၆၂၅) အမည်ဖြင့် ဗြိတိသျှထီးနန်းကို ဆက်ခံလေသည်။ ဤသို့ဖြင့် ဗြိတိသျှ ထီးနန်းတွင် စတူးဝပ်မင်းဆက် ပေါ်ပေါက်လာကာ အထက်ထက်က မကြာခဏ စစ်မက်ဖြစ်ပွားခဲ့သော စကော့တလန်ပြည်နှင့် အင်္ဂလန်ပြည်တို့သည် ဘုရင်တပါးတည်း၏လက်အောက်၌ နှစ်ပြည့်တပြည် အဖြစ်သို့ ပူးပေါင်းမိကြ၏။ သို့သော် နှစ်ပြည်ထောင်၏ အုပ်ချုပ်ရေး

ကဲ့သို့သော အရေးကိစ္စတို့၌မူ တသီးတခြားစီ ဆောင်ရွက်ကြသည်။ ပဌမဂျိမ်းဘုရင်အား ဆက်ခံသော ပဌမချားဘုရင် (၁၆၂၅–၁၆၄၉) လက်ထက်တွင် ပြည်တွင်းစစ်ဖြစ်ရာ ဘုရင်အား ဆန့်ကျင်သော တော်လှန်ရေး ခေါင်းဆောင် ကရွမ်းဝဲ၏ ကွန်မွန်းဝဲ့ခေါ် အုပ်ချုပ်ရေးတမျိုး ပေါ်လာသဖြင့် အင်္ဂလန်ပြည်၌ စတူးဝပ်မင်းဆက် ခေတ္တမျှပြတ်နေခဲ့သည်။ (ကရွမ်းဝဲ — လည်းရှု။) သို့သော် ပြည်တွင်းစစ်အပြီးတွင် ပဌမချားဘုရင်၏သားတော် ဒုတိယချားဘုရင် (၁၆၆၀–၁၆၈၅) အား နန်းတင်နိုင်ခဲ့သဖြင့် အင်္ဂလန်၌ စတူးဝပ်မင်းဆက်များ ဆက်လက်အုပ်စိုးနိုင်ခဲ့သည်။ ဒုတိယဂျိမ်းဘုရင် (၁၆၈၅–၁၆၈၈)၊ ကြင်ဖက်တော် တတိယဝီလျံ (၁၆၈၈–၁၇၀၂) နှင့် ပူးတွဲအုပ်ချုပ်သော မေရီဘုရင်မ (၁၆၈၈–၁၆၉၄)၊ မေရီ၏ညီမတော် အန်ဘုရင်မ (၁၇၀၂–၁၇၁၄) တို့သည်ကား ဒုတိယချားဘုရင်နောက် အင်္ဂလန်တွင် အစဉ်အတိုင်း ဆက်လက်စိုးစံသော စတူးဝပ်မင်းဆက်များ ဖြစ်ကြသည်။ (ချားဘုရင်များ။ ဂျိမ်းဘုရင်များ (အင်္ဂလိပ်) — ရှု။)



စကော့ဘုရင်မ မေရီ

စတူးဝပ် နောက်ဆုံးမင်းဆက်ဖြစ်သော အန်ဘုရင်မတွင်သားသမီးမရှိသည်က တကြောင်း၊ အခြား စတူးဝပ်အနွယ်ဝင်များမှာလည်း နိုင်ငံတော်က အသိအမှတ်ပြုသော ခရစ်ယန် ပရိုတက်စတန့် ဂိုဏ်းဝင်များ မဟုတ်သည့်ပြင် ဗရင်ဂျီဂိုဏ်းဝင်များ ဖြစ်ကြသည်ကတကြောင်း၊ ထိုအကြောင်းတို့ကြောင့် အန်ဘုရင်မ နတ်ရွာစံလျှင် ဗြိတိသျှထီးနန်း၌ စတူးဝပ်မင်းဆက်ပြတ်ကာ ဟန်နိုဗာခေါ် ဝင်ဆာမင်းဆက် စတင်လေတော့သည်။ ယင်းဝင်ဆာမင်းဆက်များ လက်ထက် ၁၇၁၅ ခုနှစ်နှင့် ၁၇၄၅ ခုနှစ်များတွင် စတူးဝပ်အနွယ်တော်များကို လိုလားသူများက ဗြိတိသျှ ထီးနန်းတွင် စတူးဝပ်မင်းဆက်အား ဆက်လက်ထားရှိရန် ပုန်ကန် ထကြွသေးသော်လည်း မအောင်မြင်ချေ။



ဒုတိယချားဘုရင်

ထိုအချိန်မှစ၍ စတူးဝပ်အနွယ်ဝင်များမှာ ဗြိတိသျှထီးနန်းတွင် တန်ခိုးမှိန်ကာ၊ မင်းဆက်ပြတ်သွားလေတော့သည်။ (ဂျက္ကဗိုက် — လည်းရှု။)

**စတော့ဟုမ်းမြို့။** ။စတော့ဟုမ်းမြို့သည် ဆွီဒင်နိုင်ငံ၏မြို့တော် ဖြစ်သည်။ စက်မှုလက်မှုလုပ်ငန်း၏ ဗဟိုအချက်အခြာဌာနလည်း ဖြစ်၏။ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၁၆၁,၇၇၇ ယောက်ရှိသည်။ ဤမြို့ကို ၁၂၅၅ ခုနှစ်တွင် ဆွီဒင်လူမျိုး နိုင်ငံ ခေါင်းဆောင်ကြီး ဗျာလဗို မြို့သား ဗျာယာ ဆိုသူက စတင်တည်ထောင်ခဲ့လေသည်။ မြို့အနေအထားမှာ ဆော်လဆီအွန် ပင်လယ်အော်နှင့် မေလာ ရေအိုင်ကြီးတို့၏ ကမ်းခြေနှင့် ကျွန်းငယ်ကလေးများပေါ်တွင် ကျယ်ပြန့်စွာ တည်ရှိနေသဖြင့် အလွန်လှပလေရကား၊ စတော့ဟုမ်းမြို့ကို ကမ္ဘာ့မြောက်ပိုင်း၏ ဗင်းနစ်မြို့ဟူ၍ပင် ခေါ်ကြသည်။ တကျွန်းမှ တကျွန်းသို့ သွားလာရေးအတွက်လည်း ခိုင်ခံ့သော တန်တားကြီးများ ဆောက်လုပ်ထား၏။ ကျွန်းများ၌ ကျယ်ပြန့်သော ကမ်းခြေများရှိသဖြင့် လူအများသည် ထိုဒေသသို့လာရောက်ကာ ရေကူးခြင်း၊ နေစာလှုံခြင်းများ ပြုလုပ်ကြသည်။ ဆောင်းရာသီရေခဲသောအခါ၌လည်း စတော့ဟုမ်းမြို့ပတ်ဝန်းကျင်ရှိ ရေခဲပြင်များတွင် စကိတ်စီးခြင်း၊ စကီးစီးခြင်း ပြုလုပ်ကြသည်။

စတော့ဟုမ်းမြို့တွင် ကြီးကျယ်ခမ်းနားသော ကစားကွင်းကြီးများ၊ ဥယျာဉ်ကြီးများနှင့် အဆောက်အအုံကောင်းကြီးများရှိသဖြင့် ဆွီဒင်နိုင်ငံ၏ ယဉ်ကျေးမှုနှင့် ကူးသန်းရောင်းဝယ်ရေး လုပ်ငန်းများကို ဤမြို့၌ တွေ့မြင်နိုင်လေသည်။ ရှေးဟောင်းရာဇဝင် အဆောက်အအုံများဖြင့် ပြတိုက်ကြီးသဖွယ် ခမ်းနားလှသော စကန်ဆင် ဥယျာဉ်ကြီးမှာ ၁၆၀၀ ပြည့်နှစ်မှစ၍ ယနေ့တိုင် မြို့သူမြို့သားများ၏ အပန်းဖြေရိပ်သာ ဖြစ်ပေသည်။ ၁၃ ရာစုနှစ်အတွင်းက ဆောက်လုပ်ခဲ့သော ရစ်ဒါဟုမ်း ဘုရားရှိခိုးကျောင်း၊ ၁၇၅၄ ခုနှစ်တွင်ပြီးစီးသော ဘုရင့်နန်းတော်၊ ပါမောက္ခ အော့စဗတ် ဆောက်လုပ်၍ ၁၉၂၃ ခုနှစ်တွင် ပြီးစီးသော မြို့တော်ခန်းမနှင့် ၁၉၂၆ ခုနှစ်တွင် ဆောက်လုပ်သော ဘုရင့်ကပွဲရုံကြီးများမှာ စတော့ဟုမ်းမြို့ရှိ ထင်ရှားကျော်စော၍ ပိသုကာလက်ရာမြောက်သော အဆောက်အအုံကြီးများ ဖြစ်



**ဆွီဒင်နိုင်ငံ၏မြို့တော် စတော့ဟုမ်းမြို့**

ကြသည်။ ထိုပြင် စတော့ဟုမ်းတက္ကသိုလ်၊ ဆေးကျောင်း၊ စိုက်ပျိုးရေးကျောင်း၊ သစ်တောကျောင်း၊ အင်ဂျင်နီယာကျောင်း အစရှိသော အဆောက်အအုံများနှင့် ပြတိုက်အမျိုးမျိုးလည်းရှိလေ၏။ စီးပွားရေးလုပ်ငန်းများအဖြစ် အင်ဂျင်စက်၊ တန်တား၊ သင်္ဘော စသော သံထည် ပစ္စည်းများ၊ စက္ကူနှင့် အစားအသောက်ကုန်ပစ္စည်းများ ထုတ်လုပ်သဖြင့် ထိုလုပ်ငန်းရပ်များဆိုင်ရာ စက်ရုံများကိုလည်း စတော့ဟုမ်းမြို့၌ပင် တွေ့မြင်နိုင်၏။

ဆောင်းရာသီ၌ သင်္ဘောဆိပ်တွင် ရေခဲမနေစေရန် ရေခဲခွဲစက်များဖြင့်ထိန်းသိမ်းစောင့်ရှောက်ထားသောကြောင့် ပင်လယ်ကူး သင်္ဘောကြီးများမှာ စတော့ဟုမ်း ဆိပ်ကမ်းသို့ ကောင်းစွာ ဝင်ထွက်သွားလာနိုင်ကြ၏။ စတော့ဟုမ်းမြို့သည် ဆွီဒင်နိုင်ငံ၏ ဒုတိယအကြီးဆုံး သင်္ဘောဆိပ် ဖြစ်လေသည်။

**စတန်လေ, ဘီပ်၊ အမ် (ခရစ် ၁၈၄၁–၁၉၀၄)။** ။ဆာ ဟင်နရီ မော်တန် စတန်လေ သည် အာဖရိကတိုက်သို့ စွန့်စားသွားရောက်ကာ ကွန်ဂိုမြစ်ကို ဦးစွာ ရှာဖွေတွေ့ရှိခဲ့သူဖြစ်သည်။ (ကွန်ဂိုမြစ် — လည်းရှု။) အင်္ဂလန်ပြည် ဝေလနယ်ရှိ ဒင်ဗိုင်မြို့၌ ၁၈၄၁ ခုနှစ်တွင် မွေးဖွားသည်။ မိမိသွားလိုသောဒေသသို့မရောက်ရောက်အောင် ကြိုးစား၍ သွားလေ့ရှိသော ဇွဲသတ္တိကြောင့် စတန်လေ၏အသက်တာသည် စွန့်စားမှုအဖုံဖုံတို့ဖြင့်သာ ပြည့်နှက်လျက်ရှိပေသည်။ စတန်လေ၏ ငယ်နာမည်မှာ ဂျွန်ရိုလန်ဖြစ်၏။ ငယ်စဉ်က အလွန်ဆင်းရဲသည့်အလျောက် ၁၈၅၉ ခုနှစ်တွင် အမေရိကန်နိုင်ငံ နယူးအော်လီယန်းမြို့သို့ ထွက်ပြေးခဲ့ရာ ထိုမြို့၌ စတန်လေအမည်ရှိ အမေရိကန်လူမျိုး ကုန်သည်ကြီးတဦးက သူ့အား သားအမှတ်ဖြင့် မွေးစားသောကြောင့် ဟင်နရီ မော်တန် စတန်လေ ဖြစ်လာသည်။

စတန်လေသည် အမေရိကန်ပြည်တွင်းစစ်ပွဲ၌ တောင်ပိုင်းသားများဖက်မှ ဝင်ရောက်တိုက်ခိုက်ခဲ့ပြီးနောက် ၁၈၆၇ ခုနှစ်၌ နယူးယောက့်မြို့ရှိ နယူးယောက့်ဟယ်ရယ် သတင်းစာတိုက်တွင် သတင်းထောက် အဖြစ်ဖြင့် ဆောင် ရွက် လေသည်။ ထိုစဉ်က စတန်လေသည် စိတ်ဝင်စားဖွယ် ကောင်းသော ဒေသန္တရ ဆောင်းပါးများကို ရေးသားခဲ့၏။ ဤကဲ့သို့ ဆောင်းပါးကောင်းများ ရေးသားနိုင်ရန်နှင့် သတင်းဦးရရှိရေးအတွက် စတန်လေသည် အက်ဗီဆီးနီးယား၊ အရှေ့တိုင်း၊ ကရိုက်မီးယား၊ စပိန်၊ အာဖရိက အစရှိသည့် အရပ်များသို့ စွန့်စွန့်စားစား သွားရောက်ခဲ့လေသည်။ ထိုသို့စွန့်စား၍ သွားရောက်ရခြင်းကြောင့် အာဖရိက တောနက်ကြီးများ အတွင်း၌ ဖြတ်သန်းသွားလာခဲ့ရသော စတန်လေ၏ အာဖရိကခရီးစဉ်မှာ မှတ်သားလောက်ပေသည်။

အာဖရိကတိုက်သို့ သာသနာပြုရန် ထွက်ခွာသွားသော စကော့လူမျိုးသာသနာပြုဆရာ ဒေါက်တာ ဒေးဗစ်လစ်ဗင်းစတုန်း၏ အကြောင်းကို ၄ နှစ်တိုင်တိုင် မည်သို့မျှ အကျိုးအကြောင်း မကြားသိရသဖြင့် နယူးယောက့်ဟယ်ရယ်သတင်းစာတိုက်က စတန်လေကိုပင် အာဖရိကတိုက်သို့စေလွှတ်၍ စုံစမ်းထောက်လှမ်းစေခဲ့သည်။ ပေးအပ်သောတာဝန်ကို

ထမ်းဆောင်ရန် စတန်လေသည် ၁၈၇၁ ခုနှစ် မတ်လ ၂၁ ရက်နေ့တွင် အာဖရိကတိုက် အရှေ့ဖက်ကမ်းခြေရှိ ဇန်ဇီဗား နယ်မှ အာဖရိကတိုက် အတွင်းပိုင်းသို့ ချင်းနင်းဝင်ရောက်ခဲ့ လေသည်။ လမ်းခရီးတွင် အခက်အခဲ ဒုက္ခအမျိုးမျိုးတို့ကို ကျော်လွှန်ခဲ့ပြီးနောက် ၈ လခန့်အကြာတွင် တန်ဂန်ယီး က အိုင်ကြီးပေါ်တွင် တည်ရှိသော အူးဂျီးဂျီမြို့သို့ ဆိုက် ရောက်လေသည်။ ထိုမြို့၌ပင် အိုမင်းရင့်ယော်ကာ မကျန်း မမာဖြစ်၍ ရိက္ခာ ပြတ်နေသော ဒေးဗစ် လစ်ဗင်းစတုန်း အား တွေ့ရ၏။ စတန်လေသည် ထိုမြို့၌ ၄ လခန့်နေထိုင်ခဲ့၍ ဒေးဗစ် လစ်ဗင်းစတုန်းအား များစွာ ချစ်ခင်ကြည်ညိုသည့် အလျောက် မိမိနှင့်အတူ နေရင်းဒေသသို့ပြန်လိုက်ရန် ခေါ် သော်လည်း မရပေ။ စတန်လေသည် လစ်ဗင်းစတုန်းနှင့် အတူ တန်ဂန်ယီးကအိုင်ကြီးကို လှည့်ပတ်ကြည့်ရှုခဲ့သည်။ ဒေးဗစ် လစ်ဗင်းစတုန်းအား တွေ့ပြီဟူသော စတန်လေ၏ ဆောင်းပါးကို ပဌမ၌ လူထုကမယုံကြည်သော်လည်း လစ် ဗင်းစတုန်း၏ မှတ်တမ်းများကို တင်ပြသောအခါကျမှ ယုံ ကြည်ကြသည်။ စတန်လေသည် ထိုစွန့်စားမှုအတွက် ဝိတိုရိ ယ ဘုရင်မကြီး၏ဆု ချီးမြှင့်ခြင်းကို ခံရသည်။ (လစ်ဗင်း စတုန်း, ဒေးဗစ် — လည်းရှု။)

စွန့်စားသွား လာမှုကို နှစ်သက်သော စတန်လေသည် 'နယူးယော့ ဟယ်ရယ်' သတင်းစာတိုက်က ကောက်ခံပေး သောရန်ပုံငွေဖြင့် ၁၈၇၄ ခုမှ ၁၈၇၇ ခုနှစ်အထိ ၃ နှစ်တိုင် တိုင် အာဖရိကတိုက်အတွင်းသို့ သွားရောက် စုံစမ်းရှာဖွေမှု များ ပြုလုပ်လေသည်။ ထိုသို့သွားရောက်ရာတွင် တန်ဂန် ယီးကအိုင်ကြီး၏ အကျယ်အဝန်း၊ ကွန်ဂိုမြစ်၏ တည်ရှိပုံ စသော ပထဝီဝင်ဆိုင်ရာ အချက် အလက်များကို ရှာဖွေတွေ့ရှိခဲ့လေသည်။ ဤအကြိမ်၌ အာဖရိက တိုက်ကို အရှေ့မှအနောက် သို့ ဖြတ်သန်းသွားခဲ့ခြင်း ဖြစ်လေရာ ခရီးလမ်းမှာ ကြမ်းတမ်းသည့်အပြင် အန္တရာယ်များလှသဖြင့် စတန်လေ၏အဖွဲ့ဝင် မျက် နှာဖြူသုံးဦးနှင့် တိုင်းရင်း သားနောက်လိုက် အများ အပြား သေဆုံးကြရလေ သည်။ သို့သော် စတန် လေ၏ နယ်သစ်များစူးစမ်း ရှာဖွေမှု လုပ်ငန်းတွင် ဗြိတိ သျှတို့က စိတ်မဝင်စားသ



ဆာဟင်နရီမော်တန်စတန်လေ

ဖြင့် စတန်လေသည် ဗဲလဂျီယန်ဘုရင် လီယိုပိုလ်၏ အကူအညီ ကို ရယူကာ အာဖရိကတိုက်ကွန်ဂိုမြစ်ဝှမ်းတွင် ကူးသန်း ရောင်းဝယ် သွားလာရေးစခန်းများကို ဖွင့်လှစ်ပေးခြင်းဖြင့် ဗဲလဂျီယန်လက်အောက်ခံ ကွန်ဂို ဖရီးစတိတ်ခေါ် ကွန်ဂိုနိုင် ငံကို တည်ထောင်ခဲ့ပေသည်။ (ကွန်ဂိုပြည်နယ်များ — ရှု။)

၁၈၈၇ ခုနှစ်တွင် စတန်လေသည် ဗြိတိသျှလူမျိုးများ အတွက် နယ်မြေသစ်များရှာဖွေရန် အာဖရိကသို့ တတိယ အကြိမ် ခရီးထွက်ပြန်သည်။ ကွန်ဂို တောနက်ကြီးများ အတွင်းသို့ ဖြတ်သန်းကာ တိုင်းရင်းသား လူရိုင်းအမျိုးမျိုး တို့၏နယ်များသို့ရောက်ရှိခဲ့သည်။ ဗြိတိသျှ အရှေ့အာဖရိက ကုမ္ပဏီ၏ အကျိုးအတွက် တိုင်းရင်းသား လူရိုင်း အကြီး



စတန်လေနှင့် လစ်ဗင်းစတုန်း အာဖရိကတိုက် အူးဂျီးဂျီမြို့၌တွေ့ဆုံစဉ်

အကဲများနှင့် သဘောတူညီချက်များ ကိုလည်း ပြုလုပ်ခဲ့ လေသည်။

စတန်လေသည် ၁၈၈၉ ခုနှစ်ဆုံးလောက်တွင် အင်္ဂလန်သို့ ပြန်ရောက်၍ ကွယ်လွန်သည်အထိ အင်္ဂလန်၌ အေးချမ်းစွာ ပင် နေထိုင်၏။ ဆာဘွဲ့ကို ၁၈၈၉ ခုနှစ်၌ပင် ရရှိ၍ ၁၈၉၅ ခုနှစ်တွင် လွှတ်တော် အမတ်အဖြစ် ရွေးကောက်ခြင်း ခံရ သည်။ ၁၉၀၄ ခုနှစ် မေလ ၁၀ ရက်နေ့တွင် စတန်လေ သည် လန်ဒန်မြို့ရှိနေအိမ်၌ ကွယ်လွန်၍ ရှပ်ကလာဘ်ကို ဝက် စမင်စတာဘုရားရှိခိုးကျောင်းတွင် မြှုပ်နှံသဂြိုဟ်လေသည်။ စတန်လေသည် မိမိ သွားလာခဲ့သော ခရီးစဉ်များနှင့် ဆိုင် သည့် ဒေသန္တရ ဗဟုသုတ ဖြစ်ဖွယ်ရာ ဆောင်းပါးဝတ္ထု အမြောက်အမြား ရေးသားခဲ့သည်။

**စတုန်းဟာင့်**။ ။ကျောက်တုရိုင် — ရှ။

**စတွေးဥ**။ ။ရုက္ခဗေဒအလိုအရ စတွေးဥသည် ' လီလီအိုင်ဖလိုရီ ' မျိုးစဉ်တွင်၎င်း၊ ' ဒိုင်အော့ စကိုရီအေ ဆီအီး ' မျိုးရင်းတွင်၎င်း ပါဝင်သည်။ ယင်းကို သိပ္ပံအမည်အားဖြင့်



စတွေးဥ

' ဒိုင်အော့ စကိုရီအေ ဖက်ဆီကျူလား တား ' ဟူ၍၎င်း၊ ' ဒိုင်အော့ စကိုရီအေ အက်ကျူလီယေးတား ' ဟူ၍၎င်း ခေါ်သည်။ စတွေးဥကို မြန်မာအခေါ်အားဖြင့် တံတွေးဥ၊ ကဒွေးဥ၊ ဝက်ကာဥဟူ၍ အမျိုးမျိုးခေါ်သည်။

စတွေးဥသည် အရွယ်အားဖြင့် မျောက်ဥ အငယ်စားလောက်ရှိ၍ ပုံသဏ္ဌာန်အားဖြင့်၎င်း၊ အနံ့အရသာအားဖြင့်၎င်း မျောက်ဥနှင့် ခပ်ဆင်ဆင်တူသည်။ ကရင်လူမျိုးတို့သည် စတွေးဥကို အများအပြား စိုက်ပျိုးကြသည်က တကြောင်း၊ စတွေးဥ၏ ပုံသဏ္ဌာန်မှာ အာလူးနှင့် အလွန်တူသည်က တကြောင်း တို့ကြောင့် စတွေးဥကို ကရင်အာလူးဟူ၍လည်း ခေါ်သည်။ ယင်းကိုပင် တခါတရံ ထားဝယ်အာလူးဟူ၍လည်း ခေါ်သေးသည်။ စတွေးဥသည် ချက်ပြုတ်စားသောက်ရန်ကောင်းသော်လည်း တနှစ်ပတ်လုံး မရနိုင်ချေ။



အရသာထူးသည့် စထရော်ဗယ်ရီသီး

**စထရော်ဗယ်ရီ**။ ။စထရော်ဗယ်ရီကိုမြန်မာတို့က ရှမ်းဆီးဟူ၍ ခေါ်ကြသည်။ စထရော်ဗယ်ရီ၏ ရုက္ခဗေဒမျိုးစုအမည်မှာ ' ဖရာဂေးရီးယား ' ဖြစ်သည်။ စထရော်ဗယ်ရီသည် သမပိုင်းဇုန်၌၎င်း၊ အပူပိုင်းဇုန်အတွင်းရှိ တောင်ကုန်းဒေသများ၌၎င်း၊ ပေါက်ရောက်သည်။ စထရော်ဗယ်ရီအသီးမှာ အလွန်ထင်ရှားသည်။ တောင်အမေရိကတိုက် ချီလီနိုင်ငံ တောင်ပိုင်း၌လည်း စထရော်ဗယ်ရီပင် တမျိုးပေါက်သည်။ ဥရောပတိုက်တွင် ရှေးမဆွကပင် စထရော်ဗယ်ရီပင်တမျိုးလည်း ပေါက်ရောက်သည်။ စထရော်ဗယ်ရီသည် အစေ့များ၍ အနှစ်အရသာမရှိလှသဖြင့် လူတို့သည် ထိုအပင်ကို စိုက်ပျိုးရန် စိတ်မကူးခဲ့ကြချေ။ သို့ရာတွင် အမေရိကတိုက်ကို တွေ့ရှိသောအခါ၌ စထရော်ဗယ်ရီပင်ရိုင်း အသစ် နှစ်မျိုးကို ထပ်မံ တွေ့ရှိကြ၏။ ထိုနှစ်မျိုးစလုံးမှ အသီးများမှာ ဥရောပတိုက်မှ စထရော်ဗယ်ရီပင်နှင့် မခြားနားလှချေ။ ဥရောပတိုက်မှ စထရော်ဗယ်ရီပင်နှင့် အမေရိကတိုက်ရှိ စထရော်ဗယ်ရီပင်တို့ကို မျိုးစပ်လိုက်သည့်အခါကျမှ ယခုစိုက်ပျိုးလျက်ရှိကြသော အနှစ်အရသာနှင့်ပြည့်စုံသည့် စထရော်ဗယ်ရီပင် အမျိုးမျိုးကို ရရှိလေသည်။ စထရော်ဗယ်ရီပင် များမှာ ချုံပင်ငယ်များ ဖြစ်၍ မြေလျောက် ပင်စည် အဆစ်အပိုင်းများမှ အပင်သစ်များ ပွားလာကြသည်။ စထရော်ဗယ်ရီပင် အသီးသီးချိန်တွင် အသီးများ စင်ကြယ်လှပစေရန် အပင်ရင်းတွင် ကောက်ရိုးကို ပုံထားလေ့ ရှိသည်။ စထရော်ဗယ်ရီသီးကို လူကြိုက်များသဖြင့် ရာသီမဟုတ်ဘဲသီးသော အပင်မျိုးများကို အမေရိကတိုက်၌ တီထွင် စိုက်ပျိုးကြသည်။ လူများ အလိုရှိသလောက် အသီးများကို တင်ပို့ရောင်းချနိုင်ရန် စထရော်ဗယ်ရီပင် စိုက်ခင်းများမှာ အလွန်ကျယ်ဝန်းရလေသည်။ စထရော်ဗယ်ရီသီးမှာ ပုပ်ပျက် ရိယော်လွယ်သောကြောင့် စိုက်ခင်းများမှအသီးမှည့်များကို ရေခဲစိမ်ရန် တွဲများ ပါရှိသော အထူးမီးရထားဖြင့် သယ်ယူပို့ဆောင်ကြရသည်။

နှစ်ပေါင်းသုံးဆယ်ခန့်က အိန္ဒိယနိုင်ငံမှ မျိုးကိုယူ၍ မြန်မာနိုင်ငံ ရှမ်းကုန်းပြင်မြင့်တွင် ရှမ်းဆီးပင်ကို စတင်စိုက်ပျိုးခဲ့ကြရာ ယခုအခါ မေမြို့၊ ကလောမြို့နှင့် တောင်ကြီးမြို့များအနီးအပါးတွင် ပေ ၃,၀၀၀ ကျော်မြင့်သော တောင်ကုန်းများ၌ ရှမ်းဆီးပင် စိုက်ခင်းများကို တွေ့မြင်နိုင်သည်။ ရှမ်းဆီးပင်ကို စိုက်ပျိုးရာတွင် တပေစီကွာသော အတန်းများပြုလုပ်၍ စိုက်ပျိုးကြသည်။ အပင်များ မစိုက်မီ မြေဆီလွှာတွင် နောက်ချေးနှင့် သစ်ရွက်ဆွေးမြေဩဇာ နိုင်နိုင်ထည့်ပေးရသည်။ ရေလောင်းပေးခြင်း၊ ပေါင်းသင်ခြင်း၊ မြေတောင်မြှောက်ပေးခြင်းကို အခါမလပ် ပြုလုပ်ပေးရသည်။ မြန်မာနိုင်ငံတွင် ရှမ်းဆီးပင်များသည် ဖေဖွာရီလမှစ၍အပွင့်

များပွင့်ကြ၏။ မတ်လမှဇွန်လအထိ အသီးများသီးသည်။ သို့သော် ဧပြီလနှင့် မေလများတွင် ဆွတ်ခူးရရှိသော အသီးများမှာ အကောင်းဆုံးဖြစ်သည်။ ရှမ်းဆီးသီးမှည့်များကို အသီးမှည့်အတိုင်း သို့မဟုတ် ယိုထိုး၍ စားကြသည်။

**စထရက်ပတိုမိုင်ဆင်။** ။စထရက်ပတိုမိုင်ဆင်သည် ဒုတိယကမ္ဘာစစ်အတွင်းက ပင်နီဆလင်နှင့် မရှေးမနှောင်း ပေါ်ပေါက်ခဲ့သော ဆေးဖြစ်၏။ အက်တီနိုမိုင်ဆီ ဂရိဆီယပ်ခေါ် မှိုမျိုးမှ ထုတ်ယူပေါ် စပ်ထားသော ထိုးဆေးဖြစ်သည်။ စထရက်ပတိုမိုင်ဆင်ကို တွေ့ရှိပေါ် စပ်သူမှာ အမေရိကန်ပြည်ထောင်စု၊ ရတ်ဂျာတက္ကသိုလ်မှ ဆဲလမင်း အေ ဝပ်စမင်း ဆိုသူဖြစ်၏။ စထရက်ပတိုမိုင်ဆင်သည် ပင်နီဆလင်ဖြင့်ထိရောက်စွာ မကုနိုင်သော အချို့ရောဂါများကို ထိရောက်စွာကုသနိုင်သည်။ (ပင်နီဆလင် — လည်းရှု။)

စထရက်ပတိုမိုင်ဆင်သည် မည်သည့်ရောဂါဝေဒနာကို တကယ်တမ်း ထိရောက်စွာ ပျောက်ကင်းစေနိုင်ကြောင်း ယခုထက်တိုင် တပ်အပ်သေချာစွာ မသိရသေးချေ။ ဆေးဖက်ဆိုင်ရာ သိပ္ပံပါရဂူတို့သည် ဆက်လက်၍ စမ်းသပ်လေ့လာနေဆဲပင်ဖြစ်၏။ စထရက်ပတိုမိုင်ဆင်သည် တျူဗာကယ်ပိုးစွဲနာ (တီဗီ) ကုသရာတွင် အကောင်းဆုံးနှင့် အထက်မြက်ဆုံးဖြစ်သည်ကိုကား ယုံကြည်ကြသည်။ သို့ရာတွင် တျူဗာကယ် ပိုးစွဲနာ ပျောက်ကင်းစေသည်ကို တပ်အပ်သေချာစွာ ဝန်မခံနိုင်သေးချေ။ အဘယ်ကြောင့်ဆိုသော် ဆေးဖြင့်ကုသရာတွင် အချို့သာပျောက်ကင်း၍ အချို့မှာ မပျောက်ကင်းသောကြောင့် ဖြစ်သည်။

ပင်နီဆလင်ကဲ့သို့ပင် စထရက်ပတိုမိုင်ဆင်သည် ရောဂါပိုးများ တိုးပွားမလာအောင် တားဆီးထားပြီးလျှင် ကိုယ်ခန္ဓာအတွင်းရှိ ပိုးများကို ရောဂါပိုးများအား တွန်းလှန်ဖြိုဖျက်နိုင်သောအခြေ ပြန်လည်ရရှိအောင် ဖန်တီးပေးနိုင်သည်။

**စထရက်ဖို–အွန်–ဧဗွန်းမြို့။** ။စထရက်ဖို–အွန်–ဧဗွန်းမြို့သည် အင်္ဂလန်ပြည် ဝါဝစ်ရှိုင်ယာနယ်ရှိ အလွန်ရှေးကျသော ဈေးမြို့တမြို့ဖြစ်သည်။ ဧဗွန်းမြစ်၏ အနောက်ဖက်ကမ်းတွင် တည်ရှိသောကြောင့် စထရက်ဖို–အွန်–ဧဗွန်းမြို့ဟု ခေါ်သည်။ လန်ဒန်မြို့မှ အနောက်မြောက်ဖက် ၉၃ မိုင် ကွာဝေးသည်။ ၁၉၅၂ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေမှာ ၁၄,၆၁၀ ယောက်ခန့်ရှိ၍ မြို့ငယ်ကလေးပင်ဖြစ်သော်လည်း ကမ္ဘာကျော် အင်္ဂလန်ပြဇာတ်ဆရာကြီး ရှိတ်စပီးယား၏ ချက်မြှုပ်ဒေသ ဖြစ်သဖြင့် လူသိများကာ ထင်ရှားလေသည်။ ရှေးဟောင်းမြို့ ဖြစ်သဖြင့်လည်း မြင့်မားသော အဆောက်အအုံများနှင့် လမ်းကျဉ်းကလေး များမှာ ရှေးမူမပျက် ယခုတိုင် ရှိသည်။ အချို့သော လမ်းမကြီး အမည်များမှာ ရှေးခေတ်က အခေါ်အတိုင်း တည်လျက်ရှိသည်။

ထိုမြို့ရှိ ရှိတ်စပီးယား၏ မွေးဖွားရာ အိမ်ကို အစိုးရက သိမ်း၍ ထိုအိမ်၌ ရှိတ်စပီးယား၏ဘဝနှင့် သက်ဆိုင်သော

စထရက်ဖို – အွန် – ဧဗွန်းမြို့ရှိ ရှိတ်စပီးယားအထိမ်းအမှတ်ဇာတ်ရုံ



စာအုပ်စာတမ်း၊ ပန်းချီကားများ စသည်တို့ကို ပြတိုက်သွယ် ထားရှိကာ၊ ရှိတ်စပီးယား အထိမ်းအမှတ်အဖြစ် ပြသထား လေသည်။ . ရှိတ်စပီးယားတို့ ဇနီးမောင်နှံ အားသင်္ဂြိုဟ်ရာ ဟိုးလီးထရင်နီတီ ဘုရားရှိခိုးကျောင်း မှာလည်း ထိုမြို့၌ပင်ရှိသည်။ ၁၈၇၉ ခုနှစ်တွင် အဆိုပါဘုရားရှိခိုးကျောင်းအနီး ဧဝွန်းမြစ်ကမ်းပါး၌ ဇာတ်ရုံ၊ စာကြည့်တိုက်နှင့် ပြတိုက်များပါဝင်သော ရှိတ်စပီးယားအထိမ်း အမှတ် အဆောက်အအုံ တခုကို ဆောက်လုပ်ခဲ့၏။ ယင်းတို့ အနက်ပြဇာတ်ရုံကြီး မီးသင့်သွားလေရာ ၁၉၂၆ ခုနှစ်တွင် ယခင်ကထက် ပိုမိုကြီးကျယ်ခမ်းနား၍ ပရိသတ် ၁၀၀၀ ဆံ့သောပြဇာတ်ရုံသစ် တခုကို ထပ်မံ တည်ဆောက်ပြန်၏။ ဤကဲ့သို့ စထရက်ဖို့မြို့ ရှိ ရှိတ်စပီးယားနှင့်သက်ဆိုင်သော အဆောက်အအုံ အသီး သီး တို့ အပြင် စထရက်ဖို့မြို့၏ ဆင်ခြေဖုံးအရပ်များဖြစ်သော ရှော့တရီအရပ်ရှိ ရှိတ်စပီးယား၏ဇနီးအိမ်နှင့် ဝင်ကော့အရပ်ရှိ ရှိတ်စပီးယား၏ မိခင် အိမ်များသို့ ကမ္ဘာ့အရပ်ရပ်မှ စာပေလိုက်စားသူများ လာရောက် လည်ပတ်ကြည့်ရှုကြသည်။

စထရက်ဖို့မြို့၏ ထင်ရှားသောပွဲတော်မှာ ရှိတ်စပီးယားပွဲတော်ဖြစ်၍ နှစ်စဉ် နွေရာသီ၌ ၂ လခွဲကြာမျှ ခမ်းနားစွာကျင်းပကြသည်။ ထိုပွဲတော်ကျင်းပသောအခါ၌ အင်္ဂလန်ပြည်၏ ထိပ်သီး ပြဇာတ်ပညာသည်များ သည် စထရက်ဖို့မြို့သို့ လာရောက်၍ ရှိတ်စပီးယာရေးခဲ့သောပြဇာတ်များကို တင်ပြ အသုံးတော်ခံလေ့ရှိကြသည်။

**စထရောက်, ဂျေ (ခရစ် ၁၈၂၅–၁၈၉၉)။** ။ယိုဟန်း စထရောက်သည် သြစတြီးယန်းလူမျိုး ဂီတပညာသည်တဦးဖြစ်သည်။ သြစတြီးယားနိုင်ငံ၊ ဗီယင်းနားမြို့၌ ၁၈၂၅ ခုနှစ် အောက်တိုဘာလ ၂၅ ရက်နေ့တွင် ဖွားမြင်သည်။ ဖခင်ဖြစ်သူမှာ နာမည်ကျော် တီးဝိုင်းခေါင်းဆောင်တဦးဖြစ်သော်လည်း သားဖြစ်သူ ယိုဟန်း စထရောက်အား သူကဲ့သို့ ဂီတဖြင့်အသက်မမွေးစေလို၍ ငယ်စဉ်ကပင် ဗီယင်းနားမြို့ရှိ လက်မှုပညာသင်ကျောင်းသို့ ပို့ပြီးလျှင် အရွယ်ရောက်သောအခါ၌လည်း ဘဏ်တိုက်စာရေးအလုပ်ကိုလုပ်စေလေသည်။ သို့သော် စထရောက်သည် ဖခင်ကြီး၏ကွယ်ရာ၌ တရောထိုးပညာကို တိတ်တဆိတ်သင်ယူ၍ ၁၈၄၄ ခုနှစ်တွင် တီးဝိုင်း


ဂီတပညာရှင် ယိုဟန်းစထရောက်

တခုကို သူကိုယ်တိုင်ဦးစီးကာ တီးမှုတ်ခဲ့၏။ ထိုအခါမှစ၍ စထရောက်သည် ဂီတပညာသည်ကြီးဖြစ်လာသည်။ ၁၈၄၉ ခုနှစ်၌ ဖခင် ကွယ်လွန်လေလျှင် စထရောက်သည် ဖခင်ကြီး၏ တီးဝိုင်းကို မိမိ တီးဝိုင်းနှင့် ပူးပေါင်း၍ သြစတြီးယား၊ ပိုလန်နှင့် ဂျာမနီနိုင်ငံများတွင် လှည့်လည်တီးမှုတ်ရာ လူကြိုက် အလွန်များခဲ့လေသည်။ ၁၈၆၂ ခုနှစ်တွင် အဆိုတော်အမျိုးသမီးတဦးနှင့် လက်ထပ်ပြီးလျှင် တီး ဝိုင်း ခေါင်းဆောင် အလုပ်ကို စွန့်လွှတ်လိုက်လေ၏။ ထို့နောက် စထရောက်သည် ကပွဲများ၌ သီဆိုရန် သီးချင်းများကို ရေးသား ယင်း သီချင်းရေး ဆရာ အဖြစ်ဖြင့် ကျော်ကြား လာပြန် သည်။ စထရောက်သည် ကပွဲသီချင်း ပုဒ်ပေါင်း ၄၀၀ နီးနီး ရေးသားခဲ့သည် သာမက ထို သီချင်း များ ကဲ့သို့ပင် လူကြိုက်များသော အော်ပရာခေါ် တေးသံစုံ ဇာတ်များ ကိုလည်း ရေး သား ခဲ့သည်။ (အော်ပရာဇာတ်ပွဲများ–ရှု။) ၁၈၉၉ ခုနှစ် ဇွန်လ ၃ ရက်နေ့တွင် ဂီတစာဆိုကြီး စထရောက်သည် မိမိချက်မြှုပ်ဖြစ်သော ဗီယင်းနားမြို့၌ပင် ကွယ်လွန်လေသည်။

**စနေဂြိုဟ်။** ။စနေဂြိုဟ် သည် နက္ခတ္တဗေဒအရ ဆက်တန်ဂြိုဟ်ဖြစ်သည်။ နေစကြာဝဠာတွင် ထိုဂြိုဟ်သည် ဂျူပိတာ (ကြာသပတေးဂြိုဟ်) မှလွဲလျှင် အကြီးဆုံးဂြိုဟ်ဖြစ်သည်။ ဆက်တန်ဂြိုဟ်၏ မျက်နှာပြင်သည် ကမ္ဘာမြေမျက်နှာပြင်ထက် အဆပေါင်း ၈၀ ခန့်ကြီးသည်။ ဆက်တန်ဂြိုဟ်တွင် ကွင်းများ ပါရှိသဖြင့် အလွန် ထူးဆန်း အံ့သြဖွယ်ကောင်းသည်။ ဆက်တန်ဂြိုဟ်လုံး၏အချင်းမှာ မိုင်ပေါင်း ၇၃,၀၀၀ ရှိ၍ အကြီးဆုံးကွင်း၏ အချင်းမှာ မိုင်ပေါင်း ၁၇၀,၀၀၀ ရှိသည်။ ဆက်တန်ဂြိုဟ်သည် ကမ္ဘာဂြိုဟ်၏ ၈ ပုံ ၁ ပုံခန့်လောက်သာ သိပ်သည်း ၏။ အကယ်၍ ထိုဂြိုဟ်ကို ရေထဲ၌ချ၍ရလျှင် ရေပေါ်တွင် ပေါလောပေါ်နေမည်ဖြစ်သည်။

ဆက်တန်ဂြိုဟ်ပေါ်၌ သက်ရှိတို့ မနေနိုင်ကြချေ။ အဘယ်ကြောင့်ဆိုသော် ထိုဂြိုဟ်၏အပူချိန်သည် ဖာရင်ဟိုက်စကေးတွင် သုညဒီဂရီအောက် ၂၅၀ လောက်ရှိသည်။ ယင်းကိုပတ်ထားသော လေထု၌လည်း သက်ရှိတို့ အသက်ရှင်နိုင်အောင် လုံလောက်သော အောက်ဆီဂျင် မပါရှိချေ။

ဆက်တန်ဂြိုဟ် သည် နေနှင့် ကမ္ဘာတို့မှ အလွန်ဝေးကွာ

သည်။ နေမှ မိုင်ပေါင်း ၈၈၆ သန်းဝေး၍ ကမ္ဘာမှ မိုင်သန်းပေါင်း ၇၅၀ ဝေးကွာသည်။ ထိုဂြိုဟ်သည် နေကို တပတ်လှည့်ပတ်ရန် ၂၉½ နှစ်ခန့် ကြာသည်။ ဆက်တန်ဂြိုဟ်၏ တနှစ်သည် ကမ္ဘာဂြိုဟ်၏ ၂၉½ နှစ်နှင့် ညီမျှသည်။ ဆက်တန်ဂြိုဟ်၏ တရက်သည် ၁၀¼ နာရီခန့်သာရှိသည်။

ဆက်တန်ဂြိုဟ်၏ ကွင်းပါရှိသည်ကို ခရစ် ၁၆၁၀ ပြည့်နှစ်ကပင် သိပ္ပံပညာရှိ ဂယ်လီလေအိုက မြင်ခဲ့သည်။ ယခုတွင် ဆက်တန်ဂြိုဟ်၏ ကွင်းသုံးကွင်း ပါရှိကြောင်း သိကြရပြီ။ ထိုကွင်းတို့သည် အလွန်သေးငယ်သော မှုံမှုန်တို့ဖြင့် ပြည့်လျက်ရှိသည်။ ထိုမှုံမှုန်တို့ကား ဆက်တန်ဂြိုဟ်ကို အလွန်မြန်သော အလျင်နှင့် လှည့်ပတ် နေကြသည်။ ဆက်တန်ဂြိုဟ်၏ အရံဂြိုဟ် ၉ လုံး ခြံရံလျက်ရှိသည်။

မြန်မာကျမ်းဂန်များအရ စနေဂြိုဟ်သည် ဂြိုဟ်ကြီး ၉ လုံးတွင် ၇ ခုမြောက်ဂြိုဟ်ဖြစ်သည်။ လေ့သင်းအတွင်းဝန် စီရင်သော ဝေါဟာရလိနတ္ထဒီပနီတွင် စနေဂြိုဟ်ကို မှန်ပြောင်းဖြင့် ကြည့်၍ မြင်ရသည်ကို ဤသို့ မှတ်သားထားသည်။ 'ထိုစနေကြယ် ဗိမာန်ကား ၁၀ ခန့်ကြီးသည်။ အလယ်တွင် ပတ္တမြားလုံးသဏ္ဌာန် ရှိသည်။ အနားမှာ ဖြူစင်လှသောပိတ် ရစ်သကဲ့သို့ ဖွေးဖွေးပြင်ပြင် မြင်သည်။ လက်ဝဲလက်ယာ ၂ ဖက်တွင် မည်းသောအဆင်းနှင့် တွင်းအပေါက်ကဲ့သို့ ထင်မြင်သည်။ အနီးအပါးတွင် အရံကြယ် ၅ လုံးရှိသည်။ အလုံးအဝန်းမဟုတ်၊ ကြက်ဥသဏ္ဌာန်ခပ်လျှားလျှားထင်သည်။'

စနေဂြိုဟ်ကိုအစွဲပြု၍ ရက်သတ္တပတ်၏ ၇ ရက်မြောက်နေ့ကို စနေနေ့ဟုခေါ်သည်။ မြန်မာကျမ်းဂန်များအရ ကဆုန်၊ တော်သလင်း၊ ပြာသိုလများတွင် စနေနေ့များမှာ ရက်ရာဇာဖြစ်၍၊ တန်ခူး၊ ဝါခေါင်၊ နတ်တော်လများတွင် ပြဿဒါးရက်များဟူ၍ မှတ်ယူကြသည်။


ဖော်ပြထားသောခုနှစ်များတွင် စနေဂြိုဟ်ကို ကမ္ဘာမှတွေ့မြင်ရပုံ

စနေဂြိုဟ်နတ်မင်း စီးသော ဂြိုဟ်ကောင်မှာ နဂါးဖြစ်သည်။ 'နောက်တောင် စနေ၊ နဂါးမြွေ၊ မှတ်လေဆယ်နှစ်ရ' ဟူသော ဂြိုဟ်လင်္ကာအရ စနေဂြိုဟ်သက်မှာ ၁၀ နှစ်၊ တည်ရာအရပ်မှာ အနောက်တောင်အရပ် ဖြစ်သည်။ ဗေဒင်အခေါ်အားဖြင့် စနေဂြိုဟ်ကို သောရိဟု ခေါ်၏။ မြန်မာအက္ခရာအားဖြင့် ဋ၊ ဌ၊ ဍ၊ ဎ၊ ဏ၊ တ၊ ထ၊ ဒ၊ ဓ၊ န ဟူသော ဋဝဂ်နှင့်တဝဂ်အက္ခရာများကို စနေနံအက္ခရာများဟုခေါ်သည်။

စနိုးဝှိုက်နှင့်လူပုခုနစ်ဖော်။ ။ဂရင်းပုံပြင်များဟု ခေါ်သော ဂျာမန်လူမျိုးညီအစ်ကိုနှစ်ယောက်တို့ရေးသားပြုစုကြသည့် ပုံပြင်များထဲတွင် စနိုးဝှိုက်နှင့်လူပုခုနစ်ဖော်တို့၏ပုံပြင်မှာ ကမ္ဘာကျော်ကြားသည်။

ထိုပုံပြင်၏ အကျဉ်းချုပ်မှာ ရှေးအခါက ဘုရင်တပါး၏မိဖုရားကြီးတွင် ပဋိသန္ဓေရှိနေသောအခါ၊ မိဖုရားကြီးက မိမိမွေးဖွားမည့် ရင်သွေးကလေးသည် သမီးတော်ကလေးဖြစ်၍ နှင်းပွင့်ကဲ့သို့ အသားဖြူပြီးလျှင် နှုတ်ခမ်းများမှာ သွေးကဲ့သို့နီမြန်းကာ ဆံပင်များ မှာလည်း အက်ဗနီပင် အနှစ်ကဲ့သို့ မည်းနက်စေရန် တောင့်တခဲ့၏။ မျှားမကြာမီ မိဖုရားကြီးတောင့်တသည့် ဆန္ဒနှင့်ပြည့်စုံသော သမီးတော် ကလေးကို မွေးဖွားလာရာ စနိုးဝှိုက် (ခင်နှင်းဖြူ)ဟု အမည်မှည့်လေသည်။



သားကောင်ငယ်များက စနိုးဝှိုက်ကို လူပု ၇ ဖော်တို့၏နေအိမ်သို့လမ်းပြခေါ်ဆောင်လာပုံ

ထိုမိဖုရားကြီးသည်လည်း ခင်နှင်းဖြူကို မွေးဖွားပြီးနောက် မကြာမီပင် ကွယ်လွန်ရှာသည်။ ထိုကြောင့် ဘုရင်ကြီးက နောက်ထပ်မိဖုရားတပါး မြောက်စားကောက်ယူလေသည်။ ထိုခင်နှင်းဖြူ၏မိထွေးသည် မနာလိုဝန်တိုစိတ်ရှိ၍ ရက်စက်ကြမ်းကြုတ်သူဖြစ်သည်။ ထိုမိဖုရားတွင် ထူးဆန်းသော မှန်တချပ်ရှိ၏။ ထိုမှန်သည် မိဖုရားမေးသမျှ ပုစ္ဆာများကို တိကျ ·မှန်ကန်စွာ ပြန်လည်ဖြေကြားနိုင်သော အစွမ်းရှိ၏။ မိဖုရားသည် နံနက်တိုင်း ကမ္ဘာပေါ်တွင် အချောဆုံးမည်သူနည်းဟု မှန်အားမေးလေ့ရှိသည်။ အသင်မိဖုရားသည် ကမ္ဘာပေါ်တွင်အချောအလှဆုံးဖြစ်ပါသည်ဟု ထိုမှန်က နှစ်ပေါင်းများစွာပင် ဖြေကြားခဲ့၏။ တနေ့သ၌ ထိုမှန်က ယခုအခါ ခင်နှင်းဖြူသည် ကမ္ဘာပေါ်တွင် အချောအလှဆုံးဖြစ်သည်ဟု ဖြေကြားရာ မိဖုရားသည် မိမိထက်သာသူအားမနာလိုဖြစ်၍ ခင်နှင်းဖြူကိုသုတ်သင်ပစ်ရန် အကြံယူလေသည်။

ထိုကြောင့် မိဖုရားသည် ခင်နှင်းဖြူကို မုဆိုးတယောက်၏လက်သို့ အပ်ကာ တောနက်ကြီးအတွင်းသို့ ခေါ်ဆောင်၍ အစတုံးသတ်ပစ်စေ၏။ သို့ရာတွင် မုဆိုးသည် သနားစဖွယ် တောင်းပန်ရှာသော ခင်နှင်းဖြူကို မသတ်ရက်သဖြင့် လွတ်ရာသို့ ထွက်ပြေးစေ၏။ မင်းသမီးကလေးသည် တောအထပ်ထပ်ကို ကျော်ဖြတ် လာခဲ့၍ ညအချိန် ရောက်သော် အားငယ်ကြောက်လန့်ကာ ငိုယိုမိရှာသည်။ ထိုသို့ငိုသောအခါ တောတွင်းရှိ သားကောင်ငယ်များသည် ခင်နှင်းဖြူအား သစ်ပင်အောက်ရှိ သေးငယ်သော အိမ်ကလေးတလုံးဆီသို့ ခေါ်ဆောင်သွားကြသည်။ ထိုအိမ်ထဲသို့ မင်းသမီးကလေး ဝင်ရောက်သော အခါ သေးငယ်သော စားပွဲတခုပေါ်တွင် သေးငယ်သော ပန်းကန်ခွက်ယောက်တို့ဖြင့် ပေါင်မုံ့နှင့်နွားနို့များ ပြင်ထားသည်ကို တွေ့ရ၏။ စားပွဲဘေးတွင် သေးငယ်သော ကုလားထိုင် ခုနစ်လုံး ရှိလေသည်။ မောပန်းလာသော ခင်နှင်းဖြူသည် ပန်းကန် အသီးသီးမှ ပေါင်မုံ့အနည်းငယ်စီ စား၍ ဖန်ခွက်ခုနစ်လုံးမှ နွားနို့ အနည်းငယ်စီ ယူ၍ သောက်လေသည်။ ထိုနောက် အပေါ်ထပ်တွင် ခုတင်ကလေးခုနစ်လုံးကို တွေ့ပြန်ရာ အငယ်ဆုံးခုတင်ကလေးပေါ်တွင် အိပ်လိုက်ရာ ချက်ခြင်းပင် အိပ်ပျော်သွားလေသည်။

ဤအိမ်ငယ်မှာ လူပုကလေးခုနစ်ယောက်တို့၏ နေအိမ်ဖြစ်၏။ သူတို့သည် နေ့အခါ၌ တောင်အောက်မြေတွင်းထဲမှ ရွှေကိုတူး၍ ညအချိန်တွင် အိမ်သို့ ပြန်လာတတ်ကြသည်။ လူပုကလေးများ အိမ်သို့ပြန်ရောက်သောအခါ မိမိတို့ စားစရာများကို တစုံတယောက်က စားသောက် သွားကြောင်း တွေ့ရသဖြင့် လိုက်ရှာကြရာ အိပ်ရာထက်တွင် မင်းသမီးကလေး အိပ်စက်နေသည်ကို တွေ့ကြလေသည်။

ခင်နှင်းဖြူလည်း အိပ်ရာမှနိုး၍ မိမိ၏အဖြစ်အပျက်အလုံး

စုံကို လူပုကလေးများအား ပြောပြ၏။ ထိုအခါ လူပုကလေးများသည် ကရုဏာသက်လှသဖြင့် ခင်နှင်းဖြူအား မိမိတို့အိမ်တွင်ပင် နေခွင့်ပြု၍ မိမိတို့အတွက် အိမ်မှုကိစ္စများကို လုပ်ကိုင်ဆောင်ရွက်စေ၏။

လူပုကလေးများသည် နောက်တနေ့နံနက် အလုပ်ခွင်သို့ ထွက်သွားကြသောအခါ မင်းသမီးအား တံခါးကိုလုံစွာပိတ်ထားလျက် မည်သူခေါ်၍မျှ ဖွင့်မပေးရန် မှာထားခဲ့၏။ သို့မှာခဲ့ခြင်းမှာ မိထွေးမိဖုရားကြီး၏ ကောက်ကျစ်စဉ်းလဲမှုကို သူတို့ သိကြသဖြင့် မင်းသမီးကလေး အတွက် စိုးရိမ်သောကြောင့်ဖြစ်၏။ သူတို့ထင်သည့်အတိုင်းပင် မိထွေးမိဖုရားသည် မိမိ၏ ကြည့်မှန်က ပြောပြသဖြင့် မင်းသမီးကလေး အသက်ရှင်လျက်ရှိသည့် နေရပ်ကို သိလေ၏။ ထိုကြောင့် မိဖုရားသည် မိမိကိုယ်တိုင် ဈေးရောင်းသူအမယ်အိုဟန်ဆောင်၍ မင်းသမီးကလေးရှိရာသို့ ရောက်လာကာ ခင်နှင်းဖြူအား နှစ်လိုဖွယ်သော ပန်းသီးတလုံးကို ရောင်းလေသည်။

ထိုပန်းသီး တခြမ်းတွင် အဆိပ်ထည့်၍ အဆိပ် မရှိသည့်ဖက်ကိုစားပြကာ လှည့်စား၍ရောင်းသဖြင့် မင်းသမီးကလေးလည်း ယုံကြည်မိ၏။ ထိုကြောင့် ပန်းသီးကိုယူကာ တကိုက်မျှစားလိုက်လျှင်ပင် လဲကျ၍ မေ့မြောသွားလေ၏။

လူပုကလေးများ ပြန်လာသောအခါ အသေကဲ့သို့ဖြစ်နေသော ခင်နှင်းဖြူကို တွေ့ရသဖြင့် များစွာ ယူကျုံးမရဖြစ်ကြ၏။ လူပုကလေးများသည် မင်းသမီး၏အလောင်းကို မှန်ခေါင်းထဲ၌ထည့်၍ တောင်ကုန်းတခုပေါ်တွင် တင်ထားကာ၊ ပန်းများဖြင့် မွမ်းမံ၍ အလောင်းကို စောင့်ရှောက်နေကြလေသည်။ တောတိရစ္ဆာန် ကလေးများ ကလည်း လာရောက် ကူညီ စောင့်ရှောက်ပေးကြ၏။ တနေ့သောအခါ တောကစားထွက်လာသည့် မင်းသားကလေးတပါးသည် ခင်နှင်းဖြူ၏အလောင်းကို တွေ့မြင်ရလျှင် များစွာပင် သနားချစ်ခင်သဖြင့် အလောင်းကို မိမိ၏တိုင်းပြည်သို့ ယူဆောင်သွားကာ လှပခမ်းနားစွာထားလိုပါသည်ဟု လူပုကလေးများထံ ခွင့်ပန်လေသည်။ လူပုကလေးများကလည်းသဘောတူညီသဖြင့် မှန်ခေါင်းကိုမယူကြရာတွင် မင်းသား၏တပည့်တဦးက ခလုတ်တိုက်မိသောကြောင့် မှန်ခေါင်းမှာလွှတ်ကျလေ၏။ ထိုအခါ ခင်နှင်းဖြူ၏ လည်ချောင်းဝတွင် တစ်ဆို့နေသော ပန်းသီးခြမ်းသည် မင်းသမီးကလေး၏ ပါးစပ်တွင်းမှ ထွက်ကျသွားလေသည်။

ထိုကြောင့် ခင်နှင်းဖြူသည် အိပ်ပျော်ရာမှ နိုးလာသူကဲ့သို့ ချက်ခြင်းပင် လူကောင်းပြန်ဖြစ်လာရာ မင်းသားကလေးနှင့်တကွ လူပုကလေးများ၊ တောတိရစ္ဆာန်များမှာ ဝမ်းမြောက်ကြရလေသည်။ မင်းသားကလေးသည် လူပုကလေးများထံမှခွင့်ပန်၍ ခင်နှင်းဖြူကို မိမိတိုင်းပြည်သို့ ခေါ်ဆောင်သွားပြီးနောက် လက်ထပ်လိုက်၏။ ထိုသတင်းများကိုကြားရသော မိထွေးစဉ်းလဲ မိဖုရားသည်လည်း ဒေါသစိတ်မွန်ပြီးလျှင် သေဆုံးလေ၏။

စနိုက်ငှက်။ ။ရေအိုင်ထွန်းရာ၊ ရေဝပ်ရာနှင့် ရေတင်၍ အမြဲတမ်းစွတ်စိုထိုင်းမှိုင်းရာ ဒေသများ၌ ကျက်စားသော ငှက်တို့အနက် စနိုက်ခေါ် ငှက်များကို လူအသိ များလေသည်။ ရေထဲတွင်သွားလာတတ်သော ငှက်တမျိုးဖြစ်သည်။

စနိုက်သည် ကိုယ်ထည်သေးငယ်၍ အသွေးအရောင် ညိုသည်။ နှုတ်သီးနှင့် ခြေထောက်များမှာ အလွန်ရှည်၏။ အချို့စနိုက်များသည် ယင်းတို့၏ ရှည်လျားသော နှုတ်သီးများအပါအဝင် အလျား ၁၀ လက်မခန့် ရှိကြသည်။ ရှည်လျားသော နှုတ်သီးနှင့် ခြေတံများရှိသောကြောင့်လည်း စနိုက်များသည် ရေဝပ်သောနေရာ၊ စွတ်စိုနေသောနေရာနှင့် ရေစပ်များတွင် မိမိတို့ကိုယ်ကို ရေမထိစေဘဲ ကျက်စားနိုင်ကြ၏။ ပျံသန်းရာ၌ အလွန်လျင်မြန်၍ တဆစ်ချိုးပျံသန်းတတ်ကြသည်။

စနိုက်များသည် ရေဝပ်၍ အမြဲတမ်းစိုစွတ်လျက်ရှိသော မြေပေါ်တွင် ခွက်သဏ္ဌာန် ခပ်ဝိုင်းဝိုင်းအသိုက်များကို မြက်ဖြင့် ပြုလုပ်ကြသည်။ ဥမှာ သစ်သော်သီးသဏ္ဌာန် ရှိ၍ တကြိမ်လျှင် ၄ ဥအုသည်။ စနိုက်များကို ထိမှန်အောင် ပစ်ခတ်ရန် ခဲယဉ်းသောကြောင့် ငှက်ခတ်သမားနှင့် ငှက်ပစ်ဝါသနာ ပါသူများက သဲသဲမဲမဲ လိုက်လံ ပစ်ခတ်လေ့ ရှိကြသည်။



ရေစပ်တွင်ကျက်စားလေ့ရှိသောစနိုက်ငှက်		စနိုက်ကြီးငှက်

စနိုက်မျိုးများအနက် စနိုက်ကြီးမှာ သာမန်စနိုက်များထက် ကိုယ်ထည်ကြီးမားသည်။ ဂျက်စနိုက်ဟုခေါ်သော စနိုက်မျိုးသည် အလျား ၇ လက်မသာရှိ၏။ ထိုစနိုက်ကြီးနှင့် ဂျက်စနိုက် နှစ်မျိုးစလုံးကို အလွန် တွေ့ရခဲလေသည်။ ထို ငှက်တို့သည် ဆောင်းရာသီ၌သာ လာရောက်ကြသော ဧည့်သည်ငှက်များဖြစ်ကြသည်။

ဗြိတိသျှကျွန်းစုနှင့် ဥရောပတိုက်တွင် သာမက၊ အခြားတိုက်ကြီးများတွင်လည်း၊ စနိုက်ကို တွေ့ရှိရသည်။ များသောအားဖြင့် စနိုက်များ ကျက်စားရာ ဒေသကား ရေအိုင်စပ်၊ မြစ်ကမ်းနား၊ ရေတင်၍ စွတ်စိုသောနေရာများ၊ လယ်ကွက်များဖြစ်သည်။

မြောက် အမေရိကတိုက်တွင် ဝီလဆန်စနိုက် ခေါ် စနိုက်တမျိုးကို တွေ့ရ၏။ ထိုဝီလဆန်စနိုက်များသည်လည်း ငှက်ပစ်ဝါသနာအိုးများ၏ အကြိုက်ပင်ဖြစ်လေသည်။

# မြေကြီးမှရွှေသီး

ဆန်စပါးသည် မြန်မာ့စီးပွားရေး အသက်သွေးခဲဖြစ်သည်။ ဒုတိယကမ္ဘာစစ်မဖြစ်မီက မြန်မာနိုင်ငံမှ နိုင်ငံခြားသို့ တင်ပို့ရောင်းချသောဆန်တန်ချိန်မှာ သုံးသန်းကျော်ဖြစ်သည်။ ယခု မြန်မာ့စီးပွားရေးကို ပြန်လည်ထူထောင်ဆဲတွင်၊ စစ်မဖြစ်မီက စံချိန်၏ ထက်ဝက်မျှလောက်သာ ထုတ်လုပ်နိုင်သေးသည်။ သို့ဖြစ်လင့်ကစား ဆန်နှင့်ဆန်ထွက်ပစ္စည်းတို့ကို နိုင်ငံခြားသို့တင်ပို့ရောင်းချရာမှ ဝင်ငွေသည် တနှစ်တနှစ်လျှင် ကုဋေခုနစ်ဆယ်ထက်မနည်းချေ။

စပါး။ ။စပါးသည် မြက်ပင်မျိုးဖြစ်သည်။ အများအားဖြင့် တနှစ်ခံပင်မျိုးဖြစ်၍ အချို့အပူပိုင်းဒေသများတွင် နှစ်ကြာခံပင်မျိုးဖြစ်သည်။ မြန်မာနိုင်ငံအောက်ပိုင်းတွင် ဒိုက်စပါးနှင့် ဒေါင်းစပါးခေါ် စပါးရိုင်းနှစ်မျိုးကို ရေနစ်ကွင်းများနှင့် ကန်များထဲ၌ တွေ့ရသည်။ ရုက္ခဗေဒအလိုအားဖြင့် ဒေါင်းစပါးကို 'အိုရိဇာ လက်တီဖိုလီးယား' ဟူ၍၎င်း၊ ဒိုက်စပါးကို 'အိုရိဇာ ဆာတီဗား' ဟူ၍၎င်း ခေါ်သည်။ မြန်မာနိုင်ငံအထက်ပိုင်း ခြောက်သွေ့သောမြေများ၌လည်း 'အိုရိဇာ ဂရန်နျူလေးတား' ခေါ် စပါးရိုင်းတမျိုးပေါက်သည်ဟု ဆိုသည်။ ထိုစပါးရိုင်းများမှ စပါးပင်အမျိုးမျိုး ခွဲထွက်လာသည်။ မြန်မာနိုင်ငံ၌ စပါးမျိုးပေါင်း ၁,၀၀၀ ခန့်ရှိသည်ဟုဆိုသည်။



သန်မာထွားကျိုင်းသောစပါးနှံ

စပါးမျိုး တမျိုးတည်းကိုပင် အရပ်ဒေသလိုက်၍ အမည်အမျိုးမျိုးဖြင့် ခေါ်တတ်ကြသည်။ တဖန်မျိုးမတူသောစပါးများကို အမည်တမျိုးတည်းဖြင့် ခေါ်တတ်ကြပြန်ရာ စပါးပင်တို့၏ အမျိုးအစားကို ခွဲခြားရန်ခဲယဉ်းပေသည်။ စပါးမှ ဆန်ကြိတ်လုပ်ငန်း တိုးတက်နေသော တိုင်းပြည်များတွင် စပါးစေ့များ၏ အရွယ်အစားကိုလိုက်၍ အမျိုးအစားခွဲခြားတတ်ကြ လေသည်။ သို့သော် မြန်မာလယ်သမားများသည် လွယ်ကူစိမ့်သောငှာ စပါးပင်တို့၏သက်တမ်းကိုလိုက်၍ (၁) ကောက်လျှင်၊ (၂) ကောက်လတ်၊ (၃) ကောက်ကြီး၊ (၄) မုရင်း၊ ဟူ၍ စပါးမျိုး ၄ မျိုး ခွဲခြားထားကြသည်။

ကောက်လျှင်စပါး၏ သက်တမ်းမှာ ရက်ပေါင်း ၁၄၀ မှ ၁၅၀ အထိဖြစ်၍ အောက်တိုဘာလလယ်လောက်တွင် ဖြစ်စေ၊ လကုန်လောက်တွင် ဖြစ်စေ မှည့်သည်။ ထိုစပါးမျိုးကို မိုးနည်းသော ဒေသများနှင့် မြေမကောင်းသော လယ်ကွင်းများတွင် စိုက်ပျိုးလေ့ ရှိသည်။ သို့သော် မြန်မာနိုင်ငံအောက်ပိုင်း၌ ကောက်ကြီးနှင့် ကောက်လတ်စပါး စိုက်ပျိုးသော လယ်များတွင် သီးဦးစားရန်အတွက် ကောက်လျှင်များကို အနည်းငယ် စိုက်ပျိုးလေ့ရှိသည်။ မြန်မာနိုင်ငံအောက်ပိုင်းတွင် စိုက်ပျိုးသော ကောက်လျှင်စပါးမျိုးများမှာ ဆန်လုံးငယ်သော ဧည့်မထစပါးနှင့် လက်ရွေးဆန်စပါးများ ဖြစ်ကြသည်။ မြန်မာနိုင်ငံအထက်ပိုင်းတွင်စိုက်ပျိုးသော ကောင်လျှင်စပါးမျိုးများမှာ ငစိန်နှင့် လက်ရွေးဆန် အငယ်စားမျိုးများ ဖြစ်ကြသည်။

ကောက်လတ်စပါး အမျိုးအစား၏ သက်တမ်းမှာ ရက်ပေါင်း ၁၅၀ မှ ၁၇၀ အထိဖြစ်၍ နိုဝင်ဘာလလယ် သို့မဟုတ် လကုန်လောက်တွင် မှည့်သည်။ ထိုစပါးမျိုး၌ ဆန်းလုံးသေးငယ်သော ငစိန်စပါး၊ လက်ရွေးဆန် စပါးနှင့် ဧည့်မထစပါးများ ပါဝင်သည်။ ထိုစပါးများကို ကောက်ကြီးစပါးစိုက်ပျိုးသော လယ်များမှာထက် ၁၀ ရက် ၁၅ ရက်စော၍ ရေခန်းသောလယ်ကွက်များတွင် စိုက်ပျိုးကြသည်။ ရခိုင်တိုင်းမှ ဆန်လုံးငယ်သော 'လက်ရုံး' စပါး၊ 'ကြိမ်

သီး' စပါး၊ တနင်္သာရီတိုင်းမှ 'ရှမ်းကလေး' စပါး နှင့် 'ရဟိုင်း' စပါးတို့သည် ကောက်လတ်စပါးများ ဖြစ်ကြသည်။ မြန်မာနိုင်ငံ အထက်ပိုင်းတွင် ဆည်များမှ ရေမရသောလယ်များတွင် ကောက်လတ်စပါးမျိုးကို စိုက်ပျိုးကြသည်။

ကောက်ကြီးမှာ သက်ရင့်စပါးမျိုးဖြစ်သည်။ သက်တမ်းမှာ ရက်ပေါင်း ၁၇၀ မှ ၂၀၀ အထိဖြစ်၍ ဒီဇင်ဘာလဆန်းတွင် မှည့်သည်။ သက်တမ်းအလိုက် အမျိုးအစားခွဲရလျှင် ပဲခူးတိုင်း၊ ဧရာဝတီတိုင်း၊ ရခိုင်တိုင်းတို့၌ စိုက်ပျိုးသော ဆန်လုံးကြီးမျိုး ငစိန်စပါးသည် ကောက်ကြီးမျိုး ဖြစ်သည်။ တနင်္သာရီတိုင်းတွင် စိုက်ပျိုးသော 'ဗျတ်' စပါးနှင့် မြန်မာနိုင်ငံအောက်ပိုင်း မြေဩဇာကောင်းသော အရပ်များတွင်စိုက်ပျိုးသော မီးတုံးစပါးတို့သည်လည်း ကောက်ကြီးမျိုးပင် ဖြစ်ကြသည်။ မီးတုံးမျိုးတွင် ကမာကြည်၊ စပါးနက်နှင့် ကုလားကြီးတို့ ပါဝင်သည်။ ကောက်ကြီး စပါးကို မြေဩဇာ ကောင်းမွန်၍ မိုးကုန်သည့် အထိ ရေရရှိသော လယ်များတွင် စိုက်ပျိုးသည်။ ပုသိမ်၊ မြောင်းမြ၊ ဖျာပုံ စသော မြစ်ဝကျွန်းပေါ်ဒေသတို့တွင် စပါးနက်မျိုးကို ငကျဲ ဟု ခေါ်လေ့ရှိသည်။ ဆည်မှရေရသော ရွှေဘိုခရိုင်နှင့် မင်းဘူးခရိုင်ရှိ လယ်များတွင် ကောက်ကြီးစပါးကို စိုက်ပျိုးကြသည်။

မုရင်းစပါး သည် ကောက်လျှင်စပါး နှင့် သက်တမ်း တူသည်။ ထိုစပါးမျိုးကို မြစ်ကမ်းခြေ အရပ်ဒေသများ၌ နိုဝင်ဘာလတွင် စိုက်ပျိုးကြ၍ မတ်လတွင် ရိတ်သိမ်းကြသည်။ အထက်ပါ စပါးမျိုးများ အပြင် တောင်ပေါ်တွင် စိုက်ပျိုးသော တောင်ယာစပါးနှင့် ၆ လက်မ ဂ လက်မ အထိ ရေမြုပ်နေသော လယ်များတွင် စိုက်ပျိုးသည့် တတောင်ပို စပါးမျိုးကဲ့သို့သော ရေပေါ်စပါးမျိုး ဟူ၍ စပါးနှစ်မျိုးရှိသေးသည်။ ထိုစပါးမျိုးများ အနက် ကောက်ကြီး နှင့် ကောက်လတ်စပါးတို့မှာ အနုတ်အသိမ်းများသဖြင့် ယင်းတို့ကို အကြီးအကျယ်စိုက်ပျိုးကြသည်။

ကောက်ညှင်းသည် စပါးမျိုးပင်ဖြစ်သည်။ အကြမ်းအားဖြင့် ဆန်အရောင်ကိုကြည့်၍ ကောက်ညှင်းဖြူ၊ ကောက်ညှင်းခေါ်ပ်ဟူ၍ နှစ်မျိုးခွဲသည်။ ကောက်ညှင်းဖြူမှာ အရောင်ဖြူ၍၊ ကောက်ညှင်းခေါ်ပ်မှာ အရောင်ညိုသည်။ ကောက်ညှင်းစပါးသည် ရိုးရိုးစပါးများလောက် အသုံးမများသဖြင့် ယင်းကို အနည်းငယ်လောက်သာ စိုက်ပျိုးလေ့ရှိသည်။

စပါးပင်များကို စိုက်ပျိုးရာ၌ ပိုးမွှားများ၏ဘေးရန်မှကာကွယ်ပေးရန်မှာ အရေးကြီးပေသည်။ စပါးပင်ကို ဖျက်ဆီးတတ်သော ပိုးမျိုးမှာ ပိုးတော့င်တဲ၊ ငမြှောင်တောင်၊ နံ့ဖြတ်ပိုး၊ ရွက်ဖြတ်ပိုး ဟူသော ပေါက်ဖတ်မျိုးများ၊ ပိုးလောင်မီး၊ ကျိုင်းကောင်များ၊ ဆစ်ပိုးခေါ် ပိုးဖလံမျိုးများ ဖြစ်ကြသည်။ ထိုပြင် ဖောင်စီးကနန်းနှင့် လယ်ဗုဇွန်များကလည်း စပါးပင်ကို ဖျက်ဆီးတတ်ကြသေးသည်။ အခြားတောတိရစ္ဆာန်နှင့် ငှက်တို့ကလည်း စပါးကို ဖျက်ဆီးတတ်ကြသဖြင့် ယင်းတို့၏ အန္တရာယ်များမှလည်း ကာကွယ်ပေးကြရသည်။ တောင်စောင်းတွင် စိုက်ပျိုးသော စပါးများကို ကြွက်က ဖျက်ဆီးတတ်သည်။ ထိုပြင် စပါးပင်များ၌ ခွပိုးရောဂါ၊ ကွင်းနားရောဂါ၊ လောင်မီးရောဂါ ကဲ့သို့သော အပင်ရောဂါများလည်း ကျရောက်တတ်သေးရာ ထိုရောဂါများမှလည်း ကာကွယ်ပေးကြရသည်။

ယခုအခါတွင် စပါးကို ဆန်ဖြစ်အောင် ဆန်စက်များ၌ ကြိတ်ကြသည်။ ဆန်စက်များ မပေါ်မီ ရှေးအခါက စပါးကို လက်လှည့်ကြိတ်ဆုံတွင် ထည့်၍ကြိတ်ကာ အခွံကိုချွတ်ကြသည်။ ကြိတ်ဆုံမှထွက်လာသော အခွံကျွတ်ပြီးဆန်ကို ဆန်လုံးတီး သို့မဟုတ် လုံးစိမ်းဟု ခေါ်သည်။ တဖန် လုံးတီးဆန်ကို မောင်းတွင်ထည့်၍ ဖွပ်ရပြန်သည်။ မောင်းထောင်းဆန်သည် လျှင်မြန်စွာ အောက်လွယ်၊ ပိုးတွယ်လွယ်၏။ ဆန်နှင့် ကပ်နေသော အလွှာများကို စင်အောင်ဖွပ်ထားသော ဆန်ဖြူသည် ကြာရှည်အထားခံသည့်ပြင် မျက်နှာပန်းလည်းလှသည်။ သို့သော် မောင်းထောင်းဆန်ကဲ့သို့ အာဟာရဓာတ်နှင့် မပြည့်စုံချေ။ မောင်းထောင်းဆန်၌ ဗီတာမင် ဘီ ပါရှိသည်။ ဆန်ဖြူတွင် ဗီတာမင် မရှိသလောက် ဖြစ်နေသဖြင့် ထိုဆန်မျိုးကို အမြဲစားသူများသည် ဗယ်ရီဗယ်ရီ ခေါ် ထုံနာစို ကိုယ်ဖောနာ ဖြစ်တတ်ကြသည်။ ထို့ကြောင့် ယခုအခါ မြန်မာနိုင်ငံတော်အစိုးရသည် အများပြည်သူတို့ ဆန်လုံးတီးကို စားရန် လှုံ့ဆော်ပေးလျက် ရှိ



နိုင်ငံတော်ကောက်ပဲသီးနှံရောင်းဝယ်ရေးအဖွဲ့မှ စပါးများဝယ်ယူနေပုံ

သည်။ ဆန်လုံးတီးကို ဆန်လုံးညိုဟု အမည်ပေးထားပြီးလျှင် ဆန်လုံးညိုကို သက်သာသော အဖိုးနှုန်းဖြင့် ရောင်းချသောဌာနများ ဖွင့်လှစ်ထားရှိသည်။ (အစာအာဟာရ — ရှု။)

စပါးမှ ဆန်ခွဲရာတွင် စပါးခွံ၊ ဖွဲနုနှင့် ဆန်ကွဲတို့ကို ဘေးထွက်ပစ္စည်းများအဖြစ် ရရှိသည်။ ဖွဲနုကို ကျွဲနွားများအား အစာကျွေးရာတွင် အသုံးပြုနိုင်သည်။ ဆန်ကွဲကို အရက်ချက်ရာ၌ ၎င်း၊ ကစီ ပြုလုပ်ရာ၌ ၎င်း၊ ဆန်မှုန့် ပြုလုပ်ရာ၌ ၎င်း အသုံးပြုနိုင်သည်။ စပါးခွံ (ဖွဲကြမ်း) များကို လောင်စာအတွက်ဖြစ်စေ၊ အထုပ်များ ထုပ်ရာတွင်ဖြစ်စေ၊ ရေခဲများအရည်မပျော်လွယ်စေရန် ဖုံးအုပ်ပေးရာ၌ဖြစ်စေ အသုံးပြုနိုင်သည်။ စပါးကိုရိတ်သိမ်းသောအခါလယ်ထဲတွင်ကောက်ရိုးသာ ကျန်ခဲ့သည်။ ထိုကျန်သော ကောက်ရိုးကို ကျွဲနွားတို့အစာအတွက် အသုံးပြုနိုင်သည်။ ထို့ပြင်ကျွဲနွားများအတွက် အခင်းအဖြစ် ၎င်း၊ အိမ်မိုးရန်အတွက် ၎င်း၊ ပစ္စည်းများ ထုပ်ပိုးရန် အတွက် ၎င်း အသုံးပြုနိုင်သေးသည်။



စပါးသန့်သန့်ရရှိရန် လေ့စင်တွင်စပါးလေ့နေပုံ

အရှေ့တိုင်းနိုင်ငံများတွင် ဆန်ကို အဓိကအစာအဖြစ် စားသုံးကြသဖြင့် ထိုတိုင်းနိုင်ငံများ၌သာ ဆန်လုံလောက်စွာမရလျှင် ငတ်မွတ်ခေါင်းပါးခြင်းဘေးနှင့် ရင်ဆိုင်ကြရပေမည်။ ထို့ကြောင့် ထိုနိုင်ငံများတွင် စပါးကို အကြီးအကျယ်စိုက်ပျိုးကြလေသည်။ မြန်မာနိုင်ငံကဲ့သို့သော အချို့နိုင်ငံများတွင် စပါးကို တနှစ်လျှင် တကြိမ်သာစိုက်ပျိုးသည်။ အစာရေစာရှားပါးသော တရုပ်နိုင်ငံတောင်ပိုင်းနှင့် အချို့ ပူအိုက်သော ရာသီဥတုရှိသည့် တိုင်းပြည်များ၌မူ တနှစ်လျှင် လေးကြိမ်မျှ စိုက်ပျိုးလုပ်ကိုင်ကြသည်။

ကမ္ဘာ့လူဦးရေ ၂၅ ရာခိုင်နှုန်းသည် ဆန်ကို အမှီပြု၍နေရလေသည်။ ကမ္ဘာ့ဆန်ထွက်နိုင်ငံ အားလုံးကို ခြုံ၍ကြည့်လျှင် ၉၅ ရာခိုင်နှုန်းမျှသောဆန်ကို အာရှတိုက်မှရရှိသည်။ ကမ္ဘာ့အာဟာရဖြည့်စွမ်းရေးတွင် မြန်မာနိုင်ငံသည် ရှေ့တန်းမှပါဝင်ဖြည့်စွက်လျက်ရှိသည်။ စစ်မဖြစ်မီ ၁၉၄၁ ခုနှစ်၊ နှစ်ချုပ်စာရင်းအရ မြန်မာနိုင်ငံ၌ စပါးစိုက်ပျိုးသော ကေပေါင်းမှာ ၁၂,၅၁၈,၅၀၀ ဖြစ်သည်။ ထွက်သောဆန်တန်ချိန်ပေါင်းမှာ ၇,၂၆၅,၂၀၀ ကျော်သည်။ ဆန်တန်ချိန်ပေါင်း ၃,၅၀၀,၀၀၀ ကို နိုင်ငံခြားသို့ တင်ပို့ ရောင်းချခဲ့ရလေသည်။

စစ်မဖြစ်မီကနှင့် စစ်ပြီးခေတ် နိုင်ငံခြားသို့ တင်ပို့သော ဆန်ထွက်ပစ္စည်း တန်ချိန်မှာ အောက်ပါ စာရင်းအတိုင်း ဖြစ်သည်။

| | | |
|---|---|---|
| ၁၉၃၈–၃၉ ခုနှစ် | | ၃,၃၂၉,၀၀၀ တန် |
| ၁၉၄၆–၄၇ | „ | ၉၂၁,၀၀၀ „ |
| ၁၉၄၇–၄၈ | „ | ၁,၂၅၄,၀၀၀ „ |
| ၁၉၄၈–၄၉ | „ | ၁,၁၉၃,၀၀၀ „ |
| ၁၉၄၉–၅၀ | „ | ၁,၁၂၉,၀၀၀ „ |
| ၁၉၅၀–၅၁ | „ | ၁,၃၆၈,၀၀၀ „ |

မြန်မာနိုင်ငံက နိုင်ငံခြားသို့ တင်ပို့ရောင်းချသော ဆန်နှင့် ဆန်ထွက်ပစ္စည်းတန်ဖိုးမှာ တနှစ်တနှစ်လျှင် ငွေကုဋေ ၇၀ မှ ၈၀ အထိရှိလေသည်။

ယခုအခါ စပါးပင်မှဆန်ကို လုံလောက်စွာ မရရှိနိုင်သော တိုင်းပြည်များတွင် ဆန်တုကို လုပ်ယူစားသုံးနေကြသည်။ ထိုတိုင်းပြည်များ၌ ရိက္ခာပြဿနာ မကြာခဏ ပေါ်ပေါက်တတ်သဖြင့် ဆန်အတုများ ပြုလုပ်၍ရနိုင်ရန် ကြိုးစားကြရ၏။ ဂျပန်နိုင်ငံ၌ ၁၉၄၀ ပြည့်နှစ်လောက်ကပင် စတင်၍ ဆန်တုကို စမ်းသပ်လုပ်ကိုင်ကြည့်ရာ ၁၉၅၂ ခုနှစ်တွင် ဈေး၌ ရောင်းချနိုင်သော အဆင့်အတန်းသို့ ရောက်သည် အထိ အောင်မြင်လေသည်။ အိန္ဒိယနိုင်ငံ၌လည်း အာဒါလွတ်၊ ပလောပီန်၊ ပိန်းဥ၊ မျောက်ဥ ကဲ့သို့သော သစ်ဥသစ်ဖုများမှ ဆန်တုထုတ်လုပ်နိုင်ရန် ကြိုးစားလျက်ရှိသည်။ ဆန်တုတွင် အစာအာဟာရဓာတ် လုံလောက်စွာပါရှိနိုင်ရန် လိုအပ်သော ဓာတ်ပစ္စည်းများ ထည့်သွင်း၍ ရနိုင်သည်ဟု ဆိုပေသည်။

သို့သော် ယနေ့အထိ ဆန်အစစ်ကို ဆန်အတုနှင့် အစားထိုးခြင်းမှာ ကမ္ဘာပေါ်ရှိ ဆန်စားသုံးသူတို့ လက်ခံနိုင်လောက်အောင် မအောင်မြင်သေးချေ။

**စပါးကြီးမြွေ။** ။စပါးကြီးမြွေသည် ၁၀ ပေမှ ပေ ၂၀ အထိရှည်၍ တခါတရံ ပေ ၃၀ မျှပင်ရှည်တတ်သည်။ စပါးကြီးမြွေ၌ အဆိပ်မရှိချေ။ သို့ရာတွင် သမင်စသော သတ္တဝါ



စပါးကြီးမြွေ

များကို မိမိ၏ကိုယ်ဖြင့် ရစ်ပတ်ကာ ဖျစ်ညှစ်ဆွဲဆန့် သတ်ဖြတ်ပြီးနောက် အကောင်လိုက်မျိုချတတ်သည်။ စပါးကြီးမြွေများကို အာရှ၊ အာဖရိကနှင့် ဩစတြေးလီးယားတိုက်များရှိ အပူပိုင်းဒေသများ၌ တွေ့ရသည်။ အရောင်မှာ အဝါ၊ အညို၊ အမည်းတို့တွင် မှန်ကူကွက်များကဲ့သို့ အကွက်များဖြစ်နေရာ ယင်းကို သစ်ကိုင်း သစ်ခက်နှင့် သစ်ပင်ရိပ်များအကြားတွင် လွယ်ကူစွာမြင်နိုင်ရန် ခဲယဉ်းသည်။ ရေတိမ်ရာ ပွက်တောများ၌ အနေများသည်။ ရေကူး၊ သစ်ပင်တက် ကျင်လျင်သည်။

စပါးကြီးမြွေသည် တဖြည်းဖြည်းကြီးသော မြွေမျိုးဖြစ်သည်။ အသက်ရှည်ရှည်နေသည်။ မြွေမ သည် ဥအလုံးတရာနီးပါးမျှ အုတတ်၍ ဥမှ အကောင်ကလေးများပေါက်သည့်တိုင်အောင် မည်သည့်နေရာသို့မှမသွားဘဲ ဥများကိုရစ်ပတ်၍ စောင့်ရှောက်နေတတ်သည်။ ထိုသို့ ဝပ်နေသော အချိန်တွင် မြွေမသည် အစာမစားချေ။

စပါးအုံးသည် စပါးကြီးမြွေအငယ်စား ဖြစ်သည်။

**စပါးတား။** ။စပါးတားသည် ဂရိနိုင်ငံရှိ ရှေးဟောင်းမြို့ကြီးတမြို့ဖြစ်သည်။ လာကိုးနီးယားပြည်၏ မြို့တော်ဖြစ်ခဲ့ဘူး၍ ပယ်လိုပွန်နီးဆပ် ကျွန်းဆွယ်တွင် အင်အား တောင့်တင်းဆုံးသော နယ်တခုလည်း ဖြစ်ခဲ့ဘူး၏။ ထိုနယ်ကို ဇုနတ်၏သားတော် လက်စီဒီးမွန်းက စတင်တည်ထောင်ခဲ့သည်ဟု ဆိုရိုးရှိသည်။ ထို့ကြောင့် အချို့က စပါးတားနယ်ကို လက်စီဒီးမွန်းဟု ခေါ်ကြလေသည်။ စပါးတန်းလူမျိုးတို့မှာ ဂရိအမျိုးအနွယ်ဖြစ်၍ ဒိုရီယန်မျိုးစုဖြစ်လေ၏။ ထိုလူမျိုးတို့သည် ကော်ရင်သီယန်ပင်လယ်ကွေ့ကိုဖြတ်၍ ပယ်လိုပွန်နီးဆပ်ကျွန်းဆွယ်ကို အနောက်မြောက်ဖက်မှ ဝင်ရောက်လာသူများဖြစ်သည်။ ယင်းတို့သည် စပါးတားနယ်တွင် ရှိရင်းစွဲလူမျိုးများကို ကျွန်များအဖြစ်ထား၍ နယ်ကိုအုပ်ချုပ်နေထိုင်ကြ၏။ အသက်မွေးဝမ်းကျောင်းအတွက် ဘာမျှလုပ်ကိုင်ခြင်းမရှိကြချေ။ ယင်းတို့၏ ကျွန်များက လယ်ယာများ လုပ်ကိုင်ပေးကြရလေသည်။ စပါးတားနယ်မှာ လူတန်းစား သုံးမျိုးရှိရာ စပါးတန်းလူမျိုးများဖြစ်သော အုပ်ချုပ်ရေး လူတန်းစား၊ ကုန်သည်ပွဲစားလူတန်းစားများဖြစ်သော ပါရီအိုစီများနှင့် ကျွန်လူတန်းစားဖြစ်သော ဟဲလော့များဖြစ်ကြ၏။



လက်ရုံးရည်ပြည့်စုံသော စပါးတန်းစစ်သူရဲတဦး

စပါးတန်းများသည် စပါးတားနယ်ကို ဘုရင်နှစ်ဦးထား၍ လိုင်ကားဂပ်အမည်ရှိ ပညာရှိကြီးပြုစုခဲ့သော အခြေခံဥပဒေများအတိုင်း အုပ်ချုပ်ကြလေသည်။ ထိုအုပ်ချုပ်ရေးအရ စပါးတန်းတို့သည် အသီနီယန်တို့ကဲ့သို့ စာပေနှင့် အနုပညာကို လိုက်စားခြင်းမရှိဘဲ ကိုယ်ကာယတောင့်တင်းပြီး စစ်ရေး၌လည်း ကျွမ်းကျင်ရန်သာ အဓိကထားကြလေ၏။ သားယောကျ်ားကလေး များကို ခုနစ်နှစ်က ကျော်လွန်လျှင် အစိုးရထံအပ်၍ စစ်ပညာသင်စေရ၏။ ကျန်းမာရေးချို့တဲ့သော ကလေး၊ ကိုယ်လက်အင်္ဂါမသန်စွမ်းသော ကလေးများကို မွေးစကပင် တောင်ပေါ်တွင် ပစ်ထားရ၏။ ဤသို့ဖြင့် စပါးတန်းတို့မှာ ကျန်းမာရေးနှင့်ပြည့်စုံ၍ ခွန်အားဗလ တောင့်တင်းသူများသာ ဖြစ်ရ၏။ ရှေးစပါးတန်းတို့မှာ

သားယောကျ်ားကလေးမွေးလျှင် ခုနစ်နှစ်အရွယ်မှစ၍ မိဖက မပိုင်ရတော့ချေ။ စစ်ပွဲတွင် အမှုထမ်းနိုင်သည့်အရွယ်ဟူသမျှတို့ကို အစိုးရစစ်တပ်၌သာ အမှုထမ်းစေရန် မိဖတို့က အစိုးရအား အပ်ရလေသည်။

စစ်ရေးလေ့ကျင့်မှုတွင်သာ အချိန်ရှိသမျှ လုံးပန်းနိုင်စေ၍ စားရေးသောက်ရေးအတွက် တာဝန် နည်းစေရန် အစိုးရက ဘုံအစားအသောက်ရုံကြီးများ ဖွင့်လှစ်ထား၏။ ထိုကဲ့သို့ စားသောက်ခွင့်ရရန် အစိုးရအား ဆက်ကြေးပေးထားရလေသည်။ ထိုဆက်ကြေးများပေးနိုင်ရန် ကျွန်များက လယ်ယာများကို လုပ်ပေးကြရလေ၏။ ထို့ကြောင့် စပါးတန်းများမှာ စစ်ရေးလေ့ကျင့်ရန်သာ တာဝန်ရှိလေသည်။

တိုက်ခိုက်မှု၊ ကိုယ်ကာယ သန်စွမ်းမှု၊ သတ္တိနှင့် ပြည့်စုံမှုများကိုသာ လေ့ကျင့် နေကြရသဖြင့် အစား အသောက် အနေအထိုင်တို့တွင် စည်းကမ်းကျပ်တည်းလှသည်။ အပြောသမားမဟုတ်ဘဲ အလုပ်သမားများဖြစ်၍ အပြောအဆိုတိုတောင်းသော ဝသီရှိသည်။ အလှအပကို ဂရုမပြုသူများဖြစ်၍ ငွေကြေးသုံးစွဲရာတွင်ပင် သံချောင်းကြီးများကို တန်ဖိုးခွဲခြားထားကာ သုံးစွဲကြလေသည်။ စစ်သားများဖြစ်၍ သူတို့ကိုယ်တိုင် အကြမ်းခံနိုင် ဒုက္ခ ခံနိုင်ရည် ရှိသလောက် သူတပါးအပေါ်၌လည်း ကြမ်းကြုတ်ရက်စက်လေ၏။

စပါးတန်းတို့မှာ စစ်သားကောင်းများ ဖြစ်ခဲ့ကြလေရာ တိုက်ပွဲများတွင် သူတို့၏ဒဏ်ကိုခံနိုင်ရန် ခဲယဉ်းလှပေသည်။ သူတို့ကား သေလျှင်မြေကြီး၊ ရှင်လျှင်ရွှေထီး စိတ်ဓာတ်ထားကာ တိုက်မိလျှင်မဆုတ်တမ်း ရွှေသို့သာတိုးမည့်လူမျိုးပေတည်း။ ထို့ကြောင့် သတ္တိအလွန်ကောင်းသူများကို စပါးတန်းသတ္တိဟု သုံးနှုန်းပြောဆိုကြလေ၏။

ဘီစီ ၅ ရာစုနှစ်လောက်တွင် စပါးတန်းတို့ တန်ခိုးတက်နေလေသည်။ ပါးရှင်းစစ်ပွဲများနှင့် ပယ်လိုပွန်နီးရှင်းစစ်ပွဲများတွင် စပါးတန်းတို့ ထင်ရှား ကျော်ကြား လာလေ၏။ ပယ်လိုပွန်နီးရှင်းစစ်ပွဲအပြီးတွင် အက်သင်တို့ တန်ခိုးမှေးမှိန်သွား၍ စပါးတား တန်ခိုးကြီးလာလျက် ဂရိပြည်နယ်များမှာ စပါးတား၏ လက်အောက်သို့ ရောက်ကြရ လေသည်။ သို့ရာတွင် စပါးတားတို့၏ ဖိနှိပ် ကြမ်းကြုတ်လှသော အုပ်ချုပ်မှုကို ဂရိပြည်နယ်များသည် မခံနိုင်ဘဲ ပုန်ကန်ထကြွကြလေ၏။ စပါးတားတို့အုပ်ချုပ်မှုမှာ အနှစ် ၃၀ ခန့်သာကြာရှည်၍ သီးဗီး ပြည်နယ် ခေါင်းဆောင်သော ဂရိ ပြည်နယ်အချို့၏ ပုန်ကန်မှုကြောင့် စပါးတန်းတို့ တန်ခိုးကျဆင်းလာလေသည်။ မကြာမီ မက်ဆီ ဒိုးနီးယားပြည် လက်အောက်သို့ အခြား ဂရိပြည်နယ်များ နည်းတူ ကျရောက်သွားလေ၏။ ဤသို့ဖြင့် ဘီစီ ၂ ရာစုလောက်မှစ၍ စပါးတားနိုင်ငံငယ်မှာ မထင်ရှားသောအဖြစ်သို့ ရောက်ရှိသွားလေတော့၏။ (ဂရိနိုင်ငံ — ရှု။)

ယခုခေတ်သစ် စပါးတားမြို့မှာ ရှေးမြို့ဟောင်းနေရာတွင်ပင် ၁၈၃၄ ခုနှစ်တွင် ပြန်လည်ဆောက်လုပ်ထား၍ လက်စီဒေးမန်း စီရင်စု၏ မြို့တော် ဖြစ်လေ၏။ လူဦးရေမှာ ၁၁,၀၄၀ ဖြစ်သည်။

**စပါးလင်**။ ။စပါးလင်သည် မြက်ပင်မျိုးဖြစ်၏။ တပင်နှင့်တပင် စုပြုံ၍ပေါက်လေ့ရှိ၏။ အရွက်များသည် သေးသွယ်ရှည်လျား၍ ကြမ်းသည်။ အရွက်၏ဘေးစွန်းများသည် ဓားသွားကဲ့သို့ ထက်၏။ စပါးလင်ပင်သည် အပွင့် ပွင့်ခဲသည်။ အများအားဖြင့် စပါးလင်ကို ဟင်းလျာများအနံ့ကောင်းစေရန် အသုံးပြုကြ၏။ ဆေးဝါးအဖြစ်လည်း အသုံးပြုကြသည်။ အစာကြေစေရန်အတွက်၎င်း၊ ချွေးထွက်စေရန်အတွက်၎င်း အတွင်းဆေးအဖြစ်စားသုံးကြ၏။ ထို့ပြင် ရေချိုးရာ၌၎င်း၊ ကျပ်ထုပ်ထိုးရာ၌၎င်း စပါးလင်ကိုအသုံးပြုကြသေးသည်။

စပါးလင်မွှေးခေါ် စပါးလင်တမျိုးလည်းရှိသည်။ ထိုစပါးလင်မွှေးကို အထူးတလည် စိုက်ပျိုးယူကြ၏။ အရိုင်းပေါက်နေသော စပါးလင်ပင်များ ကိုလည်း တွေ့ရတတ်သည်။ ဤစပါးလင်မျိုးမှ စီထရိုနယ်လာဆီ (စပါးလင်ဆီ) ကို ထုတ်ယူကြ၏။ ထိုအဆီကို အမွှေးအကြိုင်ပြုလုပ်ရာတွင် အသုံးပြုကြသည်။ အစာကြေစေရန်အတွက် ဆေးအဖြစ် အသုံးပြုကြ၏။ ထို စပါးလင်ဆီကို ဗယ်စလင်နှင့်



စပါးလင်ပင်

ရော၍ အရေပြားပေါ်၌သုတ်ထားလျှင် ခြင်အကိုက်သက်သာသည်။

စပါးလင်ပင်များကို ရေမဝပ်နိုင်သောနုံးမြေများတွင် စိုက်ပျိုးလေ့ရှိကြ၏။ တနှစ်တွင် မိုးရေချိန်လက်မ ၁၂၀ မျှရရှိသောဒေသများ၌ စိုက်ပျိုးလျှင် ကောင်းစွာဖြစ်ထွန်းသည်။ မြန်မာနိုင်ငံ အောက်ပိုင်း၌ စိုက်ပျိုးရန် သင့်တော်သည်။ စိုက်ပျိုးရာ၌ မြေကို နွေအခါကထွန်ယက်၍ မိုးကျမှစိုက်ပျိုးကြသည်။ စိုက်သောအခါ အတက်များကို ထိပ်ဖြတ်ပြီးနောက် အတန်းလိုက်စိုက်ကြသည်။ တတန်းနှင့်တတန်းကို ၃ ပေစီခွာ၍ရင်း၊ တပင်နှင့်တပင်ကို ၂ ပေစီခွာ၍ရင်း စိုက်တတ်ကြသည်။ စပါးလင်သည် မြေသစ်၌ဖြစ်ထွန်းလေ့ရှိရာ မြေဩဇာထည့်ပေးရန်မလိုချေ။ ခြံမြေ၌စိုက်လျှင် နောက်ချေးဆွေးထည့်ပေးရန်လိုသည်။ ပေါင်းသင်ပေးခြင်းမှတပါး စပါးလင်ပင်ကို အထူးတလည် ဂရုစိုက်ရန် မလိုပေ။ စပါးလင်ပင်သည် သုံးလေးနှစ်ခံသည်။

**စပီဒိုမီတာ။** ။ယာဉ်များ တနာရီလျှင်မည်သည့်နှုန်းဖြင့်သွားနေသည်ကို ပြသော ကရိယာကို စပီဒိုမီတာ ဟု ခေါ်သည်။ ယာဉ်အမျိုးမျိုးတွင် စပီဒိုမီတာအမျိုးမျိုး ရှိကြသော်လည်း၊ ဂါဗနာဖြင့်ထိန်းသော စပီဒိုမီတာနှင့် သံလိုက်ဓာတ်ဖြင့်ထိန်းသော စပီဒိုမီတာတို့ကို အများအပြား အသုံးပြုကြလေသည်။

ဂါဗနာဖြင့်ထိန်းသော စပီဒိုမီတာတွင် ဂါဗနာအတံများနှင့်တကွ ထိုအတံများကိုဆက်ထားသော သံလုံးများ လည်နေသောအခါ သံလုံးများသည် ဗဟိုခွာအား၏အရှိန်ကြောင့် အပြင်သို့ကား၍ထွက်လာကြသည်။ (ဗဟိုကန်အား၊ ဗဟိုခွာအား— ရှု။) ထိုသို့ကားထွက်လာခြင်းအားဖြင့် ဝင်ရိုးတံတလျှောက် လည်နေသော လျှောခွေးသွားစိတ် သည် အထိန်းစပရင်ကို တွန်း၍ဖိလာသည်။ (ပုံနှင့်တွဲ၍ သေချာစွာကြည့်ပါ)။ မိုင်နှုန်းကိုပြသောလက်တံသည် ကွားဒရင့် ခွေးသွားစိတ်တွင် တပ်ထား၏။ ထို ကွားဒရင့်ခွေး




ဂါဗနာဖြင့်ထိန်းသောစပီဒိုမီတာပုံ

သွားစိတ်ကို တဖန် လည်နေသော လျှောခွေးသွားစိတ်တွင် တပ်ထားပြန်သဖြင့် မိုင်ပြလက်တံသည် ခွေးသွားစိတ်လည်သလောက် စကေးပေါ်တွင် ရှေ့တိုးနောက်ဆုတ် ရွေ့လျက်ရှိနေသည်။ ဝင်ရိုးတံ အလည်မြန်လေလေ၊ ဂါဗနာသံလုံးများသည် ဝင်ရိုးမှခွာထွက်သွားလေလေဖြစ်ပြီးလျှင် အထိန်းစပရင်သည်လည်း ပို၍အဖိခံရလေလေ ဖြစ်သည်။ ဝင်ရိုးတံ မည်မျှပင် လည်နေစေကာမူ ဂါဗနာသံလုံးပေါ် ကျရောက်




သံလိုက်ဓာတ်ဖြင့်ထိန်းသောစပီဒိုမီတာပုံ

သောဗဟိုခွာအားသည် အထိန်းစပရင်၏ တွန်းအားနှင့်ညီမျှလျက်ရှိနေသည်။ ဝင်ရိုးတံအနည်းငယ်လည်သည်နှင့် အခြားအစိတ်အပိုင်းများလည်း လိုက်၍လည်သဖြင့် ချက်ခြင်းပင်လက်တံသည် စကေးပေါ်တွင် မိုင်နှုန်းကို ဖေါ်ပြလေသည်။

သံလိုက်ဓာတ်ဖြင့်ထိန်းသော စပီဒိုမီတာတွင်ကား ခွက်ပုံသဏ္ဍာန်ရှိ ထာဝရသံလိုက်တခုရှိ၏။ ထိုသံလိုက်ခွက်သည် ဝင်ရိုးတံအရှည်တွင် တပ်ထား၍ အစဉ်လည်လျက်ရှိသည်။ ကြေးဖြင့်ပြုလုပ်ထားသော ခွက်ပုံ အာမေချာတခုကို ထိုသံလိုက်ပေါ်တွင် မှောက်၍တပ်ထား၏။ ထိုအာမေချာကို အနည်းငယ်လှုပ်ရှားနိုင်အောင် စီမံပြုလုပ်ထားသည်။ အာမေချာ၏ လှုပ်ရှားမှုကို နာရီဆံခြည်ကဲ့သို့ ပေါ့၍ အပြားလိုက်ခွေထားသော စပရင်ကလေးတခုက ထိန်းထားသည်။ ထိုစပရင်ကလေး၏ တဖက်စွန်းကို အာမေချာ၏ ဝင်ရိုးတွင် တပ်ထားပြီးလျှင် အခြားအစွန်းကို စပီဒိုမီတာ အိမ်တွင် တပ်၍ထားသည်။ ဝင်ရိုးတံတွင် တပ်ထားသော သံလိုက်

ခွက်သည် ဝင်ရိုးတံ လည်သည့်အတိုင်း လိုက်၍လည်သော အခါ သံလိုက်ဓာတ်အားသည် အာမေချာကို သံလိုက်ခွက် နှင့်အတူပါအောင် ဆွဲလေ၏။ သို့ရာတွင် အာမေချာ၏ရွေ့ ရှားမှုကို စပရင်ကလေးက ထိန်းထားသေးသည်။ အမြန် များလေလေ၊ အာမေချာပေါ် သို့ သက်ရောက် သည့် အား သည်လည်း များလေလေ ဖြစ်ပြီးလျှင် အာမေချာလှည့်ရ သည့်ထောင့်သည်လည်း ကြီးလေလေဖြစ်သည်။ နောက် ဆုံးတွင် သံလိုက်ကဖြစ်စေသည့် အားသည် အထိန်းစပရင်၏ တွန်းကန်အားနှင့် တူညီသည့်အခြေသို့ ရောက်သည်။ ထို အခါ တနာရီလျှင်သွားသည့် မိုင်နှုန်းကို အာမေချာအပြင် ဖက်ရှိ ဒိုင်ခွက်အပေါ်ကကလေးမှ ကြည့်မြင်နိုင်သည်။

သာမန်စပီဒိုမီတာအတွင်းရှိ မိုင်နှုန်းပြ ကရိယာကလေး တွင် လက်တံနှစ်ခု ရှိတတ်သည်။ တခုသည် ခရီးမည်မျှဝေး ကွာစွာသွားခဲ့ပြီးကြောင်းကိုပြ၍ အခြားတခုသည် တနာရီ လျှင် မည်သည့်နှုန်းဖြင့်သွားသည်ကို ပြသည်။ ခရီးအကွာ အဝေးပြသည့် လက်တံကို ခရီး စ၍မထွက်မီ သုညသို့ ရွေ့ ထားရသည်။ ဂဏန်းများကို ဒိုင်ခွက်အစွန်ပတ်တွင် မှတ် ထားလေ့ရှိသည်။ ဘီးတခုနှင့်တခုကို ခွေးသွားစိတ်အများ အနည်းဖြင့် ဆက်သွယ်၍ ထားသဖြင့် ခရီးဝေးကိုလည်း သိနိုင်လေသည်။ ထိုစက်ကရိယာ၏သဘောမှာ လှည့်ပတ် သောအရေအတွက်ကို မှတ်သားသည့် ကရိယာ၏ သဘော အတိုင်းပင် ဖြစ်သည်။ အမှန်မှာ ဘီး၏လည်ခြင်းကိုပြ သော ကရိယာတခုသာဖြစ်သည်။ မော်တော်ကားသမား များအဖို့ တမိနစ်တွင် စက်မည်မျှလည်ကြောင်း ကိုလည်း သိလိုကြသဖြင့် အလားတူ သဘောဖြင့် ပြုလုပ်ထား သော စက်ကရိယာလည်း ရှိသေးသည်။ ထိုကရိယာ၌ သွားသည့် မိုင်နှုန်းကိုထည့်ရန် မလိုတော့ချေ။ စက်လည်သမျှကိုပြ သည့်ကရိယာတခုကိုသာ စပီဒိုမီတာ၏သဘောအတိုင်း ပြု လုပ်ထားရန် လိုလေသည်။

**စပယ်**။ ။စပယ်ပင်မှာ ချုံပင်မျိုးဖြစ်၏။ ရုက္ခဗေဒအမည် မှာ 'ဂျက်စမင်နမ် ဆမ်ဗက်' ဖြစ်သည်။ အိမ်စပယ်၊ တော စပယ်၊ စပယ်အိ၊ စပယ်နွဲ့ဟူ၍ စပယ်အမျိုးမျိုးရှိသည်။ စပယ်ပင်သည် မွှေးကြိုင်သော အဖြူရောင်ပန်း ပွင့်၏။ ရှေး အခါကပင် စပယ်များကို စိုက်ပျိုးခဲ့ကြရာ၊ ယခုအခါ ကမ္ဘာ အရပ်ရပ်၌ စပယ်များကို စိုက်ပျိုးလျက်ရှိသည်။ အများ အားဖြင့် စပယ်ပန်းများကို ပန်းကုံးများပြုလုပ်၍ အလှအပ ဆင်မြန်းကြ၏။ စပယ်မှ စပယ်ဆီခေါ် အဆီတမျိုးကို ထုတ် ယူကြသည်။ ထိုအဆီကို အမွှေးအကြိုင်များပြုလုပ်ရာတွင် အသုံးပြုကြ၏။ တရုပ်နိုင်ငံတွင် စပယ်ပန်းများကို လက် ဖက်ခြောက်အနံ့မွှေးရန် အသုံးပြုကြ၏။ ယင်းကို အနာ အုံဆေးအဖြစ်ဖြင့်လည်း အသုံးပြုကြသည်။

စပယ်ပန်းကို မြန်မာစာပေတွင် အမြတ်တနိုး ဖွဲ့နွဲ့ရေးစပ် ကြသည်။ အခြင်းလှခြင်းနှင့် အဆင်းလှခြင်းကို စာဆိုကဝိ တို့က စပယ်ပန်းနှင့် နှိုင်းခိုင်းဖွဲ့ဆိုတတ်ကြသည်။ ကောက် စိုက်မ တေးသံတခုတွင် ချစ်စကား၊ ကြိုက်စကား ဆိုလာ သော လယ်ထွန်မောင်ကြီးအား၊ ကျေးတောသူ ကောက် စိုက်မက မိမိမှာချစ်သူရှိပြီဖြစ်ကြောင်း၊ အလာနှောင်းပြီဖြစ် ကြောင်းကို 'ပျိုခေါင်းကစပယ်ဖြူ၊ ပန်သူနှင့်လေး' ဟု ရေး သီလိုက်ပြီးနောက်၊ လယ်ထွန်မောင်ကြီး၏ စိတ်ပျက်သွား ဟန်ကို 'စပယ်ခိုင်ဖူးတိုင်လို့ရာ၊ လွဲရောဘကွဲလေး' ဟု စပ်ဆို ထားလေသည်။ ထိုပြင် ဤဘဒ္ဒကမ္ဘာ၌ ဘုရားလေးဆူပွင့် ပြီးဖြစ်ကြောင်း၊ ဘုရားတဆူသာ ပွင့်ရန်ကျန်သေးကြောင်း ကို စပယ်လေးရုံနှင့် နှိုင်းခိုင်းကာ ပဟေဠိလုပ်၍ စကားဝှက် ခဲ့သည့် 'စပယ်တဲ့လေးရုံ၊ မလေးကွယ်မပန်ထိုက်တယ်၊ ပန်း မြတ်ခိုက်ကြုံ၊ အပွင့်ရယ်ကုန်၊ အင့်ဖြင့်ကျန်ပါသေး၊ ပန်ချင် သူပျိုမောင်ကြီးရယ်၊ ခေါင်းဖြီးခဲ့လေး။' ဟူသောကဗျာကို လည်း တွေ့ရလေသည်။ ထိုနောက် မိမိအား ခေတ္တယာယီ



မှုန်ကြွယ်သည့် ပန်းစပယ်

မျှသာချစ်ကြိုက်၍ နောင်အခါ၌ အသစ်မြင်သောအခါ ပစ် ပယ်လေ့ရှိကြောင်းကို ခပန်းနှင့် စပယ်ပန်းကို နှိုင်းရှည့်၍ ရေးသားသောကဗျာလည်း ရှိလေသည်။ စလေဦးပုည စပ် ဆိုခဲ့သောထိုကဗျာမှာ 'ပန်းစပယ် နန်းအလယ် မပေါ်ခိုက် တာမို့၊ အလိုက်တော်တန်သင့်ရုံပ၊ ခပွင့်ကိုကုံး။ ။နန်းရဝေ၊ မန်းမြေ စပယ်လှိုင်တော့၊ ခပန်းခိုင် ယာယီရွှေတယ်၊ တော လေ့ရှာသုံး။' ဟူ၍ဖြစ်သည်။ ရတုဘုရင်နတ်သျှင်နောင်ကမူ ပန်းရာသီရောက်သော်ငြားလည်း စစ်ထွက်နေရသဖြင့် ကြင်

သူအား ကိုယ်တိုင်ဆင်မပေးရပုံကို ရေးဖွဲ့ရာတွင် 'စပယ်ပျံ့မွှေး၊ စကားသေးကို၊ မြတ်လေးစုံမက်၊ ကျွန်ုပ်လက်ဖြင့်၊ရွေးလျက်ရွှရွှ၊ မဆင်ရတည့်' ဟု စပယ်ပန်းကို အမြတ်တနိုးထည့်သွင်း ရေးဖွဲ့ခဲ့ပေသည်။

စပယ်ဟူသော ရေးထုံးကိုကား ဝဏ္ဏဗောဓန သတ်အင်းကျမ်းတွင် 'စမွယ်' ဟူ၍၎င်း၊ ရတုစာဆို နဝဒေးကြီးကမူ သူ၏ 'ပတ်စက်ဝန်းလည်' ချီရတု ဒုတိယပုဒ်၌ 'စလည်းဆင်မှ၊ ပတွင်ယသတ်၊ဖြူဆွတ်ဆွတ်ကို' ဟု မသတ်နိဂ္ဂဟိတ်မဲ့ 'စပယ်' ဟူ၍၎င်း၊ ဦးဝန်ပြုစုသော မြန်မာသတ်ညွှန်းကျမ်းတွင် 'စံပယ်' ဟူ၍၎င်း အမျိုးမျိုး ရေးကြသည်ကို တွေ့ရပေသည်။

**စပက်ထရမ်နှင့်စပက်ထရိုစကုပ်။** ။နေရောင်ကို ပရစ်ဇမ်ခေါ် သုံးမြှောင့်ဖန်တုံးဖြင့် ခံ၍ကြည့်လျှင် ဖန်တုံးထဲကဖြတ်ထွက်လာသောနေရောင်သည် မူလနေရောင်အဖြူရောင်မဟုတ်တော့ဘဲ၊ အနီ၊ လိမ်မော်၊ အဝါ၊ အစိမ်း၊ အပြာ၊ မဲနယ်၊ ခရမ်း ဟူ၍ အရောင်ခုနစ်မျိုး ဖြစ်ပေါ်လာသည်ကိုတွေ့ရသည်။ ယင်းသို့ထွက်လာသော အရောင်ခုနစ်မျိုးကို စပက်ထရမ် (ရောင်စဉ်) ဟုခေါ်၏။ အနောက်ဖက်တွင် နေရှိနေ၍ အရှေ့ဖက်တွင် မိုးရွာနေသောအခါ၌ သက်တံဖြစ်ပေါ်တတ်ပုံကို တွေ့ဘူးကြပေမည်။ သက်တံများတွင် အနီအစ ခရမ်းအဆုံးရှိသော အရောင်ခုနစ်မျိုးပင် ပါရှိသည့် ရောင်စဉ်များကို ကောင်းစွာတွေ့နိုင်သည်။ ခြားနားချက်မှာ သဘာဝအလျောက်ဖြစ်ပေါ်သော သက်တံများ၌ နေရောင်သည် ဖန်တုံးကိုဖြတ်သွားရမည့်အစား မိုးရေပေါက်များကို ဖြတ်သွားခြင်းသာဖြစ်သည်။ (သက်တံ — ရှု။) သို့ရာတွင် ရောင်စဉ်များသည် နေရောင်တခုတည်းမှသာ မဟုတ် လျှပ်စစ်ဓာတ်မီး၊ လျှပ်စစ်အတ်မီး၊ ဓာတ်ငွေ့မီး စသည့် မီးရောင်များမှလည်း ဖြစ်ပေါ်လာနိုင်ပေသည်။

ပရစ်ဇမ်ဖန်တုံးသည် နေရောင်မှ ရောင်စဉ်ဖြစ်အောင်ခွဲတတ်ပုံကို စတင်စုံစမ်း၍ စစ်ဆေးကြည့်ရှုသူမှာ သိပ္ပံကဝိ နျူတန်ပင်ဖြစ်လေသည်။ (နျူတန်, ဆာ၊ အိုင်ဇပ် — ရှု။) ထိုပုဂ္ဂိုလ်ကြီးသည် ဖန်တုံး၏ သတ္တိကို စုံစမ်း စစ်ဆေးပြီးနောက် နေရောင်သည် အရောင်တမျိုးတည်းမဟုတ်ဘဲ ရောင်စဉ်တွင်ပါဝင်သော ခုနစ်မျိုးသောအရောင်တို့ဖြင့် စုပေါင်းဖွဲ့စည်းထားကြောင်း၊ တရောင်စီဖြစ်အောင် ဖန်တုံးက ခွဲထုတ်ပေးနိုင်ကြောင်း စသည်တို့ကို ခရစ် ၁၆၇၂ ခုနှစ်တွင် ထုတ်ဖော်ပြောဆိုခဲ့လေသည်။ နေရောင်ကို ပရစ်ဇမ် ဖန်တုံးကဲ့သို့သော ပစ္စည်းမျိုးဖြင့် ခံ၍ကြည့်လိုက်သောအခါ အဘယ်ကြောင့် ရောင်စဉ်များ ထွက်ပေါ်လာရ သနည်း။ ထိုအကြောင်းခြင်းရာကို နားလည်ရန်မှာ အလင်းရောင်သည် လှိုင်းအဖြစ်ဖြင့် ဖြတ်သန်းသွားသည့်အချက်ကို ရှေးဦးစွာ သိထားရပေမည်။ အလင်းလှိုင်းတို့တွင် အလျားအမျိုးမျိုးရှိကြရာ၊ ထိုလှိုင်းအလျားအလိုက် အရောင်များဖြစ်ပေါ်လာကြသည်။ ပမာအားဖြင့် အနီရောင်သည် ရောင်စဉ်ရှိ အရောင်ခုနစ်မျိုးတွင် လှိုင်းအလျား အရှည်ဆုံးဖြစ်၍ ခရမ်းရောင်မှာ လှိုင်းအလျား အတိုဆုံးဖြစ်လေသည်။ လှိုင်းအလျားအမျိုးမျိုးတို့ဖြင့် စုပေါင်းဖွဲ့စည်းထားသော အဖြူရောင်အလင်းသည် အဘယ်ကြောင့် လေထဲတွင် ရောင်စဉ်အဖြစ်ဖြင့် ကွဲ၍မထွက်ပါသနည်း။ ဤမေးခွန်းကိုဖြေရန်ကား ဤသို့ဖြစ်၏။ အားလုံးသော အလင်းလှိုင်းတို့သည် မည်ကဲ့သို့သောလှိုင်းအလျား ရှိသည်ဖြစ်စေ အာကာသတွင် ဖြစ်မူ အလျင်အတူတူဖြင့်သာ ဖြတ်သွားလျက်ရှိ၏။ သို့သော် ဖန်၊ ရေ စသော လင်းပေါက်ပစ္စည်းတခုခုကို ဖြတ်သွားသောအခါ၌မူကား အလင်းလှိုင်းအသီးသီးတို့၏အလျင်များသည် တမျိုးနှင့်တမျိုး မတူတော့ချေ။ ထိုအခါ လှိုင်းအသီးသီးသည် တမျိုးစီယိုင်၍ ကွဲထွက် သွားလာကြသည်။ လှိုင်းအလျားအရှည်ဆုံးဖြစ်သော အနီရောင်သည် အမြန်ဆုံးနှုန်းဖြင့် ဖြတ်သွားသဖြင့် အနည်းဆုံးယိုင်၏။ လှိုင်းအလျားအတိုဆုံးဖြစ်သော ခရမ်းရောင်၏အလျင်မှာ အနှေးဆုံးဖြစ်၍ အများဆုံးယိုင်လေသည်။ အလင်းလှိုင်းများ၌ အလျင်ချင်း မတူမှုကြောင့် ဤကဲ့သို့ အရောင်အလိုက် ခွဲထွက်လာခြင်းကို အရောင်ကွဲထွက်ခြင်းဟု ခေါ်လေသည်။ (အလင်း — ရှု။)

အထက်တနေရာတွင် ဖော်ပြခဲ့သည့်အတိုင်း ရောင်စဉ်များသည် အဖြူရောင်အလင်းတခုတည်းမှသာ ထွက်ပေါ်လာကြသည်ဟု မယူဆအပ်ပေ။ ပစ္စည်းတခုခုကို ဓာတ်ငွေ့ဖြစ်သွားအောင် အပူများများတိုက်ပေးလိုက်သောအခါ ထိုဓာတ်ငွေ့ဖြစ်သွားသော ပစ္စည်းများမှ အလင်းရောင်ထွက်လာတတ်သည်။ ထိုအလင်းရောင်မျိုးမှ ရောင်စဉ်များ ဖြစ်ပေါ်လာနိုင်သေးသည်။ ဒြပ်စင်တခုကို အပူပြင်းပြင်းတိုက်ပေးသောအခါ အက်တမ်များသည် ဒြပ်စင်မှထွက်လာပြီးလျှင် တုန်ခါသွားလေသည်။ ထို အက်တမ်တို့၏ တုန်ခါမှုကြောင့် အလင်းရောင်ထွက်လာသည်။ ထိုအလင်းရောင်မျိုးကို ဖန်ပရစ်ဇမ် တုံးဖြင့် ခံကြည့်လျှင် ရောင်စဉ်များကို ရရှိ၏။ သို့ရာတွင် များသောအားဖြင့် ထိုရောင်စဉ်မျိုးတွင် နေရောင်စဉ်များမှာကဲ့သို့ အရောင်ခုနစ်မျိုးလုံး မရှိကြချေ။ ဒြပ်စင်အသီးသီးရှိ ကိုယ်ပိုင်အရောင်များကိုသာ ထိုရောင်စဉ်မျိုးတွင် တွေ့နိုင်ကြသည်။ ထို့ကြောင့် ရောင်စဉ်များကို စပက်ထရိုစကုပ် နှင့် ကြည့်ရှု စစ်ဆေးခြင်းဖြင့် မည်သည့်ပစ္စည်း၌ မည်သည့်ဒြပ်စင်များပါရှိကြောင်းကို ခွဲခြားပြောဆိုနိုင်သည်။ ဤနည်းဖြင့်ပင် နက္ခတ်ဆရာတို့သည် နေ၊ လ၊ ကြယ်၊ ဂြိုဟ်စသော ကောင်းကင်တန်ဆာများ၌ပါဝင်ဖွဲ့စည်းထားသည့် ဒြပ်စင်များကို သိအောင်ရှာဖွေနိုင်၏။




နေရောင်ကိုပရစ်ဇမ်မှန်တုံးဖြင့်ခွဲ၍ ရောင်စဉ် ၇ မျိုးခွဲထုတ်ပုံ

ဖြစ်ပေါ်သည့် အပြည့်ရောင်စဉ်ပေါ်တွင် ဆားကြောင့်ဖြစ်ပေါ်သည့် အဝါရောင်မျဉ်းကြောင်းကို မမြင်ရတော့ချေ။ အဝါကြောင်းနေရာတွင် အနက်ကြောင်းကိုသာ တွေ့ရလေသည်။ အကြောင်းမှာကား၊ ဆိုဒီယမ်ဓာတ်ငွေ့ အဝါရောင်အလင်းသည် ဓာတ်မီးမှထွက်သော အဝါရောင်အလင်းလှိုင်းများကို စုတ်ယူလိုက်သောကြောင့်ပင် ဖြစ်လေသည်။

အစုတ်ရောင်စဉ်တွင် တွေ့ရသော အနက်ကြောင်းများကို ဖရောင်ဟိုဖာမျဉ်းများဟု ခေါ်သည်။ ဤသို့ခေါ်တွင်ရခြင်း၏အကြောင်းမှာ ခရစ် ၁၈၄၁ ခုနှစ်တွင် ဗာဗေးရီးယားပြည်သား မျက်မှန်ဆိုင်ရာ ပညာသည်တဦး ဖြစ်သူ ဖရောင်ဟိုဖာက နေ၏ ရောင်စဉ်တွင် ထို အနက်ကြောင်းများကို စတင်တွေ့ရသောကြောင့် ဖြစ်ပေသည်။ ကပ်ခေါ့ အမည်ရှိ ဂျာမန်ရူပဗေဒပညာရှင်က ရှင်းပြသည်မှာ အနက်ကြောင်းများသည် နေလုံးကြီးကိုဝန်းရံလျက်ရှိသောဓာတ်ငွေ့အထပ်ထပ်တို့ကြောင့်ဖြစ်သည်။ ထိုဓာတ်ငွေ့တို့သည် နေမှာထက် အပူချိန် လျော့၍ရှိကြပြီး၊ နေမှထုတ်လွှတ်သော အလင်းလှိုင်းတို့အနက် မိမိတို့ကိုယ်တိုင် ထုတ်လွှတ်နိုင်သော အလင်းလှိုင်းများကို စုတ်ယူလိုက်ကြသည်ဟု ဆိုလေသည်။

အလင်းရောင်အမျိုးမျိုးမှ ထွက်ပေါ်လာကြသော ရောင်စဉ်များကို (၁) အပြည့်ရောင်စဉ် (၂) အလွှတ်ရောင်စဉ် (၃) အစုတ်ရောင်စဉ် ဟူ၍ သုံးမျိုးခွဲထားသည်။

နေရောင်၊ လျှပ်စစ်အတ်မီးရောင်၊ လျှပ်စစ်ဓာတ်မီးရောင် သို့မဟုတ် ဓာတ်ငွေ့မီးရောင်များမှ အပြည့်ရောင်စဉ်များဖြစ်ပေါ်၍ ဤရောင်စဉ်မျိုးတွင် ပါသော အရောင်များသည် တခုနှင့်တခု ဆက်စပ်လျက်ရှိလေသည်။ ဒြပ်စင်တခုကို ဓာတ်ငွေ့ဖြစ်အောင် အပူပြင်းပြင်း မီးတိုက်ပေးလိုက်သော အခါ ထွက်လာသောအရောင်များမှ အလွှတ်ရောင်စဉ်များကိုရရှိသည်။ ဤရောင်စဉ်မျိုးတွင် ဒြပ်စင်ကိုလိုက်၍ကွဲလွဲကြသော တောက်ပသည့်အရောင်ကြောင်းများ ပါရှိသည်။ ပမာပြရသော်၊ ဆားအနည်းငယ်ကို ဗွန်ဆင်မီးတိုင်တွင် မီးရှို့ကြည့်သောအခါ ဆားတွင်ပါသော ဆိုဒီယမ်ကြောင့် မီးလျှံသည် အဝါရောင်ဖြစ်၍နေသည်။ ထိုအဝါရောင် မီးလျှံကို စပက်ထရိုစကုပ်နှင့် ကြည့်လျှင် တောက်ပသော အဝါကြောင်းတကြောင်းကို ထင်ရှားစွာတွေ့ရသည်။ ထိုအဝါကြောင်းကို ဓာတုဗေဒဆရာများက ဆိုဒီယမ်ကြောင်းဟု ခေါ်ကြ၏။ အခြားဓာတ်ဆားနှင့်ဓာတ်ငွေ့များကို အရောင်ထွက်အောင် အပူတိုက်ပေးပြီးနောက် စပက်ထရိုစကုပ်နှင့် ကြည့်လျှင်လည်း ပါဝင်နေသောဒြပ်စင်ကိုလိုက်၍ တောက်ပသောအနီကြောင်း၊အစိမ်းကြောင်းများကို မြင်ရလေသည်။

အစုတ်ရောင်စဉ်များမှာ အလင်းရောင်နှင့် စပက်ထရိုစကုပ်တို့ကြားတွင် အလင်းရောင်ကို စုတ်ယူတတ်သည့် ဓာတ်ငွေ့များရှိသောအခါမျိုး၌ ဖြစ်ပေါ်တတ်လေသည်။ ပမာအားဖြင့် ဓာတ်မီးတလုံးကို စပက်ထရိုစကုပ်ရှေ့တွင် ထား၍ ကြည့်လျှင် အပြည့်ရောင်စဉ်ကိုတွေ့ရ၏။ ဗွန်ဆင်မီးတိုင်တွင် ဆားကို မီး ရှို့ပြီးကြည့်လျှင် တောက်ပသော အဝါကြောင်း တကြောင်းမြင်ရကြောင်း ဖော်ပြခဲ့ပြီ။ သို့သော် ဆားကို မီးရှို့ထားသော ဗွန်ဆင်မီးတိုင်ကို စပက်ထရိုစကုပ်နှင့် ဓာတ်မီးလုံးကြားတွင်ထား၍ ကြည့်သောအခါ ဓာတ်မီးကြောင့်

နေရောင်မှ ရောင်စဉ်တွင် အနက်ကြောင်းထင်သည့်နည်းတူ ပစ္စည်းတမျိုးမျိုးမှ ရရှိသည့် ရောင်စဉ်များ တွင်လည်း အနက်ကြောင်းများထင်အောင် လက်တွေ့စမ်းခန်း၌ စမ်းသပ်ကြည့်သောအခါ နေ၏အကြောင်းကို တိုးတက်သိလာကြရပြန်သည်။ ဤနည်းဖြင့် ကျွန်ုပ်တို့သည် နေထဲတွင်ရှိသော ဒြပ်တို့ကိုသာမဟုတ် နေ၏အပူချိန်၊ နေ၌ဖြစ်သော ဓာတ်ငွေ့တို့၏ ဖိအား၊ နေပေါ်တွင်ဖြစ်သော လျှပ်စစ် သံလိုက်ဓာတ်၏အခြေအနေတို့ကိုပါ သိခဲ့ရလေသည်။ ကမ္ဘာမြေပေါ်တွင် သဘာဝအလျောက်တွေ့ရသော ဒြပ်စင် ၉၂ မျိုးအနက် ၅၈ မျိုးနေပေါ်၌ရှိကြောင်းကို စပက်ထရိုစကုပ် နည်းဖြင့်သိရ၏။ ကျန်အခြားဒြပ်စင်များလည်း နေပေါ်၌ မရှိဟု ကျွန်ုပ်တို့ကတထင်ချမဆိုနိုင်သေးပေ။ အလင်းရောင် အသီးသီးမှ ရောင်စဉ် အမျိုးမျိုးကို ဖြစ်ပေါ်စေနိုင်သည့် ဖာတိုင်း နက္ခတ်ပညာဆည်းပူးရာတွင် အလွန်အသုံးဝင်သော ကရိယာမှာ စပက်ထရိုစကုပ်ဖြစ်သည်။ ထိုကရိယာကို ဖန်တီးနိုင်သဖြင့် ရူပဗေဒလိုက်စားသူတို့အား အသိဉာဏ်တိုးပွားအောင် များစွာ အထောက်အပံ့ ဖြစ်စေခဲ့လေသည်။

နျူတန်၏ နေရောင်မှရောင်စဉ်ခွဲထုတ်ပုံနည်းကို အခြေပြု၍ ဖန်တီးထားသော ရှေးကျသည့် စပက်ထရိုစကုပ် မျိုးတွင် ပရစ်ဇမ်ခေါ်သော သုံးမြောင့်ပုံ ဖန်တုံး တခုရှိ၍ ထိုဖန်ပရစ်



စပင်းနစ်အရွက်များကိုဆွတ်ခူးနေပုံ

ဇမ်ကို ခုံမြင့်ဝိုင်းကလေးပေါ်၌ တင်ထားရသည်။ ပရစ်ဇမ်၏တဖက်တချက်တွင် ကော်လီမေတာခေါ် အလင်းရောင်ခံယူရာ ပြောင်းတခုနှင့် ရောင်စဉ်ကိုကြည့်ရန် တယ်လီစကုပ်မှန်ပြောင်းတခုရှိသည်။ ရှေးဦးစွာ အလင်းတန်းတခုကို ကော်လီမေတာ ပြောင်း၏ အစွန်းတဖက်၌ ထောင်လိုက်ဖောက်ထားသော အပေါက်လျှားကလေးမှ ဝင်စေပြီးလျှင် ပရစ်ဇမ်ပေါ် သို့ ကျစေသည်။ ထိုအခါ ဖန်ပရစ်ဇမ်က မူလ အလင်းရောင်ကို ရောင်စဉ်များ ဖြစ်အောင် ခွဲထုတ်ပေးသည်။ ဤသို့ခွဲထွက်လာသော ရောင်စဉ်များကိုတဖန် တယ်လီစကုပ်မှန်ပြောင်းဖြင့် ကြည့်ရှုစစ်ဆေးရလေသည်။

အဖြူရောင် အလင်းကို ပရစ်ဇမ်ဖြင့် ခွဲထုတ်လိုက်သောအခါ တနေရာတွင် ပေါ်ပြခဲ့ပြီးသည့်အတိုင်း အနီ၊ လိမ်မော်၊ အဝါ၊ အစိမ်း၊ အပြာ၊ မဲနယ်၊ ခရမ်းရောင် စသည်ဖြင့် အရောင်ခုနစ်မျိုး ကွဲထွက်လာသည်။ အဖြူ အလင်းရောင် အစား ပစ္စည်းတခုခုကို မီးရှို့၍ရသော အလင်းရောင်ဖြစ်လျှင်လည်း မီးရှို့ခံရသောပစ္စည်းအလိုက် အလွှတ်ရောင်စဉ်ကိုမြင်ရပေသည်။ ဒြပ်စင်အသီးသီးမှ ရသော ရောင်စဉ်များသည် တခုနှင့်တခုမတူကြချေ။ နက္ခတ်ဆရာတို့သည် နေနှင့်ကြယ်တို့၏ အလင်းရောင်များကို စပက်ထရိုစကုပ်နှင့် ရောင်စဉ်ဖြစ်အောင် ခွဲယူစစ်ဆေးကြည့်ခြင်းဖြင့် နေနှင့်ကြယ်တို့၌ မည်သည့်ဒြပ်စင်များရှိကြောင်းကို တပ်အပ်သေချာစွာ သိခဲ့ရလေသည်။ ဤမျှသာမကသေး၊ နောက်ဆုံးပေါ် ခေတ်မှီစပက်ထရိုစကုပ်များ၏ အကူအညီဖြင့် မော်လီကျူး၊ အက်တမ်၊ အီလက်ထရွန်၊ ပရိုတွန်း၊ နျူးထရွန်းတို့၏ ဖွဲ့စည်းပြုမှုပုံ အခြေအနေများကိုပင် ယခုအခါ တိုးတက်၍ စုံစမ်းသိရှိနိုင်ခဲ့ကြပေသည်။

**စပင်းနစ်။** ။ရုက္ခဗေဒအလိုအားဖြင့်စပင်းနစ်ပင်သည် စပင်နေးစီးအိုလာရေးစီးဖြစ်၍ 'ကီနိုပိုဒီအေးစီး' မျိုးရင်းတွင်ပါဝင်သည်။ ရှေးအခါကပင် အာရပ်လူမျိုးများသည် စပင်းနစ်ပင်များကို ဆေးဝါးအဖြစ် အသုံးပြုခဲ့ကြသည်။ ဥရောပတိုက်၌လည်း ရှေးအခါကပင် စပင်းနစ်ကို ဟင်းသီးဟင်းရွက်တမျိုးအဖြစ် ပွဲလမ်းသဘင်နေ့များတွင် အမြတ်တနိုးထား၍ စားသုံးခဲ့ကြသည်။

စပင်းနစ်ပင်သည် လျင်မြန်စွာ ကြီးထွားနိုင်သော တနှစ်ခံပင်မျိုး ဖြစ်သည်။ အစေ့များကို စိုက်ပျိုးပြီးနောက် ရက်ပေါင်း ၄၀ မှ ၅၀ အတွင်း ကောင်းစွာ ကြီးထွားနိုင်သည်။ စပင်းနစ်ပင်၏အရွက်များမှာ ကြီး၍ထူပြီးလျှင် အရည်ရွှမ်းသည်။ အရွက်များကို အစိမ်းလိုက်သော်၎င်း၊ ချက်ပြုတ်၍သော်၎င်း စားသုံးကြသည်။ စားရာ၌ အနည်းငယ်ဝမ်းသက်တတ်သည်။ စပင်းနစ်ပင် အရွက်ထဲ၌ ဗီတာမင် ဘီ ဓာတ်လည်း အတော်အတန်ပါရှိပေသည်။

**စပန်းရေမြှုပ်။** ။စပန်းရေမြှုပ်သည် ကျောက်၌ တွယ်ကပ်နေတတ်သော တန်းအနိမ့်ဆုံး ပင်လယ်သတ္တဝါတမျိုးဖြစ်သည်။

စပန်းရေမြှုပ်ကို သိခဲ့ကြသည်မှာ ကြာပြီဖြစ်သော်လည်း၊ ရှေးအခါက ယင်းကို အကောင်မဟုတ်၊ အပင်သာ ဖြစ်သည်ဟု ထင်ခဲ့ကြလေသည်။ ထိုသို့ထင်ခဲ့ကြခြင်းမှာ တိရစ္ဆာန်များ လှုပ်ရှားသကဲ့သို့ မလှုပ်ရှားခြင်းကြောင့် ဖြစ်သည်။ စပန်းရေမြှုပ်တွင် မျက်စိလည်းမရှိ၊ အခြား အာရုံခံ အင်္ဂါများလည်း မရှိချေ။

စပန်းရေမြှုပ်သည် ကျောက်ဆောင်များ၌ဖြစ်စေ၊ ပင်လယ်အောက်ခြေရှိ အခြားပစ္စည်းများ၌ဖြစ်စေ တွယ်ကပ်၍နေနိုင်သည်။ အချို့စပန်းရေမြှုပ်သည် အပင်မှ အကိုင်းများဖြာထွက်နေသကဲ့သို့ ဖြာထွက်လျက်ရှိသဖြင့် အပင်နှင့်တူသည်။

သက်ရှိစပန်းရေမြှုပ်များတွင် ပုံသဏ္ဌာန် အမျိုးမျိုး ရှိကြသည်။ ယင်းတို့ကို ပင်လယ်ရေတိမ်ရာမှ ရေနက်ရာအထိ၎င်း၊ အီကွေတာမှ အာတိတ်ဒေသများအထိ၎င်း အမြောက်အမြားတွေ့ကြရသည်။ အပူပိုင်းနှင့် အနွေးပိုင်းဒေသများတွင် အများဆုံးတွေ့ရ၍ အမျိုးလည်းများပြားသည်။ အကြီးဆုံးစပန်းရေမြှုပ်များကို အပူပိုင်းနှင့် အနွေးပိုင်းဒေသများတွင် ပို၍အတွေ့ရများသည်။

စပန်းရေမြှုပ် တို့၏ ကျောက်ဖြစ် ရုပ်ကြွင်းများ ကို ရှေး

အကျဆုံးကျောက်များတွင် တွေ့ရသဖြင့် စပန်းရေမြှုပ်များသည် အလွန်ရှေးကျမှန်းကို သိရသည်။

စပန်းရေမြှုပ်ရိုးရိုး၏ ပုံသည် ပြွန်ချောင်းပုံဖြစ်၏။ ယင်း၏ ခန္ဓာကိုယ်ပေါ်တွင် မရေတွက်နိုင်သည့် အပေါက်ကလေးများရှိ၏။ အတွင်းဖက်အခေါင်းထဲသို့ ရေဝင်သည်မှာ၊ ထိုအခေါင်းတွင်းရှိ အမွေးကလေးများ၏ လှုပ်ရှားမှုကြောင့်ဖြစ်၏။ ထိုအမွေးကလေးများကို စီလီယာဟု ခေါ်သည်။ စပန်းရေမြှုပ်ထဲသို့ ဝင်လာသော အစာကို စီလီယာရှိသော စပန်းရေမြှုပ်၏ ဆဲခန်းကလေးများက စုတ်ယူ၍ ကြေစေသည်။ ထိုနောက် ပြွန်ချောင်း၏ထိပ်ဖက်ရှိ အပေါက်မှ ရေကိုထုတ်ပစ်လိုက်သည်။

စပန်းရေမြှုပ်များ သည် အုပ်စုဖွဲ့ကာ နေတတ်ကြ၏။ အစတွင် စပန်းရေမြှုပ်ငယ်သည် အမိ စပန်းရေမြှုပ်တွင် တွယ်လျက်နေရ၏။ ဤသို့ဖြင့် စပန်းရေမြှုပ်ကလေးများ တကောင်ပြီးတကောင် တိုးပွားလာကြသည်။ စပန်းရေမြှုပ်များ ကြီးပြင်းလာသောအခါ ယင်းတို့၏ ခန္ဓာကိုယ်အခေါင်းများသည် မြောင်းများသဖွယ် ရှုပ်ထွေးစွာ ဆက်သွားကြသည်။ ထိုစပန်းရေမြှုပ်ထွေးကြီးသည် အစာနှင့် အောက်ဆီဂျင်ပါသည့် ရေကို သေးငယ်သည့် အပေါက်ကလေးများမှတဆင့် စုတ်ယူကြသည်။ ထိုရေသည် မြောင်းများကိုဖြတ်၍ စီလီယာများရှိသော ဆဲခန်းကလေးများသို့ ရောက်သွား၏။ ထို ဆဲ ခန်း ကလေးများ သည် အစာနှင့်



စပန်းရေမြှုပ်

အောက်ဆီဂျင်ကို စုတ်ယူလိုက်ကြသည်။ ထိုနောက် ရေကို ပြွန်ချောင်းကြီးများသို့ ပို့ပေးပြီး ထိုမှတဆင့် အပသို့ထုတ်ပစ်လိုက်လေသည်။

စပန်းရေမြှုပ်များသည် အချင်းတလက်မ၏ တထောင်စိတ် တစိတ်မျှသာ ရှိသော ဥဆဲကလေး များမှ လည်း ပိုးလောင်းများအဖြစ် ပေါက်ကြသေး၏။ ထိုပိုးလောင်းကလေးများသည် အမိ စပန်းရေမြှုပ်နှင့် ခွဲထွက်၍ အခြားနေရာများတွင်တွယ်ကာ ကြီးထွားလာကြသည်။ နှစ်ပေါင်း ၂၅ နှစ်ကြာမှ နှစ်ပေခွဲမျှသာကြီးသည်။ ယင်းတို့တွင် ထူးခြားသည့် အနံ့တမျိုးရှိခြင်းကြောင့် အခြားသတ္တဝါများက မစားခြင်း ဖြစ်ကောင်းဖြစ်မည်။ သို့ရာတွင် မှိုနာကြောင့် အမြောက်အမြား သေကြေကြသည်။ အိမ်များတွင် ပွတ်တိုက်ဆေးကြောရာ၌ အသုံးပြုသော စပန်းရေမြှုပ်မှာ အခြောက်လှန်းပြီးသော စပန်းရေမြှုပ်ကောင်များ၏စကယ်လီတန်သာလျှင်ဖြစ်သည်။ စကယ်လီတန်ဆိုရာတွင် လူတို့၌ဖြစ်သောစကယ်လီတန် (အရိုးအိမ်) ကဲ့သို့မဟုတ်ဘဲ စပန်းရေမြှုပ်ကောင် တည်တံ့စွာရှိအောင် အကာအကွယ်ပေးသော အိမ်ကိုသာ ဆိုလိုသည်။ စပန်းရေမြှုပ်သည် ရေစုတ်နိုင်သောသတ္တိရှိ၍ဆေးကြောရာ၌အသုံးဝင်သောကြောင့်စပန်းရေမြှုပ်ကောင်များကို အမြောက်အမြားဖမ်းယူကြသည်။

အမေရိကန်ပြည်ထောင်စု၌ စပန်းရေမြှုပ်များကို ဖမ်းယူပုံမှာ၊ ကမ်းခြေမှမိုင် ၅၀၊ မိုင် ၈၀ အထိသွားကြပြီးနောက်၊ ရေထဲသို့ ပေ ၆၀ မှပေ ၁၂၀ အထိငုပ်ကြသည်။ ရေငုပ်သူသည် ရေငုပ်ဝတ်စုံနှင့်ဦးထုပ်ကို အသုံးပြုသည်။ ရေထဲတွင် ငမန်းများကိုကာကွယ်နိုင်ရန် ဓားတချောင်းကို ယူဆောင်သွားသည်။ စပန်းရေမြှုပ်ကြီးများကို တွယ်ကပ်နေသည့် နေရာမှ ခွာယူနိုင်ရန် ချိတ်တခုကိုလည်း ယူသွားသည်။ ရေငုပ်သူသည် နှစ်နာရီကြာမျှ ရေထဲတွင်နေပြီး၊ သင်္ဘောမှချပေးသည့်ပိုက်ကွန်ထဲသို့ ရှာဖွေ၍ရသမျှစပန်းရေမြှုပ်များကို ထည့်ပေးသည်။

သင်္ဘောကုန်းပတ်ပေါ်တွင် ဖမ်းရသော စပန်းရေမြှုပ်များကို ဖိနပ်မပါသည့်ခြေထောက်များဖြင့် နင်း၍သတ်ကြသည်။ ထိုနောက် အခြောက်ခံ၍ အသားမျှင်များကို ခြစ်ထုတ်ကြသည်။ ထိုနောက် ပင်လယ်ရေထည့်ထားသော စည်များတွင် ဆေးကြော၍ နေလှန်းထားကြသည်။ ကမ်းသို့ သင်္ဘောဆိုက်ကပ်သောအခါ စပန်းရေမြှုပ်များမှာ ရောင်းချရန်အဆင်သင့်ဖြစ်သည်။

စပန်းရေမြှုပ်များကို အဓိကအားဖြင့် အမေရိကန်ပြည်ထောင်စု ဖလော်ရီဒါပြည်နယ်၏ အနောက်ဖက် ကမ်းခြေ၊ မက္ကဆီကို ပင်လယ်ကွေ့တွင် ဖမ်းယူကြသည်။ ကျူးဗားကျွန်း၊ ပတ်ဝန်းကျင်ရှိ ကယ်ရစ်ဗျန်ပင်လယ်နှင့် မြေထဲပင်လယ်အလယ်ပိုင်း၊ အရှေ့ပိုင်းတို့တွင်လည်း ဖမ်းယူကြသည်။

# ဥရောပတိုက်ရှိရှေးဟောင်းလက်နက်နိုင်ငံ

**ပထဝီဝင်အရသော်ရင်း၊ သမိုင်းအရသော်ရင်း၊ ဥရောပတိုက်နှင့် အာဖရိကတိုက်မြောက်ပိုင်းတို့ကို ပေါင်းကူးသဖွယ် ဆက်သွယ်ပေးသောနိုင်ငံမှာ စပိန်နိုင်ငံဖြစ်သည်။ မူးဝါးလူမျိုးများ စပိန်နိုင်ငံတွင် လာရောက်ကြီးစိုးစဉ်အခါက တည်ဆောက်ခဲ့သော ကြီးကျယ်ခမ်းနားသည့် နန်းတော်များကို ယနေ့ထက်တိုင် တွေ့မြင်နိုင်သည်။ ထို့ကြောင့် စပိန်နိုင်ငံ၏သမိုင်းမှာ စိတ်ဝင်စားဖွယ်ရာပင် ဖြစ်ပေသည်။**

**စပိန်နိုင်ငံ။** ။ဥရောပတိုက် အနောက်တောင်ဖက်အစွန်းတွင် ထိုးထွက်နေသော အိုက်ဗီးရီးယန်းကျွန်းဆွယ်ကြီးတခုလုံး၏ ၁၃ ပုံ ၁၁ ပုံခန့်မှာ စပိန်နိုင်ငံဖြစ်သည်။ ကျန် ၂ ပုံခန့်မှာ အနောက်ဖက်ကမ်းရိုးတန်းတလျှောက်ရှိ ပေါ်တူဂီနိုင်ငံဖြစ်၏။ မြောက်ဖက်တွင် ပြင်သစ်နိုင်ငံနှင့် ဗစ္စကေးပင်လယ်အော်၊ အနောက်ဖက်တွင် ပေါ်တူဂီနိုင်ငံနှင့် အတ္တလန္တိတ်သမုဒ္ဒရာ၊ တောင်ဖက်တွင် အတ္တလန္တိတ်သမုဒ္ဒရာ၊ ဂျီဗရော်တာရေလက်ကြားနှင့် မြေထဲပင်လယ်၊ အရှေ့ဖက်တွင် မြေထဲပင်လယ်တို့ဖြင့် ဝန်းရံလျက်တည်ရှိ၏။

စပိန်နိုင်ငံသည် ဥရောပတိုက်နှင့် တဆက်တည်းဖြစ်သော်လည်း အိုက်ဗီးရီးယန်းကျွန်းဆက်ကို ကန့်လန့်ဖြတ်ထားကာ တည်ရှိနေသော မြင့်မားသည့် ပီးရနီးတောင်တန်းများက ဥရောပတိုက်ကုန်းတွင်းနိုင်ငံများနှင့်စပိန်နိုင်ငံတို့ကို ကာဆီးထားလေသည်။ အာဖရိကတိုက်နှင့်မူ ကျဉ်းမြောင်းလှသော ဂျီဗရော်တာရေလက်ကြားသာလျှင် ခြားနေ၍ ရှေးရှေးအခါက အာဖရိကတိုက်နှင့်စပိန်နိုင်ငံတို့ ကုန်းမြေချင်း ဆက်စပ် တည်ရှိခဲ့သည်ဟု သမိုင်းပညာရှင်တို့က အထောက်အထားနှင့် ပြဆိုခဲ့ကြလေသည်။



ခေါင်းအုပ်ပုဝါရုံထားသော စပိန်ပျိုမြူ

အနီးအနား ပတ်ဝန်းကျင်တွင် စပိန်ပိုင် ဗယ် လီ အဲ ရစ်ကျွန်းစု၊ ကနေရီကျွန်းစုနှင့် မိုရိုကိုကမ်းခြေရှိ ကျွန်းငယ်ကလေးများရှိသည်။ ထိုကျွန်းများအပါအဝင် စပိန်နိုင်ငံ၏ အကျယ်အဝန်းမှာ ၁၉၄,၇၀၀ စတုရန်းမိုင်ဖြစ်၍ ၁၉၅၃ ခုနှစ် ခန့်မှန်းခြေ သန်ကောင်စာရင်းအရ လူဦးရေ ၂၈,၆၃၈,၉၇၇ ယောက်ရှိသည်။

စပိန်တနိုင်ငံလုံးမှာ ပျမ်းမျှခြင်းအားဖြင့် ပေ ၂၀၀၀ ခန့်မြင့်သော ကုန်းပြင်ကြီးဖြစ်လေသည်။ မြောက်ဖက်ကမ်းခြေတလျှောက်မှာ ပေ ၈,၀၀၀ ကျော်မြင့်သော ကန်တာဗရီယန်တောင်တန်း ရှိ၍ ပေပေါင်း ၁၀,၀၀၀ ကျော်မြင့်သော ပီးရနီးတောင်တန်း၏ အနောက်ဖက်စွန်းနှင့် နာဗားရားနယ်ရှိ တောင်ကြားလမ်း တခုသာ ခြားသည်။ ထိုတောင်ကြားလမ်းမှာ စပိန်နိုင်ငံနှင့် ပြင်သစ်နိုင်ငံတို့ ကူးသန်းဆက်သွယ်ရာ တခုတည်းသော တံခါးပေါက် ဖြစ်၏။ အလယ်ပိုင်းရှိ တောင်တန်းများမှာ ဂွါဒါရမ္မာတောင်တန်း၊ ဂရေးဒို့ တောင်တန်း၊ ဂါးတားတောင်တန်း၊ မိုရေးနားတောင်တန်း၊ ဆီယယ်ရာနီဗားဒ တောင်တန်း စသည်တို့ ဖြစ်လေသည်။

စပိန်နိုင်ငံရှိ မြစ်များသည် ယိုတောင်မြင့်ကြီးများမှ မြစ်ဖျားခံ၍ မြေထဲပင်လယ်နှင့်အတ္တလန္တိတ်သမုဒ္ဒရာထဲသို့ စီးဝင်ကြသည်။ အရေးပါအရာရောက်သော မြစ်ကြီးများအနက် တေးဂပ်မြစ်၊ ဒိုးရူးမြစ်၊ ဂွါဒီယားနားမြစ်နှင့် ဂွဒယ်ကွီးဗီးရားမြစ်တို့သည်အလယ်ပိုင်းတောင်တန်းများမှ မြစ်ဖျားခံ၍ ဇဗရိုးမြစ်နှင့် မီညိုမြစ်တို့သည် မြောက်ပိုင်းရှိ ကန်တာဗရီယန်တောင်တန်းတွင် မြစ်ဖျားခံလေသည်။ ထိုမြစ်များအနက် တေးဂပ်မြစ်မှာအရှည်ဆုံးဖြစ်၍၆၅၅ မိုင်မျှရှိ၏။ မီညို၊ ဒိုးရူးနှင့် တေးဂပ်မြစ်များမှာ မြစ်ဝကျယ်များရှိကြရာ မြစ်ဝကျွန်းကြီးများတွင် လုံခြုံသောသင်္ဘောဆိပ်များတည်ရှိ၏။ သို့ရာတွင် မြစ်ညာတလျှောက်သို့လှေသင်္ဘောများ ဆန်တက်သွားခြင်းလာခြင်း မပြုနိုင်ချေ။

စပိန်နိုင်ငံ၏ရာသီဥတုမှာ တနေရာနှင့်တနေရာ မတူချေ။ တနိုင်ငံလုံး လိုလိုတွင် ဆောင်းရာသီ၌ အေးလွန်း၍ နွေရာသီ၌မူ ပူလွန်းသည်။ အလယ်ပိုင်းရှိ ကုန်းပြင်မြင့်ကြီးသည် အလွန်ခြောက်သွေ့သော အပိုင်းဖြစ်၏။ သို့သော် ဗစ္စကေးပင်လယ်အော်နှင့် အတ္တလန္တိတ်သမုဒ္ဒရာ ကမ်းရိုးတန်း တလျှောက်ရှိ စပိန်နိုင်ငံအနောက်မြောက်ပိုင်းဒေသများတွင်မူ ရာသီဥတုမျှတသည်။ စပိန်နိုင်ငံအလယ်ပိုင်းတွင်မူ ဆောင်းရာသီမှာ ရှည်လျားလှ၏။ မြေထဲပင်လယ် ကမ်းခြေ တလျှောက်ရှိ အရှေ့ပိုင်းတွင် ဆောင်းရာသီတို့၌ နွေရာသီတွင် လွန်စွာပူပြင်းသည်။ တောင်ဖက်ပိုင်းတွင်မူကား ဆောင်းရာသီဟူ၍ မရှိသလောက်ပင်ဖြစ်သည်။

စပိန်နိုင်ငံ အနောက်မြောက်ပိုင်းနှင့် မြောက်ပိုင်းများတွင် တနှစ်လုံးလိုလိုပင် မိုးများတစွာရွာသွန်း၏။ ရာသီဥတုတွင်သာမဟုတ် မြေတွင်လည်း၊ အမျိုးမျိုး အစားစား ကွဲပြားခြားနားလေသည်။ စပိန်နိုင်ငံသည် တောင်ထူထပ်၍ သတ္တုတွင်းများပေါများသော်လည်း လူဦးရေ ၃ ပုံ ၂ ပုံမှာ လယ်ယာ စိုက်ပျိုးခြင်းဖြင့် အသက် မွေးမြူကြလေသည်။ တနိုင်ငံလုံးရှိ မြေ ၉၄ ရာခိုင်နှုန်းခန့်ကို စိုက်ပျိုး၍ ဖြစ်ထွန်းဖွယ်ရာရှိသော်လည်း မြေအားလုံး၏ တဝက်ခန့်ကိုသာ စိုက်ပျိုးလုပ်ကိုင်သည်။ ကျန်တဝက်မှာ စားကျက်များဖြစ်သည်။ စိုက်ပျိုးသော အဓိကကောက်ပဲသီးနှံများမှာ ဂျုံနှင့်မုယောတို့ဖြစ်၍ မြင်းစားဂျုံ၊ ရိုင်းစပါး၊ ပြောင်း၊ ပဲအာလူးများကိုလည်း စိုက်ပျိုးလုပ်ကိုင်သည်။ ထို့ပြင် ဆန်စပါး၊ ကြက်သွန်၊ သကြားမုန်လာများကိုလည်း စိုက်ပျိုး၏။ စပျစ်ခြံ၊ လိမ်မော်ခြံများလည်း အကြီးအကျယ် စိုက်ပျိုးလုပ်ကိုင်၍၊ ဝိုင်အရက်ချက်သောလုပ်ငန်းမှာ တွင်ကျယ်၏။ သိုး၊ နွား၊ ဆိတ်များကိုလည်း မွေးမြူကြလေသည်။

လယ်ယာစိုက်ပျိုးရေးအပြင် ကြီးကျယ်သောအခြားလုပ်ငန်းမှာ သတ္တုတူးဖေါ်ခြင်းဖြစ်သည်။ ကျောက်မီးသွေး မြောက်မြားစွာ ထွက်သော်လည်း အမျိုးအစားမှာ ပဌမတန်းစား မဟုတ်ချေ။ ကျောက်မီးသွေးအပြင် အခြားဓာတ်သတ္တုများမှာ သံ၊ သံမဏိ၊ ကြေး၊ ခဲ၊ သွပ်၊ ပြဒါးနှင့် တန်စတင်တို့ဖြစ်၏။

သစ်တောများမှ ထင်းရှူးသစ်နှင့် ဖေါ့များရရှိ၍ ထင်းရှူးဆီနှင့် တာရပင်ဆီများလည်း ရရှိလေသည်။ စပိန်နိုင်ငံတွင် ရှေးအခါက သစ်တောထူထပ်ခဲ့သော်လည်း၊ နေထိုင်စိုက်ပျိုးရေး အတွက် ခုတ်ထွင် ရှင်းလင်း လိုက်ကြသောကြောင့်တကြောင်း၊ သစ်တောထွက်ပစ္စည်းကို လူတို့ထုတ်ယူအသုံးပြုဖန်များလွန်း၍တကြောင်း ယခုအခါ နိုင်ငံတခုလုံး၏ ၅ ရာခိုင်နှုန်းခန့်၌သာလျှင် သစ်တောများ ကျန်ရစ်သည်။ သစ်တောများ ပါးရှားသွားသဖြင့် ရာသီဥတု တမျိုးတဖုံပြောင်းလဲလာခဲ့ရာ၊ လေပြင်းတိုက်ခတ်ခြင်း၊ ဖုံထူခြင်းတို့ကြောင့် အချို့ကုန်းတွင်းပိုင်းဒေသများတွင် လူသူမနေထိုင်နိုင်တော့ချေ။

ပင်လယ်ကမ်းရိုးတန်းတလျှောက်တွင်မူကား မြို့ကြီးပြကြီးများ၊ စက်ရုံများ၊ အလုပ်ရုံများ၊ တောင်ယာပဲခင်းများနှင့် သာယာလှ၏။ လူနေအိမ်ခြေလည်း ထူထပ်၏။ မြောက်ပိုင်းကမ်းခြေတွင် တံငါလုပ်ငန်း တွင်ကျယ်သဖြင့် ငါးစည်သွတ်လုပ်ငန်း ဖြစ်ထွန်းသည်။ ဥရောပတိုက် ကုန်သွယ်ရာဌာနကြီးများနှင့် နီးကပ်သော မြောက်ပိုင်းတွင် စပိန်နိုင်ငံ၏ ကြီးကျယ်သော ကုန်ထုတ်ရေး လုပ်ငန်းကြီးများ တည်ရှိသည်။ ဗာစီလိုးနားမြို့တွင် ခြည်ထည်စက်ရုံများ၊ သိုးမွေးထည်စက်ရုံများရှိသည်။ ထိုမြို့မှ ဇာလည်းထွက်၏။ တနိုင်ငံလုံးတွင် အထည်စက်ရုံပေါင်း ၂၁၈၀ ခန့်ရှိသည်။ မြောက်ပိုင်းရှိပြည်နယ်များတွင် ပိတ်ချောထည်စက်ရုံများနှင့် စက္ကူစက်များ အများအပြားရှိ၏။ တောင်ပိုင်းတွင် ပိုးထည်လုပ်ငန်းမှာ အရေးပါသောလုပ်ငန်းဖြစ်သည်။ ထို့မှတပါး ဖန်ချက်ရုံများလည်းရှိလေသည်။ သကြားချက်လုပ်ငန်းမှာ တိုးတက်နေသောလုပ်ငန်းတခုဖြစ်၍ သံနှင့်သံမဏိလုပ်ငန်းအတွက် စက်ရုံအချို့ကို မကြာမီက တည်ဆောက်ခဲ့သည်။ ရေအားကို အသုံးပြု၍ လျှပ်စစ်ဓာတ်အားပေးရေး လုပ်ငန်းမှာလည်း တဖြည်းဖြည်း တိုးတက်လျက်ရှိလေသည်။ သို့သော် ခြုံ၍ကြည့်လျှင် စက်မှုလက်မှုလုပ်ငန်းမှာ တိုးတက်သင့်သလောက် မတိုးတက်ဘဲ ရှိနေသည်ကို တွေ့ရပေသည်။




စပိန်နိုင်ငံတည်နေရာပြမြေပုံ

စပိန်နိုင်ငံအတွင်း လမ်းပန်းဆက်သွယ်ရေးမှာ ကောင်းမွန်၍ မီးရထားလမ်းမိုင်ပေါင်း ၁၀,၈၀၀ ကျော်ရှိသည်။ တနိုင်ငံလုံးကိုဆက်သွယ်နေသော ကြေးနန်းနှင့် စကားပြောကြေးနန်းကြိုး မိုင်ပေါင်း ၃,၀၀၀ ကျော်စီရှိ၏။ ရေကြောင်းဆက်သွယ်ရေးမှာ အတ္တလန္တိတ်သမုဒ္ဒရာနှင့် မြေထဲပင်လယ်တို့ဖြင့် ဆက်သွယ်ရသည်။ မြို့ကြီးများကို တမြို့နှင့်တမြို့ လေကြောင်းဖြင့် ဆက်သွယ်ထားသည့်ပြင် နိုင်ငံခြားနှင့်လည်း လေကြောင်းအဆက်အသွယ်ရှိလေသည်။

စပိန်နိုင်ငံ၏ အဓိက ထုတ်ကုန်မှာ ဝိုင်အရက် ဖြစ်၏။ အခြား ထုတ်ကုန်

များမှာ ဖေါ့၊ သတ္တုများ၊ သံလွင်သီးနှင့်အခြားသစ်သီးများ၊ သကြား၊ သစ်၊ ကျွဲနွားတိရစ္ဆာန်များ၊ ဖန်ထည်ပစ္စည်းများ၊ မြေအိုးမြေခွက်၊ သိုးမွေးနှင့် ခြည်ထည်များဖြစ်လေသည်။ အဓိက သွင်းကုန်များ ကား အစားအသောက်များ၊ သိုး၊ ဆိတ်၊ နွားတိရစ္ဆာန်များ၊ စက်ကရိယာများ၊ မီးသွေး၊ ဝါဂွမ်း၊ ပိတ်ချောထည်၊ မော်တော်ယာဉ်များ၊ ဆေးဝါးများ စသည်တို့ဖြစ်၏။ မြို့တော်မှာ နိုင်ငံအလယ်ပိုင်းရှိမဒရစ်မြို့ဖြစ်၍ အကြီးဆုံးဆိပ်ကမ်းမြို့ကြီးများမှာ ဗာစီလိုးနားနှင့် ဗီးလဗာအိုမြို့တို့ ဖြစ်ကြသည်။

စပိန်နိုင်ငံ၏ ရှေးဟောင်းသမိုင်းသည် ကျောက်ခေတ်မှ အစပြုသည်။ ကျောက်ခေတ်အနုပညာရုပ်များဖြစ်သော ဂူအောင်းလူတို့၏ပန်းချီစုတ်ရေးဆေးခြယ်မှုအတတ်ကိုစပိန်နိုင်ငံရှိ အားလတားမီးရား ကျောက်ဂူအတွင်း၌ တွေ့ရှိကြရ၏။ ယခုအခါ စပိန်တိုင်းရင်းသားလူမျိုးတမျိုးဖြစ်သော ဗက်လူမျိုးများမှာ ကျောက်ခေတ်လူမျိုးများ၏ အဆက်အနွယ်ဖြစ်သည်။

စပိန်နိုင်ငံ၏ မြို့ကြီးများမှာ အများအားဖြင့် ပင်လယ်ကမ်းရိုးတန်း တလျှောက်တွင် တည်ရှိလေသည်။ စပိန်နိုင်ငံ၏ အရှေ့မြောက်စွန်း ဖြစ်သော ကာတာလုံးနီးယားပြည်နယ်ရှိ ဗာစီလိုးနားဆိပ်ကမ်းမြို့ကြီးသည် စက်မှုလက်မှုလုပ်ငန်း (အထူးသဖြင့် ခြည်ထည်သိုးမွေးထည်များ ရက်လုပ်ခြင်း) ထွန်းကားသောမြို့ ဖြစ်၍၊ လူဦးရေ ထူထပ်၏။ ကာတာလုံးနီးယားပြည်နယ်၏ တောင်ဖက် မြင့်မားသော တောင်တန်းနှင့် ဗလင်းရှားပင်လယ်ကွေ့ကြားရှိ ဗလင်းရှားပြည်နယ်တွင် ဆည်မြောင်းများဖောက်လုပ်ကာ လိမ်မော်ပင်၊ ကြံပင်၊ ရှောက်ပင်၊ စွန်ပလွံပင် စသည့် သီးပင် အမြောက်အခြား စိုက်ပျိုးကြသည်။ ထိုနယ်သည် ပိုးထည်လုပ်ငန်းအတွက် စပိန်နိုင်ငံတွင် အထင်ရှားဆုံးသော နယ်ဖြစ်၏။ ထိုပြည်နယ်၏မြို့တော်မှာ ဗလင်းရှားမြို့ဖြစ်၏။

စပိန်နိုင်ငံတောင်ဖက်ပိုင်းရှိ ပြည်နယ်ကြီးမှာ အန်ဒါလူးရှားပြည်နယ် ဖြစ်၏။ အာဖရိကတိုက်မြောက်ပိုင်းမှ မူးဝါးလူမျိုးတို့ စပိန်သို့ဝင်ရောက်ကြီးစိုးစဉ်အခါက ခမ်းနားကြီးကျယ်စွာ တည်ဆောက်ထားခဲ့သော ဂရာနားဒါးမြို့ကြီးမှာ ယနေ့ထက်တိုင် ထင်ရှားတည်ရှိသည်။

စပိန်နိုင်ငံတွင် မူလက နေထိုင်သူများမှာ အိုက်ဗီးရီးယန်းလူမျိုးများ ဖြစ်လေသည်။ ယင်းတို့မှာ ပြင်သစ်နိုင်ငံမှ ဂေါလလူမျိုးတို့နှင့်၎င်း၊ ဗြိတိန်နိုင်ငံမှ ဗြိတိန်တို့နှင့်၎င်း အနွယ်ချင်းတူ၏။ သူတို့နှင့် နောက်မှရောက်လာကြသော ကဲ့လူမျိုး၊ ကားသေ့လူမျိုး၊ ရောမလူမျိုး၊ တျူတန်လူမျိုး၊ အစ္စလမ်အယူဝါဒီ မူးဝါးလူမျိုးများမှာ အချင်းချင်း အမျိုးရောယှက်လာလေရာ၊ နောက်ဆုံး၌ စပိန်လူမျိုးပေါ်ပေါက်လာလေသည်။

စပိန်နိုင်ငံ အနောက်မြောက်ပိုင်းတွင် ရှေးကဲ့လူမျိုးတို့နှင့် အသွင်တူလှသော ဂလစ်ရှန်း လူမျိုးများ နေထိုင်သည်။ မြောက်ဖက် အလယ်ပိုင်းတွင် ဗက်လူမျိုးတို့ နေထိုင်၏။ အရှေ့ဖက်ကမ်းခြေ တလျှောက်တွင်ကား ကာတာလန် လူမျိုးများ နေထိုင်ကြသည်။ ကာတာလန်တို့၏ ဓလေ့ထုံးစံများနှင့် ဘာသာစကားမှာ ပြင်သစ်နှင့် ပို၍နီးစပ်သည်။ အလယ်ပိုင်းတွင် နေထိုင်သော ကက်စတီးလီယန်လူမျိုးမှာ စပိန်လူမျိုးအစစ်ဟု ယုံမှတ်ပြောဆိုခြင်းခံရသူများ ဖြစ်လေသည်။ တောင်ပိုင်းတွင် နေထိုင်လျက်ရှိသော အန်ဒါလူးရှင်း လူမျိုးမှာ မူးဝါးသွေး အများအပြား ရောနှောနေသူများဖြစ်၏။ တောင်ပိုင်းရှိ လူများမှာ အရုပ်အမောင်း ခပ်ပြတ်ပြတ်နှင့် အသားမည်းသည်။ မြောက်ပိုင်းသားများကား ရုပ်ချော၍ အသားလတ်သည်။ ယဟူဒီလူမျိုးအချို့တို့မှလွဲ၍ စပိန်နိုင်ငံရှိ နိုင်ငံသူနိုင်ငံသား အားလုံး လိုလိုပင် ဗရင်ဂျီဂိုဏ်းဝင်များဖြစ်၏။



အလယ်ခေတ်အတွင်းထင်ပေါ်ခဲ့သော စပိန်နိုင်ငံ၏မြို့ဟောင်း အားဗီလားမြို့



စပိန်နိုင်ငံတောင်ပိုင်းသား စပျစ်ဥယျာဉ်အလုပ်သမားတဦး

ဘီစီ ၁၀၀၀ ခန့်က စပိန်နိုင်ငံသို့ ကုန်သွယ်ရန် ပင်လယ်ခရီးဖြင့် ဆိုက်ရောက်လာကြသော ဖီနီရှန် လူမျိုးတို့သည် စပိန်နိုင်ငံ အရှေ့တောင်ပိုင်းဒေသတွင် အိုက်ဗီးရီးယန်းလူမျိုးတို့နှင့် တွေ့ဆုံ၍၊ ထိုတွေ့ဆုံရာအရပ်တွင် ယင်းတို့နှင့် အတူတကွ နေထိုင်လာကြသည်။ (ဖီနီရှန်လူမျိုး — လည်းရှု။)

ဘီစီ ၆၀၀ ပြည့်နှစ်ခန့်တွင်မူကား အရပ်ထောင်ထောင်မောင်းမောင်းနှင့် မြင်းစီး ကျွမ်းကျင်လှသော ကဲလ့်လူမျိုးတို့သည် ဥရောပတိုက် မြောက်ပိုင်းမှ စပိန်တိုင်းနိုင်ငံသို့ ဝင်ရောက်လာကြလေသည်။ (ကဲလ့်လူမျိုး — လည်းရှု။)

စပိန်နှင့် ကူးသန်းရောင်းဝယ်ရေး ဖွံ့ဖြိုးလာသောကြောင့် ဖီနီရှန်လူမျိုးတို့သည် ဂျီဗရော်တားမြို့နေရာတွင် ဆိပ်ကမ်းမြို့ကြီးတခုကို တည်ဆောက်ခဲ့လေသည်။ ဥရောပတိုက်တွင် ရှေးအကျဆုံးမြို့ကြီးတမြို့ဖြစ်သော ကေးဒစ်ဆိပ်ကမ်းမြို့ကြီးကိုလည်း ဖီနီရှန်တို့ပင် တည်ဆောက်ခဲ့၏။

ထိုနောက် စပိန်နိုင်ငံသို့ လာရောက်အခြေစိုက်ကြသူများမှာ ကားသေ့လူမျိုးများဖြစ်၏။ သူတို့သည် အာဖရိကအနောက်ပိုင်းရှိ ဖီနီရှန်နယ်သားများပင် ဖြစ်ကြပြီး ဖီနီရှန်တို့၏ နောက်ယောင်ခံကာ ကုန်သွယ်ရေးအတွက် မြေထဲပင်လယ်အနောက်ပိုင်းသို့ နယ်ချဲ့လာခဲ့ကြသူများ ဖြစ်ကြ၏။ ပဋမပျူးနစ်စစ်ပွဲ (ဘီစီ ၂၃၇) တွင် ကားသေ့လူမျိုးတို့သည် ဆာဒင်းနီးယားကျွန်းနှင့် စစ္စလီကျွန်းတို့ကို ရောမလူမျိုးတို့အား ပေးအပ်လိုက်ရသဖြင့် ကုန်သွယ်ယင်းနယ်ချဲ့ရန် တိုင်းသစ်ပြည်သစ်ကို ရှာဖွေရလေရာ စပိန်နိုင်ငံကို တွေ့ရှိကြလေသည်။

ကားသေ့လူမျိုးတို့သည် စပိန်နိုင်ငံတွင် အခိုင်အခံ့အခြေစိုက်နိုင်ခဲ့ကြသော်လည်း ဘီစီ ၂၀၁ ခုနှစ်တွင်ဖြစ်ပွားသော ရောမနှင့်စပိန်တို့ တိုက်ခိုက်သည့် ဒုတိယ ပျူးနစ်စစ်ပွဲတွင် အရေးရှုံးနိမ့်ပြန်သဖြင့် စပိန်နိုင်ငံမှ ထွက်ခွာသွားကြရလေသည်။ ထိုနှစ်မှစ၍ ရောမလူမျိုးတို့သည် စပိန်နိုင်ငံကို နှစ်ပေါင်း ၆၀၀ ခန့် အုပ်စိုးလာခဲ့ကြသည်။ ကားသေ့လူမျိုးတို့ကိုအစွဲပြုပြီးမှည့်ခေါ် ထားသော မြို့အမည်အနည်းငယ်မှာ ယနေ့ထက်တိုင်ပင် ကျန်ရှိနေပေသေး၏။ ယင်းတို့မှာ ဗာစီလိုးနားမြို့နှင့် ကာသဂျီးနားတို့ဖြစ်သည်။

နှစ်ပေါင်း ၆၀၀ ခန့် ရောမလူမျိုးတို့၏ လက်အောက်သို့ ကျရောက်နေစဉ် စပိန်နိုင်ငံ၏သမိုင်းမှာ တသီးတခြား မရှိတော့ဘဲ ရောမသမိုင်းသည်ပင်လျှင် စပိန်နိုင်ငံ၏သမိုင်းဖြစ်လာတော့သည်။ ရောမတို့တန်ခိုးကြီးချိန် ဖြစ်သဖြင့်လည်း စပိန်နိုင်ငံကို အခြားသော ပြင်ပ နိုင်ငံသားများက လာရောက်တိုက်ခိုက်ခြင်းငှာ မစွမ်းခဲ့ပေ။

ဘီစီ ၄၀၀ ကျော်ခန့်တွင် စပိန်နိုင်ငံမြောက်ဖက်မှနေ၍ ဗင်းဒေါလူမျိုးတို့ ဝင်ရောက်လာကြပြန်လေသည်။ ဗင်းဒေါ လူမျိုးတို့သည် စပိန် တနိုင်ငံလုံးကို ဖျက်ဆီး ခဲ့ကြ၏။ (ဗင်းဒေါလူမျိုး — လည်းရှု။) သူတို့နောက်တွင် ဗီစီဂေါ့သလူမျိုးတို့ ဝင်ရောက်လာကြပြန်လေသည်။ ဗီစီဂေါ့သတို့သည် ဗင်းဒေါလူမျိုးတို့ကဲ့သို့ စပိန်နိုင်ငံကိုမဖျက်ဆီးဘဲ စိုးမိုးအုပ်ချုပ် မင်းလုပ်ကြလေသည်။ ခရစ် ၄၁၅ ခုနှစ်မှ ၇၁၁ ခုနှစ်အထိ စပိန်နိုင်ငံကို စိုးမိုးအုပ်ချုပ်သော ဂေါ့သဘုရင်ပေါင်း ၂၃ ဆက်အနက် ဘုရင် ၅ ပါးမှာ လုပ်ကြံခြင်းခံရပြီး အခြား ၄ ပါးမှာ နန်းချခြင်းခံခဲ့ကြရလေသည်။ ခရစ် ၅၈၄ ခုနှစ်လောက်တွင် စပိန်နိုင်ငံကိုစိုးစံသော ဘုရင်သည် စပိန်တနိုင်ငံလုံးကို ဗရင်ဂျီဂိုဏ်းသို့ သွတ်သွင်းခဲ့လေသည်။

ခရစ် ၇၁၁ ခုနှစ်တွင်ကား အာဖရိကတိုက်မြောက်ပိုင်းမှ မူးဝါးလူမျိုးတို့သည် ဂျီဗရော်တားရေလက်ကြားကို ဖြတ်၍ စပိန်နိုင်ငံအတွင်းသို့ အလုံးအရင်းနှင့် ဝင်ရောက်တိုက်ခိုက်ကြလေသည်။ စပိန်တိုင်းရင်းသားများသာမက၊ စပိန်နိုင်ငံကိုကြီးစိုးအုပ်ချုပ်နေကြသော ဂေါ့သလူမျိုးတို့ပင်လျှင် မူးဝါး စစ်သည်တော်များကို တွန်းလှန်ခုခံခြင်း မပြုနိုင်သဖြင့် စပိန်နိုင်ငံ တွင်းမှ ထွက်ပြေးကြရလေသည်။ မူးဝါး လူမျိုးဆိုသည်မှာ အစ္စလမ်အယူဝါဒီ အာရပ်လူမျိုးနှင့် ဆီးရီးယန်းလူမျိုးများဖြစ်ကြသည်။ မူးဝါးတို့သည် စပိန်နိုင်ငံကို ချင်းနင်းဝင်ရောက် စိုးမိုးအုပ်ချုပ်ရုံ သာမက ပီးရနီးတောင်တန်းရှိ တောင်ကြားလမ်းမှဖြတ်၍ ပြင်သစ်နိုင်ငံတွင်းသို့ပင် ဝင်ရောက်တိုက်ခိုက်ကြ၏။ သို့သော် ခရစ် ၇၃၂ ခုနှစ်၌ ပွားတျားလွင်ပြင်တွင် ချားမာတဲ ခေါင်းဆောင်သော ပြင်သစ်တို့ကခုခံတိုက်သဖြင့် ပြင်သစ်နိုင်ငံမှ မူးဝါးတို့ဆုတ်ခဲ့ရသည်။ သို့သော် စပိန်နိုင်ငံတွင်ကား နှစ်ပေါင်း ၅၀၀ ခန့်စိုးမိုးခဲ့လေသည်။ (မူးဝါးလူမျိုး — လည်းရှု။)

စပိန်နိုင်ငံကို နှစ်ပေါင်း ၅၀၀ ခန့်အုပ်စိုးလာခဲ့သော မူးဝါးလူမျိုးတို့သည် ရောမလူမျိုးတို့ ထက်ပင် နိုင်ငံကြီးကို ထိ

ရောက်စွာ ပြုပြင်တည်ထောင် အုပ်ချုပ်နိုင်ခဲ့လေသည်။ သို့ရာတွင် လူမျိုးပေါင်းစုံ ပါဝင်ခြင်းကြောင့်လည်း ရံဖန်ရံခါ မကျေနပ်မှုများပေါ် ပေါက်ကာ ထိုမကျေနပ်မှုများကြောင့် ပြည်တွင်းစစ်ပွဲကလေးများပင် ဖြစ်ပွားခဲ့သည်။

မူးဝါး တို့ ဝင်လာစဉ်က စပိန် တိုင်းရင်းသား အချို့သည် မြောက်ပိုင်းရှိ တောင်ခြေဒေသများသို့ ခိုဝင်နေထိုင်ခဲ့ကြလေသည်။ ယင်းသို့ ပြေးလွှားခိုအောင်း နေခဲ့ကြရသော စပိန်တိုင်းရင်းသားတို့သည် တဖြည်းဖြည်း သွေးစည်းမိကြကာ ခရစ်ယန် နိုင်ငံငယ်ကလေးများ ဖွဲ့စည်းတည်ထောင်ခဲ့ကြသည်။ ထိုမှတဆင့် အင်အားစုပြီး မူးဝါးလူမျိုးနယ်ချဲ့သမားတို့အား တုံ့ပြန်တိုက်ခိုက်စ ပြုခဲ့ကြပြန်လေသည်။

မူးဝါးလူမျိုးတို့သည် စပိန်တို့ ထကြွပုန်ကန်နိုင်စွမ်းရှိမည် မဟုတ်ဟု ထင်ခဲ့သောကြောင့် တကြောင်း၊ မူးဝါးလူမျိုးများ အထဲတွင်ပင် သွေးကွဲမှုများ ပေါ်ပေါက်လာခြင်းကြောင့် တကြောင်း စပိန်လူမျိုးတို့ တုံ့ပြန်တိုက်ခိုက်လာခြင်းကို ခုခံတွန်းလှန်ရန် မစွမ်းနိုင်တော့ပေ။

ထိုအချိန်တွင် စပိန်တိုင်းရင်းသားများဖက်မှ ဆစ်ဆိုသူ၊ သူရဲကောင်းကြီး တယောက် ပေါ်ထွက်လာခဲ့ လေသည်။ ဆစ်သည် မည်သည့်တိုက်ပွဲတွင်မဆို အောင်မြင်၏။ သူ၏ စွမ်းရည်သတ္တိကို တွေ့မြင်ကြားသိရသော စပိန်လူမျိုးတို့ကား ဆစ်အား အထူးပင် အားကိုးအားထားပြုကြ၏။ မူးဝါးလူမျိုးတို့ သည်လည်း ဆစ်ကို အသံကြားရုံမျှ နှင့်ပင် ကြောက်ရွံ့ကြသည်ဟု ဆိုလေသည်။

စပိန်တော်လှန်ရေးအင်အားစုကြီးနှင့် မူးဝါးနယ်ချဲ့သမားတို့သည် ၁၂၁၂ ခုနှစ်တွင် ကက်စတီးနယ် တိုလိုဆာလွင်ပြင်၌ ရင်ဆိုင်မိကြ၍ ပြင်းထန်သော တိုက်ပွဲကြီး ဖြစ်ပွားခဲ့လေသည်။ ထိုတိုက်ပွဲတွင် မူးဝါးတို့ အရှုံးကြီးရှုံးသဖြင့် သူတို့၏ နောက်ဆုံးခြေကုပ်တခုဖြစ်သော စပိန်နိုင်ငံအရှေ့တောင်ပိုင်းရှိ ဂရာနားဒါးနယ်အတွင်းသို့ ဆုတ်ပြေးကြရလေသည်။

စပိန်လူမျိုးတို့ကား စပိန်၏ တဦးတည်းသော ရန်သူကို ဝိုင်း၍တိုက်ခိုက်ကြရာ၌သာ စည်းလုံးမိကြ၍ ပြည်တွင်းအုပ်ချုပ်ရေး၌မူကား ညီညွတ်မှုမရရှိခဲ့ကြသေးပေ။ ထိုကြောင့် ကက်စတီးနိုင်ငံတွင် တတိယဖာဒီနန်ဘုရင် အုပ်စိုး၍ အာရဂွန်နိုင်ငံတွင် ဂျိမ်းဘုရင် အုပ်ချုပ်လေသည်။ ၁၄၆၉ ခုနှစ်တွင် ကက်စတီးမင်းသမီး အစ္စဗဲလားနှင့် အာရဂွန်ဘုရင်ကလေး၏ဘထွေးတော် ဖာဒီနန်မင်းသားတို့ လက်ဆက်လိုက်ကြသဖြင့် ကက်စတီးနှင့် အာရဂွန် နှစ်ပြည်ထောင်မှာ ပူးပေါင်းစည်းလုံးမိခဲ့လေတော့သည်။ ထိုသို့ နှစ်ပြည်ထောင် ပူးပေါင်းမိသောအခါမှစ၍ စပိန်တနိုင်ငံလုံးသည် ညီညွတ်စည်းလုံးလာလေသည်။

၁၄၉၂ ခုနှစ်ကား စပိန်နိုင်ငံ၏သမိုင်းတွင် ထူးခြားမှတ်သားထိုက်သောနှစ်ပင်ဖြစ်၏။ စပိန်နိုင်ငံသည် လွတ်လပ်၍ စည်းလုံးမိပြီး ဖြစ်သော်လည်း ဂရာနားဒါး နယ်ကလေးမှာ အစွလမ်အယူဝါဒီ မူးဝါးလူမျိုးတို့၏လက်၌ပင် ရှိနေသေး၏။ ဖာဒီနန်နှင့် အစ္စဗဲလားတို့သည် ကော်ဒိုးဗားအမည်ရှိ စပိန်စစ်ဗိုလ်ကြီးကိုစေလွှတ်၍ မူးဝါးတို့အားနှင်ထုတ်စေရာ ၁၄၉၂ ခုနှစ်တွင် မူးဝါးတို့သည် ဂရာနားဒါးနယ်မှ လုံးဝ ထွက်ခွာပေးရလေသည်။ ထိုနှစ်တွင်ပင် စပိန်နိုင်ငံမှစေလွှတ်လိုက်သော ကိုလံဗပ်သည် ကမ္ဘာသစ်ကို ရှာဖွေတွေ့ရှိခဲ့လေသည်။ (ကိုလံဗပ်, စီ — ရှု။) ကမ္ဘာသစ်ကိုရှာဖွေတွေ့ရှိခဲ့ခြင်းဖြင့် စပိန်နိုင်ငံ၏ ဘဏ္ဍာရေးအခြေအနေကို အကြီးအကျယ်တိုးတက်စေခဲ့ရာ နှစ်များစွာမကြာမြင့်မီပင် ဥရောပတိုက်တွင် စပိန်နိုင်ငံသည် အကြွယ်ဝဆုံးနိုင်ငံတခုဖြစ်လာခဲ့လေသည်။ ယင်းသည့် စပိန်၏ ရွှေခေတ်ငွေခေတ်ဟု ခေါ်ဆိုထိုက်သော ၁၅၀၉ ခုနှစ်တွင် ရောမ သာသနာစောင့်ကေရာဇ်အဖြစ်ဖြင့် တင်မြှောက်ခြင်းခံရသော ပဉ္စမချားလက်ထက်၌ စပိန်နိုင်ငံသည် ဥရောပအလယ်ပိုင်းနိုင်ငံ၏ စစ်ဖက်ရေးနှင့် နိုင်ငံရေးရာများတွင် ရောထွေးယှက်တင် ပါဝင်လာရလေတော့သည်။ ပဉ္စမချားဘုရင်သည် ၁၅၅၆ ခုနှစ်တွင် ထီးနန်းကိုစွန့်သည်တွင် သားတော် ဒုတိယဖိလစ်က ဆက်ခံစိုးစံလေသည်။ ဖိလစ်ဘုရင်လက်ထက်တွင်ကား စပိန်နိုင်ငံတော်အတွင်း၌ သာသနာရေးဖိနှိပ်မှုမှာ အတော်ပင် ပြင်းထန်လာခဲ့လေသည်။ အကြွင်းအကျန်မျှသာဖြစ်သော မွတ်စလင်တို့အား ဖိနှိပ်ရာတွင် မွတ်စလင်တို့ တော်လှန်ပုန်ကန်ကြသော်လည်း အင်အားချင်းမမျှသဖြင့် မအောင်မြင်ခဲ့ကြပေ။ ယဟူဒီလူမျိုးနှင့် ပရိုတက်စတန့်ဂိုဏ်းဝင်များကိုလည်း အတိအလင်းနှိပ်ကွပ်ခဲ့၏။

ဒုတိယဖိလစ်ဘုရင်သည် အင်္ဂလန်ပြည်ကို ဗရင်ဂျီဂိုဏ်းဝင်နိုင်ငံဖြစ်စေလိုသောအကြံနှင့် အင်္ဂလန်ပြည့်ရှင် မေရီဘုရင်မကို လက်ထပ်ခဲ့သည်။ သို့သော်လည်း သူ၏အကြံ မအောင်မီ မေရီဘုရင်မ ကွယ်လွန်သွားပြီးလျှင် ပရိုတက်စတန့်ဂိုဏ်းဝင်စစ်စစ်ကြီးဖြစ်သော အယ်လစ်ဇဗက်ဘုရင်မ နန်းတက်ခဲ့လေသည်။ ထိုအခါ အကြမ်းနည်းသုံးကာ အင်္ဂလန်ပြည်ကို ဗရင်ဂျီနိုင်ငံဖြစ်အောင် ကြံဆောင်ရန်အတွက် ၁၅၈၈ ခုနှစ်အတွင်း အာမာဒါခေါ် ကြီးကျယ်ခမ်းနားလှသော ရေတပ်မတော်ကြီးကို တည်ဆောက်ခဲ့လေသည်။ (စပိန်ရေတပ်ကြီး — ရှု။) သင်္ဘောကြီးများမှာ ကြီးကျယ်၍ ခိုင်ခံ့လှသော်လည်း အင်္ဂလန်ပြည်သို့စေလွှတ်တိုက်ခိုက်စေသည့်အခါတွင်မူကား အကြီးအကျယ်ပျက်စီးဆုံးရှုံးခဲ့ရလေသည်။

စပိန်ရေတပ်ကြီး ပျက်စီးဆုံးရှုံးရသည့်အချိန်မှစ၍ စပိန်နိုင်ငံသည် တဖြည်းဖြည်း တန်ခိုး မှေးမှိန် လာခဲ့လေသည်။ နိုင်ငံတော်မှာလည်း တဖြည်းဖြည်း ယိမ်းယိုင်ပြိုကွဲ လာခဲ့သည်။ ၁၆၄၀ ပြည့်နှစ်တွင် စပိန်လက်အောက်ခံ ပေါ်တူဂီပြည်သည် သွေးတပေါက်မကျရဘဲနှင့် လွတ်မြောက်ခဲ့လေ



စပိန်နိုင်ငံ၏မြို့တော် မဒရစ်မြို့ရှိ လမ်းတလမ်းရှုခင်း

ကူညီသဖြင့် စပိန်တော်လှန်ရေးကြီး အောင်မြင်ခဲ့လေသည်။

စပိန်နိုင်ငံသည် နပိုလီယန်၏ ပြင်သစ်စစ်တပ်များ လက်အောက်မှ လွတ်မြောက်ခဲ့ပြီး နောက်၌ကား နပိုလီယန်က အကျဉ်းချထားသော ဗူးဗွန်မင်းဆက် သတ္တမဖာဒီနန်ဘုရင် လွတ်မြောက်လာပြီးလျှင် စပိန်နိုင်ငံကိုပြန်လည်စိုးစံခဲ့သည်။ ၁၈၃၃ ခုနှစ်တွင် သတ္တမဖာဒီနန် ဘုရင် နတ်ရွာစံသောအခါ၊ အမေရိက တိုက်ရှိ စပိန်ပိုင်နယ်အားလုံးလိုလိုကို လက်လွှတ်လိုက်ရသည်။ ကျန်ရှိနေသေးသော ကျူးဗားနှင့် ပွားတိုရီးကိုးကိုလည်း ၁၈၉၈ ခုနှစ်တွင် ဖြစ်ပွားသော စပိန်အမေရိကန်စစ်ပွဲတွင် လုံးဝဆုံးရှုံးလေသည်။

သတ္တမဖာဒီနန်ဘုရင်၏ ထီးနန်း ရိုက်ရာကို သမီးတော် ဒုတိယအဇ္ဇဗဲလားမင်းသမီးက ဆက်ခံစိုးစံသည်။ သို့ရာတွင် ဘထွေးတော် ဒွန်ကာလိုမင်းသားက သူသာလျှင် စပိန်ထီးနန်းကို စိုးစံထိုက်သည်ဟုဆိုကာ တော်လှန် ပုန်ကန်ရာ ပြည်အတွင်းစစ်ပွဲကြီး ဖြစ်ပွားရပြန်သည်။

၁၈၃၃ ခုနှစ်မှ ၁၈၇၅ ခုနှစ်အထိ စပိန်သမတနိုင်ငံကို ပဌမဆုံးအကြိမ် တည်ထောင်ခဲ့ပါသော်လည်း၊ အမှန်အားဖြင့် စပိန်နိုင်ငံတွင် အုပ်ချုပ်သောအစိုးရ ဟူ၍ အတည်တကျ မရှိဘဲ ပြည်တွင်းဆူပူမှုများသာလျှင် ဖြစ်ပွားလျက်ရှိခဲ့လေသည်။ ထို့ကြောင့် ၁၈၇၅ ခုနှစ်တွင် ဆူပူလှုပ်ရှားထကြွမှုများကို ရွံရှာလာကြပြီဖြစ်သော စစ်ဖက်အာဏာပိုင်များက ဗူးဗွန်မင်းဆက် ဖြစ်သော ဒုတိယအဇ္ဇဗဲလား၏ သားတော် ၁၂ ဆက်မြောက် အယ်လဖွန်းဆိုးအား စပိန်ထီးနန်းကိုအပ်ကြသည်။ အယ်လဖွန်းဆိုးဘုရင်သည် ပြည်တွင်းဆူပူမှုအားလုံးတို့ကို လက်နက်ဖြင့် နှိပ်ကွပ်ခဲ့၏။ ၁၈၇၆ ခုနှစ်တွင် အခြေခံဥပဒေသစ်တရပ်ကို ပြဋ္ဌာန်းအတည်ပြုခဲ့သည်။ နန်းသက် ၁၀ နှစ်အကြာ ၁၈၈၅ ခုနှစ်တွင် အယ်လဖွန်းဆိုးဘုရင် နတ်ရွာစံခဲ့လေရာ သားတော် ၁၃ ဆက်မြောက် အယ်လဖွန်းဆိုး မင်းသား အရွယ်ရောက်လာသည် အထိ ဘုရင်မကြီး ခရစ္စတီးနားက နန်းစောင့်မယ်တော်ဘုရင်မအဖြစ် အုပ်ချုပ်လာခဲ့ရလေသည်။ ၁၈၉၅ ခုနှစ်တွင် ကျူးဗားကျွန်းက နောက်တကြိမ် ပုန်ကန်ထကြွပြန်သောကြောင့် ဗိုလ်ချုပ်ဝေးလားကို စေလွှတ်နှိမ်နင်းစေရာတွင် သူပုန်များကို ရက်ရက်စက်စက်နှိပ်ကွပ်မှုနှင့်စပ်လျဉ်း၍၁၈၉၈ခုနှစ်တွင် စပိန်နှင့်

သည်။ ၁၇၀၁ ခုမှ ၁၇၁၄ ခုနှစ်အထိနှစ်များအတွင်း ဖြစ်ပွားခဲ့သော စပိန် နန်းလုစစ်ပွဲကြီးတွင်လည်း ဥရောပတိုက်ရှိ စပိန်ပိုင်နယ် အများအပြားပင် လက်လွှတ်သွားရသည်။ စပိန်နိုင်ငံကိုလည်း ပြင်သစ်မင်းသားတပါးက လာရောက်အုပ်စိုးခဲ့လေသည်။ ထိုမင်းသားမှာ ပြင်သစ်ဘုရင်၏မြေးတော် အန်ဇူမြို့စား ပဉ္စမဖိလစ် ဖြစ်၍ စပိန်နိုင်ငံတွင် ၁၉၃၁ ခုနှစ်အထိ အုပ်စိုးခဲ့သော ဗူးဗွန်မင်းဆက်တွင် ပဌမဦးဆုံး ဘုရင်ဖြစ်လေသည်။

ထိုအခါမှစ၍ စပိန်နိုင်ငံမှာ တဖြည်းဖြည်း တန်ခိုးမှိန်ခဲ့လေသည်။ စပိန် ထီးနန်းဆက်ခံရေးစစ်ပွဲ အတွင်းက (ခရစ် ၁၇၀၁–၁၇၁၄) ဂျီဗရော်တာနယ်၊ မီနော်ကာနယ်၊ ဣတလီပြည်ရှိနယ်များနှင့် နယ်သာလန်ပြည်နယ်များ ဆုံးရှုံးခဲ့ရလေသည်။ ထို့ပြင် စပိန်နိုင်ငံအတွက် အကျိုးမရှိသော စပိန်ဣတလီစစ်ပွဲများဖြစ်ပွားခဲ့သေးသည်။

၁၇၈၉ ခုနှစ် ပြင်သစ်တော်လှန်ရေးကြီးတွင် စပိန်ဘုရင်သည် ဆွေတော်မျိုးတော် ဖြစ်သော ပြင်သစ်ဘုရင်ဖက်မှ ကူညီခဲ့လေသည်။ သို့ရာတွင် တော်လှန်သူများအောင်မြင်ပြီးနောက် တန်ခိုးတက်လာသော နပိုလီယန်၏ ပရိယာယ်ကြောင့် စပိန်နိုင်ငံရှိ ပြင်သစ်နန်းဆက်ပင် ပြတ်ရလေတော့သည်။

နပိုလီယန်သည် ညီတော်ဂျိုးဇက်အား စပိန်နိုင်ငံ၏ထီးနန်းကို အပ်နှင်းခဲ့လေသည်။ သို့သော် မကြာမီ စပိန်နိုင်ငံသားအပေါင်းတို့သည် ဂျိုးဇက်ဘုရင်အား လက်နက်စွဲကိုင်ကာ တော်လှန်ခဲ့ကြလေသည်။ နပိုလီယန် တန်ခိုးကြီးမားလာမည်ကို စိုးရိမ်သော အင်္ဂလိပ်တို့က စပိန် သူပုန်တို့အား

အမေရိကန်တို့ စစ်ဖြစ်ရလေသည်။ ထိုစစ်ပွဲတွင် စပိန်တို့ အရေးနိမ့်ပြီးလျှင် ကျူးဗားနှင့် ပွားတိုရီးကိုးကို သာမက ဖိလစ်ပိုင်ကျွန်းစုကိုပါ လက်လွှတ်လိုက်ရလေသည်။

၁၃ ဆက်မြောက် အယ်လဖွန်းဆိုးမင်းသားသည် ၁၉၀၂ ခုနှစ်တွင် စပိန်နိုင်ငံ အားလုံးကို ဘုရင်အဖြစ် စိုးစံခဲ့ရလေသည်။ ထိုအချိန်တွင် နိုင်ငံတွင်းပြဿနာများမှာ အထူးပင်ရှုပ်ထွေးလျက်ရှိလေသည်။ အထူးသဖြင့် ခရစ်ယန်ဂိုဏ်းကြီးသည် ဘုရင်အား ဩဇာလွှမ်းမိုးရန် ကြံရွယ်လျက်ရှိသည်။ ၁၉၀၉ ခုနှစ်တွင် အာဖရိကတိုက်မြောက်ပိုင်း မိုရိုကိုနယ်တွင်ရှိသော တိုင်းရင်းသားအချို့တို့က စပိန်လူမျိုးတို့အား မလိုမုန်းထားပြီး ဆူပူထကြွသတ်ဖြတ်ကြသဖြင့် စပိန်လူမျိုးတို့မှာ မိုရိုကိုနယ်မှလက်လွှတ်ထွက်ပြေးရမလောက်ပင် အခြေအနေဆိုးရွားခဲ့ရလေသည်။ ထိုအချိန်တွင် စပိန်ပြည်တွင်း၌လည်း အစိုးရကို မလိုလားသော နိုင်ငံရေးခေါင်းဆောင်များက ဆူပူထကြွလာပြန်သည်။ သို့ရာတွင် စပိန်အစိုးရက ဆူပူမှုအရပ်ရပ်ကို နှိပ်ကွပ်နိုင်ခဲ့လေသည်။

ပဌမကမ္ဘာစစ်ပွဲကြီး အတွင်းက စပိန်နိုင်ငံသည် ကြားနေခဲ့သည်။ သို့ရာတွင် နိုင်ငံတွင်းဆူပူမှုများကြောင့်၎င်း၊ သပိတ်ကိစ္စများကြောင့်၎င်း စက်မှုလက်မှုလုပ်ငန်းများ တိုးတက်ရေးမှာ အထူးပင် ဖင့်နွှဲနှောင့်နှေးခဲ့ရလေသည်။ မိုရိုကိုနယ်မှလည်း ပြန်လည် ဆူပူလာပြန်သဖြင့် စစ်တပ်များ စေလွှတ်နှိမ်နင်းခဲ့ရပြန်သည်။ ဤတကြိမ်တွင် ဘုရင်အစိုးရအင်အားမှာ တဖြည်းဖြည်းပြိုကွဲစပြုလာပြီဖြစ်၍ နိုင်ငံမှာလည်း စည်းလုံးညီညွတ်ခြင်းမရှိတော့ချေ။

၁၉၂၃ ခုနှစ်တွင် ဗိုလ်ချုပ် ပရီးမိုးသေ ရီဗေးရားသည် စစ်ဖက်ဆိုင်ရာအကူအညီဖြင့် အုပ်ချုပ်ရေးအာဏာကို ရယူပြီး ဘုရင်ထက်အောက်တွင် စ ပိန် နိုင် ငံ ကို အုပ်စိုးလေသည်။ အမှန်အားဖြင့်ဆိုသော် ရီဗေးရား ကိုယ်တိုင် အာဏာရှင်အဖြစ်ဖြင့် အုပ်စိုးခြင်းပင်ဖြစ်၏။ အယ်လဖွန်းဆိုးဘုရင်ကလည်း သူကိုယ်တိုင် အုပ်မနိုင်စိုးမရဖြစ်နေသောကြောင့် ရီဗေးရားအုပ်ချုပ်ခြင်းကို ခွင့်ပြုထားရလေသည်။

ဗိုလ်ချုပ်ရီဗေးရားသည် မျိုးချစ်စိတ်ထက်သန်၍ ဖြောင့်မတ်တည်ကြည်သော ပုဂ္ဂိုလ်တဦးပင် ဖြစ်သော်လည်း သူတက်လာသည့်အချိန်က စပိန်နိုင်ငံအခြေအနေအရ ပြုပြင်ရေးလုပ်ငန်းများကို အာဏာရှင်စံနစ်ဖြင့် ဆောင်ရွက်ရလေသည်။ သူသည် သူပုန်များကို ပြင်သစ်တို့၏အကူအညီဖြင့် နှိမ်နင်းခဲ့ပြီးလျှင်သပိတ်ကိစ္စများကိုလည်း အပြင်းအထန်နှိပ်ကွပ်နိုင်ခဲ့သဖြင့် အရေးပါအရာရောက်သော ပြုပြင်ရေးလုပ်ငန်းများကို အောင်မြင်အောင်ဆောင်ရွက်နိုင်ခဲ့လေရာ စပိန်နိုင်ငံမှာ အတော်ပင် တိုးတက်ကောင်းမွန်လာခဲ့၏။

သို့သော် ၁၉၂၉ ခုနှစ်နောက်တွင်ပေါ်လာသော ကမ္ဘာနှင့်အဝှန်း စီးပွားရေးညှပ်ဖျင်းမှုကြောင့် စပိန်နိုင်ငံမှာ ပြဿနာသစ်များနှင့် ရင်ဆိုင်ရပြန်လေသည်။ ဗိုလ်ချုပ်ရီဗေးရားသည် စပိန်စစ်တပ်ကြီးကို ပြုပြင်ရန် ကြိုးစားခဲ့လေသည်။ သို့ရာတွင် သူ၏ ကြိုးပမ်းချက်မှာ မအောင်မြင် သည့်ပြင် စစ်တပ်နှင့်ဘုရင်၏ထောက်ခံမှုကိုလည်း မရတော့သောကြောင့် ၁၉၃၀ ပြည့်နှစ် ဇန္နဝါရီလ ၃၀ ရက်နေ့တွင် ဝန်ကြီးချုပ်ရာထူးမှ နုတ်ထွက်သွားရလေသည်။ စပိန်လူထုသည် အာဏာရှင်စံနစ်ကို ထောက်ခံအားပေးသော အယ်လဖွန်းဆိုးဘုရင်အားလည်း မလိုလားကြတော့ချေ။

အယ်လဖွန်းဆိုးဘုရင်သည်လည်း နောက်ဆုံးကြိုးစားခြင်းအနေဖြင့် တိုင်းသူပြည်သားတို့အား လွတ်လပ်မှုအခွင့်အရေးပိုမိုပေးနိုင်မည့် အစိုးရ အဖွဲ့မျိုး ရရှိစေမည်ဟု ကတိပြုကာ တိုင်းပြည်ပြုလွှတ်တော် ရွေးကောက်ပွဲကြီးကို ကျင်းပခဲ့လေသည်။ ၁၉၃၁ ခုနှစ် ဧပြီလတွင်ကျင်းပသော ထိုရွေးကောက်ပွဲကြီးတွင် သမတဂိုဏ်းသားများဖက်မှ မဲပေါင်းများစွာဖြင့် အနိုင်ရသဖြင့် အယ်လဖွန်းဆိုး ဘုရင်မှာ စပိန်နိုင်ငံ တွင်းမှ ထွက်ပြေးတိမ်းရှောင် သွားရလေသည်။ ထိုနောက် စပိန်နိုင်ငံဥပဒေပြုလွှတ်တော်သည် သမတအုပ်ချုပ်ရေး အခြေခံဥပဒေကို ၁၉၃၁ ခုနှစ် ဒီဇင်ဘာလ ၁၀ ရက်နေ့တွင် ပြဋ္ဌာန်းအတည်ပြုခဲ့လေသည်။ သမတအဖြစ်ဖြင့် အဲလကာလာသာမိုးရားအား တင်မြှောက်ခဲ့ကြလေသည်။ ဝန်ကြီးချုပ်မှာ မန်နွယ်အသားနယားဖြစ်၏။ အခြေခံဥပဒေသစ်အရ ဗရင်ဂျီဂိုဏ်းမှာ သိသိသာသာကြီး ဖိနှိပ်ထားခြင်းခံရသည်။ အမျိုးသမီးများမှာကား မဲပေးခွင့်ရကြ၏။ သို့သော် သမတအစိုးရမှာ အခက်အခဲ အမျိုးမျိုးတို့ကြောင့် နိုင်ငံကောင်းရာကောင်းကြောင်း ဆောင်ရွက် သင့်သလောက် မဆောင်ရွက်နိုင်ခဲ့ပေ။

၁၉၃၃ ခုနှစ် အောက်တိုဘာလတွင် ဥပဒေပြုလွှတ်တော်ရွေးကောက်ပွဲကြီး ကျင်းပပြန်ရာ ကွန်ဆားဗတစ်အုပ်စုဖက်မှ အနိုင်ရခဲ့လေသည်။ ထိုအခါ အင်အားတောင့်တင်းနေသော ဖက်ဆစ်အဖွဲ့နှင့် ဗရင်ဂျီဂိုဏ်းဝင်တို့၏ အဖွဲ့နှစ်ဖွဲ့တွင် ရှေးဦးစွာ ဗရင်ဂျီအဖွဲ့က ရာထူး ရယူပြီး အုပ် ချုပ် ခဲ့လေသည်။ ထိုသို့ ဗရင်ဂျီအဖွဲ့က အုပ် ချုပ်သည် နှင့် တပြိုင်နက် လက်ဝဲနိုင်ငံရေးသမားများနှင့် အလုပ်သမားများကို စတင်ဖိနှိပ်လေ၏။ ထိုကြောင့် ၁၉၃၄ ခုနှစ်တွင် အထွေထွေသပိတ်ကြီးပေါ်ပေါက်လာပြီးလျှင် အလုပ်သမားများ စုပေါင်း၍ အစိုးရအား တော်လှန်ပုန်ကန်ရာ၊ ဗရင်ဂျီအဖွဲ့ အစိုးရသည် မိုရိုကိုနယ်မှ စစ်တပ်များကိုခေါ်ယူ၍ နှိမ်နင်းခဲ့လေသည်။ သို့ရာတွင် ငြိမ်းချမ်းရေးမရရှိဘဲနှင့် ၁၉၃၆ ခုနှစ်ရွေးကောက်ပွဲကြီးကျင်းပခဲ့ရသည်။ ဤရွေးကောက်ပွဲတွင် လက်ဝဲနိုင်ငံရေးအဖွဲ့များ စုပေါင်းထားသည့် လူထုတပ်ဦးက အနိုင်ရသောကြောင့် လက်ဝဲအစိုးရအဖွဲ့ ဖွဲ့စည်းနိုင်ခဲ့လေသည်။

ထိုအစိုးရအဖွဲ့သည် လယ်ယာလုပ်ငန်းဆိုင်ရာပြုပြင်မှုများ

နှင့် အခြားပြုပြင်မှုများကို ဖြစ်မြောက်အောင် ဆောင်ရွက်ခဲ့ရာ မြေရှင်ကြီးများနှင့် ဗရင်ဂျီဂိုဏ်းတို့က အတိုက်အခံပြုခြင်းကိုခံခဲ့ရလေသည်။ များမကြာမီ စစ်တပ်ပုန်ကန်မှုကြီးတရပ် ပေါ်ပေါက်ခဲ့လေသည်။ ခေါင်းဆောင်များကား ဖရန်စစ္စကို ဖရန်ကိုနှင့် အေမီးလျိုးမိုးလားတို့ပင် ဖြစ်လေသည်။ တော်လှန်ရေးသမားများသည် မျိုးချစ်တော်လှန်ရေးသမားများဟူသောအမည်ကိုယူကာ အစိုးရတပ်များကို အပြင်းအထန်တိုက်ခိုက်ကြလေသည်။ တယူသန်နိုင်ငံရေးသမားများကမူကား အစိုးရဖက်နှင့် သူပုန်ဖက် နှစ်ဖက်စလုံးကို မိမိတို့သံယောဇဉ်ရှိရာ ကူညီအားပေးကြလေသည်။ အစိုးရဖက်ကို ဆိုရှယ်လစ်ခေါင်းဆောင်ကြီးဖြစ်သူ ဝန်ကြီးချုပ်ဖရန်စစ္စကိုလားဂိုကာဗာလျေးရိုးက ကူညီအားပေးသည်။

စပိန် ပြည်တွင်းစစ်ကြီးကား တဖြည်းဖြည်း ပိုမိုပြင်းထန်လာလေသည်။ ဖရန်ကိုဦးစီးသော တော်လှန်ရေးတပ်က၊ စပိန်နိုင်ငံတောင်ဖက်ဖျားသို့ တက်ရောက်တိုက်ခိုက်စဉ် ဗိုလ်ချုပ်မိုးလား ခေါင်းဆောင်သည့် အခြားတတပ်ကမူကား စပိန်နိုင်ငံ မြောက်ပိုင်းသို့ တက်ရောက် တိုက်ခိုက်ကြလေသည်။ အဆိုပါ တော်လှန်ရေးစစ်တပ်ကြီးနှစ်တပ်သည် စပိန်နိုင်ငံ အလယ်ပိုင်းရှိ မဒရစ်မြို့တော်ကြီးဆီသို့ ချီတက် တိုက်ခိုက်ခဲ့ကြလေသည်။ ၁၉၃၆ ခုနှစ် အောက်တိုဘာလ ၁ ရက်နေ့တွင် ဗိုလ်ချုပ်မိုးလား လေယာဉ်ပျံပျက်ကျ ကွယ်လွန်သဖြင့် ဖရန်ကိုသည် တော်လှန်ရေး ဖက်ဆစ်တပ်မတော်ကြီး၏ တဦးတည်းသော ခေါင်းဆောင်ကြီး ဖြစ်လာလေသည်။ (ဖရန်ကို — ရှု။)

၁၉၃၆ ခုနှစ် နိုဝင်ဘာလတွင် ဖရန်ကို၏ ဖက်ဆစ်တပ်ကြီးသည် မဒရစ်မြို့တော်အနီးသို့ ဆိုက်ရောက်လာ၍ ဆိုရှယ်လစ်အစိုးရ အဖွဲ့သည် ဗလင်းရှာမြို့သို့ ရွှေ့ပြောင်းခဲ့ရပြီးနောက်၊ စိတ်မချရသေးသဖြင့် ၁၉၃၇ ခုနှစ်အတွင်း ဗာစီလိုးနားမြို့သို့ တဆင့်ပြောင်းရွှေ့ရုံးထိုင်ခဲ့လေသည်။ တော်လှန်ရေးဦးစီးအဖွဲ့ကလည်း ဗူးရဂိုမြို့တွင် ရုံးထိုင်ပြီး စင်ပြိုင်အစိုးရအဖွဲ့သစ်ဖွဲ့ကာ ဖရန်ကိုအား အာဏာရှင်အဖြစ် တင်မြှောက်ခဲ့ကြလေသည်။

ဖရန်ကို၏ အစိုးရ အဖွဲ့သစ်အား ဂျာမနီနှင့် ဣတလီနိုင်ငံတို့က ချက်ခြင်း အသိအမှတ်ပြုခဲ့ကြလေသည်။ ထိုမျှမကသေး ထိုနိုင်ငံနှစ်ခုသည် လက်နက် ခဲယမ်း မီးကျောက်နှင့် တကွ လေယာဉ်ပျံ စသည်တို့ကိုပါ ဖရန်ကိုထံ ပေးပို့ကူညီခဲ့ခြင်းကြောင့် ဖရန်ကို၏ ဖက်ဆစ်တပ်ကြီးမှာ လျင်မြန်စွာအောင်ပန်းဆွတ်နိုင်ခဲ့ခြင်းဖြစ်လေသည်။ ကွန်မြူနစ်ဝါဒသို့ ရှေးရှုနေသော ဆိုရှယ်လစ် အစိုးရအားလည်း ရုရှနိုင်ငံက အကူအညီများ ပေးခဲ့သော်လည်း ဖက်ဆစ်နိုင်ငံများ ကဲ့သို့



အသက်ဘေးအန္တရာယ်များလှသော စပိန်နွားကစားပွဲ

ထိရောက်ခြင်းမရှိချေ။ နိုင်ငံအသီးသီးမှ အပျော်တမ်းတပ်သားများသည်လည်း အပြည်ပြည်ဆိုင်ရာတပ်မဟာ ဖွဲ့စည်းကာ အစိုးရဖက်မှ ပါဝင်ကူညီတိုက်ခိုက်ခဲ့၏။

အင်္ဂလန်နှင့်ပြင်သစ်နိုင်ငံတို့ကမူကား မည်သူ့ကိုမျှ အားမပေးချေ။ ဝင်မစွက်ရေးကော်မီတီတခု ဖွဲ့စည်းရန်ပင် ကြိုးပမ်းခဲ့သေး၏။ ရုရှနိုင်ငံက ဆိုရှယ်လစ်အစိုးရကို လက်နက်အား၊ လူအင်အားနှင့်ကူညီမှု ရပ်စဲလိုက်သည်နှင့်တပြိုင်နက်၊ ဖရန်ကို၏ ဖက်ဆစ်သူပုန်တပ်များသည် ၁၉၃၉ ခုနှစ်တွင် စပိန်တနိုင်ငံလုံးကို သိမ်းပိုက်နိုင်ခဲ့လေသည်။ ထိုအချိန်မှစ၍ စပိန်နိုင်ငံတွင် ဖရန်ကို ဦးစီးသည့် ဖက်ဆစ် အစိုးရဆောက်တည်လာခဲ့သည်မှာ ယနေ့တိုင်ပင်ဖြစ်၏။ ထိုနောက် ဒုတိယကမ္ဘာစစ်ကြီး စတင်ဖြစ်ပွားလာရာ ဖရန်ကိုသည် စစ်အတွင်းသို့ ဝင်ရောက်ခြင်းမပြုဘဲ ရှောင်ကွင်းနိုင်ခဲ့ခြင်းကြောင့် ကမ္ဘာစစ်ဘေးစစ်ဒဏ်မှ လွတ်မြောက်လာခဲ့လေသည်။ သို့ရာတွင် ရုရှဂျာမန် တိုက်ပွဲများတွင်မူကား ဂျာမန်တို့အား ကျေးဇူးတုံ့ပြန်သည့်သဘောဖြင့် ဂျာမန်တို့ဖက်မှ ကူတိုက်ခိုက်စေရန် စပိန်အပျော်တမ်းစစ်တပ်များကို ရုရှဂျာမန်စစ်ကြောင်းသို့ စေလွှတ်ခဲ့ဘူး၏။ သို့သော် ဝင်ရိုးတန်းနိုင်ငံများ တဖြည်းဖြည်း အရေးနိမ့်လာမှန်း သိလာသောအခါ ယင်းတို့နှင့် အဆက်ဖြတ်လိုက်လေသည်။

စပိန်နိုင်ငံ အစိုးရမှာ ဖက်ဆစ် အာဏာရှင် အစိုးရမျိုးဖြစ်၏။ ဗိုလ်ချုပ်ဖရန်ကိုမှာ နိုင်ငံ၏ခေါင်းဆောင်ဖြစ်လေသည်။ ၁၉၄၇ ခုနှစ်တွင် အမျိုးသား ကွန်ဂရက် လွှတ်တော်က ဖရန်ကိုကွယ်လွန်သောအခါ စပိန်မှာ ဘုရင်အစိုးရအုပ်ချုပ်သောနိုင်ငံ ဖြစ်လာရမည် ဟူသော ဥပဒေတရပ်ကို ပြဋ္ဌာန်းခဲ့၏။ ထိုဥပဒေ အရ ကွန်ဂရက်သည် ဘုရင်ကို ရွေးကောက်တင်မြှောက်နိုင်သည်။ ဖရန်ကိုမှာ နိုင်ငံ၏အဓိပတိသာမဟုတ် နိုင်ငံရှိ တခုတည်းသော နိုင်ငံရေးပါတီဖြစ်သည့် ဖါးလန်းပါတီ၏ ခေါင်းဆောင်လည်းဖြစ်လေသည်။ ထိုပါတီကို အဖွဲ့ဝင် ၁၀၃ ဦးပါဝင်သော အမျိုးသားကောင်စီက ကြိုးကိုင်၏။ အုပ်ချုပ်ရေးတွင် ဖရန်ကိုအား ဝန်ကြီး ၁၃ ဦးပါဝင်သော အစိုးရအဖွဲ့က ကူညီလေသည်။ ကော်တေးခေါ် ဥပဒေပြုလွှတ်တော်တွင် ဥပဒေပြုနိုင်ခွင့်အာဏာ ရှိသော်လည်း နိုင်ငံအဓိပတိ၏ လက်အောက်ခံပင်ဖြစ်သည်။ ယင်းလွှတ်တော် အဖွဲ့ဝင် အချို့ကိုသာ ရွေးကောက် တင်မြှောက်ရ၏။ အဖွဲ့ဝင်များမှာ ကက်ဗိနက်အဖွဲ့ဝင် ၁၃ ဦး၊ ဖါးလန်းပါတီအမျိုးသားကောင်စီလူကြီး ၁၀၃ ဦး၊ တက္ကသိုလ်ကျောင်း ၁၂ ကျောင်းမှ အုပ်ချုပ်ရေးမှူး ၁၂ ဦး၊ လုပ်ငန်းဆိုင်ရာ ကိုယ်စားလှယ်များ၊ မြို့ကြီး ပြည်နယ်ကြီးများမှ ကိုယ်စားလှယ်များ ဖြစ်လေသည်။ ပြည်နယ်တိုင်းတွင် ဆိုင်ရာကိစ္စအချို့ကို ဆောင်ရွက်နိုင်ခွင့်ရသော အုပ်ချုပ်ရေးအဖွဲ့ အသီးသီးရှိသည်။

**စပိန်စာပေ။** ။စပိန်စာပေသည် အခြား ဥရောပ စာပေများကဲ့သို့ လက်တင်ဘာသာမှ ဆင်းသက်လာခဲ့သည်။ သို့ရာတွင် အာရေဗျ၊ ယဟူဒီ စာပေများနှင့် ပိုမိုနီးစပ်သည်။ ထို့ကြောင့် ခန့်ညားသည်။ မာန်ပါသည်။ နက်နဲသည်။ ယဉ်ကျေးသည်။ တခါတရံတွင်မူကား ကြမ်းကြုတ်ရက်စက်လေသည်။

စပိန်နိုင်ငံသည် ပထဝီအနေအထား အားဖြင့် အခြား ဥရောပနိုင်ငံများနှင့် အဆက်ပြတ်နေသောကြောင့် စပိန်လူမျိုးများသည် အခြားတိုင်းသားများနှင့် မရောဘဲ တသီးပုဂ္ဂလဖြစ်နေသည်။ အာဖရိက မြောက်ပိုင်း မူးဝါး လူမျိုးများနှင့် စစ်မက်ဖြစ်ပွားခဲ့၍ တခါက စပိန်နိုင်ငံသည် မူးဝါးတို့၏လက်အောက်သို့ ကျရောက်ခဲ့ဘူးသည်။ ဤအကြောင်းများကြောင့် စပိန်စာပေသည် အခြား ဥရောပ စာပေများနှင့် မတူဘဲ တဘာသာ ဖြစ်နေလေသည်။ စပိန်နိုင်ငံကို မူးဝါးတို့ သိမ်းပိုက်ထားခိုက် စပိန် မင်းမျိုး မင်းနွယ်များသည် အတိုင်းတိုင်း အပြည်ပြည်သို့ လှည့်ပတ်၍ စောင်းသီချင်း သီဆိုတီးမှုတ်ကြရာ၊ ထိုစာဆိုတို့ကို လမ်းလျှောက်စာဆိုဟုခေါ်ကြသည်။

စပိန်ဘာသာဖြင့် ရေးသားသော စာပေများတွင် ရှေးအကျဆုံးမှာ ၁၁၄၀ ပြည့်နှစ်က ရေးသော လင်္ကာတပုဒ်ဖြစ်သည်။ ထိုလင်္ကာကို ရေးသားသော စာဆိုတော်မှာ မူးဝါးလူမျိုးများ ဖက်က အမြဲ ကူညီနေသူ မွတ်စလင်တဦးဖြစ်သည်။ သို့သော် သူ၏လင်္ကာတွင် မူးဝါးလူမျိုးများကို တိုက်ခိုက်ခဲ့ပုံများကို ရေးသားထားလေသည်။ ထိုလင်္ကာသည် စပိန်နိုင်ငံ၏သမိုင်းကို ဖေါ်ပြသော လင်္ကာဖြစ်သည်။ ရှေးကျသော စပိန်စာပေ အရေးအသားများတွင် ဘာသာရေးဆိုင်ရာ ပုံပြင်အဖြစ်အပျက်များကို မှီး၍ ရေးသားသော ပြဇာတ်များသာတွေ့ရသည်။ (စပိန်နိုင်ငံ — လည်းရှု။)

စပိန်နိုင်ငံကို နှစ်ပေါင်း ၇၀၀ မျှ မူးဝါးတို့က သိမ်းပိုက်အုပ်စိုးခဲ့သဖြင့် စပိန်ဘာသာနှင့် စာပေ တိုးတက်မှု နည်းပါးခဲ့သည်။ ၁၇ ရာစုနှစ်လောက်တွင် စပိန်လူမျိုးတို့သည် အမေရိကတိုက်ကို တွေ့ပြီးလျှင်၊ တိုးတက်ကြီးပွားလာခဲ့ကြသည်။ ထိုအခါမှ စ ပိန် စာ ပေ လည်း တိုးတက်လာလေသည်။ ၁၅၅၀ ပြည့်နှစ်မှ ၁၆၈၀ ပြည့်နှစ်လောက်အတွင်းသည်ကား စပိန်စာပေ အထွန်းကားဆုံးသောအချိန် ဖြစ်သည်။ ထိုခေတ်၌ ဝတ္ထုများ၊ ပြဇာတ်များ၊ ကဗျာလင်္ကာနှင့် တေးကြီး ဖွဲ့ကြီးများကို ရေးသားကြလေသည်။

၁၆၀၅ ခုနှစ်တွင် သာဗင်တေး အမည်ရှိသော စာရေးဆရာသည် သူ၏မျက်မှောက်ခေတ်မရောက်မီ တခေတ်ခန့်က လူတို့စိတ်ဝင်စားကြသည့် ချစ်ခန်း ကြိုက်ခန်း စွန့်စားခန်းများကို အတိဝတ္ထုဖြစ်လောက်အောင် ဖွဲ့နွဲ့ရေးသားခြင်းပြုသည်ကို သရော်သောအားဖြင့် ဒွန်ကွီဟိုးတေး ဝတ္ထုကို ရေး

သွားလေသည်။ (သာဗင်တေး — ရှု။) ထိုစာအုပ်သည် စပိန် စာပေလောက၌ သာမဟုတ်၊ ဥရောပ စာပေလောကတွင်လည်း ကျော်ကြားလာခဲ့ရာ၊ ယခုတိုင်ပင် လှုကြိုက် များရှိနေလေသည်။ သာဗင်တေးနောက်မှ ပေါ်ပေါက်လာသော အခြား စာရေးဆရာများကလည်း သာဗင်တေးနည်းကိုလိုက်၍ ဝတ္ထု၌ ဇာတ်လိုက်ဖြစ်သော သူရဲကောင်းကို ပျက်ရယ်ပြုကာ ရေးကြပြန်သည်။ သာဗင်တေးမှာ စပိန်စာပေလောကတွင် အကျော်ကြားဆုံးသော စာဆိုဖြစ်လေသည်။ ထိုခေတ်တွင် ပြဇာတ်များလည်း အထူးတလည် ခေတ်စားနေ၏။ စပိန်ပြဇာတ်လောကတွင် လိုပေသာဗေးဂါနှင့် ကားလဒရွန် ဒေလာဗာကာ တို့သည် ထင်ရှား၏။ ဗေးဂါမှာ အသက် တဆယ့်နှစ်နှစ် အရွယ်ကပင် ပြဇာတ်ရေးလာခဲ့ရာ၊ သူ၏တသက်တာတွင် ပြဇာတ်ပေါင်း ၁၀၀၀ ကျော်ရေးခဲ့သည်ဟု ဆိုသည်။ ပြဇာတ်တခုကို သုံးနာရီအတွင်း အပြီးရေးနိုင်သောဟူ၏။ သူ၏ပြဇာတ်များမှာ လင်္ကာဖြင့် ရေးထားသဖြင့် ပို၍ အံ့ဩဖွယ် ကောင်းလေသည်။ ကားလဒရွန် ဒေလာဗာကာသည် နန်းတွင်းစာဆိုတော် ပြဇာတ်ဆရာတဦးဖြစ်သည်။ သူ၏ပြဇာတ်များမှာ သာသနာရေး အကျင့်သိက္ခာစောင့်ရှောက်ရေးတို့ကို ဖွဲ့နွဲ့သောပြဇာတ်များဖြစ်သည်။

၁၉ ရာစုနှစ် တွင် ဝတ္ထုများ ပေါ်လာ၍ သမိုင်း ဝတ္ထု၊ ဟာသဝတ္ထု၊ တောလက်ကျေးရွာဝတ္ထုများ ပေါ်ပေါက်လာလေသည်။ စပိန်လူမျိုးစာရေးဆရာထဲမှ ၁၉၀၄ ခုနှစ်၌ ပဌမဦးစွာ နိုဗဲဆုကိုဆွတ်ခူးသူမှာ ပြဇာတ်ရေးဆရာ ဟိုဗေး အေချေဂါးရိုင်းဖြစ်သည်။ ထိုပုဂ္ဂိုလ်မှာ အင်ဂျင်နီယာစာမေးပွဲကို ထိပ်ဆုံးက အောင်မြင်ခဲ့၏။ သင်္ချာပါမောက္ခလည်း ဖြစ်ခဲ့သည်။ အစိုးရအဖွဲ့တွင် ဘဏ္ဍာရေးနှင့် ပညာရေးဝန်ကြီးလည်းဖြစ်ခဲ့ဘူးလေသည်။ သူ၏ပြဇာတ်များမှာ ဥရောပတိုက်တွင် နာမည်ကျော်ကြားလေသည်။ အေချေဂါးရိုင်းမှာ ပြဇာတ် ရေးသားရာတွင်သာ ကျော်ကြားသည် မဟုတ်ဘဲ ပြဇာတ်စင် အဆင်အပြင်ဖက်၌လည်း ကျွမ်းကျင်သူတဦးဖြစ်ရကား ၁၈၇၃ ခုနှစ်မှ ၁၈၉၀ ပြည့်နှစ်လောက်အတွင်းတွင် ပြဇာတ်ရုံများကို သူကိုယ်တိုင် အုပ်ချုပ်ဦးစီးခဲ့၏။

၁၉ ရာစုနှစ် ကုန်ခါနီးလောက်တွင် ခေတ်စာပေ တိုးတက်စေရန် ကြိုးစားရာတွင် စကားပြေ ဝတ္ထုများ သာမက၊ ကဗျာလင်္ကာနှင့် ပြဇာတ်များမှာ ရှေးကထက် ပိုမိုထွန်းကားလာလေသည်။ အကောင်းဆုံးသော ကဗျာများ၊ စကားပြေ အရေးအသားများမှာ စပိန်ပိုင် အမေရိကန်ပြည်နယ်များမှ အစတွင်လာ၏။ စပိန် အမေရိကန် စာဆိုများသည် ခေတ်သစ်စာပေကို တီထွင်ရန် အဦးဆုံး စိတ်ကူးရသူများဖြစ်၏။ စပိန်ပြဇာတ်လောကတွင် ဘုရင်တဆူဟုခေါ်လောက်သော ယာစင်တိုဗီနဗင်တေးသည် နိုဗဲဆုကို ၁၉၂၂ ခုနှစ်တွင် ဆွတ်ခူးခဲ့သည်။ သူ၏ စူကာပန်း ပြဇာတ်မှာ တောရွာဓလေ့နှင့် လယ်သမားများအကြောင်းကို နောက်ခံထားသော အလွမ်းဇာတ် ဖြစ်၏။ ထိုပြဇာတ်မှာ ကမ္ဘာကျော်ဖြစ်လေသည်။

စပိန် စာရေးဆရာများတွင် နာမည်ကျော်ကြား၍ လူကြိုက်များသူမှာ ဗီသယိန်းတေးအီဗားနယေ့ ဖြစ်၍ ရုပ်ရှင်ရိုက်ခဲ့ဘူးသည့် ‘သွေးနှင့်မြေ’ ခေါ် ဝတ္ထုကြီးကို ရေးခဲ့လေသည်။

ပဌမကမ္ဘာစစ်ကြီး အပြီးတွင် ပေါင်းသင်းဆက်ဆံရေးနှင့် နိုင်ငံရေး ပြုပြင်ပြောင်းလဲမှုများကြောင့် စပိန်စာပေမှာ ထူးခြားစွာ ပြောင်းလဲလာလေသည်။ ၁၉၂၀ ပြည့်နှစ်လောက်သို့ ရောက်သောအခါ စပိန်စာဆိုများသည် တကယ့်အဖြစ်စစ် အဖြစ်မှန်တို့ကိုသာ ရေးသားလာကြလေသည်။

# စပိန်နိုင်ငံ၏အနုပညာအမွေအနှစ်များ

**စပိန်နိုင်ငံသည် လူအမျိုးမျိုးတို့က ဝင်ရောက်အုပ်စိုးခြင်းကို ခံခဲ့ရသောကြောင့် အနုပညာများမှာလည်း အသွင်အမျိုးမျိုး ပြောင်းလဲခဲ့ရလေသည်။ မူးဝါးလူမျိုးတို့၏ ဗိသုကာလက်ရာ၊ ဂေါ့သလူမျိုးတို့၏လက်ရာ၊ ရောမဆန်သောဗိသုကာလက်ရာ ဟူသည်တို့ကို စပိန်နိုင်ငံ၌တွေ့နိုင်သည်။ ပန်းချီဆေးရေးဖက်တွင် အယ်ဂရေးကိုး၊ ဗေလားစကေး၊ ဂိုးယာ၊ ပီကာဆိုတို့မှာ ထင်ရှားသော စပိန်အနုပညာရှင်များဖြစ်ပေသည်။**

**စပိန်အနုပညာ။** ။စပိန်နိုင်ငံ၏ သမိုင်းတလျှောက်တွင် မင်းပြောင်းမင်းလဲ များခဲ့သည်။ ထိုအကြောင်းကြောင့် စပိန်နိုင်ငံ၏ အနုပညာရပ်တို့ ထွန်းကားလာသည်မှာ များမကြာသေးကြောင်းကို တွေ့ရပေသည်။ စပိန်နိုင်ငံ၏ ရှေးခေတ်သမိုင်းကို သေချာစွာ မသိကြရလေ။ သို့သော် စပိန်နိုင်ငံသည် တခေတ်က ရောမပိုင်နိုင်ငံ ဖြစ်ခဲ့ကြောင်းကိုကား သိရသည်။ ထိုနောက်တွင် ဂေါ့သခေါ် တောင်ပေါ်သားများသည် မြောက်ဖက်မှနေ၍ရင်း၊ အာဖရိကမြောက်ပိုင်း မူးဝါး လူမျိုးတို့သည် တောင်ဖက်မှနေ၍ရင်း၊ ဝင်ရောက်အုပ်စိုးခဲ့ကြသည်။ ထိုသို့ ရောမ၊ ဂေါ့သ၊ မူးဝါး စသောလူအမျိုးမျိုးတို့ တခေတ်စီ ဝင်ရောက်အုပ်စိုးကြကုန်သောကြောင့် စပိန်အနုပညာရပ်များမှာလည်း အမျိုးမျိုးပြောင်း

လဲခဲ့ရလေသည်။ လူအမျိုးမျိုး အုပ်စိုးခဲ့ကြသည့်အနက်၊ ဗရင်ဂျီဂိုဏ်းဝင် ခရစ်ယန်နှင့် မွတ်စလင်တို့လည်း ပါဝင်လေရာ စပိန်နိုင်ငံရှိ သာသနာအဆောက်အအုံများ၊ နန်းတော်များမှာ အုပ်စိုးသောလူမျိုးကို လိုက်၍ ပိသုကာပုံစံ အမျိုးမျိုး ကွဲပြားခြားနားနေသည်။

စပိန်နိုင်ငံတွင် မူးဝါးလူမျိုးတို့၏ အနုပညာ လက်ရာကောင်းများ ကျန်ရစ်ခဲ့သည်။ ယင်းတို့အနက် ကော်ဒိုဗား ပလီကြီးနှင့် ကျော်စောလှသော အယ်လမ်ဗရာ နန်းတော် အဆောက်အအုံကြီးများမှာ အထင်အရှားဆုံး အဆောက်အအုံများဖြစ်သည်။

မူးဝါးလူမျိုးတို့ကို စပိန်နိုင်ငံမှ တွန်းလှန်လိုက်သော အချိန်တွင် မြောက်ဖက်နိုင်ငံ များမှ ရောမဆန်သော ပိသုကာ အနုပညာ ပုံစံများ ထွန်းကားလာပြန်သည်။ ထိုအချိန်အခါက၊ စပိန်နိုင်ငံတွင် ရောမဆန်သော ပိသုကာအဆောက်အအုံများကို တည်ဆောက်ခဲ့ကြ၏။ ၁၂ ရာစုနှစ် အကုန်အထိ ထိုရောမဆန်သော ပိသုကာပုံစံများ ခေတ်စားပြီးနောက်၊ ဂေါ့သပုံစံဖြင့် ဆောက်လုပ်သော အဆောက်အအုံများ ပေါ်ပေါက်လာပြန်သည်။ ဂေါ့သစံနစ်သည် စပိန်နိုင်ငံသို့ ရောက်ရှိခဲ့သော အနုပညာစံနစ်များအနက် ခေတ်အစားဆုံးစံနစ်ဖြစ်သည်ဟု ဆိုရပေမည်။ သို့ရာတွင် ဥရောပတိုက်တွင် ရီနေဆွန်းခေါ် ဉာဏ်သစ်အရေးပုံခေတ် သို့ရောက်သောအခါ၊ စပိန်နိုင်ငံတွင် ဂေါ့သစံနစ် သာမက



မူးဝါးလူမျိုးတို့၏ပိသုကာပညာဖြင့် မွမ်းမံထားခဲ့သော အယ်လမ်ဗရာ နန်းတော် တစိတ်တဒေသ

ယခင်က ခေတ်စားခဲ့သော စံနစ်ဟောင်းများလည်း ပြန်လည် ဆန်းသစ်လာပြန်သည်။ ထိုအခါတွင် စ ပိန် နိုင် ငံ တွင်း၌၊ တကျောင်းတဂါထာ၊ တရွာတပုဒ်ဆန်း ဆိုသကဲ့သို့ အနုပညာမှု အမျိုးမျိုး ပေါ်ပေါက်လာလေသည်။ ထိုသို့ ပေါ်ပေါက်လာသော မှုများကို ရောမမှု၊ ဂေါ့သမှု စသည်ဖြင့် အမည်မှည့်ရန် များပြားလှသဖြင့်၊ တီထွင်သူ၏အမည်အတိုင်း ခေါ်ဝေါ်ကြရလေသည်။ ပုံစံအားဖြင့် ဟွမ်သေအယ်ရဲရား တီထွင်သောပုံကို အယ်ရဲရားပုံ၊ ချူရီဂေးရား ဆိုသူ တီထွင်သောပုံကို ချူရီဂေးရားပုံ စသည်ဖြင့် ခေါ်ဝေါ်လေ့ရှိကြ၏။ (ပိသုကာအတတ် — လည်းရှု။)

စပိန်နိုင်ငံတွင် ထွန်းကားခဲ့သော အနုပညာရပ်များ အနက်၊ ပိသုကာ အတတ်သည် အဓိက ဖြစ်သည်။ ရှေးအခါက စပိန်နိုင်ငံတွင် မှတ်သားလောက်သော အနုပညာသည်ကြီးများ မပေါ်ပေါက်သေးချေ။ သို့သော်လည်း အမေရိကတိုက်၌ နယ်သစ်ပယ်သစ်များကို ရှာဖွေတွေ့ရှိခဲ့သည့် အချိန်မှစ၍ စီးပွားရေးတိုးတက်ဖွံ့ဖြိုးလာပြီးလျှင် အနုပညာရပ်များသည်လည်း ထွန်းကားလာခဲ့လေသည်။ (စပိန်စာပေ — ရှု။)

စပိန်နိုင်ငံ၏ပန်းချီဆေးရေးသမိုင်းကို ကြည့်ပြန်လျှင်၊ ရှေးဦးစွာ စပိန်နိုင်ငံကျက်သရေကို ဆောင်ရွက်ခဲ့သူမှာ စပိန်သားတယောက်မဟုတ်ဘဲ၊ ကရိကျွန်းသားဖြစ်သော အယ်ဂရေးကိုး ဖြစ်သည်။ အယ်ဂရေးကိုးဟူသည်မှာ 'ဂရိဆရာကြီး' ဟု အဓိပ္ပါယ်ရသည်။

အယ်ဂရေးကိုးသည် ကရိကျွန်းတွင် မွေးဖွား၍၊ အရွယ်ရောက်သောအခါ ဣတလီနိုင်ငံ ဗင်းနစ်မြို့၌ ဆရာကြီး တစ်ရှန်ထံတွင် ပညာဆည်းပူးလေသည်။ ထိုနောက် ရောမမြို့သို့ ပြောင်းရွှေ့နေထိုင်ခဲ့၏။ ရောမတွင် ခေတ္တမျှ နေထိုင်ပြီးနောက် တဖန် စပိန်နိုင်ငံသို့ ပြောင်းရွှေ့ကာ ထိုနိုင်ငံတွင် ရာသက်ပန် အခြေစိုက်ကာ နေထိုင်ခဲ့လေသည်။ ကြွယ်ဝချမ်းသာလာသော စပိန်ဘုရင် တို့သည် အ နု ပ ညာ ရပ်များကို အားပေးစ ပြုလာကြ၏။ ပြည်တွင်းရှိ အနုပညာသည်များကိုလည်း အခြားသောနိုင်ငံများကို စေလွှတ်ပြီးလျှင် အနုပညာရပ်များကို လေ့လာစေလေသည်။ ထို့ပြင် ဂျာမနီ၊ ဖလန်းဒါး အစရှိသော အနုပညာဖွံ့ဖြိုးရာ နိုင်ငံများမှ ထင်ရှားသော သုခုမ ပညာကျော်ကြီးများသည်လည်း စပိန်နိုင်ငံတွင်းသို့ အလည်အပတ် လာရောက်ခဲ့ကြရာမှ၊ မိမိတို့၏ အနုပညာရပ်များကို တဆင့်ဖြန့်ချီကြလေသည်။ ဖလန်းဒါးပြည်မှ ယန်ဗန်အိုက်၊ ဗိုင်းဒင်၊ ဂျရုမ်းဗော့ စသော ပန်းချီကျော်ကြီးများသည် စပိန်နိုင်ငံသို့ ရောက်ကြ၏။ ခရစ် ၁၆၀၃ ခုနှစ်တွင် ဖလန်းဒါးပြည်မှ ကျော်ကြားလှသော ဆရာကြီးရူးဗင်းသည် စပိန်နိုင်ငံသို့ သံအမတ်အဖြစ် ရောက်ရှိလာလေသည်။ ထိုအခါတွင် စပိန်ဘုရင်



စပိန်ပန်းချီကျော် မူရီလျို၏ 'အံကစားသမားများ' အမည်ရှိ ပန်းချီကား

သည် ရူးဗင်းအား စပိန်အနုပညာသည်များ၏ အကူအညီဖြင့် ပန်းချီကားများကို ရေးခြယ်စေ၏။ ရူးဗင်းသည် စပိန်အနုပညာသည်များအနက်၊ ဗေလားစကေး ဆိုသူ လူငယ်တဦး၏လက်ရာအစွမ်းအစကိုများစွာသဘောကျကာ၊ ထိုလူငယ်အား ဣ တ လီ သို့ စေလွှတ် သင့်ကြောင်း ဘုရင်အား တိုက်တွန်းလေသည်။ ဗေလားစကေး သည်ကား၊ ကမ္ဘာ့အနုပညာသမိုင်းတွင် အထင်ရှားဆုံး မှတ်တမ်းတင်ရသော ပုဂ္ဂိုလ်ကြီး ဖြစ်လေသည်။ ဗေလားစကေးသည် နန်းတွင်းပန်းချီဆရာကြီး ဖြစ်လေသည်။

စပိန်နိုင်ငံသို့ ရူးဗင်း ရောက်လာချိန်တွင်၊ ဗေလားစကေးသည် ဣတလီပြည်မှ ပုဂ္ဂိုလ်ထူးကြီးများဖြစ်သော၊ မိုက်ကယ် အန်ဂျလို အစရှိသူတို့အကြောင်းကို ကြားသိသည်နှင့် ဣတလီပြည်သို့ သွားရောက်လေ့လာလေသည်။ (မိုက်ကယ် အန်ဂျလို — ရှု။) ဣတလီပြည်တွင် အဆိုပါ ဆရာကြီးများ၏ လက်ရာများကို ကြည့်ရှုလေ့လာပြီးလျှင် မိမိကိုယ်ပိုင် လက်စွမ်းဖြင့် ဟန်သစ် မူသစ်များကို ဖန်တီးခဲ့လေသည်။ ထိုအချိန်မှစ၍ ဗေလားစကေးသည် စပိန် ပန်းချီဆေးရေး အတတ်တွင် ရှေ့တန်းသို့ တက်လာခဲ့ လေသည်။ စပိန် နိုင်ငံရှိ အခြားသော ပန်းချီဆရာ တို့သည် ဗေလားစကေးကို မနာလိုဝန်တိုဖြစ်ကြ၏။ သို့သော်လည်း ဗေလားစကေးမှာ စပိန်နိုင်ငံတွင်သာမက အခြားနိုင်ငံများအထိပင် ထင်ရှားကျော်ကြားခဲ့လေသည်။ (ဗေလားစကေး—ရှု။)

ဗေလားစကေး ကွယ်လွန်ပြီးနောက် စပိန်နိုင်ငံ၌၊ နည်းသစ် မူသစ်များ မပေါ်ပေါက်သဖြင့်၊ ဆရာကြီး၏ လက်ရာများမှာ ထင်ရှားလျက်ပင် ရှိလေသည်။ သို့သော် သာသနာရေးဆိုင်ရာ ပန်းချီကားများကို ရေးခြယ်ရာ၌ကား မူရီလျိုအမည်ရှိ ပန်းချီကျော်ကြီးသည်လည်း အထူးပင်ကျော်ကြားခဲ့သည်။ ထိုဆရာကြီးများ၏နောက်တွင် တိုးတက်သောအနုပညာသစ်များ ဖွံ့ဖြိုးကာ ဂိုးယာ၊ ပက်ဗလို ပီကာဆို အစရှိသော ကမ္ဘာ့အနုပညာအပြားကျော်ကြားသူများ စပိန်နိုင်ငံ၌ ထွန်းကားလာလေသည်။ ထိုသူတို့ကား ၂၀ ရာစုနှစ်၏ အနုပညာ ခေါင်းဆောင်ကြီးများ ဖြစ်ပေသည်။ (ဂိုးယာ။ ပီကာဆို, ပက်ဗလို — ရှု။)

**စပိန်ရေတပ်ကြီး။** ။စပိန်ဘာသာဖြင့် အာမာဒါ ဆိုသည်မှာ လက်နက်ကိုင် အင်အားစုကို ခေါ်ဆိုရာ အထူးသဖြင့် ရေတပ်များကို အာမာဒါဟု ခေါ်ဝေါ်ကြ၏။ စပိန်အာမာဒါ ဆိုသည်မှာကား ၁၅၈၈ ခုနှစ် စပိန်ဘုရင် ဒုတိယ ဖိလစ်က အင်္ဂလန်ပြည်ကို တိုက်ခိုက်ရန် စေလွှတ်ခဲ့သော ရေတပ်ကြီးကို ဆိုလိုပေသည်။

၁၅၈၈ ခုနှစ်တွင် ဒုတိယ ဖိလစ်ဘုရင်သည် အယ်လစ်ဇဗက် ဘုရင်မကြီး အုပ်စိုး၍ ပရိုတက်စတင့် ဂိုဏ်းသားတို့ လွှမ်းမိုးနေသော အင်္ဂလန်ပြည်ကို ဗရင်ဂျီနိုင်ငံအဖြစ် ပြောင်းလဲစေရန် တိုက်ခိုက်သိမ်းယူမည်ဟု ကြံ၍၊ အင်အားတောင့်တင်းလှသော ရေတပ်ကြီးတခုကို တည်ဆောက်ပြီးလျှင် မေဒီနား ဆီဒိုးနီးယား နယ်စားကြီးကို ဦးစီးအုပ်ချုပ်စေလေသည်။ ထိုရေတပ်ကြီးတွင် တိုက်သင်္ဘော ကြီးငယ်ပေါင်း ၁၃၀ မျှပါဝင်၍ ရေကြောင်းတပ်သား ၁၉,၀၀၀ နှင့် သင်္ဘောသား ၈,၀၀၀ မျှ ပါဝင်လေသည်။

စင်စစ် ထိုရေတပ်ကြီးကို ၁၅၈၇ ခုနှစ်ကပင် ပြင်ဆင်လျက်ရှိခဲ့သည်။ သို့သော် ဆာ ဖရန်းစစ် ဒရိတ်သည် စပိန်နိုင်ငံပိုင်ကမ်းခြေသို့ ဝင်ရောက်၍ စပိန်သင်္ဘောများကို တိုက်ခိုက်ကာ မီးတင်ရှို့ခဲ့သဖြင့်၊ စပိန်ရေတပ်ကြီး ချီတက်ဖို့ရာ ကြန့်ကြာသွားခဲ့သည်။ ၁၅၈၈ ခုနှစ် မေလတွင် အင်္ဂလန်ပြည်ဖက်သို့ ချီတက်လာရာ၌ လေမုန်တိုင်းကျသဖြင့် ရေတပ်ကြီး ကစဉ့်ကရဲ ဖြစ်သွားသောကြောင့်၊ ကိုရွန်းနားတွင် ရပ်နား၍ ပြန်လည်ပြင်ဆင်ခဲ့ရလေသည်။ ထိုနောက်မှတဖန် ချီတက်ပြန်ရာ ဇူလိုင်လ ၁၉ ရက်နေ့တွင် အင်္ဂလိပ်ရေလက်ကြားကြီးကို ဖြတ်ကျော်မိလေသည်။ ထိုအခါ အင်္ဂလိပ်တို့ဖက်မှ လော့ဟောင်းဝဒ် ခေါင်းဆောင်သော အင်္ဂလိပ်ရေတပ်သည် သင်္ဘောကလေး အစင်း ၈၀ ခန့်နှင့် ခုခံတိုက်ခိုက်လေသည်။

စပိန်ရေတပ်မှာ သင်္ဘောကြီးများသာ အများအပြားပါဝင်သဖြင့် အင်္ဂလိပ် တိုက်သင်္ဘောကလေးများကဲ့သို့ လျင်မြန်ပေါ့ပါးစွာ ရွေ့ရှားလှည့်ပတ် တိုက်ခိုက်ခြင်း မပြုနိုင်ချေ။ လော့ ဟောင်းဝပ် ကလည်း စီမံခန့်ခွဲမှု ကောင်းသဖြင့် စပိန်ရေတပ်ကြီးမှာ ငှက်ကြီးတကောင်ကို ငှက်ကလေးများက ဝိုင်း၍ အမွေးများ ဆွဲနုတ်နေဘိသကဲ့သို့ အင်္ဂလိပ်ရေတပ်၏ လှည့်ပတ်တိုက်ခိုက်ခြင်းကို ခံရလေသည်။ ထို့ကြောင့် စပိန်သင်္ဘောများစွာပင် ပျက်စီးနစ်မြုပ်ကုန်၍၊ ရွှေငွေဘဏ္ဍာနှင့် ရိက္ခာများတင်လာသော သင်္ဘောအချို့ကိုလည်း အင်္ဂလိပ်တို့က လက်ရသိမ်းပိုက်နိုင်ကြလေ၏။

အစီအစဉ်အရဆိုလျှင် ထိုစဉ်က စပိန်ပိုင် နယ်သာလန်ပြည်မှစစ်တပ်များကို တင်ဆောင်၍ အင်္ဂလန် ပြည်သို့ ပို့ပေးကာ တိုက်ခိုက်ရန်ဖြစ်သည်။ ထို့ကြောင့် စပိန်ရေတပ်ကြီးသည် ကဲလေးမြို့ဆိပ်ကမ်းသို့ ရောက်လျှင် စစ်တပ်များထံမှ သတင်းကိုစောင့်ယင်း ကျောက်ချနားနေခဲ့သည်။ ဩဂုတ်လ ၇ ရက်နေ့ သန်ကောင်ယံတွင် ထိုသို့စခန်းချနေသော ရေတပ်ကြီးရှိရာသို့ အင်္ဂလိပ်ရေတပ်မှ သင်္ဘော ၈ စင်းကို မီးရှို့၍ မျှောချလိုက်သဖြင့်၊ စပိန်ရေတပ်ကြီးမှ သင်္ဘောများ ကြံရာမရ ဖြစ်ကာ၊ ကျောက်ကြိုးများကို ဖြတ်၍၊ ပင်လယ်ပြင်သို့ ထွက်ခဲ့ရလေသည်။ ပင်လယ်ပြင်မှ အသင့်စောင့်နေသော လော့ ဟောင်းဝပ်သည် ၈ ရက်နေ့မိုးသောက်ယံတွင် စပိန်သင်္ဘောများ ကို ရှပ်ရှပ်ချွံချွံ ဆီးကြို တိုက်ခိုက်သဖြင့်၊ စပိန်သင်္ဘောအများပင် နစ်မြုပ်ပျက်စီးရလေ၏။ အချို့လည်း ရန်သူ့လက်တွင်းသို့ ကျရောက်ခဲ့လေသည်။

ထိုမျှ အပျက်နာလှသောကြောင့် စပိန်ရေတပ်ကြီးကိုကြီးမှူးရသူ မေဒီးနား ဆီဒိုးနီးယား နယ်စားကြီး သည် အင်္ဂလန်ပြည်ကို ရေတပ်ဖြင့်တိုက်ခိုက်ရန်အကြံကို လက်လျှော့၍ စပိန်နိုင်ငံသို့ပြန်ရန် စီစဉ်ရလေ၏။ ယင်းသို့ဆုတ်ခွာရန် စီစဉ်ရာတွင် ကြွင်းကျန်နေသေးသော သင်္ဘောများကို အင်္ဂလန်ကျွန်းမြောက်ဖက်မှ လှည့်ပတ်၍ ဆုတ်ခွာစေခဲ့လေသည်။

ကံဆိုးမ သွားလေရာ မိုးလိုက်၍ရွာ ဟူသကဲ့သို့ သင်္ဘောများ အင်္ဂလန်ကျွန်းမြောက်ဖက် အရောက်တွင် လေပြင်းမုန်တိုင်း ကျရောက်လေတော့သည်။ ထို့ကြောင့် သင်္ဘောများ ကစဉ့်ကရဲဖြစ်ကာ အချို့မှာ ပင်လယ်ထဲ၌ နစ်မြုပ်၍ ၎င်း၊ အချို့မှာ စကော့တလန်ပြည်နှင့် အိုင်ယာလန်ပြည်၏ ကျောက်ဆောင်ထူထပ်သော ကမ်းခြေများဖြင့် ရိုက်ခတ်မိ၍၎င်း၊ ပျက်စီးနစ်မြုပ်ကုန်လေသည်။

ပင်လယ်သမုဒ္ဒရာ အတွင်း၌ နစ်မြုပ် ပျက်စီးသွားသော စပိန်သင်္ဘောကြီးပေါင်းမှာ ၆၀ ခန့်ဖြစ်၍ လူပေါင်း ၁၀,၁၈၅ ခန့် သေကြေပျက်စီးလေ၏။

ထိုသို့ပျက်စီးသူများထဲတွင် စပိန်နိုင်ငံရှိ အထက်တန်းစား အိမ်ထောင်တိုင်းမှ အိမ် သား တ ယောက် သို့မဟုတ် တ



စပိန်ရေတပ်ကြီး အင်္ဂလိပ်ရေလက်ကြားအတွင်းသို့ ရောက်ရှိလာစဉ်



ပြင်သစ်နိုင်ငံအလယ်ပိုင်းရှိ စပျစ်ဥယျာဉ်တခု

ယောက်ထက် မက ပါဝင်သည်ဟု ဆိုလေသည်။ စပိန်နိုင်ငံသို့ သင်္ဘောအစင်း ၅၀ ခန့်မျှသာ ပြန်ရောက်သည်။ ထို ရေတပ်ချင်း တိုက်ပွဲတွင် မိမိတို့နှင့် အင်အားချင်း မမျသော စပိန်ရေတပ်ကြီးကို နိုင်နင်းလိုက်ခြင်းမှာ လော့ဟောင်းဝပ်နှင့် ဆာ ဖရန်းစစ် ဒရိတ် စသော အင်္ဂလိပ်ရေကြောင်း သူရဲကောင်းကြီးများကြောင့်ပင် ဖြစ်လေသည်။ (ဒရိတ်, ဆာဖရန်းစစ် — လည်းရှု။)

**စပျစ်ပင်။** ။ကမ္ဘာ့ မြောက်လုံးခြမ်းတွင်ရှိသော ဥရောပတိုက်၊ မြောက် အမေရိကတိုက်၊ အင်္ဂလန်ပြည်နှင့် အိုက်စလန်ကျွန်း အစရှိသော အရပ်ဒေသများတွင် ကျောက်ဖြစ်နေသည့် စပျစ်ပင်၏ အရွက် အခက်၊ ပင်စည် ရိုးတံနှင့် အစေ့များကို မြေကြီးထဲမှ တူးဖော် ရရှိသဖြင့် စပျစ်ပင်သည် ရှေးပဝေဏီအခါက မြေပြင်အနှံ့ ပေါက်ရောက်သည်ဟု သိရသည်။ ယခုလက်ရှိ စိုက်ပျိုးနေကြသော စပျစ်ပင်မျိုးအချို့သည် မြေကြီးထဲမှရသော စပျစ်ခက်၊ စပျစ်ရွက်တို့နှင့် အလွန်ဆင်ကြသည်။

ကမ္ဘာဟောင်းတွင် စပျစ်ပင်ကို ပဝေဏီကာလကပင် လုပ်ငန်းတရပ်အဖြစ် စိုက်ပျိုးကြပေသည်။ လူ့ဖြစ်စဉ်သမိုင်းကို စာတင်သည့် အချိန်လောက်မှစ၍ စပျစ်သီးကို စားကြပြီးလျှင်၊ စပျစ်ရည်ကို အသုံးပြုခဲ့ကြ၏။ နှစ်ပေါင်း ၃၀၀၀ အထက်က အီဂျစ်နိုင်ငံ တွင် မြှုပ်နှံထားသော သင်္ချိုင်းဂူများအတွင်းမှ ဆေးစိမ်ထားသည့် လူသေရုပ်အလောင်းများနှင့်အတူ စပျစ်သီးစေ့များကို တွေ့ကြ၏။ ထို့ကြောင့် စပျစ်ပင်သည် လူတို့ ပဌမဆုံးစိုက်ပျိုးသည့် သစ်သီးပင်တပင်ဟု ဆိုရပေမည်။

စပျစ်ပင် သည် ကက်စပျန် ပင်လယ် တဝိုက်တွင် မူလပေါက်ရောက်သည်ဟု ဆိုလေသည်။ ထိုဒေသမှတဆင့် ဂရိနိုင်ငံ၊ စစ္စလီကျွန်း စသည့် အရပ်များသို့ စပျစ်ပင်စိုက်ပျိုးခြင်းသည် ပျံ့နှံ့၍သွားရာ၊ ဘီစီ ၆၀၀ ပြည့်နှစ်ခန့်တွင် ပြင်သစ်နိုင်ငံ၌ စပျစ်ပင်ကို စိုက်ပျိုးလေသည်။ ပဌမနှင့် ဒုတိယရာစုနှစ်များအတွင်း ရောမလူမျိုးတို့ ယူဆောင်သွားသဖြင့် စပျစ်ပင်သည် အင်္ဂလန်ပြည်သို့ ရောက်ရှိခဲ့လေသည်။ စပျစ်ပင်သည် ဤကဲ့သို့ အနောက် ဖက် သို့ ရောက် သည့် အချိန်တွင်၊ အရှေ့ဖက်ရှိ အိန္ဒိယနိုင်ငံသို့လည်း စပျစ်ပင်များရောက်သွားလေသည်။ ယခုအခါ စပျစ်ပင်နှင့် သင့်တော်သော ရာသီဥတုမျိုးရှိသည့် နိုင်ငံတိုင်းတွင် ထိုအပင်ကို စိုက်ပျိုးလျက်ရှိကြသည်။

စပျစ်ပင်မှာ နွယ်ပင်ဖြစ်သည်။ ယင်း၏ ရုက္ခဗေဒမျိုးစုအမည်မှာ 'ဗိုင်တစ်' ဖြစ်၏။ အလွန် အေးသော ရာသီဥတုဒဏ်ကို မခံနိုင်သဖြင့် အချို့ အေးသော နိုင်ငံများတွင် စပျစ်ပင်ကို ဖန်မိုးဖန်ကာများ အတွင်း၌ လိုအပ်သောအပူရှိန်ကိုပေး၍ စိုက်ပျိုးကြသည်။ အသုံးချနည်းကိုလိုက်၍ စပျစ်သီးကို အမျိုးအစား ခွဲခြားထားသည်။ (၁) ဝိုင်အရက်အတွက်၊ (၂) စားပွဲတင် သစ်သီး အတွက်၊ (၃) စပျစ်သီးခြောက် လုပ်ရန် အတွက်၊ (၄) စပျစ်ရည် ရိုးရိုး

အတွက်ဟူ၍ ဖြစ်သည်။ ဝိုင်အရက်အတွက် စပျစ်သီးမှာလည်း နှစ်မျိုးရှိသည်။ တမျိုးမှာ အချိုဓာတ်အသင့်အတင့်သာပါ၍ အချဉ်ဓာတ် ပိုပါသည်။ ကျန်တမျိုးမှာ အချိုဓာတ်များ၍ အချဉ်ဓာတ် အတော်အသင့်သာ ပါလေသည်။ စားပွဲတင်သစ်သီးအတွက် စပျစ်သီးမျိုးမှာ အရွယ်အစား၊ ပုံသဏ္ဍာန်၊ အရောင်အဆင်း ကောင်းမွန်ရပေမည်။ အရသာမှာ မချိုလွန်း၊ မချဉ်လွန်း စေရ။ ရပ်ဝေးသို့တင်ပို့ရာ၌ အကိုင်အတွယ် ခံနိုင်ရပေမည်။ စပျစ်သီးခြောက်လုပ်ရန် အတွက်မှာ အသီးမှည့်များ၌ အချိုဓာတ်များရမည်။ အစေ့များ မပါရှိရန် အရေးကြီးသည်။ စပျစ်သီးခြောက်များမှာ ပျော့ပျောင်းရပေမည်။ စပျစ်ရည်ရိုးရိုးအတွက် ဖြစ်လျှင် စပျစ်သီးတွင် အချိုဓာတ် အတော်အသင့်မျှသာ ပါရှိ၍ အချဉ်ဓာတ် ပိုရပေမည်၊ အနံ့အရသာ ထူးကဲရပေမည်။

စပျစ်သီးများသည် အစိမ်းရောင်၊ အနီရောင်၊ အဝါရောင်၊ ခရမ်းရောင် နှင့် ရောင်စုံ ပြောက်ကျားများ ရှိလေသည်။ အချို့သော စပျစ်ပင်များသည် နှစ်ပေါင်း ၃၀၀ မှ ၄၀၀ တိုင်အောင် အသီးများသီးတတ်သည်။ ဥရောပတိုက်တွင် ပြင်သစ်နိုင်ငံသည် နှစ်ပေါင်းများစွာပင် စပျစ်သီးအထွက်ဆုံးနိုင်ငံ ဖြစ်ခဲ့သည်။ အမေရိကန်ပြည်ထောင်စုတွင် ကာလီဖိုးနီးယားပြည်နယ်၌ စပျစ်ပင်ကိုအကြီးအကျယ်စိုက်ပျိုးသည်။ မြန်မာနိုင်ငံ မိုးပါးရေရှား ရပ်ဝန်း၌လည်း စပျစ်ပင်ကို အနည်းငယ်မျှ စိုက်ပျိုးလျက်ရှိသည်။

**စဖင့်ရုပ်များ**။ ။စဖင့်ရုပ်များကို ဂရိ၊ အီဂျစ် စသော နိုင်ငံများတွင် တွေ့ရသည်။ ဂရိနိုင်ငံမှစဖင့်မှာ အလွန်ဆန်းကြယ်သည်။ အများအားဖြင့် ခြင်္သေ့ကိုယ်၌ သိမ်းငှက်၊ သို့မဟုတ် လူ၊ သို့မဟုတ် သိုးထီးတို့၏ ဦးခေါင်းတခုခုကို တပ်ဆင်ထားသော အရုပ်များဖြစ်သည်။ အချို့မှာ မိန်းမ၏ အပေါ်ကိုယ်တပိုင်း၊ ခြင်္သေ့ကိုယ်၊ မြွေအမြီးနှင့် ငှက်၏ တောင်ပံများကို စုပေါင်း တပ်ဆင်ထားသော အရုပ်များ ဖြစ်သည်။ အချို့မှာလည်း မိန်းမ၏ဦးခေါင်း တပ်ဆင်ထားသော ငှက်ရုပ်များ ဖြစ်သည်။ သိမ်းငှက်၏ဦးခေါင်း တပ်ဆင်ထားသော ဂရိ စဖင့်ရုပ်များကို ခရစ်မပေါ်မီ နှစ်ပေါင်း ၂၅၀၀ ကပင် တွေ့ရသည်။

အီဂျစ် စဖင့်ရုပ်များမှာ မြန်မာတို့၏ မနုဿီဟရုပ်များနှင့် ဆင်သည်။ (မနုဿီဟ— ရှု။) ယောကျ်ား၏ ဦးခေါင်းနှင့် ခြင်္သေ့ ကိုယ်လက်အင်္ဂါများကို ပေါင်းစပ် ထုလုပ်ထားသည်။ အများအားဖြင့် ယင်းစဖင့်ရုပ်များ၏ ဦးခေါင်းများမှာ ရှေးအီဂျစ် ဖါရိုးဘုရင်များ၏ ဦးခေါင်းပုံတူများဖြစ်ကြသည်။ ကမ္ဘာပေါ်တွင် အကြီးဆုံးသော စဖင့်ရုပ်မှာ အီဂျစ်နိုင်ငံ ဂီဇာမြို့ ပိရမစ် အဆောက်အအုံကြီးအနီးတွင် ရှိ၍ ကျောက်သားဖြင့် ထုလုပ်ထားသည်။ ယင်းစဖင့်ရုပ်



အီဂျစ်နိုင်ငံ ဂီဇာမြို့ရှိ ကမ္ဘာပေါ်တွင်အကြီးဆုံး စဖင့်ရုပ်

ကြီး၏ အလျားမှာ ၁၈၉ ပေရှိ၍ အမြင့် ၆၅ ပေရှိသည်။ သို့သော် ယင်းစဖင့်ရုပ်ကြီးကို ထုလုပ်သည့် ခုနှစ် သက္ကရာဇ်ကိုကား အသေအချာ မသိရပေ။ ခက်ဖရင်းဘုရင် စိုးမိုးစဉ် ခရစ်မပေါ်မီ နှစ်ပေါင်း ၂၉၀၀ က ပေါ်ပေါက်လာခဲ့ဖွယ်ရာ အကြောင်းရှိသည်ဟု ယူဆရသည်။ စဖင့်ရုပ်ကြီး၏ မျက်နှာမှာ ရှေးအီဂျစ် ဖါရိုးဘုရင်တဦး၏ မျက်နှာဖြစ်သည်ဟု ဆိုကြသည်။ သို့သော် စဖင့်ရုပ်ကြီး၏မျက်နှာသည် ရှေးမွတ်စလင်လူမျိုးတို့၏ လက်ချက်ဖြင့် ပွန်းပဲ့ပျက်စီးခဲ့ရခြင်းကြောင့် မည်သည့် ဖါရိုးဘုရင်၏ မျက်နှာ ပုံပန်း ဖြစ်သည်ကို မသိနိုင်တော့ချေ။

တနှစ်စဖင့်ရုပ်များသည် ခရစ်မပေါ်မီနှစ်ပေါင်း ၂၀၀၀ က ပေါ်ပေါက်ခဲ့၍ အီဂျစ် အနုပညာ၏ ခန့်ညား ဆန်းကြယ်သော သရုပ်ကို ဖော်ပြကြလေသည်။ ဂီဇာမြို့ စဖင့်ရုပ်ကြီးမှအပ မင်းဖစ်မြို့ရှိ စဖင့်ရုပ်သည် အခြားသော စဖင့်ရုပ်များအနက် အကြီးဆုံးဖြစ်သည်။ ကျောက်ဖြူဖြင့်ထုလုပ်ထား၍ အလျား ၁၇၂ ပေ ၆ လက်မနှင့် အမြင့် ၅၆ ပေရှိသည်။ ယင်း၏မျက်နှာပုံပန်းမှာ ယောကျ်ားအသွင် ဝတ်ဆင်ထားသော ဟက်ရှက်စွတ်ဘုရင်မကြီး၏ မျက်နှာပုံပန်းနှင့် တူသကဲ့သို့ရှိသည်။ ဘီစီ ၁၄၄၀ ပြည့်နှစ်က ထုလုပ်ထားခဲ့၍ အလျား ၁၇ ပေစီရှိ သိုးထီး၏ဦးခေါင်း တပ်ဆင်ထားသော စဖင့်ရုပ်များကိုလည်း သီးဗီးမြို့၌တွေ့နိုင်လေသည်။

ဂရိ စဖင့်ရုပ် နှင့် အီဂျစ် စဖင့်ရုပ်များကား မတူကြချေ။ ဂရိ စဖင့်ရုပ်များသည် ယဉ်ကျေးမှု အနုပညာသဘောနှင့်

မည်သို့မျှ စပ်ဆိုင်ခြင်းမရှိချေ။ အီဂျစ်စပင့်ရုပ်များကား ဖါရိုးဘုရင်တဦးဦး သို့မဟုတ် ယင်းဘုရင်အား စောင့်ရှောက်သော ဘုရားတပါးပါးနှင့်စပ်ဆိုင်၍၊ ယင်းတို့ကို လူတို့က ကိုးကွယ်သမှုပြုကြသည်။

စမ။ ။သုပညာနဂရဆိန္နမင်းလက်ထက် သာသနာသက္ကရာဇ် ၆၂၉ ခုနှစ် အတိုသက္ကရာဇ် ၇ ခုတွင် ဥတ္တမသီရိမထေရ် စီရင်သည်ဟုဆိုသော ကပ္ပါလင်္ကာရကျမ်း အလိုအားဖြင့်၊ မြန်မာအက္ခရာတို့တွင် စာဖို၊ စာမ ဟူ၍ အက္ခရာနှစ်မျိုးရှိသည်ဟု ဆို၏။ ဂဠုန်ငှက်ဟု အမှတ်သညာပြုကြသော နေမင်းက ညွှန်းဆိုသည့် အက္ခရာများသည် စာဖိုအက္ခရာဖြစ်၍၊ ကရဝိတ်ငှက်ဟု အမှတ်သညာပြုကြသော လမင်းက ညွှန်းဆိုသည့် အက္ခရာများသည် စာမ အက္ခရာဖြစ်သည်။ စာဖိုကို 'စဖို' ဟူ၍ရင်း၊ စာမကို 'စမ' ဟူ၍ရင်း အသံထွက်လေ့၊ ရေးလေ့ပြုကြသည်။

**စာဖို (စဖို)**။ ။နေမင်းသည် သတ္တဝါတို့အကျိုးငှာ မူလအက္ခရာ တလုံး၊ ဘူတအက္ခရာ ၂ လုံးကို တနေ့လျှင် ၃ ကြိမ်ပြသည်။ (မူလအက္ခရာဆိုသည်မှာ အရင်းအမြစ်ဖြစ်သော အက္ခရာဖြစ်၍၊ ဘူတအက္ခရာကား မူလအက္ခရာမှပြန့်ပွားသော အက္ခရာဖြစ်သည်။) နေမင်းပြသည့် မူလအက္ခရာမှာ၊ နေဝန်း၏ ပကတိပုံသဏ္ဌာန်ဖြစ်သော 'ဝ' အက္ခရာဖြစ်၏။ နေထွက်သည့်အချိန်တွင်မူ 'ဝ' တခြမ်းဖြစ်သော 'ဂ' အက္ခရာပုံကိုသာ မြင်ရ၏။ နေဝင်ချိန်တွင်လည်း ထိုနည်းတူ 'ဂ' အက္ခရာပုံကိုပင် မြင်ရ၏။ ထို့ကြောင့် 'ဂ' အက္ခရာ ၂ လုံးမှာ နေမင်းပြသော ဘူတအက္ခရာ ၂ လုံးဖြစ်၏။ ယင်းအက္ခရာ ၂ လုံးအနက် တလုံးမှာ ထွက်အက္ခရာဖြစ်၍၊ ကျန်တလုံးမှာ ဝင်အက္ခရာဖြစ်၏။ ယင်းအက္ခရာများမှ ပြန့်ပွားသော အက္ခရာတို့သည် စဖို အက္ခရာများဖြစ်၏။ ထို့ကြောင့် 'နေထွက် ဂ ငယ်၊ နေ့လယ် ဝ ပင်၊ နေဝင် ဂ ဖြစ်ပြန်၊ သုံးတန်အက္ခရာ၊ နေမှလာ၊ မှတ်ပါစဖိုဂိုဏ်း' ဟူ၍ဆိုလေသည်။

**စာမ (စမ)**။ ။စမ အက္ခရာများတွင် မူလ စမ အက္ခရာ၊ ခေတ် စမ အက္ခရာ ဟူ၍ ၂ မျိုးရှိ၏။ မူလ စမ အက္ခရာတို့သည် ကာယသိဒ္ဓိ၊ သုခသိဒ္ဓိ၊ ပိယသိဒ္ဓိ၊ ဓနသိဒ္ဓိ ဟူသော သိဒ္ဓိ ၄ ပါးကို ပြီးစေနိုင်၏။ ထွက်ရပ်ပေါက်နိုင်၏။ ခေတ် စမ အက္ခရာများကား ဓနသိဒ္ဓိနှင့် ပိယသိဒ္ဓိ ဟူသော သိဒ္ဓိ ၂ ပါးကိုပြီးစေနိုင်၏။

**မူလစမ**။ ။လမင်းသည် မူလအက္ခရာတလုံး၊ ဘူတအက္ခရာ ၄ လုံး၊ ပေါင်း ၅ လုံးကို တလလျှင် ၅ ကြိမ်ပြ၏။ လဆန်း ၃ ရက် ၄ ရက်တို့တွင် လ၏သဏ္ဌာန်သည် 'ဂ' အက္ခရာနှင့်တူ၏။ ယင်း 'ဂ' အက္ခရာသည်ပင် လမင်းပြသော ဘူတအက္ခရာတလုံးဖြစ်၏။ လဆန်း ၈ ရက်ခန့်ရောက်သော အခါ 'ဓ' အက္ခရာပုံကို တွေ့ရသည်။ လပြည့်နေ့တွင်ကား လ၏ အဝန်းကို အကုန်အစင် တွေ့ရသဖြင့် 'ဝ' အက္ခရာသဏ္ဌာန်ဖြစ်၏။ လဆုတ် ၈ ရက်တွင် လသည် 'ဗ' အက္ခရာနှင့်တူ၍၊ လကွယ်ခါနီးတွင်မူ 'ပ' အက္ခရာသဏ္ဌာန်တွေ့မြင်

အီဂျစ်နိုင်ငံ ကာနက်မြို့တွင် ဤသို့စပင့်ရုပ်များတဖက်တချက်ရံလျက်ရှိသောနေရာကိုတွေ့မြင်နိုင်သည်။



ရ၏။ ယင်းသို့အားဖြင့် လမင်းပြသော အက္ခရာများမှာ ‘ဝ’ အက္ခရာဟူသော မူလအက္ခရာတလုံးနှင့် ဂ၊ ဓ၊ ပ၊ ဗ ဟူသော ဘူတအက္ခရာ ၄ လုံးဖြစ်၏။

ယင်းအက္ခရာ ၅ လုံးပေါ်လာပုံကို တနည်းပြကြသေး၏။ လယ်ကိုင်း ဘုန်းတော်ကြီး ဦးဝရသမ္မောဓိ၏ အလိုအရ၊ လဆန်း၌ ‘ဂ’ ငယ်အက္ခရာ၊ လပြည့်ခါနီးတွင် ‘ဗ’ အက္ခရာ၊ လပြည့်လျှင် ‘ဝ’ အက္ခရာပြ၍၊ လပြည့်ကျော်တွင် လဆန်းကဲ့သို့ ‘ဂ’ နှင့် ‘ဗ’ ပင်ပြသည်ဟူ၏။

လမင်းပြသည့် ဂ၊ ဓ၊ ဝ၊ ပ၊ ဗ ဟူသော အက္ခရာ ၅ လုံးတွင် အစအက္ခရာ ၂ လုံးဖြစ်သော (ဂ၊ ဓ) နှင့် အဆုံးအက္ခရာ ၂ လုံးဖြစ်သော (ပ၊ ဗ) တို့ သဘောချင်းတူညီသည်ဟု ဆို၏။ အကြောင်းကား ‘ဂ’ ကိုပက်လက်လှန်လျှင် ‘ပ’၊ ‘ဗ’ ကိုမှောက်လိုက်လျှင် ‘ဓ’ ဖြစ်သောကြောင့်ပင်ဖြစ်၏။ ယင်းတူညီသော အက္ခရာ ၄ လုံးမှ ‘ဂ’ နှင့် ‘ဗ’ အက္ခရာ ၂ လုံးကိုပယ်လျှင် (ပ၊ ဝ၊ ဓ) ဟူ၍ အက္ခရာ ၃ လုံးကျန်၏။ အထက်တွင် နေမင်းမှ ဂ၊ ဝ၊ ဂ၊ အက္ခရာသုံးလုံးရကြောင်း ပြဆိုခဲ့ပြီ။ ထိုသုံးလုံးမှ ‘ဂ’ နှင့် ‘ဂ’ ကိုပေါင်းစပ်လိုက်လျှင် ‘က’ ကိုရသည်။ ထိုနေမင်းမှအက္ခရာကို လမင်းမှအက္ခရာနှင့် ပေါင်းလိုက်ပြန်လျှင်၊ က၊ ဝ၊ ပ၊ ဝ၊ ဓ၊ ဟူသော အက္ခရာ ငါးလုံး ရပြန်သည်။ အထက်ပါအက္ခရာ ၅ လုံးတွင် ဘူတအက္ခရာများဖြစ်သော က၊ ပ၊ ဓ အက္ခရာ ၃ လုံးကို အောက်အထက်လှန်လိုက်လျှင် က၊ ပ၊ ဓ၊ ယ၊ ဂ၊ ဗ ဟူသောအက္ခရာ ၆ လုံးရ၏။ မူလအက္ခရာ ‘ဝ’ ၂ လုံးနှင့်ပေါင်းလျှင် ၈ လုံးရ၏။ ယင်းအက္ခရာ ၈ လုံးကို အထက်တတန်း အောက်တတန်း အောက်ပါအတိုင်း စီ၍ထားရသည်။

က ၊ ပ ၊ ဓ ၊ ဝ
ယ ၊ ဂ ၊ ဗ ၊ ဝ

ယင်းအက္ခရာ ၈ လုံးသည် ဂဏန်းအရေအတွက်အားဖြင့် ၃၃ ဖြစ်လျှင် မှန်သည်ဟု အဆိုရှိ၏။ နံသင့်ကောက်၍ ပေါင်းလျှင် ၃၃ ရသည်။

က၊ ပ၊ ဓ၊ ဝ........ ၂ + ၅ + ၇ + ၄ = ၁၈ } = ၃၃
ယ၊ ဂ၊ ဗ၊ ဝ........ ၄ + ၂ + ၅ + ၄ = ၁၅ }

ထိုကြောင့် က၊ ပ၊ ဓ၊ ဝ။ ယ၊ ဂ၊ ဗ၊ ဝ ဟူသော အက္ခရာ ၈ လုံးသည် အတုမရှိသောအကျိုးကို ပေးစွမ်းနိုင်သည့် လေးလုံးသော စမ တို့ကို ကောက်ယူရာကောက်ယူကြောင်းဖြစ်သော အခြေခံအက္ခရာများဖြစ်၏။

ဓာတ်စမ။ ။နေသိဒ္ဓိနှင့် ပီယသိဒ္ဓိ ဟူသော သိဒ္ဓိ ၂ ပါးကို ပြီးစေနိုင်သော ဓာတ်အက္ခရာများသည် ဓာတ် ၄ ပါးကို ဆုံးဖြတ်ဝေဖန်နိုင်ခြင်းသာလျှင် လိုရင်းဖြစ်၏။ ယင်းဓာတ် ၄ ပါးကိုအမှီပြု၍သော ၄ လုံးသောအက္ခရာတို့ ဖြစ်လာကြ၏။

ဓာတ် စမ အက္ခရာ ၄ လုံးတွင် တလုံးကို နေနှင့်လတို့မှပြ



ကပ္ပါလင်္ကာရဝဏ္ဏနာကျမ်းလာ ဓာတ်စမအက္ခရာ ၄ လုံး ကောက်ယူနည်းတမျိုး

သော အက္ခရာကို ပေါင်း၍ယူရမည်ဟုဆို၏။ ယင်းအက္ခရာကား ‘ဝ’ အက္ခရာဖြစ်၏။ အက္ခရာတလုံးကို သမုဒ္ဒရာမှ မငြိမ်မသက် လှုပ်ပေါ်လော်လီသောငါးတွင် ယူအပ်၏ဟုဆိုသည်။ ယင်းအက္ခရာသည် ငရံ့အမြီးဖျားရှိ ‘ဗ’ အက္ခရာ ဖြစ်၏။ အက္ခရာတလုံးကို ကောင်းကင်တွင် ပျံသန်း၍ မြေ၌အစာရှာသော ဆန်းကြယ်သော အဆင်းရှိသည့် ငှက်၌ ယူအပ်၏ဟု ဆိုရာ၌၊ ဥဒေါင်းငှက်၏ အမြီးဖျား၌ရှိသော ‘စ’ အက္ခရာကို ဆိုလို၏။ ကျန်အက္ခရာတလုံးကိုမူ ဦးခေါင်းမရှိဘဲ ခြေထောက်များသောငါး၌ ယူအပ်၏ဟု ဆိုခြင်းကြောင့်၊ ခြေရှစ်ချောင်းရှိသော ဗုဇွန်လုံး၏ကျောမှ ‘ဓ’ အက္ခရာကို ယူရသည်။ ဤသို့ဖြင့် စ၊ ဓ၊ ဗ၊ ဝ ဟူသော ဓာတ် စမ အက္ခရာ ၄ လုံးရ၏။ ထိုကြောင့် ‘နေလဥဒေါင်း၊ တွင်းအောင်းပုဇွန်၊ ဖေါ်ညွှန်ငါးရံ့၊ လေးတန့် အက္ခရာကို စ၊ ဓ၊ ဗ၊ ဝ ဟူ၍ မှတ်ယူရာ၏’ ဟု အဆိုရှိလေသည်။

ဓာတ် စမ အက္ခရာများကို ဇေစိဝါဒအားဖြင့် ကောက်ယူပုံမှာ တမျိုးဖြစ်၏။ နေလမှပြသော ‘ဝ’ အက္ခရာ ၂ လုံးကိုပေါင်းလျှင် ‘ထ’ အက္ခရာရ၏။ သမုဒ္ဒရာ၌ကျက်

စားသော ဒိုင်းငရဲ့၏အမြီးရှိ ‘ဝ’ အက္ခရာတလုံး၊ ဥဒေါင်းငှက်အမြီးရှိ ‘စ’ အက္ခရာတလုံး၊ အခြေများ၍ ခေါင်းမရှိသော လယ်ဗုဇွန်လုံး၏ ကျောခွဲရှိသော ‘င’ အက္ခရာတလုံးအားဖြင့် င၊ ထ၊ စ၊ ဝ ဟူသော ဓာတ် စမ ၄ လုံးရသည်ဟု ဆိုသည်။

တနည်းအားဖြင့်လည်း၊ အက္ခရာတလုံးကို တရားဂုဏ် ၆ ပါးဖြင့် ရှာအပ်၏ဟု ဆိုရာ၌၊ ‘က’ မှစ၍ ရေတွက်သော် ၆ ခုမြောက်ဖြစ်သော ‘စ’ အက္ခရာကိုရ၏။ အက္ခရာတလုံးကို ကောင်းကျိုး ၅ ပါးဖြင့် သိအပ်၏ဟုဆို၏။ ‘က’ မှစ၍ ရေသော် ၅ ခုမြောက်အက္ခရာသည် ‘င’ ဖြစ်၏။ အက္ခရာတလုံးသည် ဆင်ကိုဟောသော ဂဇအက္ခရာတို့ဖြင့် ယူအပ်၏ ဆိုသဖြင့် ဆင်ဖြင့်ညွှန်သော အက္ခရာသည် ‘ထ’ ဆင်ထုးဖြစ်၏။ ကျန်အက္ခရာတလုံးမှာ ခြသေ့်၊ ပူးသတ္တဝါ ၂ ခုဖြင့် သိအပ်၏ဟု ဆိုသည်။ ခြသေ့်မှာ အင်္ဂါနံ ဂြိုဟ်သက် ၈ နှစ်၊ ပူးမှာ သောကြာနံ ဂြိုဟ်သက် ၂၁ နှစ်၊ ပေါင်း ၂၉ ဖြစ်၏။ ‘က’ မှစ၍ရေသော် ၂၉ ခုမြောက် အက္ခရာသည် ‘ဝ’ ဖြစ်၏။ ဤသို့ကောက်ယူခြင်းဖြင့် စ၊ င၊ ထ၊ ဝ၊ ဟူသော အက္ခရာ ၄ လုံးရ၏။

တနည်းကား တရားဂုဏ် ၆ ပါးဖြင့် သိအပ်သော အက္ခရာကား၊ ‘က’ မှစ၍ရေသော် ၆ ခုမြောက်ဖြစ်သော ‘စ’ ဖြစ်၏။ ကောင်းကျိုး ၅ ပါးဖြင့်ရအပ်သော အက္ခရာကား၊ ၅ မှာကြာသပတေးဖြစ်၍ ဂြိုဟ်သက် ၁၉ ဖြစ်၏။ ‘က’ မှစ၍ ၁၉ ခုမြောက်အက္ခရာသည် ‘ဓ’ ဖြစ်၏။ ဆင်ဖြင့်ညွှန်ပြအပ်သော အက္ခရာ ဟူရာ၌ ဆင်ကား ပါဠိအခေါ် ဂဇ ဖြစ်၏။ ‘ဂ’ မှာ တနင်္လာနံ ဂြိုဟ်သက် ၁၅ နှစ်၊ ‘ဇ’ မှာ အင်္ဂါနံ ဂြိုဟ်သက် ၈ နှစ်ဖြစ်၍၊ ၂ ခုပေါင်း ၂၃ ဖြစ်၏။ ‘က’ မှစ၍ရေသော် ၂၃ ခုမြောက်အက္ခရာကား ‘ဗ’ ဖြစ်၏။ ခြသေ့်၊ ပူးသတ္တဝါ ၂ ခုဖြင့် သိအပ်သော အက္ခရာကား၊ ခြသေ့်မှာ အင်္ဂါနံ ဂြိုဟ်သက် ၈ နှစ်၊ ပူးမှာ သောကြာနံ ဂြိုဟ်သက် ၂၁ နှစ်၊ ပေါင်း ၂၉ ဖြစ်၏။ ‘က’ မှစ၍ ရေတွက်သော် ၂၉ ခုမြောက် အက္ခရာကား ‘ဝ’ ဖြစ်၏။ ဤသို့ကောက်ယူခြင်းဖြင့် စ၊ ဓ၊ ဗ၊ ဝ ဟူသော စမ အက္ခရာ ၄ လုံးကိုရပြန်၏။



အင်္ဂလိပ်အမျိုးသမီးဂီတစာဆို အက်သယ်မေရီစမိုက်

ဤသို့လျှင်၊ ဓာတ် စမ အက္ခရာများကို ကောက်ယူရာ၌ ဝါဒအမျိုးမျိုးရှိသည်။ ဝါဒတမျိုး၌ကား ဓာတ်စမသည် စ၊ ဓ၊ ဗ၊ ဝ အက္ခရာ ၄ လုံးဖြစ်သည်ဟုဆိုသည်။ အခြားဝါဒတမျိုးကမူ စ၊ ဓ၊ ဗ၊ ဝ။ င၊ ထ၊ စ၊ ဝ ဟူ၍ ၂ မျိုးရှိသည်။ လက်ဝဲစမ၊ လက်ျာစမ ၂ မျိုးဖြစ်သည်ဟု ဆို၏။ ကေစီဝါဒ၌ကား ဓာတ်စမသည် င၊ ထ၊ စ၊ ဝ ဟူ၍ ၄ လုံးသာရှိသည်ဟုဆို၏။ ထိုကြောင့်ပင် ကပ္ပိလက်ာရ ဝဏ္ဏနာကျမ်းပြုဆရာ ဒီးဒုတ်ဦးဘချို က နှောင်းဆရာတို့ ပညာဖြင့် ညှိနှိုင်း၍ မှန်ကန်အောင်ကောက်ယူကြရန် တိုက်တွန်းရေးသားခဲ့လေသည်။

အထက်တွင်ရေးသားဖေါ်ပြသော အကြောင်းအရာများကား ကပ္ပိလက်ာရကျမ်းအရ ကောက်ယူနည်းအမျိုးမျိုးဖြစ်၏။ ယခုကာလ အများသိရှိကြသည့် စ၊ ဓ၊ ဗ၊ ဝ ဟူသော စမ လေးလုံးကား၊ ဗုဇွန်၏ကိုယ်၊ ဝံ၏ရင်ပတ်၊ ငရဲ့ဒိုင်း၏အမြီး၊ ဒေါင်း၏အမြီးဖျားရှိ စာလေးလုံးဖြစ်သည်ဟု နားလည်ကြ၏။ အချို့က ကမ္ဘာတည်ဦးစကပင် သတ္တဝါများ၏ကိုယ်တွင် ပါရှိ၍ မည်သည့်အခါမှ မပျောက်ပျက်နိုင်သည့် စာကြီးများဖြစ်သည်ဟု ဆိုကြ၏။ ဦးပုည၏ ဝိဇယပြဇာတ်တွင် ‘ဗုဇွန်၊ ဝံ၊ ငါး၊ ဒေါင်းမြီးဖျားမှာ၊ စာလေးပါးကျေကာမှ၊ သွေပါ့မယ် လုယဉ်ကြူးငဲ့’ ဟု စပ်ဆိုထား၏။ ဗုဇွန်၏ကိုယ်တွင် ‘ဗ’ အက္ခရာ၊ ဝံ၏ရင်ပတ်တွင် ‘ဝ’ အက္ခရာ၊ ငရဲ့ဒိုင်း၏အမြီးတွင် ‘စ’ အက္ခရာ၊ ဒေါင်းမြီးဖျားတွင် ‘ဓ’ အက္ခရာဟူ၍ စမအက္ခရာလေးလုံးကို ဖွဲ့ဆိုထားသည်ဟု ယူဆကြသည်။

**စမိုက်,အီး၊ အမ် (ခရစ် ၁၈၅၈–၁၉၄၄)။** ။အင်္ဂလိပ်အမျိုးသမီး ဂီတစာဆိုနှင့် စာရေးဆရာမကြီး အက်သယ်မေရီ စမိုက် သည် ၁၈၅၈ ခုနှစ် ဧပြီလ ၂၃ ရက်နေ့တွင် လန်ဒန်မြို့၌ ဖွားမြင်၍ ဗိုလ်ချုပ် ဂျေ၊ အိပ်၊ စမိုက်၏ သမီးဖြစ်သည်။ အင်္ဂလိပ်စာဆိုလောကတွင် တဦးတည်းသော ထင်ရှားသည့် အမျိုးသမီး ဂီတစာဆိုဖြစ်၏။ ၁၉၂၂ ခုနှစ်တွင် ဒီ၊ ဘီ၊ အီး ခေါ် ဗြိတိသျှနိုင်ငံတော် အမျိုးသမီးဘွဲ့ထူးကို ရရှိသည်။ အက်သယ်သည် ငယ်စဉ်အခါက ဂျာမနီနိုင်ငံ လိုက်ပဆစ်မြို့၌ ဂီတစာဆိုကျော်ကြီး ဟိုင်းနရစ် ဖွန် ဟာတ်ဆို

ဂင်ဗတ် ထံတွင် ဂီတပညာကို လေ့လာဆည်းပူးခဲ့သည်။ သူ စပ်ဆိုသော သီချင်းများ သည် အင်္ဂလန်ပြည် မှာထက် ဥရောပတိုက်၌ ပိုမို၍ကျော်ကြားသည်။ အက်သယ်သည် အင်္ဂလိပ်ဂီတစာဆိုပင် ဖြစ်လင့်ကစား ဂီတပညာကို ဂျာမနီနိုင်ငံ၌ လေ့လာဆည်းပူးခဲ့သူ ဖြစ်သည့်အလျောက် သူ၏သီချင်းများမှာ အင်္ဂလိပ်မဆန်ဘဲ ဂျာမန်ဆန်လေသည်။ ရှေးဦးစွာ သူစပ်ဆိုသော ဖန်တာဇီယိုခေါ် အော်ပရာဇာတ်ပွဲကို ရုံတင်ပြသရာတွင် လူကြိုက်များလှ၏။ ထိုနောက် ဆက်လက်၍ လိုက်ပဆစ်၊ ပရာဟ၊ ဗီယင်နား စသည့် မြို့ကြီးများတွင် သူကိုယ်တိုင် ရေးသားသော အော်ပရာဇာတ်များကို ရုံတင် ပြသခဲ့သည်။ လန်ဒန်မြို့တွင် ကပ်ဗင့် ဥယျာဉ်၌ ရုံတင်ပြသော ဒါဝေါအော်ပရာဇာတ်မှာ အလွန်ကျော်ကြားသည်။ ထိုဇာတ်များအပြင် သီချင်းများကိုလည်း စီကုံးခဲ့သဖြင့် ထင်ရှားသော အမျိုးသမီးစာဆိုကြီး ဖြစ်သည်။ သူသည် အမျိုးသမီးများ အဖိအနှိပ်ခံရမှုမှ တော်လှန်ရေးတွင် အရေးပါစွာ ဝင်ရောက်ဆောင်ရွက်ကာ 'အမျိုးသမီးများချီတက်ခဲ့' ဟူသော အမျိုးသမီးများစိတ်တက်ကြွဖွယ်ရာ သီချင်းကို ရေးသားခဲ့သည်။ ထိုအမျိုးသမီး ဂီတစာဆိုကား၊ ၁၉၄၄ ခုနှစ် မေလ ၈ ရက်နေ့တွင် ကွယ်လွန်လေသည်။

**စမစ်, အေ** (ခရစ် ၁၇၂၃–၉၀)။ ။အက်ဒမ် စမစ် သည်ကား စကော့လူမျိုး ဘောဂဗေဒ ပညာရှိကြီးတဦး ဖြစ်၏။ အကောက်တော်ဌာန၊ စာရင်းစစ်မင်းကြီး အက်ဒမ် စမစ်၏ သားဖြစ်၍၊ စကော့တလန်ပြည် ကပ်ကောဒီမြို့တွင် ၁၇၂၃ ခုနှစ် ဇွန်လ ၅ ရက်နေ့၌ ဖွားမြင်သည်။ ငယ်စဉ်က မွေးရာဇာတိမြို့ရှိ ကျောင်း၌၎င်း၊ ထိုနောက် ဂလပ်စဂိုး တက္ကသိုလ်နှင့် အောက်စဖို့ တက္ကသိုလ်များ၌၎င်း၊ ပညာသင်ကြားခဲ့၏။ ယထာဘူတပညာနှင့် နိုင်ငံရေးပညာများကို စိတ်ပါဝင်စားစွာ ဆည်းပူးခဲ့လေသည်။



စကော့အမျိုးသား ဘောဂဗေဒပညာရှင် အက်ဒမ်စမစ်

၁၇၅၂ ခုနှစ်မှ ၁၇၆၃ ခုနှစ်တိုင် ဂလပ်စဂိုးတက္ကသိုလ်တွင် တက္ကဗေဒပါမောက္ခအဖြစ် ခန့်ထားခြင်းခံရ၏။ ၁၇၅၉ခုနှစ်တွင် စိတ်ဓာတ်နှင့်ဆိုင်ရာ စာအုပ်ကြီးတအုပ်ကို ရေးသည်။ ၁၇၆၃ ခုနှစ်တွင် ပါမောက္ခအလုပ်မှထွက်၍၊ နိုင်ငံခြားကို လှည့်လည်ခဲ့ရာ၊ ၁၇၆၆ ခုနှစ် အောက်တိုဘာလတွင် နေရင်းဇာတိမြို့သို့ ပြန်လည်ရောက်ရှိ၏။ ထိုမြို့မှာပင်နေ၍ 'လူမျိုးတို့၏ဘောဂဗလ' ခေါ် စာအုပ်ကြီးကို ရေးသားသည်တွင် အလွန်တရာ နာမည်ကျော်ကြားသွားလေသည်။ ထိုစာအုပ်ကြီးမှာ ဘောဂဗေဒ ဆိုင်ရာ စာအုပ်များထဲတွင် အကောင်းဆုံးသော စာအုပ်ဖြစ်သည်ဟု တန်ဖိုးဖြတ်ကြသည်။ ထိုစာအုပ်တွင် လွတ်လပ်စွာကုန်သွယ်မှုကို ထောက်ခံရေးသားထားလေသည်။ ထို့ပြင် ထိုစာအုပ်သည် ဘောဂဗေဒ ပညာရပ် အတွက် အလွန်ပင် အရေးပါ အရာရောက်လှ၏။ ဘောဂဗေဒကို သီးခြား သိပ္ပံပညာရပ် အနေဖြင့် ထားထိုက်ကြောင်းကိုလည်း အကြောင်းပြထားလေ၏။

ထိုပညာရှိကြီးသည် ၁၇၉၀ ပြည့်နှစ် ဇူလိုင်လ ၁၇ ရက်နေ့တွင် ကွယ်လွန်သည်။

**စမတ်, ဂျေ၊ စီ** (ခရစ် ၁၈၇၀–၁၉၅၁)။ ။ယန် ခရစ္စယန် စမတ်သည် တောင်အာဖရိက ပြည်ထောင်စု နိုင်ငံမှ နိုင်ငံပြုသူခမိန်ဖြစ်သည်။ ဗိုးဝါး လယ်သမားမျိုးရိုးမှ ဆင်းသက်လာသူဖြစ်၍၊ ၁၈၇၀ ပြည့်နှစ် မေလ ၂၄ ရက်နေ့တွင် ကိပ်ကိုလိုနီနယ် ကိပ္ပတောင်းမြို့၌ ဖွားမြင်သည်။ စတယ်လင်ဗော့မြို့၊ ဝိတိုရိယ ကောလိပ်ကျောင်းမှ ဘီ၊ အေ ဘွဲ့ကိုရပြီးနောက်၊ အင်္ဂလန်ပြည်သို့ သွားရောက်ကာ၊ ကိမ်းဗရစ် တက္ကသိုလ်တွင် ဥပဒေပညာကို ဆည်းပူးလေသည်။ အင်္ဂလန်ပြည်တွင် ပညာဆည်းပူးခဲ့ပြီး၍၊ အာဖရိကတိုက်သို့ ပြန်ရောက်သောအခါ ကိပ္ပတောင်းမြို့တွင် နေထိုင်ကာ ရှေ့နေအလုပ်ဖြင့် အသက်မွေးရာ၌ နာမည်ရခဲ့လေသည်။ ထိုစဉ်ကပင် စမတ်သည် နိုင်ငံရေးတွင် စိတ်ပါဝင်စားလာခဲ့ရာ၊ အထူးသဖြင့် ဗြိတိသျှအင်ပိုင်ယာ ကျယ်ပြန့်အောင် စွမ်းဆောင်ပေးခဲ့သူ စဲစီး ရုတ် ကို အားကျပြီးလျှင်၊ ဗိုးဝါးသမတနိုင်ငံများကို ဂရိတ်ဗြိတိန်နှင့် ပူးပေါင်းရန် လိုလားခဲ့၏။ သို့သော် မကြာမီ ရုတ်သည် ထရန်စဗား သမတနိုင်ငံကို အတင်းအဓမ္မသိမ်းယူရန် ကြံစည်ခဲ့သည်ကို သိရှိသောအခါ စမတ်သည် စိတ်ထားပြောင်းသွား၍၊ သူ၏အမျိုးသားများ အကျိုးအတွက်ကိုသာ ဆောင်ရွက်တော့မည်ဟု သန္နိဋ္ဌာန်

ချပြီးလျှင်၊ ထရန်စဗားသို့ ပြောင်းရွှေ့ နေထိုင်လေသည်။ (ရုတ်, စဲ့စီး—လည်း ရှု။) ထရန်စဗားတွင် ရှေ့နေ အလုပ်ဖြင့် အသက်မွေးခဲ့ရာ တွင်လည်း နာမည် ရခဲ့ပြန်သည်။ ထိုအခါ ထရန်စဗား သမတနိုင်ငံ၏ သမတ ကရူးဂါးက စမတ်၏ အရည်အချင်းကို သိမြင်လာသဖြင့်၊ ၁၈၉၇ ခုနှစ်တွင် အစိုးရရှေ့နေကြီးအဖြစ် ခန့်ထားခဲ့လေ၏။ ထိုစဉ်က စမတ်မှာ အသက် ၃၀ ခန့်မျှသာ ရှိသေးသည်။

၁၈၉၉ ခုနှစ်တွင် ဗိုးဝါးစစ်ပွဲများ စတင်ဖြစ်ပွားသောအခါ စမတ်သည် ပဌမတွင် စည်းရုံးရေးတာဝန်များကိုသာ လုပ်ကိုင်ခဲ့ရလေသည်။ သို့သော် မကြာမီ ဗိုးဝါးတပ်များကို ခေါင်းဆောင်ကာ တိုက်ပွဲဝင်ခဲ့ရ၏။ ထိုအခါတွင် သူသည် ရှေ့နေအဖြစ် အစွမ်းပြနိုင်သကဲ့သို့ စစ်ဆင်မှုရေးရာတွင်လည်း အစွမ်းပြနိုင်ခဲ့သည်။ အထူးသဖြင့် ပြောက်ကျားစစ်ဆင်ရေးတွင် အလွန်ကျွမ်းကျင်သော ခေါင်းဆောင်တဦးအဖြစ် အသိအမှတ်ပြုကြရလေသည်။ နောက်ဆုံးတွင် ပြောက်ကျားတပ်များ၏ သေနာပတိအဖြစ်ပင် ဆောင်ရွက်ခဲ့ရ၏။ (ဗိုးဝါးစစ်ပွဲ — ရှု။)

၁၉၀၂ ခုနှစ်တွင် ဗိုးဝါးစစ်ပွဲပြီး၍၊ စစ်ပြေငြိမ်းရေးစာချုပ်ချုပ်ဆိုရာ၌၊ စမတ်မှာ အရေးပါအရာရောက်သော ကိုယ်စားလှယ်တဦးအဖြစ် ပါဝင်ခဲ့ရပေသည်။ ထိုနောက် တောင်အာဖရိကတိုက်တွင် စစ်ကြောင့် အခြေအနေ ပျက်ပြားခဲ့ရသည်ကို ပြန်လည် ကောင်းမွန်လာအောင် ပြန်လည်ထူထောင်ရေးလုပ်ငန်းများကို ကြိုးစားဆောင်ရွက်ခဲ့ရ၏။ သူ၏ ရဲဘော်ကြီး ဗိုလ်ချုပ် ဗိုတာနှင့်အတူ တောင်အာဖရိကတိုက်၌ အင်္ဂလိပ်နှင့်ဗိုးဝါးတို့ ပြန်လည်သင့်မြတ်အောင် ဆောင်ရွက်ခဲ့လေသည်။

၁၉၀၆ ခုနှစ်တွင် စမတ်သည် အင်္ဂလန်ပြည်သို့ သွားရောက်၍ လွတ်လပ်ရေးဆုံးရှုံးရသော ထရန်စဗားနှင့် နာတဲ၊ ကိပ်ကိုလိုနီပြည်နယ် စသည့် တောင်အာဖရိကတိုက်ပြည်နယ်များကို ကိုယ်ပိုင်အုပ်ချုပ်ရေးပေးရန်အတွက် ကြိုးပမ်းခဲ့လေသည်။ သူ၏ကြိုးပမ်းမှုများကြောင့် ၁၉၀၆ ခုနှစ်တွင် ထရန်စဗားသည် ကိုယ်ပိုင်အုပ်ချုပ်ရေးကို ရရှိခဲ့သည်။ ၁၉၁၀ ပြည့်နှစ်တွင်၊ ဗိုးဝါးနယ်များဖြစ်သော ထရန်စဗားနှင့် ဩရိန်း ဖရီးစတိတ်တို့အပြင် ဗြိတိသျှပိုင် နယ်သစ်များဖြစ်သော နာတဲနှင့် ကိပ်ကိုလိုနီပြည်နယ် နှစ်ခုတို့ကို ပူးပေါင်းပြီးသော် တောင် အာဖရိကတိုက် ပြည်ထောင်စုနိုင်ငံ တည်ထောင်ခဲ့လေသည်။ ထိုပြည်ထောင်စုနိုင်ငံ၏ အစိုးရအဖွဲ့တွင် စမတ်သည် ကာကွယ်ရေး၊ ပြည်တွင်းရေးနှင့် သတ္တုတွင်းဌာနဝန်ကြီးအဖြစ် ဆောင်ရွက်ရလေသည်။ မကြာမီ ဘဏ္ဍာရေးဌာနဝန်ကြီးအဖြစ်ကိုပါ ဆောင်ရွက်ရပြန်၍၊ အစိုးရအဖွဲ့ထဲတွင်၊ အရေးပါဆုံးသောသူတယောက် ဖြစ်လာလေ၏။

ပဌမကမ္ဘာစစ်ကြီးအတွင်းက၊ ပြည်ထောင်စုနိုင်ငံ၏ ဝန်ကြီးချုပ်ဖြစ်သူ ဗိုတာနှင့်အတူ တောင်အာဖရိကတိုက်တွင် ဗြိတိသျှအင်ပိုင်ယာ မယိမ်းမယိုင်ရလေအောင် ကြိုးပမ်းခဲ့ကြ၏။ ဂျာမန်နှင့် အင်္ဂလိပ်တို့ စစ်စဖြစ်သည်နှင့်တပြိုင်နက်၊ ဂျာမန်တို့က အားပေးအားမြှောက် ပြုခဲ့ခြင်းကြောင့်၊ တောင်အာဖရိက ပြည်ထောင်စုနိုင်ငံရှိ ဗိုးဝါးလူမျိုးအချို့သည် ဗြိတိသျှတို့၏ ဩဇာလွှမ်းမိုးမှုကို တွန်းလှန်ရန် ပုန်ကန်ထကြွကြလေသည်။ ယင်းသို့ထကြွခဲ့သည်ကို ဗိုလ်ချုပ်ဗိုတာနှင့်အတူ အောင်မြင်စွာ နှိမ်နင်းလိုက်လေသည်။ ထိုမျှမကသေး၊ စမတ်သည် ဗိုလ်ချုပ်ဗိုတာနှင့်အတူ တပ်ကိုဦးစီး တိုက်ခိုက်ခဲ့သဖြင့် အနောက်တောင် အာဖရိကပြည်နယ်ကိုပင် သိမ်းယူနိုင်ခဲ့လေသည်။ မျှားမကြာမီ စမတ်သည် ဗိုလ်ချုပ်ရာထူးတွင် ခန့်ထားခြင်းခံရပြီးနောက်၊ ဂျာမန် အရှေ့အာဖရိကပြည်နယ်ကို တိုက်ခိုက်သိမ်းယူခဲ့သည်။



တောင်အာဖရိကပြည်ထောင်စု၏ ကြီးပွားတိုးတက်ရေးကို ဆောင်ရွက်ခဲ့သော စစ်သူကြီး ယန်ခရစ္စယန်စမတ်

၁၉၁၇ ခုနှစ်တွင် စမတ်အား ဗြိတိသျှအစိုးရက၊ လန်ဒန်မြို့သို့ဖိတ်ခေါ်၍၊ စစ်ကက်ဗိနက် အဖွဲ့ဝင်တဦးအဖြစ် ခန့်ထားလေ၏။ ထိုစဉ်က စမတ်သည် လေတပ်တွင်၎င်း၊ အခြားစစ်တပ်ဆိုင်ရာ ကိစ္စများတွင်၎င်း တိုးတက်ပြုပြင်ရေးအတွက် အကြံဉာဏ်များပေးခဲ့၏။ လန်ဒန်လေကြောင်းကာကွယ်ရေးများကိုလည်း ကြီးကြပ်စီမံခဲ့လေသည်။ တခါတရံ စစ်မြေပြင်များသို့ပင် သွားရောက်ကာ ဗိုလ်မှူး၊ ဗိုလ်ချုပ်များနှင့် ဆွေးနွေးခဲ့၏။

ထို့ပြင် ပါရစ် ငြိမ်းချမ်းရေး ညီလာခံ၌ အမေရိကန်သမတ ဝီလဆန်နှင့်အတူ သမိုင်းတင်ရစ်အောင် ဆောင်ရွက်ခဲ့လေ

သည်။ စမတ်သည် နိုင်ငံပေါင်းချုပ်အသင်းကြီးကို အမေရိကန်သမတ ဝီလဆန်နှင့်အတူ စတင်တည်ထောင်ခဲ့သူဖြစ်၏။ ၁၉၁၉ ခုနှစ်တွင် အာဖရိကတိုက်သို့ ပြန်ခဲ့ပြီးနောက်၊ ဗိုတာ ကွယ်လွန်သောအခါ၊ ပြည်ထောင်စုနိုင်ငံ၏ ဝန်ကြီးချုပ်ရာထူးကို ဆက်ခံရလေသည်။ ထိုအတောအတွင်း တောင်အာဖရိကတိုက်တွင် ဟာဆော့ ခေါင်းဆောင်သော အမျိုးသားပါတီသည် အင်အားကောင်းလာခဲ့လေရာ၊ ၁၉၂၄ ခုနှစ် ရွေးကောက်ပွဲကြီးတွင်၊ စမတ်သည် အရေးနိမ့်သွားလေသည်။ ထိုနောက်တွင် ၉ နှစ်မျှ အတိုက်အခံအဖွဲ့ ခေါင်းဆောင်အဖြစ်ဆောင်ရွက်ခဲ့ယင်း၊ ယထာဘူတပညာကို လေ့လာလိုက်စား၍ ကျမ်းတစောင်ပင် ပြုစုခဲ့သေးသည်။ ထိုအတောအတွင်း နိုင်ငံရေး အခြေအနေမှာလည်း၊ မငြိမ်မသက်ဖြစ်နေခဲ့လေ၏။ ၁၉၃၃ ခုနှစ်တွင်ကား၊ အမျိုးသားပါတီ၏ခေါင်းဆောင် ဟာဆော့နှင့် နားလည်မှုရယူပြီးသော် ညွန့်ပေါင်းအစိုးရဖွဲ့ကာ စမတ်က ဒုတိယဝန်ကြီးချုပ် အဖြစ် ဆောင်ရွက်ခဲ့လေသည်။

ဒုတိယကမ္ဘာစစ်ကြီး ဖြစ်ပွားသောအခါ၊ ဟာဆော့က ကြားနေလိုသော်လည်း စမတ်နှင့်နောက်ပါတို့က၊ ဂျာမနီအား စစ်ကြေညာလိုက်သည်။ လွှတ်တော်တွင် ဟာဆော့၏ ကြားနေရေး အဆိုမှာ ရှုံးနိမ့်သွားသဖြင့်၊ စမတ်က အစိုးရအဖွဲ့သစ် ဖွဲ့ကာ၊ သူကိုယ်တိုင် ဝန်ကြီးချုပ် အဖြစ် ဆောင်ရွက်လေ၏။ စမတ်အစိုးရအဖွဲ့သည် ဂျာမနီနိုင်ငံအား စစ်ကြေညာလေသည်။ ၁၉၄၀ ပြည့်နှစ်တွင် ပြည်ထောင်စု ကာကွယ်ရေး တပ်ဖွဲ့များ၏ သေနာပတိ အဖြစ် ခံယူခဲ့၏။ ၁၉၄၁ ခုနှစ်တွင် ဆဋ္ဌမဂျော့ဘုရင်က စစ်သူကြီး အဖြစ် ခန့်အပ်လေသည်။ ဒိုမီနီယန်စစ်သားကောင်းများ ထဲမှ ထိုရာထူးအဆင့်အတန်းကို စမတ်သည် ပဌမဆုံးရရှိခဲ့သူ ဖြစ်၏။ ထိုနောက်တွင် သူသည် လန်ဒန်မြို့သို့ သွားရောက်ကာ စစ်ဖက်ဆိုင်ရာ အကြံပေးအရာရှိအဖြစ် ဆောင်ရွက်ခဲ့သည်။ သူ၏ခေါင်းဆောင်မှုဖြင့် တောင်အာဖရိက ပြည်ထောင်စုနိုင်ငံသည် မဟာမိတ် စစ်အောင်နိုင်ရေး အတွက် အထောက်အပံ့များ ပေးနိုင်ခဲ့လေသည်။

၁၉၄၅ ခုနှစ်တွင် ကုလသမဂ္ဂ စာချုပ်ကြီးကို ရေးဆွဲရာ၌ စမတ်သည် အဖိုးတန်သော အကူအညီများ ပေးခဲ့၏။ ၁၉၄၆ ခုနှစ်တွင် နယူးယော့မြို့၌ ကျင်းပခဲ့သော ကုလသမဂ္ဂ အထွေထွေ လွှတ်တော်အစည်းအဝေးသို့ တောင်အာဖရိက ပြည်ထောင်စုနိုင်ငံ ကိုယ်စားလှယ်အဖွဲ့ ခေါင်းဆောင်အဖြစ် တက်ရောက်ခဲ့လေသည်။ ၁၉၄၇ ခုနှစ်တွင် ဆဋ္ဌမဂျော့ဘုရင်နှင့် မိဖုရားတို့သည် သမီးတော်နှစ်ပါးနှင့်အတူ တောင်အာဖရိကသို့ တိုင်းခမ်းလှည့်လည်ခဲ့စဉ်၊ ဗြိတိသျှနိုင်ငံတော်တွင် အမြင့်ဆုံးဘွဲ့တံဆိပ်ဖြစ်သော အောဒါး အော့ မဲရစ် ဂုဏ်ထူးဆောင်ဘွဲ့ဖြင့် ချီးမြှင့်ခြင်းခံရ၏။

၁၉၄၈ ခုနှစ်ရွေးကောက်ပွဲတွင် စမတ်မှာ အရေးနိမ့်ခဲ့ရပြန်လေသည်။ ထိုအခါ ဒေါက်တာမာလန်းက ဝန်ကြီးချုပ်ရာထူးကို ဆက်ခံသည်။ ထိုနှစ်တွင် စမတ်သည် အင်္ဂလန်ပြည်၊ ကိမ်းဗရစ်တက္ကသိုလ်၏ အဓိပတိအဖြစ် ခန့်အပ်ခြင်းခံရ၏။ သူသည် နိုင်ငံရေးနှင့် စစ်မှုရေးရာများတွင်သာ ထူးခြားသော အရည်အချင်းနှင့် ပြည့်စုံသည်မဟုတ်၊ ယထာဘူတပညာ ကဝိတဆူ အဖြစ်ဖြင့်၎င်း၊ စာရေးဆရာ တဦး အဖြစ်ဖြင့်၎င်း၊ ထင်ရှားကျော်ကြားသူလည်း ဖြစ်လေ၏။ စမတ်သည် ဝန်ကြီးချုပ် ရာထူးမှ နုတ်ထွက်ခဲ့ ပြီးနောက် အတိုက်အခံအဖွဲ့ခေါင်းဆောင်အဖြစ် ဆောင်ရွက်စဉ် ၁၉၅၀ ပြည့်နှစ် စက်တင်ဘာလ ၁၁ ရက်နေ့တွင် ပရီတိုးရီးယားမြို့အနီးရှိ အိုင်ရင်းမြို့၌ ကွယ်လွန်လေသည်။

**စမုန်။** ။စမုန်ငါးမျိုးရှိရာ ယင်းတို့မှာ စမုန်စပါး၊ စမုန်ဖြူ၊ စမုန်နီ၊ စမုန်နက်၊ စမုန်နွယ်တို့ဖြစ်ကြသည်။

စမုန်စပါးပင်သည် နှစ်ကြာခံပင်မျိုးဖြစ်၏။ ရုက္ခဗေဒ အမည်မှာ 'ဖိုးနီကူလမ် ဗာဂါရီ' ဖြစ်သည်။ စမုန်စပါးပင်သည် ၄ ပေမှ ၅ ပေအထိမြင့်သည်။ အဝါပွင့်များပွင့်သည်။ ဥရောပတိုက် တောင်ပိုင်းဒေသများတွင် အရိုင်းပေါက်၏။ ဥရောပတိုက်နှင့် အမေရိကန် ပြည်ထောင်စု တို့တွင် အနှံ့အပြား စိုက်ပျိုးကြ၏။ အရွက်နှင့်အစေ့များမှာ မွှေး၏။



စမုန်စပါးပင်

အပင်နှင့်အစေ့နှစ်မျိုးစလုံးကို ဆေးဝါး၊ အရက်၊ သကြားခဲနှင့် အခြားအစားအသောက်များတွင် အနံ့ကောင်းစေရန်အတွက် အသုံးပြု၏။ စမုန်စပါးမှ စမုန်စပါးဆီကို ထုတ်ယူကြ၏။ ထိုအဆီကို ဆပ်ပြာနှင့် အမွှေးအကြိုင်ပစ္စည်းများ ထုတ်လုပ်ရာတွင် အသုံးပြုကြ၏။ စမုန်စပါးဆီမှာ လေနိုင်ဆေးတမျိုးပင် ဖြစ်သည်။ အိန္ဒိယနိုင်ငံတို့၌ စမုန်စပါးကို ကွမ်းယာနှင့်ရော၍ စားလေ့ရှိ၏။

ရုက္ခဗေဒအလိုအားဖြင့် စမုန်ဖြူကို ‘အင်နီဆိုချီလပ် ကာနီဆပ်’၊ စမုန်နက်ကို ‘နိုင်ဂျဲလား ဆက်တီဗား’၊ စမုန်နီကို ‘လီပီဒီအမ် ဆက်တီဗမ်’၊ စမုန်နွယ်ကို ‘မိုမော်ဒီကာ ကိုချင်ချီအင်ဆစ်’ ဟူ၍ခေါ်သည်။ စမုန်နက်မှာ အရောင်နက်သည်။ စမုန်နက်ကို အမူးအမော်အတွက်ကောင်းသည်ဟူ၍ လူမမာများ ရှူကြသည်။ စမုန်နီအစေ့များကို ဝမ်းကိုက်ရောဂါ ကုသရာ၌ ဆေးအဖြစ် အသုံးပြုကြသည်။ စမုန်နီအရွက်ကို စားရသည်။ စမုန်နွယ်စေ့ကိုပြုတ်၍ ရင်ကျပ်နာပျောက်ဆေး ဖော်ယူတတ်ကြသည်။

**စလူပင်**။ ။စလူပင်၏သိပ္ပံအမည်မှာ ‘လစ်ကျူအေလာပယ်လတေးတား’ ဖြစ်သည်။ မျိုးစဉ်မှာ ‘ပါမီ’ ဖြစ်၍ မျိုးစုမှာ ‘လစ်ကျူအေလာ’ ဖြစ်သည်။ စလူပင်သည် အမြဲစိမ်းအပင်မျိုး ဖြစ်သည်။ ထန်းမျိုးကဲ့သို့ အများအားဖြင့် စုရုံး၍ပေါက်တတ်သည်။ အပင်၏အမြင့်မှာ ၈ ပေမှ ၁၅ ပေထိရှိ၍ လုံးပတ်မှာ ၆ လက်မမှ ၈ လက်မထိရှိသည်။ ပင်စည်တွင် အရစ်များပါသည်။ အရွက်မှာ ယပ်တောင်ပုံသဏ္ဌာန်ရှိ၍ ပိန်းရွက်ကဲ့သို့ အောက်ခြေ အလယ်တွင် ရွက်တံရှိသည်။ အလျားလိုက် အခေါက်ထပ်များသော အရွက်မျိုးဖြစ်သည်။ အရွက်ကို ကန့်လန့်ဖြတ်တိုင်းလျှင် ၃ ပေမှ ၅ ပေထိရှိသည်။ ရွက်ညှာမှာ သေးသွယ်တောင့်တင်း၍ ၃ ပေမှ ၄ ပေထိရှိသည်။ ရွက်ညှာတွင် ဆူးများပါရှိ၍ အညိုရောင်သော်၎င်း၊ အမည်းရောင်သော်၎င်းရှိသည့် အမျှင်များဖုံးအုပ်လျက်ရှိနေသည်။

စလူပင်သည် ဆောင်းရာသီ၌ အပွင့်ပွင့်သည်။ အပွင့်မှာ ကြီး၍ ဝါသည်။ ပွင့်တံမရှိချေ။ အသီးသီးချိန်မှာ နွေရာသီဖြစ်သည်။ စလူသီးသည် ခံ့မာသီးမျိုးဖြစ်၍ ချောမွတ်သည်။ ပုံသဏ္ဌာန်မှာ ကြက်ဥပုံသဏ္ဌာန်ဖြစ်သည်။ အရွယ်မှာ ဆီးဖြူသီးခန့်ရှိသည်။ အစေ့တခုသာပါရှိ၍ အခွံထူသည်။ စလူရွက်ကို အိမ်မိုးရသည်။ စလူဖက်ဖြင့် မှုံ့ထုပ်တတ်ကြသည်။

စလူပင်သည် စစ်တကောင်း၊ ပဲခူး၊ မုတ္တမနယ်တို့ရှိ အပူပိုင်းသစ်တောများတွင် ပေါက်ရောက်သည်။ ဆစ်ကင်းနယ်၊ အာသံပြည်နယ်နှင့် ကပ္ပလီကျွန်းရှိ စိုစွတ်သော မြစ်ဝှမ်းနှင့် ချိုင့်ဝှမ်းများတွင်လည်း စလူတောများကိုတွေ့ရသည်။

**စလေမြို့**။ ။စလေမြို့သည် မကွေးခရိုင် ရေနံချောင်းနယ်တွင် ပါဝင်သည်။ ဧရာဝတီမြစ် အရှေ့ဖက်ကမ်းပေါ်တွင် တည်ရှိသည်။ ညောင်ဦးမြို့မှ တောင်ဖက် ၃၄ မိုင်ကွာသည်။ ပြည်တွင်းသင်္ဘောဆိပ်မြို့ကလေး ဖြစ်သည်။ စလေမြို့တွင် အစိုးရဆေးရုံ၊ ရဲဌာန၊ ဈေး၊ စာတိုက်နှင့် ကြေးနန်းအဆောက်အအုံများရှိသည်။ စလေမြို့၏ အဓိကလုပ်ငန်းများမှာ ယွန်းထည်၊ တိုက်သွင်းထည်များ နှင့် ခေါင်းအုံး၊ မွေ့ရာများကို အစာသွတ်ခြင်းဖြစ်၏။ မြန်မာစာပေနယ်တွင် ထင်ရှားသော ဦးပုည၏ မွေးဖွားရာအရပ်ဖြစ်သည်။ စလေမြို့တွင် စလေဦးပုည၏ကျောင်းနှင့် ဦးပုည၏ စာကြည့်တိုက်ထားရာ အုတ်ကျောင်းများရှိသည်။ ဦးပုည၏ကျောင်းမှာ မီးလောင်သွားသော်လည်း စာကြည့်တိုက်အုတ်ကျောင်းမှာ ယခုတိုင် တည်ရှိသေးသည်။ အစေ့မရှိသော စလေဆီးသီးကြောင့်၎င်း၊ မြန်မာ့သမိုင်းတွင် ပေါ်ပေါက်ခဲ့သော စလေငခွေးမင်းကြောင့်၎င်း၊စာရေးဆရာကြီး စလေဦးပုညကြောင့်၎င်း စလေမြို့မှာ မြန်မာနိုင်ငံတွင်လူသိများသောမြို့တမြို့ ဖြစ်ခဲ့သည်။

စလေမြို့သည် ဗြိတိသျှအစိုးရလက်ထက်က မြို့ပိုင်ရုံးစိုက်သည့်မြို့ ဖြစ်၍ စလေမြို့နယ်သည် ပုဂံနယ်၊ မြင်းခြံခရိုင်တွင် ပါရှိခဲ့၏။ ယခုအခါမူ စလေမြို့၌ မြို့ပိုင်ရုံးမစိုက်တော့ဘဲ၊ မြောက်ဖက် ၅ မိုင်ကွာ ချောက်မြို့၌ ရုံးစိုက်သဖြင့်၊ စလေမြို့သည် ချောက်မြို့နယ်တွင် အပါအဝင် ဖြစ်နေ၏။ ယခင်စလေမြို့နယ်အဖြစ် တည်စဉ်က၊ လူဦးရေမှာ ၁၉၄၁ ခု သန်းကောင်စာရင်းအရ ၈၉,၅၇၄ ယောက်ဖြစ်၏။ စလေမြို့တဝိုက်၌ မိုးပါးရှားသဖြင့် အစားအစာ ခေါင်းပါးသည့်ဘေးနှင့် တခါတရံ တွေ့ရတတ်သည်။ ထိုကြောင့် ထိုဒေသမှ အချို့သူများသည် ရေနံချောင်း ရေနံမြေသို့၎င်း၊ မြန်မာနိုင်ငံအောက်ပိုင်းသို့၎င်း သွားရောက် အလုပ်လုပ်ကိုင်တတ်ကြသည်။ စလေမြို့အနီးရှိဒေသများမှာ မြေသြဇာညံ့ဖျင်းသော်လည်း ဧရာဝတီမြစ်ကြောင်းအားဖြင့် ကုန်သန်းရောင်းဝယ်ရေးရှိသဖြင့် စီးပွားရေးမှာ မဆိုးရွားလှချေ။ စလေမြို့ပတ်ဝန်းကျင်တွင် ပြောင်းနှင့်ပဲကို အဓိကစိုက်ပျိုးကြသည်။

**စလင်း, ဆာဝီလျံ၊ ဂျေ** (ခရစ် ၁၈၉၁ ဖွား)။ ။ဆာဝီလျံ ဂျိုးဇက် စလင်း သည် ဩစတြေးလီးယားနိုင်ငံ ဘုရင်ခံချုပ်ဖြစ်သည်။ ၁၈၉၁ ခုနှစ် ဩဂုတ်လ ၆ ရက်နေ့တွင် ဖွားမြင်၍ ဗာမင်ဂမ်မြို့ ကင်းအက်ဒွပ် စာသင်ကျောင်းတွင် ပညာသင်ကြားခဲ့သည်။ ကျောင်းမှထွက်သောအခါ စစ်သားရိုးရိုး အဖြစ်နှင့်ပင် စစ်ထဲသို့ ဝင်ရောက်အမှုထမ်းလေသည်။ သို့သော် မကြာမီ ဘုရင့်ဝါဝစ်ရှိုင်ယာတပ်ရင်းကြီးတွင် ဗိုလ်အဖြစ် ရာထူးတိုးမြှင့်ခန့်ထားခြင်းခံရ၏။ ပဌမကမ္ဘာစစ်ကြီးအတွင်းက ဂလစ်ပိုလီ၊ ပြင်သစ်နှင့် မက်ဆိုပို

တေးမီးယားစစ်မြေပြင်များတွင် ရှုပ်ရှုပ်ချုံချုံ သက်စွန့်ကြိုးပမ်း အမှုထမ်းခဲ့သဖြင့် ဘွဲ့တံဆိပ်များဖြင့် ချီးမြှင့်ခြင်းခံရလေသည်။

ပဌမကမ္ဘာစစ်ကြီးအပြီးတွင် အိန္ဒိယပြည်သို့သွားရောက်၍ ဂေါ်ရခါး သေနတ်ကိုင်တပ်ရင်းတွင် အမှုထမ်းခဲ့သည်။ စစ်ကြီးနှစ်ခု ကြားကာလတွင် အများအားဖြင့် အိန္ဒိယပြည်တွင်သာ အမှုထမ်းခဲ့ရသော်လည်း ၁၉၃၄ ခုနှစ်မှ ၁၉၃၆ ခုနှစ်အထိ ကမ်ဗာလေ ဗိုလ်သင်တန်းကျောင်း၌ သင်တန်းဆရာအဖြစ် ထမ်းရွက်ခဲ့ရပြန်လေသည်။

ဒုတိယကမ္ဘာစစ်ကြီးဖြစ်ပွားသောအခါ အာဖရိကတိုက်ရှိ ဆူဒန်နယ်တွင် ခြေလျင်တပ်မဟာအမှတ် ၁၀ ကို အုပ်ချုပ်ကွပ်ကဲရပြီးလျှင် အီရစ်ထရီးယား တိုက်ပွဲတွင် ပါဝင်တိုက်ခိုက်ခဲ့ရသည်။ ထိုနောက်တွင် ဗိုလ်ချုပ်အဆင့်အတန်းသို့ တိုးမြှင့်ထားခြင်းခံရသည့်ပြင် ဒီ၊ အက် (စ)၊ အို ခေါ် အမှုထမ်းကောင်းဘွဲ့တံဆိပ်ကိုလည်း ရရှိခဲ့လေသည်။ ထိုနောက် အာရှအရှေ့တောင်ပိုင်း မြန်မာပြည်စစ်မျက်နှာသို့ ၁၉၄၂ ခုနှစ်တွင် စေလွှတ်ခြင်းခံရလေသည်။ စလင်းသည် ၁၄ နံပတ် ဗြိတိသျှတပ်မတော်ကို ကွပ်ကဲအုပ်ချုပ်ပြီးလျှင် မြန်မာပြည်ကို ဂျပန်များလက်မှ ပြန်လည်သိမ်းပိုက်ခဲ့သည်။

၁၉၄၅ ခုနှစ်တွင် အရှေ့တောင်အာရှဆိုင်ရာ မဟာမိတ်ကုန်းတပ်များ၏ သေနာပတိအဖြစ် ခန့်ထားခြင်း ခံရလေသည်။ ၁၉၄၆ ခုနှစ်တွင်ကား အင်္ဂလန်သို့ပြန်၍ ကာကွယ်ရေးဆိုင်ရာ ဘုရင့်စစ်ကောလိပ်ကျောင်းတွင် ကျောင်းအုပ်အဖြစ် တနှစ်ခန့် အမှုထမ်းခဲ့ရသေးသည်။ ၁၉၄၄ ခုနှစ်တွင် ဆာဘွဲ့ဖြင့် သူကောင်းပြုခြင်းခံရပြီးနောက် ၁၉၄၇ ခုနှစ်တွင် ဆင်ဌမဂျော့ဘုရင်၏ ကိုယ်ရံတော်ဗိုလ်အဖြစ် အမှုထမ်းရလေသည်။ ၁၉၄၇ ခုနှစ်တွင် ပြည်သူပိုင်ပြုလုပ်ပြီးဖြစ်သော မီးရထားသယ်ယူပို့ဆောင်ရေး လုပ်ငန်း၏ အုပ်ချုပ်ရေးအဖွဲ့ဝင်အဖြစ်ဆောင်ရွက်ရန် စစ်ဖက်မှအနားယူလိုက်လေသည်။ သို့သော် ၁၉၄၈ ခုနှစ်


ဗိုလ်ချုပ် ဆာဝီလျံဂျိုးဇက်စလင်း

အောက်တိုဘာလတွင် စစ်ဖက်မှပြန်လည်ခေါ်ယူကာ စစ်သူကြီး မောင်ဂိုမာရီ၏နေရာတွင် ဗြိတိသျှတပ်မတော်စစ်ဦးစီးချုပ်အဖြစ် ဆက်ခံထမ်းရွက်ရလေသည်။ ၁၉၄၉ ခုနှစ် ဇန်နဝါရီလတွင် စစ်သူကြီးရာထူးသို့ တိုးမြှင့်ခန့်ထားခြင်းခံရသည်။

ယင်းဝတ်တရားကို ဆောင်ရွက်နေစဉ်တွင် အပြည်ပြည်ကာကွယ်ရေးဆိုင်ရာဆွေးနွေးပွဲများ၊ အစည်းအဝေးများသို့ တက်ရောက်ခဲ့၏။ ၁၉၅၀ ပြည့်နှစ်တွင် အက် တ လီ နှင့် တကြိမ်၊ ၁၉၅၂ ခုနှစ်တွင်ချာချီနှင့်တကြိမ် ဝါရှင်တန်မြို့ဆွေးနွေးပွဲသို့ လိုက်ပါခဲ့ရလေသည်။ ၁၉၅၃ ခုနှစ် နှစ်ဦးပိုင်းတွင် စလင်းသည် ဆာဝီလျံမက်ကဲ၏ နေရာကို ဆက်ခံ၍ ဩစတြေးလီးယားနိုင်ငံ ဘုရင်ခံချုပ်အဖြစ် ဆောင်ရွက်ရလေသည်။


စလင်းမြို့အဝင်တွင်ထင်ရှားစွာဖူးမြင်ရသော ကုသိနာရုံစေတီ

**စလင်းမြို့။** ။မင်းဘူးခရိုင်မြောက်ပိုင်း၊ စလင်းခရိုင်ခွဲနယ်နှင့် စလင်းမြို့နယ်တို့၏ ရုံးစိုက်ရာမြို့ ဖြစ်၏။ စလင်းခရိုင်ခွဲနယ်တွင် စလင်းမြို့နယ်နှင့် စေတုတ္တရာမြို့နယ်များ ပါဝင်သည်။ စလင်းမြို့နယ်မှာ အများအားဖြင့် လွင်ပြင်ဖြစ်သည်။ စလင်းမြို့သည် ဧရာဝတီမြစ်မှ ၆ မိုင်ခန့်ကွာဝေး၍ စလင်းမြစ်လကျ်ာဖက်ကမ်း ပျံ့ပျူးညီညာသောမြေပြင်ပေါ်တွင် တည်ရှိသည်။ စလင်းမြို့မှ ခရိုင်ရုံးစိုက်ရာ မင်းဘူးမြို့သို့ ၃၉ မိုင်ဝေး၍ ဆင်ဖြူကျွန်းမြို့နှင့် ၇ မိုင်မျှဝေးသည်။ ရခိုင်ပြည် အန်းတောင်ကြားမှလာသော လမ်းမကြီးသည် စလင်းမြို့သို့ပေါက်သည်။

ဆန်စပါးကို ရှေးမြန်မာမင်းများလက်ထက်မှစ၍ ဆည်

မြောင်းများဖြင့် ရေသွင်းစိုက်ပျိုးကြ၏။ ယခုအခါ စလင်းမြို့နယ်တွင်* ဆည်ရေသောက် လယ်မြေများမှာ ဧက နှစ်သောင်းနှစ်ထောင်ကျော်ရှိလေသည်။ စလင်းမြို့အနီးသရက်ကျင်းရွာမှ ပုရပိုက်စက္ကူများ ရှေးအခါက ထွက်ခဲ့ဘူးသည်။

စလင်းမြို့ကို မြန်မာသက္ကရာဇ် ၆၅၆ ခုနှစ်က ပုဂံပြည်နရပတိစည်သူမင်းကြီး တည်ထောင်ခဲ့သည်ဟု အဆိုရှိ၏။ မြန်မာဘုရင်များလက်ထက်က စလင်းမြို့ကို မြို့ဝန်တယောက်ထားရှိ၍ အုပ်ချုပ်စေခဲ့သည်။

ဗြိတိသျှအုပ်ချုပ်ရေးခေတ်၌ စလင်း မျူနီစီပယ်အဖွဲ့ကို ခရစ် ၁၈၈၇ ခုနှစ်တွင် တည်ထောင်ခဲ့သည်။ စလင်းမြို့သည် နယ်ပိုင်ဝန်ထောက်ရုံးစိုက်ရာမြို့ဖြစ်သောကြောင့် အစိုးရရုံးများ၊ အထက်တန်းကျောင်း၊ ဆေးရုံ၊ စာတိုက်နှင့် ရဲဌာနစသော အဆောက်အအုံများရှိလေသည်။ စလင်းမြို့တွင် ကုသိနာရုံ ဘုရားပွဲကို ကဆုန်လတွင် နှစ်စဉ် ကျင်းပလေ့ရှိသည်။ ၁၉၃၁ ခုနှစ် သန်ကောင်စာရင်းအရ မြို့၏လူဦးရေမှာ ၆,၆၅၄ ယောက်ဖြစ်သည်။



စလပ်ကြီးပင်မျိုး

**စလပ်ပန်းပင်**။ ။စလပ်ပန်းပင်သည် 'အဲပေါ်ဆီနေစီအီး' မျိုးရင်းနှင့် 'တာဗာနီမွန်တေးနာ' မျိုးစုတွင် ပါဝင်သည်။ 'တာဗာနီမွန်တေးနာ' မျိုးစုကို ယခုအခါ 'အီဗာတေးမီးယား' ဟု အမည်ပြောင်း၍ခေါ်သည်။ စလပ်ပန်းပင်အမျိုးမျိုးရှိရာ အချို့မှာ အပင်ကြီးမျိုးဖြစ်၍ အချို့မှာ ချုံပင်မျိုးဖြစ်သည်။ အရွက်မှာ ရွက်ဆိုင်ဖြစ်သည်။ ပင်မမှ အခက်ထွက်သည့်နေရာတွင် ရွက်စွယ်ပေါက်သည်။ အများအားဖြင့် အပွင့်အရောင်မှာ အဖြူရောင် ဖြစ်သည်။ အပွင့်သည် အကိုင်း၏ထိပ်များတွင် ပွင့်တတ်သည်။ ပွင့်ဖတ်အုံအောက်ခြေမှ ပွင့်ဖတ်များသည် သီးခြားစီထွက်လာကြသည်။ ပွင့်ချပ်အုံမှ ပွင့်ချပ်များသည် ပြန့်လျက်ရှိသည်။ ပွင့်ချပ်အုံ၏ပြွန်သည် ထိပ်ချွန်သွယ်ဝတ်မှုန့်အိမ်ပေါ်တွင် ဖောင်းလျက်တည်သည်။ အစေ့လောင်း အမြောက်အမြားပါရှိသည်။ အသီးမှာ တမြောင်းကွဲသီးတောင့်ဖြစ်၍ အများအားဖြင့် အစေ့များစွာပါရှိသည်။

သိပ္ပံအမည်အားဖြင့် 'အီဗာတေးမီးယား ကိုရိုနေရီးယား' ဟုခေါ်သော စလပ်ပန်းပင်သည် နှစ်ကိုင်းဖြာ အမြဲစိမ်းချုံပင်မျိုးဖြစ်သည်။ အခေါက်အရောင်မှာ မွဲပြာရောင်ဖြစ်သည်။ အခေါက်၌ လေပေါက်များစွာရှိသည်။ အရွက်သည် အမြေးကဲ့သို့ ပါးပြီး ငှက်ပျောဖူးပုံသဏ္ဌာန် ရှိသည်။ အလျားသည် အနံထက် ပို၍ရှည်၏။ ထိပ်ချွန်သွယ်၏။ ရွက်ပြား ၄ ခုမှ ၆ခုထိပါ၍ ရွက်ညှာဖက်တွင် ကျဉ်းမြောင်းသွား၏။ ရွက်ညှာ၏ပမာဏသည် ၁/၄ လက်မမှ ၁/၂ လက်မထိရှိသည်။ ထိုစလပ်မျိုးသည် မေလမှ ဒီဇင်ဘာလထိ ပွင့်လေ့ရှိသည်။ ပွင့်ချပ်နှစ်ထပ်မကရှိသည့် အပွင့်များကို တွေ့ရတတ်သည်။ ပန်းပွင့်၏ အရောင်မှာ ဆွတ်ဆွတ်ဖြူသည်။ ပွင့်ချပ်အုံပြွန်မှာ ၁/၂ လက်မမှ ၁ လက်မထိရှည်သည်။ စလပ်ပန်းသည် ညအခါတွင် မွှေးကြိုင်သောရနံ့ရှိ၏။ အသီးမှာ ကောက်နေ၍ အလျား ၁ လက်မမှ ၂ လက်မထိရှိသည်။ ထိုအသီးသည် တမြောင်းကွဲသီးတောင့်မျိုးဖြစ်၍ အကြောများထလျက်ရှိသည်။ သီးတောင့်၏အတွင်းပိုင်းမှာ နီသည်။ အစေ့ ၃ စေ့မှ ၆ စေ့ထိပါရှိသည်။

ထိုစလပ်ပင်မျိုးကို ဟိမဝန္တာအနိမ့်ပိုင်း တောများ၌၎င်း၊ ယမုနာမြစ်အရှေ့ဖက် ပေ ၂၀၀၀ အမြင့်ထိရှိရာ ဒေသများ၌၎င်း တွေ့ရသည်။ အိန္ဒိယနိုင်ငံနှင့် မြန်မာနိုင်ငံတို့ရှိ အပူပိုင်းဒေသများတွင် ဥယျာဉ်များ၌ အများအားဖြင့်တွေ့ရသည်။

မြန်မာအမည် စလပ်သိန်ဟုခေါ်သော စလပ်မျိုးကို သိပ္ပံအမည်အားဖြင့် 'အီဗာတေးမီးယား ဆက်ကက်ပီတေးတား' ဟုခေါ်သည်။ ထိုစလပ်မျိုး၏ပွင့်တံသည် ၁ လက်မမှ ၂ လက်မထိရှည်သည်။ ပွင့်ချပ်အုံပြွန်မှာ ၁/၈ လက်မမှ ၁/၂ လက်မထိရှည်သည်။ တမြောင်းကွဲသီးတောင့်တွင် အစေ့ ၁ စေ့သို့မဟုတ် ၂ စေ့ပါရှိသည်။ ပဲခူးရိုးမ တောင်၊ တနင်္သာရီတိုင်းနှင့် အထက်မြန်မာနိုင်ငံတို့တွင် ပေါက်ရောက်သည်။

တောစလပ်ပန်းပင်ကို သိပ္ပံအမည်အားဖြင့် 'အီဗာတေးမီးယား ရိကားဗား' ဟုခေါ်သည်။ ထိုပန်း၏ မညီညာသောပွင့်ဖတ်များ အစွန်းတွင် အလွန်တိုပြီး နုသော အမွေးများရှိသည်။ တမြောင်းကွဲ သီးတောင့်မှာ အပြားကြီး၍ အလျား ၁ လက်မရှိသည်။ အစေ့များစွာပါရှိသည်။ ပဲခူးရိုးမတောင်၊ တနင်္သာရီတိုင်းနှင့် စစ်တကောင်းနယ်တို့တွင် တွေ့ရသည်။



အကိုင်းဖျားတွင်ဖူးပွင့်ထွက်သည့် စလပ်ပန်းပင်

မြန်မာအမည်ဖြင့် ဖော်မပြနိုင်သော အခြား စလပ်မျိုးမျိုးများလည်းရှိသေးသည်။ သိပ္ပံအမည်အားဖြင့် 'တာဗာနီမွန်တားနား ကယ်လိစိနား' ခေါ် စလပ်မျိုးသည် တနင်္သာရီတိုင်းတွင် ပေါက်ရောက်သည်။ 'တာဗာနီမွန်တားနား ရေခ့စတြာတာ' ခေါ် စလပ်မျိုးသည် အထက်မြန်မာနိုင်ငံ ရေဝတီမြစ်ကမ်းခြေတွင် ပေါက်ရောက်သည်။ 'တာဗာနီမွန်တားနား ကရစ္စပါး' စလပ်မျိုးသည် ကပ္ပလီကျွန်းနှင့် မြန်မာနိုင်ငံ ကမ်းရိုးတန်း၌ ပေါက်ရောက်သည်။

**စလွယ်။** ။ဂုဏ်ထူးဆောင်သော အထိမ်းအမှတ်ဖြင့်၊ လက်ဝဲပခုံးစွန်းမှ လက်ျာနံပါးသို့ သွယ်ချဆင်မြန်းရသောကြိုးကို စလွယ်ဟုခေါ်သည်။ ယင်းကြိုးကို ခြည်မျှင်ဖြင့်ဖြစ်စေ၊ ငွေဖြင့်ဖြစ်စေ၊ ရွှေဖြင့်ဖြစ်စေ ပြုလုပ်သည်။ မြန်မာမင်းတို့လက်ထက်တွင် စလွယ်ကို ဗောင်း၊ နားတောင်း စသည်တို့ကဲ့သို့ မင်းညီမင်းသား၊ မှူးမတ်၊ ပုဏ္ဏားတို့သည် ရာထူးဌာနန္တရအလိုက် ဝတ်စားဆင်မြန်းကြသည်။ မြန်မာမင်းတို့ကား စလွယ်ကို လက်ဝဲပခုံးမှသာမက လက်ျာပခုံးမှလည်း သွယ်ချ၍ဆင်မြန်းကြသည်။

ပုဏ္ဏားတို့အယူအားဖြင့် စလွယ်တင်ခြင်းသည် မြင့်မြတ်ခြင်း၊ စင်ကြယ်ခြင်း၊ ဘုရားရှင်တို့၏အကျင့်ကို ကျင့်ခြင်း၊ အသက်ရှည်ခြင်း၊ ရန်သူတို့က မဖျက်ဆီးနိုင်ခြင်း၊ ပညာပွားခြင်း၊ တင့်တယ်ခြင်း၊ ခွန်အားကြီးခြင်း၊ ဘုန်းတန်ခိုးကြီးခြင်းဟူသော ဂုဏ်တို့ကိုပြုရာဖြစ်သည်ဟု သက္ကဋကျမ်းတွင်လာသည်။ ပဒုမုတ္တရဘုရား လက်ထက်၊ ဝက္ကလိ မထေရ်အလောင်း လုလင်သည် စလွယ်တင်လျက် အလှူပေးကြောင်းကို အပဒါန်တွင် ဟောကြားတော်မူသည်။ မွန်စကားတွင် ယင်းသို့ လက်ဝဲပခုံးနှင့်လက်ျာနံပါးတို့ကို ကျောရင်နှစ်ဖက်မှ ဆက်သွယ်မိအောင် ပြုလုပ်ဆင်မြန်းသောကြိုးသွယ်ကို စနေဟ်ဟုခေါ်လေသည်။ ပြည်မြို့အနီး ပျူမြို့တော်ဟောင်းနေရာဖြစ်သော မှော်ဇာအရပ်မှ အလေးချိန် ၂၅ ကျပ်သားရှိရွှေစလွယ်ကို တူးဖော်ရရှိဘူးသည်။ အထက်ပါအချက်တို့ကိုထောက်ထား၍၊ စလွယ်ဆင်သည့်အလေ့ကို မဇ္ဈိမဒေသမှ မြန်မာနိုင်ငံ မွန်၊ ပျူ၊ မြန်မာတို့ထံသို့ အဆင့်ဆင့်အားဖြင့် ရောက်ရှိလာသည်ဟု ယူရန်ရှိ၏။ သို့သော်မည်သည့်အချိန်ကာလက စတင်ရောက်ရှိသုံးစွဲလာသည်ကိုမူ အတိအကျမသိရချေ။ အင်းဝခေတ် ပျို့ကဗျာလင်္ကာများဖြစ်သော ကိုးခန်းပျို့တွင် 'ရွှေစည်တီးတီး၊ ရွှေထီးဆောင်းဆောင်း၊ ရွှေဖောင်းသွယ်သွယ်၊ ရွှေစလွယ်နှင့်၊ လူဝယ်လူထွတ်၊ လူများနတ်' ဟူ၍၎င်း၊ တန်တားဦးတည် မင်္ဂလာစေတီမော်ကွန်းတွင် 'ပုဏ္ဏားယောင်ကား၊ ဟန်ဆောင်တင့်တယ်၊ ဘွဲ့စလွယ်နှင့်၊ စံပယ်ပစ်တင်၊ ဝတ်စားဆင်' ဟူ၍၎င်း၊ နေမိဘုံခန်းတွင် 'လည်မှာ ဆန်းကြယ်၊ ဆွဲကိုးသွယ်သား၊ စလွယ်ရောင်ချက်၊ ပြွံအမျက်' ဟူ၍၎င်း အသီးအသီးတွေ့ရသဖြင့် အင်းဝခေတ် သက္ကရာဇ် ၇၅၀ ကျော်တွင် စလွယ်ကို ဆင်ယင်သုံးစွဲနေပြီဖြစ်ကြောင်းကိုမူ အတိအကျသိရ၏။



ကြိုး ၁၂ သွယ်ပါရှိသော အဂ္ဂမဟာသိရိသုဓမ္မ စလွယ်
(ပြည်ထောင်စုခေတ်)

စလွယ်ဆင်မြန်းရသော ပုဂ္ဂိုလ်၏ဂုဏ်ကိုလိုက်၍ စလွယ် ၈ မျိုးရှိသည်ဟု ဆိုရပေမည်။ ယင်းတို့မှာ ကြိုး ၂၄ သွယ်ရှိ

သည့် မင်း၏ စလွယ်၊ ကြိုး ၂၁ သွယ်ရှိသော ဥပရာဇာ၏ စလွယ်၊ ကြိုး ၁၈ သွယ်ရှိသော မင်းညီမင်းသားတို့၏ စလွယ်၊ ကြိုး ၁၅ သွယ်ရှိသော မဟာမျိုး မဟာနွယ်တို့၏ စလွယ်၊ ကြိုး ၁၂ သွယ်ရှိသော အဂ္ဂမဟာသေနာပတိ၏ စလွယ်၊ ကြိုး ၉ သွယ်ရှိသော မှူးမတ်ကြီးတို့၏ စလွယ်၊ ကြိုး ၆ သွယ်ရှိသော မှူးမတ်လတ်တို့၏ စလွယ်၊ ကြိုး ၃ သွယ်ရှိသော မှူးမတ်ငယ်တို့၏ စလွယ်များ ဖြစ်ကြသည်။ ပုဏ္ဏားမျိုးတို့တွင်မူ ဆင်မြန်းရသော စလွယ်ကြိုး အရေအတွက်ကိုလိုက်၍ အမြတ် အလတ် အယုတ် အညံ့ ဟုခွဲခြားသိသာနိုင်ပေသည်။ ဗြာဟ္မဏပုဏ္ဏားမျိုးသည် ကြိုး ၉ သွယ်သောစလွယ်၊ ခေတြပုဏ္ဏားမျိုးသည် ကြိုး ၆ သွယ်သောစလွယ်၊ ဗိသျှပုဏ္ဏားမျိုးသည် ကြိုး ၃ သွယ်သောစလွယ်တို့ကို အသီးအသီးဆွဲရလျက် သုဒြပုဏ္ဏားမျိုးမှာ စလယ်မဆွဲရချေဟု ရာဇမတ္တဏ်ကျမ်းတွင်ဆိုလေသည်။

သက္ကဋကျမ်းများအလိုအရ၊ စလွယ်ကို ဝတ်ဆင်ကြသည့် အသျှင်စိုးမင်းတို့မှစ၍ စလွယ်တင် မှူးမတ်ပုဏ္ဏားတို့သည် ကျင့်ဝတ်ဆယ်ပါးကို လိုက်နာကြရသည်။ ထို ကျင့်ဝတ်ဆယ်ပါးမှာ (၁) ကိုယ်နှုတ်ငြိမ်သက်ခြင်း (၂) ကိုယ်နှုတ်ဆုံးမခြင်း (၃) ကိလေသာကို ခေါင်းပါးအောင် မြိုးခြံခြင်း (၄) စင်ကြယ် ခြင်း (၅) ရောင့်ရဲခြင်း (၆) သည်းခံခြင်း (၇) သဘော ဖြောင့်မတ်ခြင်း (၈) ရတနာသုံးပါး၌ ဆည်းကပ်ခြင်း (၉) သုတပါးကို သနားလေ့ ရှိခြင်း (၁၀) အမှန်အကန်ကိုပြောဆိုလေ့ရှိခြင်း ဖြစ်သည်။ စလွယ်ကိုဆင်ယင်ခြင်းနှင့်စပ်လျဉ်း၍ ဘိုးတော်ဘုရားလက်ထက် ၁၁၄၆ ခုနှစ် နယုန်လပြည့်ကျော် ၁ ရက်နေ့တွင် ပြန်ဆိုသော စလွယ်အကြောင်းအမိန့်တော်တွင် 'ဘုန်းတော် အလွန် ကြီးမြတ်တော်မူလှသော ဆင်ဖြူသခင် အသျှင်ဘဝရှင်မင်းတရားကြီးဘုရား အမိန့်တော်ရှိသည်။ ငါအသျှင် ကေရာဇ်မင်းမြတ်တို့ဝယ်၊ မင်းမြောက်တန်ဆာငါးပါးနှင့် စလွယ်အစရှိသော တန်ဆာရတနာမျိုးတို့ကို စုပုံခင်းကျင်း၍၊ ရှေးဘေးလောင်းတော် ဘိုးလောင်းတော်တို့လက်ထက် ထုံးစံနှင့် အဘိသိက်ခံတော်မူခြင်းသည် ပစ္စုပ္ပန်အစီးအပွား များစေခြင်းငှာသာ ခံတော်မူသည် မဟုတ်၊ မင်းမျိုး၊ ပုဏ္ဏားမျိုး၊ သဌေး၏ ဆင်းရဲသား စသော သတ္တဝါ အပေါင်းတို့ ချမ်းသာ၍၊ မဂ်ဖိုလ်နိဗ္ဗာန် ရောက်စေခြင်းငှာ၊ မင်းကျင့်တရားကို ကျင့်ဆောင်တော်မူမည် အဘိသိက် ခံတော်မူခြင်းဖြစ်သည်။ မောင်အိမ်ရှေ့မင်းမှစ၍ မင်းညီမင်းသား မှူးတော်မတ်တော်တို့ စလွယ်အသနားတော်ခံကြရသည့် လူတို့မှာလည်း၊ လှပယဉ်ကျေးတင့်တယ်စေခြင်းငှာ သနားတော်မူသည့် တန်ဆာဖြစ်သည်ဟု ယူဆကြရမည်မဟုတ်၊ ပဥ္စသီငါးပါးစသော မင်းညီမင်းသား မှူးမတ်တို့ စလွယ်တင် ကျင့်ဝတ်တရားနှင့်အညီ၊ သတ္တဝါအပေါင်းတို့ကို ချမ်းသာငြိမ်ဝပ်အောင် ထိန်း သိမ်း၍ အုပ်ချုပ်စီရင်စိမ့်မည်၊ သနားတော်ခံစေခြင်း ဖြစ်သည်။ ခပ်သိမ်းသော ဆင်းရဲသား ကျွန်တော်အပေါင်းတို့ ချမ်းသာငြိမ်ဝပ်အောင် အမိဌာန်ပါရမီကို ဖြည့်ကျင့်ရမည့် စလွယ် သနားတော်မူခြင်း ဖြစ်ပေသည်။ အမြဲနှလုံးသွင်း၍ မင်းညီမင်းသား မှူးမတ်တို့ စလွယ်တင်ကျင့်ဝတ်တရားကို မလစ်မဟင်း မယွင်းမယိုစေရ ကျင့်၊ သနားတော်မူသည့် စလွယ်ကိုလည်း



မြန်မာဘုရင်များဆင်မြန်းလေ့ရှိသော စလွယ်တော်



သီပေါဘုရင်လက်ထက် စလွယ်ဆင်ယင်ထားသော ဝန်ကြီးတပါး

မောင်အိမ်ရှေ့မင်းနှင့် တွင်းပြင်ချုပ်ကိုင်စီရင်သူလူကြီးတို့မှာ၊ နေ့တိုင်းအမြဲ တက်သက်ဝင်ထွက်သည့်ကာလ ဆောင်ရွက်ကြစေ။' ဟူ၍တွေ့ရသည်။

ထိုထီးသုံးနန်းသုံး 'စလွယ်' ကို သာမန်ပုဂ္ဂိုလ်တို့၏ ရှင်ပြုပွဲများတွင် ရှင်လောင်းများအားဝတ်ဆင်စေခြင်းအလေ့ကို အင်းဝခေတ်က စတင်လာခဲ့သည်ဟု အင်ရှိစာတမ်း၌ တွေ့ရ၏။ အင်းဝခေတ် လောကသရဖူဘုရားဒါယကာ၊ ဟံသာဝတီရောက်မင်းတရားလက်ထက်၌ ရှင်လောင်းများကိုစလွယ်သင်းကျစ်ဆင်၍၊ သာကီဝင်မင်းမျိုးသို့ သွတ်သွင်းတော်မူခဲ့ခြင်းက စတင်ခဲ့လေသည်။ ယင်းသို့ ရှင်လောင်းများအား သာကီဝင်မင်းမျိုးသို့ သွတ်သွင်းခဲ့သည့်အနေဖြင့် 'စလွယ်' ဝတ်ဆင်စေခြင်းအလေ့သည် ယနေ့တိုင် မြန်မာနိုင်ငံအဝှန်း၌ ကျင့်သုံးလျက်ရှိလေသည်။

**စာကလေး။** ။စာကလေး အမျိုးမျိုး ရှိသည့်အနက် ပါဏဗေဒအရ 'ပါစာ ဒိုမက်စတီကပ်'၊ 'ပါစာ မွန်တန်နပ်'၊ 'ပါစာ ဖလေဗျိုလပ်' အမည်ရှိ စာကလေးတို့သည် ထင်ရှား၏။ 'ပါစာ ဒိုမက်စတီကပ်' စာကလေးကို အိမ်စာဟူ၍ သိကြသည်။ ထိုစာကလေးသည် အလျား ၆ လက်မအထိ ရှိတတ်သည်။ ဦးခေါင်းသည် မွဲပြာ၍ ရင်အုပ်မှာနက်၏။ ပူအိုက်သော ရာသီဥတုတွင် အလွန်ဆူညံစွာအော်မြည်တတ်သည်။ သားပေါက်ချိန်တွင် သာမန်ချိန်မှာထက် စူးရှစွာအော်မြည်တတ်သည်။ ထိုစာကလေးများကို တောမှာထက် မြို့၌ အတွေ့ရများသည်။ မြန်မာနိုင်ငံတွင် လွင်ပြင်များ၌ ကျက်စားလေ့ရှိသည်။ မြစ်ချောင်းအနီးအပါးရှိ တံငါတဲများတွင် တွေ့ရသည်။ တနှစ်ပတ်လုံး သားပေါက်၏။ အသိုက်ကို တဲထဲ၊ အိမ်ထဲမှာ ပြုလုပ်တတ်ကြသည်။

ထိုစာကလေးမျိုးကိုဥရောပတိုက်၊ အာရှတိုက်၊ အာဖရိကတိုက်မြောက်ပိုင်းတို့တွင် အနှံ့အပြား တွေ့ရသည်။ အမေရိကတိုက် နှင့် ဩစတြေးလီးယား တိုက် တို့၌လည်း ရှိသည်ဟုဆို၏။



စာဝါ အဖိုနှင့်အမ

'ပါစာ မွန်တန်နပ်' စာကလေးမျိုးသည် အိမ်စာကလေးနှင့် ခပ်ဆင်ဆင်တူသည်။ သို့ရာတွင် အော်မြည်ရာ၌ အသံကွဲပြားသည်။ မြန်မာနိုင်ငံတွင် ထိုစာကလေးမျိုးကို တောရွာတို့မှအပ တဲအိမ်၊ စရပ်၊ ဘုန်းကြီးကျောင်း စသော အဆောက်အအုံများ၌ တွေ့ရသည်။ တနှစ်ပတ်လုံး သားပေါက်၏။ အသိုက်ကို အိမ်များ၊ သစ်ပင်အခေါင်းများ၌ ပြုလုပ်တတ်သည်။ ထိုစာမျိုး၏ဥမှာ 'ဒိုမက်စတီကပ်' စာကလေးဥထက် ငယ်သည်။ တမြုံလျှင် ၄ ဥမှ ၅ ဥအထိ ရှိသည်။

'ပါစာ ဖလေဗျိုလပ်' စာကလေးမျိုးကို စာဝါဟူ၍သိကြသည်။ အလျား ၅½ လက်မရှိသည်။ အခြားစာကလေးများထက် အသံကျယ်သည်။ တောအရပ်ရှိ လဟာပြင်နှင့် စိုက်



အိမ်စာကလေး

ခင်းများ၌ တွေ့ရသည်။ တနှစ်ပတ်လုံးသားပေါက်၏။ တခါတရံ အခြားစာကလေးများနှင့် ရောနေတတ်ကြသည်။

ဤစာမျိုးကို မြန်မာ၊ ယိုးဒယား၊ အင်ဒိုချိုင်းနားနိုင်ငံများတွင်တွေ့ရသည်။ မြန်မာနိုင်ငံတွင် ရခိုင်တိုင်း၊ ချင်းတောင်ဒေသ၊ မြန်မာနိုင်ငံအလယ်ပိုင်း၊ တောင်ပိုင်းရှမ်းပြည်နယ်နှင့် ကယားပြည်နယ်များတွင် အမြဲနေသည်။ မြန်မာနိုင်ငံအလယ်ပိုင်းတွင် အများဆုံး တွေ့ရ၏။ မေမြို့တဝိုက်ရှိ စိုက်ခင်းများတွင် ကျက်စားသည်။ ပေ ၄,၀၀၀ အမြင့်အထိ နေနိုင်ကြသည်။

စာဗူးတောင်းသည် မြက်ခြောက်၊ လျှော်မျှင် စသည်တို့ဖြင့် အိမ်မိုးစွန်း၊ သစ်ပင်၊ ချုံဖုတ်များ၌ တွဲလျားကျ အသိုက်ရက်လုပ်၍ နေတတ်သည်။ ထိုစာမျိုးကို အင်္ဂလိပ်လို 'ဗီးဗားဗတ်' ဟူ၍ခေါ်သည်။ စာဗူးတောင်း မျိုးခွဲများ ရှိရာ၊ စာခေါင်းကွက်၊ စာဝတီး၊ စာဘုန်းကြီးတို့သည် ထိုစာမျိုးထဲတွင်ပါသည်။

ထိုစာကလေးများ အသိုက်ရက်လုပ်ထားပုံမှာ စိတ်ဝင်စား

ဖွယ်ရာကောင်းသည်။ အသိုက်ကို အိမ်တန်စက်မြိတ် သို့မဟုတ် သစ်ကိုင်းတို့တွင် တွယ်လျက်လုပ်တတ်သည်။ အသိုက်ပုံသဏ္ဍာန်မှာ အထက်မှ ခပ်သေးသေးဆင်းလာပြီး၊ အလယ်တွင် ကြီးနေသည်။ အောက်ဖက်၌ ဝင်ပေါက် ထွက်ပေါက်အတွက် ခပ်သေးသေးအခေါင်းတခု ရှိသည်။ အချို့အသိုက်များတွင် အပေါက်ကို ဘေး၌ထားသည်။ အသိုက်လုပ်နေစဉ် အလွန်ဆူညံစွာ အော်မြည်တတ်ကြသည်။ မိုးတွင်းအခါ၌ သားပေါက်ကြသည်။

ထိုစာမျိုးကို အရှေ့တိုင်းနိုင်ငံများတွင် အနှံ့အပြားတွေ့ရသည်။ မြန်မာနိုင်ငံတွင် လွင်ပြင်များ၌ အများအားဖြင့် တွေ့ရတတ်သည်။

**စာကူးစက်**။ ။စာကူးစက်ဆိုသည်မှာ စာကိုသာမက၊ ရုပ်ပုံများကိုပါ မိတ္တူပေါင်းများစွာ ကူးယူနိုင်သော စက်ဖြစ်သည်။ စာကူးစက်ဟူ၍ ခေါ်ရသော်လည်း အချို့ကရိယာများမှာ စက်မပါချေ။ အလွယ်ဆုံးသော စာကူးနည်းမှာ ဤသို့ဖြစ်၏။ အအေးခံထားသော ကျောက်ကျောပြင်ပေါ်သို့ စာကူးမင်ဖြင့် ရေးထားသည့် စက္ကူကို မင်သားဖက်မှဖိပေးလိုက်ရ၏။ ထိုနောက် ခပ်ပွပွ ပလာစက္ကူများကို ယင်းကျောက်ကျောပြင်ပေါ်သို့ ဖိကာဖိကာ မိတ္တူများကို ရယူနိုင်သည်။ သို့သော် တကြိမ်လျှင် မိတ္တူ ၅၀ ခန့်ထက်ပို၍ ကူးမရပေ။ ဟက်တိုဂရပ်ခေါ် စာကူးကရိယာမှာ ဤနည်းမျိုးပင်ဖြစ်၏။

မိတ္တူကူး မင်စက္ကူများကို အသုံးပြုခြင်းသည်လည်း စာကူးခြင်းပင်ဖြစ်သည်ဟု အချို့က ယူဆကြ၏။ ယခုအခါ အများဆုံး အသုံးပြုသည့် စာကူးနည်းမှာ စာကူးရန် စီမံပြုလုပ်ထားသော ဖယောင်းစက္ကူပေါ်၌ စာကို လက်နှိပ်စက်ဖြင့် ရိုက်ပြီးသော်၎င်း၊ စာ သို့မဟုတ် ပုံစံများ၊ ရုပ်ပုံများကို လက်ရေးဖြင့် ရေးပြီးသော်၎င်း ထိုဖယောင်းစက္ကူကို တဖန် စာကူးစက်ပေါ်တွင် တင်ကာ မိတ္တူအမြောက်အမြား ကူးသည့်နည်းဖြစ်၏။

ထိုနည်း၏သဘောမှာ ဤသို့ဖြစ်၏။ ဖယောင်းစက္ကူကို လက်နှိပ်စက်ဖြင့် ရိုက်သောအခါ ဖြစ်စေ၊ စာကူးရန်အတွက် အသုံးပြုသည့် ကလောင်ဖြင့် ရေးသောအခါ ဖြစ်စေ၊ ဖယောင်းစက္ကူ၌ ထုတ်ချင်းခပ် မပေါက်ရုံကလေးမျှ ရှိသော စာလုံးရာ သို့မဟုတ် ရုပ်ပုံရာများ ထင်၍ ကျန်ရစ်လေသည်။

ထိုမိတ္တူဖယောင်းစက္ကူကို စာကူးစက်ပေါ်သို့တင်၍ ရိုက်လိုက်သောအခါ၊ ဖယောင်းစက္ကူအောက်မှ မင်ဆွတ်ထားသည့်အဝတ်မှ မင်များသည် ထုတ်ချင်းခပ်လုနီးပါးဖြစ်သော နေရာများမှ စိမ့်ဝင်ကာ၊ စာကူးစက်ထဲရှိ စက္ကူများကို ထင်စေလေသည်။ ပိသုကာများ အသုံးပြုသော အိမ်ပုံစံများ၊ မြေပုံများ ကူးရာ၌ ပိတ်ချောဆီစိမ် ပုံကူးစက္ကူပေါ်တွင် မင်နက်ဖြင့် ပဌမရေးဆွဲရသည်။ ထိုနောက် ယင်းပုံကူးစက္ကူကို ဓာတ်ဆေးဖြင့် သုတ်လိမ်းထားသည့်စက္ကူပေါ်၌ ထပ်၍ဖြန့်ကာ၊ အလင်းရောင်ကိုပြရ၏။ ထိုအခါ မင်နက်ကြောင့် အလင်းရောင် မဝင်နိုင်သောနေရာတို့သည် ဖြူ၍ကျန်ရစ်ခဲ့ပြီးလျှင်၊ ကျန်အလင်းရောင်မိသွားသော နေရာတို့မှာ ပြာ၍ကျန်ရစ်သည်။ ဤအကြောင်းကြောင့် လိုရာပုံစံများသည် ဓာတ်ဆေးသုတ်ထားသော စက္ကူပေါ်တွင် ပေါ်၍လာလေသည်။ ထိုနည်းဖြင့် အိမ်ပုံစံများ၊ မြေပုံများကို အလိုရှိသလောက် ကူးယူနိုင်၏။ ဤသို့သော နည်းကိုလည်း စာ သို့မဟုတ် ပုံကူးနည်းဟုဆိုကြ၏။

ဤနည်းအလားတူ၊ ဓာတ်ပုံဖြင့် စာ သို့မဟုတ် ရုပ်ပုံများကိုကူးယူနိုင်၏။ ပိသုကာများအသုံးပြုသော အိမ်ပုံစံများ၊ မြေပုံများကို မိတ္တူကူးရာ၌ ရရှိသော ပုံစံပြာများမှာ ဓာတ်ပုံကူးသောနည်းမျိုးနှင့် သဘောချင်း အတူတူပင်ဖြစ်၏။ (ဓာတ်ပုံပညာလည်း — ရှု။)

ရှေးကမူ အလိုရှိသော စာများ၊ ပုံစံများ၊ ရုပ်ပုံများကို ဓာတ်ပုံရိုက်ပြီးလျှင် လိုသည့်အရွယ်ကို ကူးချဲ့ကြ၏။ ယခုမူ မိုက္ကရိုဖလင်နည်းကို အသုံးပြုလာကြ၏။ မိုက္ကရိုဖလင်နည်းဖြင့် စာကူးပုံမှာ လိုအပ်သော စာတမ်း၊ ရုပ်ပုံ၊ ပုံစံများကို လက်နှစ်လုံးခန့်မျှသော ဓာတ်ပုံဖလင်ကော်ပြားဖြင့် ချုံး၍ တဆက်တည်း ရိုက်ကူးခြင်းပင် ဖြစ်၏။ ဤသို့ကူးထားသော စာနှင့် ရုပ်ပုံတို့ကို ကြည့်ရှုလိုသော် အခွေလိုက်သိမ်းဆည်းထားသော ဓာတ်ပုံကော်ပြားများကို ပြစက်ဖြင့်ပြကာ ကြည့်ရှုရသည်။



ဖယောင်းစက္ကူဖြင့် မိတ္တူများကူးယူနိုင်သော စာကူးစက်

# ပညာဘဏ်တိုက်

ရှေးဌေးစသော အဖိုးတန်ဘဏ္ဍာများကို ဘဏ်တိုက်များ၌ စုဆောင်းထားသကဲ့သို့ လူ့ယဉ်ကျေးမှုဆိုင်ရာ ပညာအရပ်ရပ်တို့ကို စာကြည့်တိုက်များ၌ စုဆောင်းထားပေသည်။ ထို့ကြောင့် စာကြည့်တိုက်များကို ပညာဘဏ်တိုက်ဟုခေါ်ထိုက်သည်။ ရှေးဟောင်းစာကြည့်တိုက်များမှအစ ယခုခေတ်စာကြည့်တိုက်များအထိ အဆင့်ဆင့် မည်ကဲ့သို့တိုးတက်လာပုံကို ဖတ်ရှုလေ့လာရန် တင်ပြထားပါသည်။

**စာကြည့်တိုက်**။ ။စာကြည့်တိုက်သည် ပုံနှိပ်စာအုပ်များကို သော်၎င်း၊ လက်ရေးစာမူများကိုသော်၎င်း၊ လူခပ်သိမ်းတို့ လေ့လာရန် စုဆောင်းထားရာဌာနဖြစ်သည်ဟု ဆိုလေသည်။ ကမ္ဘာပေါ်ရှိ ရှေးအကျဆုံး စာကြည့်တိုက်များသည် ခရစ်ယန် ဘုရားရှိခိုးကျောင်းကြီးများဖြစ်၏။ ကမ္ဘာပေါ်တွင် ရှေးဦးစွာ ထိုသို့စုဆောင်းထားသည့် စာအုပ်စာတမ်းများမှာ အစိုးရမှတ်တမ်းစာများသာ ဖြစ်သည်။ ယဉ်ကျေးသော တိုင်းပြည်များတွင် စာကြည့်တိုက်များကိုတွေ့ရသည်။

## ရှေးဟောင်းစာကြည့်တိုက်များ

ဘီစီ ၆၀၀ ပြည့်နှစ်ခန့်က အဆီးရီးယားဘုရင် အားရှူးဗားနီပါးသည် ထိုခေတ်က စာအုပ်များဟု ဆိုအပ်သည့် ရွှံ့ပြားချပ် အမြောက်အမြားကို နင်နီဗီမြို့တော်ရှိ သူ၏ နန်းတော်တွင်း စာကြည့်တိုက်တွင် စု ဆောင်း ထား ခဲ့ သည်။ ထိုပြင် မကြာမီက ဗက်ဗီလုံးနီးယားပြည် မြို့ဟောင်းတခုတွင် ရှေးဟောင်း အဆောက်အအုံများကို တူးဖော် ရှာဖွေရာ၊ ဘီစီ ၂၅၀၀ ပြည့်နှစ်ခန့်က တည်ဆောက်ခဲ့ဟန်တူသော စာကြည့်တိုက်တခုကို တွေ့ရ၏။ ရှေးဟောင်း စာကြည့်တိုက်များတွင် ရှေးအီဂျစ်နိုင်ငံ တော်လမီ ဘုရင်များ တည်ခဲ့သော အီဂျစ်ပြည် အယ်လက်ဇန္ဒြီးယားမှ စာကြည့်တိုက်ကြီးသည် အကြီးဆုံးနှင့် အထင်ရှားဆုံးဖြစ်သည်။

ရှေးခေတ်နှင့် အလယ်ခေတ် စာကြည့်တိုက်များမှာ ပြည်သူပြည်သားအတွက် တည်ထောင်ထားခြင်း မဟုတ်သဖြင့် လူထု သည် စာကြည့်တိုက် များ တွင် အလွယ် တကူ ဝင်ရောက်သွားလာ၍ စာအုပ်များ ငှားရမ်းခြင်း မပြုနိုင်ကြချေ။ အများအားဖြင့် အလယ်ခေတ် ဘုရားရှိခိုးကျောင်းများနှင့် ဘုန်းကြီးကျောင်းများရှိ စာကြည့်တိုက်များမှ စာအုပ်များ ကို စာဖတ်စင်များ တွင် သံကြိုး များ ဖြင့် ချည်နှောင်ထားလေသည်။ ယင်းသို့ ပြုလုပ်ရခြင်းမှာ ထိုခေတ်က ပုံနှိပ်အတတ် မပေါ်သေးသဖြင့် တပင်တပန်း လက်ရေးဖြင့် ကူးယူရသော စာအုပ်များ ပျောက်ပျက်မည်စိုးသောကြောင့်ဖြစ်သည်။



၁၀၅၈ ခုနှစ်တွင် ပုဂံမြို့၌ အနော်ရထာမင်းတည်ခဲ့သော ဘုံ ၅ ဆင့်ရှိပိဋကတ်တိုက်

## ကမ္ဘာကျော်စာကြည့်တိုက်များ

လန်ဒန်မြို့ရှိ ဗြိတိသျှ ပြတိုက်ကြီးမှ စာကြည့်တိုက်၊ အောက်စဖို့တက္ကသိုလ် ဗော့ဒလီယန် စာကြည့်တိုက်၊ ထရင်နီတီ ကောလိပ်ကျောင်း စာကြည့်တိုက်၊ ကိမ်းဗရစ် တက္ကသိုလ် စာကြည့်တိုက်နှင့် ပြင်သစ်နိုင်ငံ ပါရစ်မြို့ရှိ နိုင်ငံတော်စာကြည့်တိုက်၊ ရောမမြို့ ဗက်တီကင်စာကြည့်တိုက်၊ ဝါရှင်တန်မြို့ ကွန်ဂရက် စာကြည့်တိုက်၊ လီနင်ဂရက်ရှိ နိုင်ငံတော်စာကြည့်တိုက်များသည် ကမ္ဘာကျော်စာကြည့်တိုက်များဖြစ်ကြ၏။

လန်ဒန်မြို့ ဗြိတိသျှပြတိုက်ကြီးရှိ စာကြည့်တိုက်သည် ပါရစ်မြို့ရှိ နိုင်ငံတော်စာကြည့်တိုက်အတွင်းရှိ ပစ္စည်းများထက် တန်ဖိုးတွင်သာသည်ဟု ဆိုလေသည်။ ထိုစာကြည့်တိုက်တွင် ကျောင်းသားများ စာကြည့်ရန်အတွက် အခန်းကျယ်ကြီး တခုရှိ၏။ ထိုအပြင် အဖိုးတန်စာအုပ် များစွာပါဝင်သည့် ပုံနှိပ်စာအုပ်ပေါင်း ၄,၀၀၀,၀၀၀ ခန့်နှင့် လက်ရေးစာမူပေါင်း ၅၆,၀၀၀ ခန့်ရှိ၏။ စာအုပ်စင်များကို ဆက်လိုက်လျှင် ၅၅ မိုင်ခန့် ရှည်လိမ့်မည်ဟုပင် ဆိုသည်။ စာကြည့်တိုက်ပြုလုပ်ထားရာ အဆောက်အအုံကြီးကို ၁၈၅၇ ခုနှစ်က ဖွင့်လှစ်ခဲ့လေသည်။ စာကြည့်တိုက်ခန်းတွင် စာအုပ်စင်များ ဝန်းရံ စီစဉ်ထားပုံမှာလည်း ခမ်းနား၍ ခေတ်မှီပေသည်။ ထွက်ပေါ်သမျှသော စာအုပ်သစ် စာအုပ်ဟောင်းများကို ထိုစာကြည့်တိုက်တွင် တွေ့နိုင်၏။ (ဗြိတိသျှပြတိုက် — ရှု။) အောက်စဖို့ရှိ ဗော့ဒလီယန်စာကြည့်တိုက်နှင့် အခြားစာကြည့်တိုက်များမှာလည်း ထိုနည်းနှင်နှင်ဖြစ်လေသည်။

အောက်စဖို့တက္ကသိုလ်၏ ရှေးအကျဆုံး စာကြည့်တိုက်ကို ခရစ် ၁၃၃၇ ခုနှစ်တွင် တည်ထောင်ခဲ့သည်။ ထိုနောက် ဒျူ့ဘ်ဂွဲ့ရ ဂလောက်စတာစားက နောက်ထပ် စာကြည့်တိုက်တခုကို တည်ထောင်ပြန်သည်။ သို့သော် ထိုစာကြည့်တိုက်များ ပျက်စီးသွားပြီးနောက် ၁၅၉၈ ခုနှစ်တွင် ဗော့ဒလီယန်စာကြည့်တိုက်ကို တည်ထောင်ပြန်၏။ ထိုအခါမှစ၍ စာအုပ်စာတမ်းများကို စုဆောင်းလာခဲ့ရာ၊ ယခုအခါ ပုံနှိပ်စာအုပ်ပေါင်း ၁,၅၀၀,၀၀၀ နှင့် လက်ရေးစာမူပေါင်း ၄၀,၀၀၀ ခန့်ရှိနေပြီဖြစ်၏။ ဤစာကြည့်တိုက်ရှိ အရှေ့တိုင်းစာပေဆိုင်ရာ လက်ရေးစာမူများသည် ဥရောပတိုက်ရှိ အခြားစာကြည့်တိုက်များရှိ စာမူများထက် များစွာ သာပေသည်။ ပုံနှိပ်အတတ် ပေါ်စက ရိုက်နှိပ်ထားသော စာအုပ်များ၊ စာပေသမိုင်းနှင့် နိုင်ငံသမိုင်းဆိုင်ရာ စာမူများသည်လည်း မည်သည့် စာကြည့်တိုက်နှင့်မျှ မယှဉ်သာအောင် များစွာရှိလေသည်။



ဗြိတိသျှပြတိုက်ကြီးရှိစာကြည့်တိုက်မှ ခေတ်မှီစာအုပ်စင်များ

ထရင်နီတီကောလိပ်ကျောင်း စာကြည့်တိုက်တွင် ပုံနှိပ်စာအုပ်ပေါင်း ၁၀၀,၀၀၀ ကျော်နှင့် လက်ရေးစာမူပေါင်း ၂,၀၀၀ ကျော်ခန့်ရှိ၏။ ထိုအပြင်သီးသန့် ရှာဖွေစုဆောင်းထားသော စာအုပ်များလည်း ရှိသေးသည်။ ထိုအထဲတွင် ရှေးခေတ် ပြဇာတ်များ၊ ရိုတ်စပီးယား ပြဇာတ်များ၊ ဂျာမန် ပြဟဒေဝဗေဒဆိုင်ရာ စာအုပ်များ၊ ယထာဘူတပညာဆိုင်ရာ စာအုပ်များ၊ ပုံနှိပ်အတတ် ပေါ်စက ရိုက်နှိပ်ထားသော စာအုပ်များ ပါဝင်လေသည်။ ထိုအပြင် သက္ကဋနှင့် အခြား အရှေ့တိုင်းဖျား ဘာသာများဖြင့် ရေးထားသော လက်ရေး စာမူများ၏ စာအုပ် စာရင်း ကက် တ လောက်များလည်း ရှိသည်။

ကိမ်းဗရစ်တက္ကသိုလ် စာကြည့်တိုက်ကို ၁၉၄၃ ခုနှစ်တွင် စာအုပ်ပေါင်း ၁,၅၀၀,၀၀၀ နှင့် မတည် ဖွင့်လှစ်ခဲ့၏။

ပြင်သစ်နိုင်ငံ၊ ပါရစ်မြို့ရှိ နိုင်ငံတော်စာကြည့်တိုက်သည် ၁၄ ရာစုနှစ်က စတင်တည်ထောင်ခဲ့သည်။ ထိုစာကြည့်တိုက်ရှိ စာအုပ်များမှာ ထိုခေတ်ကစ၍ စုဆောင်းခဲ့သော စာအုပ်များဖြစ်လေသည်။

ရောမမြို့ရှိ ဗက်တီကင်စာကြည့်တိုက်ကို ၁၅ ရာစုနှစ်က တည်ထောင်ခဲ့၏။ ထိုစာကြည့်တိုက်တွင် အဖိုးတန်သော စာမူများ၊ နိုင်ငံသမိုင်းအတွက် အထောက်အထားပြုနိုင်မည့် စာအုပ်များ များစွာရှိသည်။

ဝါရှင်တန်မြို့ရှိ ကွန်ဂရက်စာကြည့်တိုက်နှင့် လီနင်ဂရက်မြို့ရှိ နိုင်ငံတော်စာကြည့်တိုက်များသည်လည်း ထိုနည်းတူပင်ဖြစ်၍ ထင်ရှားလေသည်။

## ယခုခေတ်စာကြည့်တိုက်သဘောနှင့် စာကြည့်တိုက်အမျိုးမျိုး

ယခုခေတ် စာကြည့်တိုက်များသည် ရှေးခေတ် စာကြည့်တိုက်များကဲ့သို့ မဟုတ်ချေ။ စာကြည့်တိုက်တွင်းသို့ မည်သူမဆို ဝင်ထွက်သွားလာနိုင်၍၊ စာအုပ်များ ငှားရမ်းနိုင်လေသည်။ ယင်းကဲ့သို့သော စာကြည့်တိုက်များ ပေါ်ပေါက်လာသည်မှာ မကြာလှသေးပေ။ ထိုစာကြည့်တိုက်တခုခုမှ စာအုပ်များကို ငှားရမ်းလိုသောအခါ၊ ရှေးဦးစွာ စာကြည့်တိုက်မှ ထုတ်ပေးသော လက်မှတ်ကတ်ပြားတခုကို ရအောင် တောင်းယူရသည်။ ထိုကတ်ပြား ရရန်မှာ၊ သက်ဆိုင်ရာ ဥပဒေစည်းကမ်းများကို ရိုသေလိုက်နာပါမည်ဟူ၍ လက်မှတ်ရေးထိုး၍၎င်း၊ အာမခံပုဂ္ဂိုလ် တဦးဦး၏ ထောက်ခံချက် လက်မှတ်ဖြင့်၎င်း လျှောက်ထား တောင်းဆိုနိုင်သည်။ လက်မှတ်ကတ်ပြားရလျှင် ယင်းကိုပြလျက် စာအုပ်များကို ထုတ်ယူနိုင်၏။

ယခုခေတ် စာကြည့်တိုက်များတွင် အလိုရှိသော စာအုပ်များကို လွယ်ကူစွာ ရှာဖွေနိုင်ရန်အတွက် နည်းများထွင်ထားသည်။ ယင်းတို့အနက် အကောင်းဆုံးဟုခေါ်ရမည့်နည်းမှာ စာရေးဆရာအမည်၊ စာအုပ်အမည်နှင့် အကြောင်းရပ်ကို အက္ခရာစဉ်အတိုင်း ရေးထားသော စက္ကူကတ်ပြားကက်တလောက် ထားရှိခြင်းပင် ဖြစ်၏။ စာအုပ်တအုပ်ကို အလိုရှိလျှင် စာရေးသူ၏အမည်ကို သိထားလျှင် ထိုအမည်ကို စာအုပ်စာရင်းကက်တလောက်တွင် ရှာယူရသည်။ တွေ့ရှိသောအခါ အမည်၏အောက်တွင် အလိုရှိသော စာအုပ်သာမက၊ သူရေးသော အခြားစာအုပ်အမည်များကိုလည်း တွေ့နိုင်ပေသေးသည်။ အကြောင်းရပ်တွင်လည်း ထိုအတူပင်ဖြစ်၏။ ပမာအားဖြင့်၊ ကျယ်ဝန်းနက်နဲသော အနုမြူ၏ အကြောင်းကို ဖတ်ရှုလိုလျှင် အကြောင်းရပ်ဆိုင်ရာ ကက်တလောက်မှ အနုမြူခေါင်းစဉ်ကို ရှာဖွေရသည်။ ယင်းခေါင်းစဉ်အောက်တွင် အနုမြူအကြောင်း ပါဝင်သော စာအုပ်အမည်များကို ဖော်ပြထားသည်။ ထိုအထဲမှ အလိုရှိသော စာအုပ်ကို ငှားရမ်းနိုင်သည်။

ယခုခေတ် စာကြည့်တိုက်များတွင် ထိုသို့ ငှားယူနိုင်သည့် စာအုပ်များသာ မက၊ ငှားရမ်းခွင့်မပြုသော အကိုးအကားပြုရန် စာအုပ်များနှင့် မဂ္ဂဇင်း၊ ဂျာနယ်၊ သတင်းစာများကိုလည်း ထားရှိသေးသည်။ အချို့ စာကြည့်တိုက်များသည် ထိုမျှမကသေးဘဲ၊ ဟောပြောပွဲများနှင့် စာအုပ် ပြပွဲများ စသည်တို့ကို မကြာခဏပြုလုပ်လေ့ရှိသည်။ ယင်းသို့ အားဖြင့် စာကြည့်တိုက်တွင်းရှိ စာအုပ်များကို ငှားရမ်း ဖတ်ရှုလိုစိတ် ပေါ်လာ စေနိုင်သည်။ (စာဖတ်ခြင်း — လည်းရှု။) အချို့ စာကြည့်တိုက်တွင် ကလေးများနှင့် သင့်လျော်သော စာအုပ်များ ထားရှိကာ ကလေး စာကြည့်ခန်းများ သီးသန့် ဖွင့်လှစ်ထား၏။ အချို့ စာကြည့်တိုက်များတွင် နိုင်ငံခြားသားများနှင့် မျက်မမြင်များ အတွက် စာအုပ်များ သီးသန့် စုဆောင်းထား ရှိသည်။ ဤကဲ့သို့သော ယခုခေတ် စာကြည့်တိုက်များတွင် စာ




ပြည်ထောင်စု ဆိုရှယ်လစ်
သမ္မတ မြန်မာ နိုင်ငံတော်
အမျိုးသား စာကြည့်တိုက်

ကြည့်တိုက်အမျိုးမျိုးရှိလေသည်။ ယင်းတို့မှာ နိုင်ငံတော်စာကြည့်တိုက်၊ ပြည်သူ့စာကြည့်တိုက်၊ ကျောင်းစာကြည့်တိုက်၊ တက္ကသိုလ်စာကြည့်တိုက်၊ အထူးစာကြည့်တိုက်၊ ကလေးစာကြည့်တိုက်၊ နယ်လှည့်စာကြည့်တိုက်တို့ ဖြစ်၏။ နိုင်ငံတော်စာကြည့်တိုက်တွင် ရှေးဟောင်း စာအုပ်စာတမ်းများ၊ လက်ရေးမူများ၊ ယဉ်ကျေးမှုဆိုင်ရာ စာရွက်စာတမ်းများနှင့် ခေတ်ပေါ် ဂန္ထဝင်စာပေများကို စုဆောင်းထားရှိ၏။ ယင်းစာကြည့်တိုက်မှ စာအုပ်စာတမ်းများကိုမူ ပြင်ပသို့ ငှားရမ်းခြင်းမပြုချေ။ စာကြည့်တိုက်အတွင်း၌သာ ကြည့်ရှုရသည်။ ပြည်သူ့စာကြည့်တိုက်များတွင်မူ အဖိုးတန် စာအုပ်စာတမ်းများအပြင် ခေတ်ပေါ် မဂ္ဂဇင်း၊ ဂျာနယ်၊ သတင်းစာ စသည်များလည်း ထားရှိကာ၊ မည်သူမဆို ဝင်ရောက် ကြည့်ရှုနိုင်သည့်အပြင်၊ ထိုစာအုပ်များကိုလည်း သတ်မှတ်ထားသော စည်းကမ်းချက်များ အရ ငှားရမ်းနိုင်သည်။ ကျောင်းစာကြည့်တိုက်တွင်၊ ကျောင်းသားများနှင့် ဆရာများအတွက် ဘာသာရပ်များဆိုင်ရာ သင်ခန်းစာများတွင် အထောက်အပံ့ရမည့် စာအုပ်စာတမ်းများကို အများဆုံးထားရှိ၏။ ခေတ်အလျောက် ပြဋ္ဌာန်းထားသော ဘာသာရပ်များနှင့် ခေတ်သစ်သင်နည်းများကို လိုက်စားနိုင်ရန် စာသင်ကျောင်းများတွင် စာကြည့်တိုက်များ ထားရှိ၏။

## ကျောင်းစာကြည့်တိုက်

စာကြည့်တိုက်တခုသည် ကျောင်းအဆောက်အအုံတွင်း၌ ရှိနေသော်လည်း၊ ဆရာများနှင့် ကျောင်းသားများအတွက် ထိထိရောက်ရောက် အကျိုးရှိအောင် စီမံဆောင်ရွက်ပေးနိုင်မှသာ ကျောင်းစာကြည့်တိုက်ဟု ဆိုထိုက်၏။ ကျောင်းစာကြည့်တိုက် တည်ထောင်ရန်မှာ လွယ်ကူသော အလုပ်မဟုတ်ချေ။ သင့်လျော်မည့်နေရာ၊ အရည်အခြင်းပြည့်၍ ဝတ်တရား ကျေပြွန်မည့် စာကြည့်တိုက်မှူးနှင့် သင့်တော်မည့် စာအုပ်များ ရရှိရေးတို့အတွက် ငွေကြေးအကုန်အကျခံ၍ ကြိုးပမ်းဆောင်ရွက်ရပေသည်။ ကျောင်းစာကြည့်တိုက်များသည် ပညာရေးဖက်တွင် မည်မျှ အကျိုးရှိစေသည်ကို သိရှိသော အချို့နိုင်ငံများသည် ဥပဒေများပြဋ္ဌာန်းလျက် ကျောင်းစာကြည့်တိုက် တည်ထောင်ရေးကို ကူညီခဲ့ကြသည်။ တက္ကသိုလ်စာကြည့်တိုက်သည်လည်း ကျောင်းစာကြည့်တိုက်ကဲ့သို့ပင် ဖြစ်၏။ ကလေးစာကြည့်တိုက်မှာမူ၊ ကလေးများနှင့် သင့်လျော်သော စာအုပ်စာတမ်း



လန်ဒန်မြို့ ဗြိတိသျှပြတိုက်ကြီးရှိ စာဖတ်ခန်း

များသာ ထားရှိကာ ကလေးများ အတွက် ပင် ဖြစ်၏။ (ကလေးစာပေ—လည်းရှု။) နေရာအနှံ့အပြားရှိ ပြည်သူလူထုလက်သို့ စာအုပ်များ ရောက်ရေး၊ စာဖတ်ဦးရေ တိုးတက်ရေးတို့ကို နယ်လှည့်စာကြည့်တိုက်က ဆောင်ရွက်လေသည်။

## မြန်မာနိုင်ငံစာကြည့်တိုက်

ကမ္ဘာ့နိုင်ငံများနည်းတူ၊ မြန်မာနိုင်ငံတွင် မြန်မာမင်းများလက်ထက်ကပင် စာကြည့်တိုက်များ ထွန်းကားခဲ့သည်။ သထုံပြည်၌ ပိဋကတ်သုံးပုံအစုံကို ရွှေစာရံဘုရား တံတိုင်းအတွင်း ပိဋကတ္တယစေတီဟု သမုတ်၍ ဥမင်၌ ထားရှိကြောင်းကို သိရ၏။ ထို့နောက် ပုဂံခေတ်တွင် အနော်ရထာစာကြည့်တိုက်ဟု ခေါ်သော ဘုံငါးဆင့်ရှိ ပိဋကတ်အုတ်တိုက် ရှိခဲ့သည်။ ထိုပိဋကတ်တိုက်များမှအစပြု၍ ဘုန်းတော်ကြီးကျောင်းများသို့ ပျံ့နှံ့ခဲ့သည်မှာ ယခုခေတ်အထိ ဖြစ်သည်။ ကုန်းဘောင်မင်းဆက် ဘိုးတော်ဘုရားလက်ထက်တွင် စီမံပုံမှာ စာကြည့်တိုက်များကို အနယ်နယ်အရပ်ရပ်သို့ ပျံ့နှံ့စေအောင် ဘုရင်မင်းမြတ်ကိုယ်တိုင် အားပေးကြောင်း တွေ့ရသည်။ ယင်းမှာ ဆေးကျမ်း၊ နက္ခတ်ကျမ်း၊ ဗေဒင်ကျမ်းမှစ၍ လောကီကျမ်းများကို သက္ကဋဘာသာမှ မြန်မာဘာသာသို့ ပြန်ဆိုခြင်း၊ ပိဋကတ်တော်အစုံကို ပေထက် အက္ခရာ တင်၍ စောင်ရေ ၅၀ နီးပါးမျှကို အမြို့မြို့ အနယ်နယ်သို့ ပေးပို့ခြင်းတို့ကို ဆောင်ရွက်ခဲ့သည်။ ရှေးအခါက တိုင်းပြည်၏ ကလေးသူငယ်များအား အခြေခံစာသင်ကြားပေးရာဌာန ဖြစ်သည့် ဘုန်းတော်ကြီး ကျောင်းတိုင်း၌ လိုလိုပင်၊ စာကြည့်တိုက်များ ရှိသည်။ ထိုစာကြည့်

တိုက်များ၌ ပေစာ၊ ပုရပိုက်၊ စာအုပ်များ စသည်တို့ကို စာတိုက်ဟုခေါ်သော ဇာတ်စုံသေတ္တာများတွင် ထည့်၍ ထားလေ့ရှိသည်။ ယင်းတို့ကို ဘုန်းတော်ကြီးများ၏ ခွင့်ပြုချက်အရ၊ အခမဲ့ ထုတ်ယူကြည့်နိုင်သည်။ (စာတိုက် — ရှု။)

ဗြိတိသျှတို့ မြန်မာနိုင်ငံကို အုပ်စိုးသည့်အခါ အနောက်နိုင်ငံစံနစ်များကို ယူဆောင်လာခဲ့ကြ၏။ ထိုစံနစ်များတွင် စာကြည့်တိုက်လုပ်ငန်းသည်လည်း အပါအဝင် ဖြစ်သည်။ ၁၈၈၃ ခုနှစ် (မြန်မာ ၁၂၄၅ ခုနှစ်) ၌ အောက်မြန်မာနိုင်ငံမင်းကြီး ဆာ ချား ဗားနတ်က ရန်ကုန်မြို့တွင် ပဌမဆုံးပြည်သူ့စာကြည့်တိုက်ကို တည်ထောင်ခဲ့သည်။ တည်ထောင်သည့်ပုဂ္ဂိုလ်အား အစွဲပြု၍ ထိုစာကြည့်တိုက်ကို ဗားနတ်ပိဋကတ်တိုက်ဟု ခေါ်တွင်ကြသည်။ ထိုစာကြည့်တိုက်ကို အစိုးရ ပညာရေးဆင်ဒီကိတ်အဖွဲ့က စီမံအုပ်ချုပ်၏။ အဖိုးတန်စာအုပ်များကို ပဌမဆုံးလှူဒါန်းသူများမှာ တရားဝန်ကြီး ဂျာဒင်းနှင့် ပါဠိပါမောက္ခ ချီလဒါတို့ ဖြစ်သည်။ ရန်ကုန်မြို့မှ ဦးမြို့နှင့် ဦးမျှင်တို့က ငွေတသောင်းတန် ပေမူ၊ ပုရပိုက်မူများကို ရေစက်ချ၍ လှူဒါန်းကြသည်။ နောက်တွင် ကင်းဝန်မင်းကြီး ပေပုရပိုက်စုနှင့် ပုဂံဝန်ထောက် ဦးတင်၏ ပေပုရပိုက်များကို ဗားနတ်ပိဋကတ်တိုက်က ဝယ်ယူခဲ့၏။ ၁၉၂၃ ခုနှစ်ခန့်တွင် ဗားနတ်ပိဋကတ်တိုက်ကို အစိုးရက ဗားနတ်ပိဋကတ်တိုက် အုပ်ချုပ်ရေးအဖွဲ့သို့ လွှဲအပ်ခဲ့သည်။ နှစ်စဉ် ငွေကြေးအထောက်အပံ့လည်း ပေးသည်။ ထိုနောက်၌ ရန်ကုန် မျူနီစီပယ်က ထောက်ပံ့ကြေး နှစ်စဉ်ခြီးမြှင့်လေသည်။ ထိုစာကြည့်တိုက်အပြင် စစ်တွေမြို့၌ စလေဒင်စာကြည့်တိုက်ဟူ၍လည်း ရှိခဲ့ဘူးသည်။

၁၉၁၀ ခုနှစ်ခန့်တွင် မြို့နယ်အနှံ့အပြား၌ စာကြည့်တိုက်များ ပေါ်ပေါက်လာသည်။ တိုင်းသူပြည်သားများသည် လွတ်လပ်ရေး ဝံသာနုလုပ်ငန်းများတွင် ပါဝင်လာကြသည်။ ဝိုင်၊ အမ်၊ ဘီ၊ အေ၊ ခေါ် ဗုဒ္ဓဘာသာ ကလျာဏယုဝ အသင်း၊ သုစရိတယုဝ အသင်း အစရှိသည်တို့ ပေါ်ပေါက်လာ၏။ (ဗုဒ္ဓဘာသာ ကလျာဏယုဝ အသင်း — ရှု။) ထိုအသင်းများနှင့်အတူ စာကြည့်တိုက်များလည်း ပြန့်ပွားလာလေသည်။ ၁၉၂၅ ခုနှစ်ခန့်ကစ၍ စာကြည့်တိုက်လုပ်ငန်းသည် အားစည်လာ၏။ ထိုအခါက မြန်မာနိုင်ငံ ပညာပြန့်ပွားရေးအသင်းက စာကြည့်တိုက်များ ထွန်းကားရေးကို အားထုတ်သည်။ ထိုအသင်း တည်ထောင်သူတဦးဖြစ်သည့် မစ္စတာ ဖာနီဗယ် ကလည်း စာကြည့် တိုက် အများ တည်ထောင်ကြရန် ဟောပြောလေသည်။ သို့ဖြင့် စာကြည့်တိုက်အများ ပေါ်ပေါက်လာရာ နိုင်ငံတော်အစိုးရက ငွေကြေးထောက်ပံ့ခဲ့လေသည်။ ၁၉၂၅ ခုနှစ်မှ ၁၉၃၃ ခုနှစ်အထိ ၈ နှစ်အတွင်း စာကြည့်တိုက်များသို့ ပျမ်းမျှကြေးငွေ တနှစ်လျှင် ၁၀,၀၀၀ ကျပ်မျှ အစိုးရက ထောက်ပံ့ခဲ့၏။



သက်ကြီးဝါကြီးစာရေးဆရာများဖြစ်သော ဆရာကြီးဦးလင်း၊ဆရာပွား၊ဦးအောင်မြတ်ထွန်း၊သဘင်ဝန်ဦးနုတို့ ကန်တော့ခံနေကြစဉ် (၁၉၄၉ ၅၀)

၁၉၃၆ ခုနှစ်တွင် မြန်မာပြည်အရပ်ရပ်၌ လူထုစာကြည့်တိုက် ငယ်ပေါင်း•၁၇၆ တိုက်ရှိရာ၊ စာကြည့်တိုက် ၁၄၆ တိုက်သည် အစိုးရ၏ ထောက်ပံ့ကြေးများကို ရခဲ့ကြ၏။ ကျေးလက်ပြုပြင်ရေး အသင်း၊ လူငယ်များကြီးပွားရေး အသင်းများက ကြိုးပမ်းခဲ့သဖြင့် ကျေးရွာ စာကြည့်တိုက်ပေါင်း တထောင်ခန့်အထိ တိုးတက်ခဲ့သည်။ ဦးဖိုးကျား၊ ဦးဆန်နီ အစရှိသော ပုဂ္ဂိုလ်ကြီးများက စာကြည့်တိုက်များသို့ စာအုပ်များ လှူဒါန်းကြသည်။

ဒုတိယကမ္ဘာစစ် အတွင်း၌ စာကြည့်တိုက်များ အရေအတွက် ဆုတ်ယုတ်သွားသည်။ သို့သော် စစ်ပြီးကာလ၌ ရန်ကုန်မြို့တွင် ယခင်ကထက် စာကြည့်တိုက်များ ပိုမိုများပြားသည်ကို တွေ့ရ၏။ မြို့နယ်များ၌မူကား စာကြည့်တိုက်များ အရေအတွက် နည်းပါးလျက်ရှိသေးသည်။

နိုင်ငံတော် လွတ်လပ်ပြီးသည့်ခေတ်တွင်၊ စာကြည့်တိုက်လုပ်ငန်းများ ထူးထူးခြားခြား တိုးတက်လာသည်ကို မတွေ့ရသေးချေ။ သို့သော် နိုင်ငံတော်အစိုးရက ပြန်ကြားရေးဌာနခွဲများနှင့်အတူ အစိုးရ စာဖတ်ခန်းများကို အမြို့မြို့တွင် ဖွင့်လှစ်ပေးခဲ့သည်။ ထို့ပြင် ရန်ကုန်မြို့တွင် ယခင် ဗားနတ်ပိဋကတ်တိုက်ကို အစိုးရသို့ ပြန်အပ်၍၊ မြန်မာနိုင်ငံတော် အစိုးရ၏ ပြည်ထောင်စု ယဉ်ကျေးမှုဝန်ကြီးဌာနက နိုင်ငံတော် စာကြည့်တိုက်အဖြစ်ဖြင့် ၁၉၅၂ ခုနှစ် ဇွန်လတွင် ဖွင့်လှစ်ခဲ့သည်။ ထို့ပြင် ထိုဝန်ကြီးဌာနကပင် မြို့ကြီးများ၌ ပြည်သူ့စာကြည့်တိုက်များကို ဖွင့်လှစ်ရန် အားထုတ်နေသည်။ ယခုအခါ မန္တလေးနှင့် မော်လမြိုင်မြို့တို့တွင် စာကြည့်တိုက် နှစ်တိုက် ဖွင့်ပြီးဖြစ်သည်။ မြန်မာနိုင်ငံ ဘာသာပြန်စာပေအသင်းကလည်း စာကြည့်တိုက်လုပ်ငန်း တိုးတက်မှုကို ရှေးရှုလျက်၊ စာကြည့်တိုက် သင်တန်းများကို ၁၉၅၃ ခုနှစ် အောက်တိုဘာလက စတင် သင်ကြား ပို့ချလျက်ရှိသည်။ ပြည်ထောင်စု ယဉ်ကျေးမှုဝန်ကြီးဌာနအောက်ရှိ ယဉ်ကျေးမှုကောင်စီမှလည်း စာကြည့်တိုက်မှူးနှင့် ပြတိုက်မှူးသင်တန်းကို ၁၉၅၅ ခုနှစ် ဇူလိုင်လကစ၍ သင်ကြားပို့ချလျက်ရှိသည်။

**စာဆိုတော်နေ့။** ။နှစ်စဉ် နတ်တော်လဆန်း ၁ ရက်နေ့သည် စာဆိုတော်နေ့ဖြစ်သည်။ ယင်း စာဆိုတော်နေ့ကို ၁၃၀၆ ခုနှစ်၊ ဂျပန်ခေတ်တွင် ပညာရေးဝန်ကြီး ဦးလှမင်း၊ ဒီးဒုတ်ဦးဘချို၊ သူကြီးဂေဇက် ဦးခင်မောင်၊ ဦးသိန်းဟန်၊ ဦးကောင်း၊ သူရိယ ဦးသိမ်းမောင်၊ ဂျာနယ်ကျော် ဦးချစ်မောင်၊ ဇဝန၊ မြို့မ ဆရာဟိန် စသော မြန်မာနိုင်ငံ စာရေးဆရာများအသင်း အမှုဆောင်အဖွဲ့နှင့် စာပေဆိုင်ရာ လူကြီးများ ညှိနှိုင်းသတ်မှတ်ခဲ့ကြခြင်းဖြစ်သည်။

စာဆိုတော်နေ့ကို စာရေးဆရာများ အသင်း ဖွဲ့စည်းပြီး



၁၉၅၅ ခုနှစ်စာဆိုတော်နေ့တွင် စာရေးဆရာကြီးများအားကန်တော့နေကြပုံ
(ဝဲမှယာသို့) ဆရာကြီးဦးဖေမောင်တင်၊ သခင်ကိုယ်တော်မှိုင်း၊ ဦးဖေသိန်း (ရွှေဥဒေါင်း)

နောက် ၄ နှစ်မြောက်တွင်မှ သတ်မှတ်ခဲ့ခြင်းဖြစ်၏။ ခရစ် ၁၉၃၉ ခုနှစ် မတိုင်မီက စာရေးဆရာများအသင်းဟူ၍ မရှိသေးဘဲ၊ စာရေးဆရာအချို့တို့ ဖွဲ့စည်းထားသော ‘ကလောင်အဖွဲ့’ ကလေးတခုသာ ရှိခဲ့သည်။ ၁၉၃၉ ခုနှစ်တွင် အင်္ဂလိပ်စာရေးဆရာကြီး အိပ်၊ ဂျီ၊ ဝဲ သည် မြန်မာနိုင်ငံသို့ အလည်ရောက်လာသောအခါ စာရေးဆရာများက စုပေါင်း၍ ကျင်းပသော ညှော်ခံပွဲနှင့် စာရေးဆရာ ပီမိုးနင်း ကွယ်လွန်၍ ဈာပနကိစ္စတို့တွင် စာရေးဆရာများ စုစည်းမိကြရာမှ ဒီးဒုတ် ဦးဘချို ခေါင်းဆောင်၍ စာရေးဆရာများအသင်းကို တည်ထောင်ဖြစ်ကြသည်။

မူလက ‘မြန်မာပြည် စာရေးဆရာများ အစည်းအရုံး’ ဟုခေါ်တွင်ခဲ့သည်။ ဂျပန်ခေတ်တွင် စာရေးဆရာအသင်းကို ပြန်လည် စုစည်းပြီးလျှင် ‘မြန်မာ နိုင်ငံ စာဝ်ရေးဆရာများအသင်း’ ဟု မှည့်ခေါ်ခဲ့သည်။

ပဌမဆုံး စာဆိုတော်နေ့တွင် စာဆိုတော် အထိမ်းအမှတ်အဖြစ် စလေဦးပုည၏ ဝိဇယပြဇာတ်ကို စာရေးဆရာများကိုယ်တိုင် သရုပ်ဖော် ကပြခဲ့ရာမှ နှစ်စဉ် စာဆိုတော်နေ့များတွင် စာရေး ဆရာကြီး တယောက်ယောက်၏ အတ္ထုပ္ပတ္တိကို ပြဇာတ်အဖြစ် ပြသသည့် အလေ့အထ စွဲမြဲလာခဲ့သည်။ သက်ကြီး ဝါကြီး စာရေးဆရာကြီးများကို ကန်တော့ခြင်း၊ စာပေပြိုင်ပွဲ၊ ဟောပြောပွဲများ ကျင်းပခြင်း တို့ကိုလည်း ရန်ကုန်မြို့နှင့်တကွ အနယ်နယ် အရပ်ရပ်တွင် ပြုလုပ်ကြ၏။

# ပြည်သူ့အကျိုးဆောင်ဌာန

**စာတိုက်ဌာနသည် လူထုနှင့် အများဆုံးဆက်ဆံရသော ပြည်သူ့အကျိုးဆောင်ဌာနဖြစ်သည်။ စာတိုက်ဟုဆိုလျှင် ချောစာများကို သိမ်းယူခြင်း၊ ပို့ဆောင်ခြင်း၊ ဝေငှခြင်းဟူ၍ သာမန်အားဖြင့်သာ သိကြ၏။ စာတိုက်ဌာန၏လုပ်ငန်းမှာ ထိုထက်ကျယ်ဝန်းသည်ကို ဆက်လက်ဖတ်ရှုလေ့လာနိုင်ပေသည်။**

**စာတိုက်**။ ။ခေတ်စကား အသုံးအနှုန်း၌ စာတိုက်ဟူသည်မှာ ချောစာများကို ပို့ပေးရာဌာန ဖြစ်လေသည်။ အစိုးရနှင့် ပြည်သူတို့သည် မိမိတို့သက်ဆိုင်ရာ လုပ်ငန်းနှင့် စပ်လျဉ်း၍ အစိုးရ အချင်းချင်း၊ ပြည်သူ အချင်းချင်းတို့တွင် သတင်းစကား ပေးပို့လေ့ရှိကြသည်။ ယင်းသို့ ပေးပို့ကြသည့်အခါ၊ ပြည်သူတို့က ပုဂ္ဂိုလ်တဦးချင်း အနေနှင့် လုပ်ဆောင်ရမည် ဆိုသော်၊ စာတစောင် အတွက် စရိတ်ကြီးလေး၍ အချိန်ကြာမြင့်ပေလိမ့်မည်။ ထိုကြောင့် အစိုးရတို့သည် သက်သာ ချောင်ချိ၍ လွယ်ကူသော စံနစ်ကို တီထွင်အသုံးပြုကြလေရာ၊ စာပို့စံနစ်သည် ပေါ်ပေါက်လာရလေသည်။

စာပို့စံနစ်ကို ရှေးနှစ်ပေါင်း နှစ်ထောင်ခန့်ကပင် တီထွင်ခဲ့သည်ဟု ယူဆရန်အကြောင်းရှိသည်။ ပါးရှင်းအင်ပိုင်ယာခေတ်တွင် အစိုးရသည် သတင်းစကားများကို စာပို့လုလင်နှင့် ပေးပို့သည်မှာ ပဌမဦးစွာပေါ်သော စံနစ်ဖြစ်သည်ဟု ဆိုရန်ရှိလေသည်။ နောင်အခါတွင် ပါးရှင်းစံနစ်ကိုမှီး၍ မက်ဆီဒိုးနီးယန်း ဘုရင်များက စာပို့လုပ်ငန်းကို လုပ်ဆောင်ကြသည်။ သို့ရာတွင် ယနေ့လက်ရှိ စာပို့စံနစ်မှာ ရောမအင်ပိုင်ယာခေတ်က အသုံးပြုသော စံနစ် ဖြစ်သည်ဟု ဆိုကြသည်။

ဥရောပ သမိုင်း၏ ရှေးခေတ် နှင့် အလယ်ခေတ် တို့တွင် တက္ကသိုလ်ကျောင်းများ နှင့် လုပ်ငန်းဘုံအသင်းများသည် မိမိတို့၏ ကိုယ်ပိုင်စာပို့လုပ်ငန်းကို တည်ထောင်ခဲ့ကြသည်။ (လုပ်ငန်းဘုံအသင်း — လည်းရှု။) သာဓကပြရလျှင်၊ ပါရစ်တက္ကသိုလ်၏ ကိုယ်ပိုင်စာပို့စံနစ်ကို ပြရလိမ့်မည်ဖြစ်၏။ အင်္ဂလန်ပြည်တွင် တတိယအက်ဒွပ် (ခရစ် ၁၃၂၇–၁၃၇၇) လက်ထက်၌ ပုဂ္ဂလိကပိုင် စာပို့လုပ်ငန်း ရှိခဲ့ဘူးသည်။

ခရစ် ၁၅၁၂ ခုနှစ်လောက်တွင် စာတိုက်ဗိုလ်တဦးက ကြီးကြပ်အုပ်ချုပ်ရသော ဘုရင့် ခြေမြန်တော်အဖွဲ့ဟူ၍ ဖွဲ့စည်းခဲ့သည်။ ထိုအဖွဲ့မှာ ဘုရင်မင်းမြတ်ကိုယ်တိုင် တိုက်ရိုက်အုပ်ချုပ်သော စာပို့လုပ်ငန်းဌာန ဖြစ်လေသည်။ ထိုစဉ်က ဘုရင်ခန့်အပ်သည့် စာတိုက်ဗိုလ်က အသိအမှတ် မပြုသော စာပို့လုလင်များသည် တရားမဝင်ချေ။ ခရစ် ၁၅၉၁ ခုနှစ်တွင် အယ်လစ်ဇဗက် ဘုရင်မသည် တရားမဝင်သော စာပို့လုလင်တို့ကို ပင်လယ်ရပ်ခြား နိုင်ငံများနှင့် ဆက်သွယ်၍ စာပို့ခြင်း မပြုစေရဟု ပညတ်ခဲ့သည်။ ၁၆၀၉ ခုနှစ် ဂျိမ်းဘုရင်လက်ထက်၌ကား တရားမဝင်သော စာပို့လုလင်တို့သည် ပြည်တွင်းရော ပြည်ပပါ စာပို့စာယူ ပြုလုပ်ခွင့်မရှိဟု ပညတ်ခဲ့ကြပြန်သည်။

ပဌမချားဘုရင် လက်ထက် ၁၆၃၅ ခုနှစ်၌ ခရီးစဉ်အလိုက် သတ်မှတ်ထားသော ပုံသေနှုန်းဖြင့် စာ ပို့ သော စံ နစ် ကို အင်္ဂလန်၌ စတင်အသုံးပြုလေသည်။ ဤစံနစ်အရ အများပြည်သူတို့သည် စာ တိုက် ကို အသုံးပြုလာ နိုင် ကြ သည်။ သို့သော် စာတိုက်သည် ဘုရင်ကိုယ်တိုင် စီမံအုပ်ချုပ်သော ဌာန ဖြစ်သည်။ ၁၆၅၇ ခုနှစ် အော်လီဗာ ကရွမ်းဝဲ လက်ထက်သို့ ရောက်သောအခါကျမှ စာပို့လုပ်ငန်းဆိုင်ရာ ဘုရင့်အာဏာများသည် ပါလီမန်၏ လက်တွင်းသို့ ရောက်ရှိလာခဲ့သည်။ ၁၆၆၀ ပြည့်နှစ်၌ ဒုတိယချားဘုရင်သည် စာပို့တိုက်နှင့်သက်ဆိုင်ရာ အာဏာနှင့် တာဝန် ဝတ်တရားတို့ကို ပါလီမန်က ပိုင်ဆိုင်စေရန် ဥပဒေတရပ် ပြဋ္ဌာန်းခဲ့သည်။


ရန်ကုန်မြို့၊ ဗဟိုစာတိုက်ကြီး

ထိုအခါမှစ၍၊ စာတိုက်ဌာနသည် တိုင်းပြည်၏ အခွန်တော်ဌာန တခု ဖြစ်လာလေသည်။

စာတိုက်ဌာန လုပ်ငန်းကို တဆင့် ထက်တဆင့် တိုးတက်အောင် ပြုပြင် ပြောင်းလဲလာခဲ့ကြရာ၊ ၁၇၁၉ ခုနှစ်၌ စာဖလှယ်၍ပို့သော စံနစ် ပေါ်ပေါက်လာသည်။ ထိုစံနစ်အရ၊ နယ်မှ လန်ဒန်မြို့သို့ ပေးပို့ရန်ရှိသည့် စာများကို လန်ဒန်မြို့သို့ အရောက် တိုက်ရိုက် ယူဆောင် ပေးပို့ခြင်း မပြုတော့ဘဲ၊ လန်ဒန်မြို့သွားရာ လမ်းမတလျှောက်ရှိ မြို့ကလေးများမှ အဆင့်ဆင့် အပြန်အလှန် စာချင်းဖလှယ်၍ ပေးပို့လေသည်။ ၁၇၈၄ ခုနှစ်တွင် အင်္ဂလန်၌ စာပို့မြင်းရထားများ ပေါ်လာသည်။ နောက် နှစ်ပေါင်း ၅၀ မျှကြာသောအခါ (၁၈၃၀ ပြည့်နှစ်) စာပို့မီးရထားများ ပေါ်ထွန်းလာလေရာ၊ မြင်းရထားနှင့် စာပို့သော စံနစ်သည် လုံးဝ တိမ်ကောသွားလေသည်။ သို့သော် ထိုခေတ်များတွင် ချောစာပို့ခနှုန်းမှာ အများ ပြည်သူတိုင်း အသုံးပြုနိုင်လောက်အောင် မသက်သာချေ။

၁၈၄၀ ပြည့်နှစ်တွင် ဆာ ရိုလန် ဟီး သည် ခရီးအကွာအဝေးကို မဓာန မပြုဘဲ စာတိုက်ခကို နှုန်းသေ တပဲနီသတ်မှတ်သောစံနစ် တီထွင်လိုက်သည်။ ဆာရိုလန်သည် မူလက ကျောင်းဆရာမျှသာ ဖြစ်သည်။ သို့သော် ဤစံနစ်ကို ထွင်လိုက်သောကြောင့် စာတိုက်ဌာနသို့ ခန့်အပ်ခြင်းခံရ၍ စာတိုက်မင်းကြီးအထိ ရာထူး ဆင့်ကဲဆင့်ကဲ တိုးတက်လာခဲ့သည်။ ဆာရိုလန်၏ လက်ထက်မှစ၍ တံဆိပ်တော်ခေါင်းများ ပေါ်လာခဲ့သည်။

၁၈၄၈ ခုနှစ်တွင် အင်္ဂလန်ပြည် စာပို့တိုက်တို့တွင် **စာ** အုပ်နှင့် နမူနာပို့ စံနစ်ကို တီထွင်သည်။ ၁၈၆၈ ခုနှစ်၌ကား၊ စာတိုက်၌ ငွေစုဘဏ် ဌာန များ ကို ဖွင့်လှစ်ပေး ခဲ့သည်။ ၁၈၇၀ ပြည့်နှစ်တွင် ကြေးနန်းဌာနကိုင်း၊ ၁၈၈၀ ပြည့်နှစ်တွင် ငွေလွှဲပို့ စံနစ်ကိုင်း၊ ၁၈၈၃ ခုနှစ်တွင် ပါဆယ်ပို့ စံနစ်ကိုင်း၊ ၁၈၉၂ ခုနှစ်တွင် စကားပြောကြေးနန်း ဌာနကိုင်း၊ စာတိုက်တွင် တိုးချဲ့တီထွင်ပေးကြသည်။ လေကြောင်း သယ်ယူပို့ဆောင်ရေးခေတ်သို့ ရောက်သောအခါ၊ ၁၉၁၉ ခုနှစ်တွင် အင်္ဂလန်နှင့် ပြင်သစ်နိုင်ငံတို့သည် လန်ဒန်နှင့်ပါရစ်အကြား လေကြောင်းစာပို့လမ်းကိုဖွင့်လှစ်ခဲ့သည်။

ဗြိတိသျှစာတိုက်ကြီးသည် ဒုတိယကမ္ဘာစစ် မဖြစ်မီအခါက တနေ့လျှင် စာစောင်ရေပေါင်း ၂၅,၀၀၀,၀၀၀ မျှကို ပို့ဆောင် ဝေငှ ပေးရလေသည်။ ထိုမျှများပြားသော စာများကို သိမ်းယူခြင်း၊ ပို့ဆောင်ခြင်း၊ ဝေငှခြင်း စသော မူလ လုပ်ငန်းများ အပြင် အခြား လုပ်ငန်းများလည်း ရှိ၏။ ယင်းတို့မှာ သံကြိုး နှင့် စကားပြော ကြေးနန်း လုပ်ငန်းများကို ဆောင် ရွက် ပေးရခြင်း၊ အာမခံ တံ ဆိပ် ခေါင်း၊ အလုပ်လက်မဲ့ တံဆိပ်ခေါင်း၊ စာပို့ တံဆိပ်ခေါင်း စသည့် တံဆိပ်ခေါင်းများကို ရောင်းချပေးရခြင်း၊ ရိုးရိုးငွေလွှဲငွေပို့ဆိုင်ရာနှင့် စာတိုက် ငွေလွှဲ ငွေပို့ဆိုင်ရာ လုပ်ငန်းများကို


ဗူးထဲမှစာများကို အချိန်မှန်လိုက်လံသိမ်းယူနေသည့် စာသိမ်းလုလင်

**ဆောင်ရွက်ရခြင်း၊** ခွေးမွေးမြူရန် လိုင်စင်၊ အသံဖမ်းစက် လိုင်စင် စသော လိုင်စင်အမျိုးမျိုးကို စစ်ဆေးထုတ်ပေးရခြင်း၊ အိုနာစာ ပင်စင်နှင့် အခြား ပင်စင်ရိက္ခာများကို ကြပ်မ ထုတ်ပေးရခြင်း၊ စာတိုက်ငွေစုဘဏ် လုပ်ငန်းနှင့် အမျိုးသား ငွေစုလက်မှတ် ရောင်းချခြင်း လုပ်ငန်းတို့ ဖြစ်သည်။ ထိုလုပ်ငန်း အရပ်ရပ်များအတွက် ငွေရေးကြေးရေး ကိစ္စများတွင် နှစ်စဉ်နှစ်တိုင်း ပေါင်သန်းပေါင်း ၉၀၀ ကျော်မျှကို ပြည်သူအများနှင့် ဆက်ဆံ၍ ထုတ်ပေးရလေသည်။ ဒုတိယ ကမ္ဘာစစ် မဖြစ်မီက တနှစ်အတွင်း အများဆုံး ပေါင်ပေါင်း ၁,၀၆၂ သန်းဖိုးမျှအထိ ဆောင်ရွက်ပေးခဲ့ရ၏။ စစ်ပြီးကာလ၊ ၁၉၄၆–၄၇ ခုနှစ်တွင် ထိုထက်ကျော်လွန်ကာ ပေါင်သန်းပေါင်း ၃,၃၅၀ ကျော်မျှအထိ ဆောင်ရွက်ပေးရလေသည်။

ဗြိတိသျှစာတိုက်ကြီးမှာ အစိုးရဌာနတခု ဖြစ်လျက်၊ စာတိုက်မင်းကြီး၏အုပ်ချုပ်မှုအောက်တွင်ရှိသည်။ ယောကျ်ားမိန်းမ အလုပ်သမား ပေါင်း ၂၂၈,၀၀၀ ယောက်မျှ ရှိ၏။ ယင်းမှ ၅၀,၀၀၀ ကျော်တို့မှာ မိန်းမများဖြစ်သည်။

ဗြိတိသျှစာတိုက်ကြီး၏ နေ့စဉ်အလုပ်မှာ စိတ်ဝင်စားစရာဖြစ်၏။ စာပို့သူသည် မိမိအိမ်မှနေ၍ လမ်းဘေးစာပုံးထဲသို့ စာထည့်လိုက်သည်။ ထိုအခါ ညနေ စာသိမ်းချိန်တွင် စာသိမ်းလုလင်တဦး လာ၍ သိမ်းလေသည်။ စာသိမ်းလုလင်သည် အရပ်ရပ်မှ စာများကို စာပို့အိတ်တွင် ထည့်၍ ချောစာပို့ကားဖြင့် ဗဟိုစာရွေးဌာနသို့ ပို့လေသည်။ ထိုဌာနက စာများကို (၁) စာတိုများ (၂) စာရှည်များ (၃) စာထုပ်များဟု သုံးစားခွဲလေသည်။ ထို့နောက် ထိုစာတို့ကို စာတိုက်တံဆိပ် ရိုက်နှိပ်ရာဌာနသို့ ပို့လိုက်လေသည်။ ထိုဌာနက တံဆိပ်ခေါင်းများကို ထပ်၍ မသုံးနိုင်အောင် တံဆိပ်ရိုက်ပေး၏။ ထိုနောက် စာရွေးသမားများက စာများကို တိုင်းနယ်အလိုက် ရွေးထုတ်သည်။ ထိုနောက်တဖန် ခရိုင်နယ်အလိုက်၊ မြို့နယ်အလိုက်၊ မြို့အလိုက်၊ မြို့၏စာတိုက်ရပ်ကွက်အလိုက်စသည်ဖြင့် အဆင့်ဆင့် ရွေးထုတ်ပြန်သည်။ ရွေးချယ်ပြီး စာများကို စာဝေငှရှီးသို့ပို့ရန် စာပို့အိတ်ထဲသို့ ထည့်သွင်းကြသည်။ ဗြိတိသျှစာတိုက်တွင် စာတစောင်စာတိုက်သို့ရောက်ပြီးနောက် လိုရာအရပ်သို့ပို့ရန် အဆင့်ဆင့်လုပ်ငန်းသည် မိနစ် ၉၀ မျှသာကြာသည်။ အဘယ်ကြောင့်ဆိုသော် ခေတ်မှီစက်ကရိယာများကို အသုံးချသောကြောင့်တည်း။

ထိုစာပို့အိတ်များကို စာပို့မီးရထားများဖြင့်အနယ်နယ်သို့ ပို့ဆောင်ကြရာ၊ သက်ဆိုင်ရာ စာတိုက်ရှိသော မြို့ရွာတို့က စာများကို လက်ခံယူကြပြီး၊ လိပ်စာပါ နေအိမ်သို့အရောက် လိုက်လံပေးပို့ကြသည်။

လုပ်ငန်းတွင်ကျယ်စေရန် စာတိုက်၌ ခေတ်မှီ တီထွင်ထားသော ကရိယာများရှိသည်။ ချောစာအိတ်များကို တနေရာမှ တနေရာသို့ ပို့ရန်အတွက် ရွက်ထည်ဖျင်စက်ကြိုး (ခါးပတ်ကြိုးပြား) များကို အသုံးပြုသည်။ စာအိတ်များတွင်ရှိသော တံဆိပ်ခေါင်းများ ပေါ်တွင် စာတိုက်တံဆိပ်များ ရိုက်နှိပ်ပေးခြင်းကိုလည်း တံဆိပ်နှိပ်စက်ဖြင့် ရိုက်နှိပ်သည်။ ယင်းကိုသုံးခြင်းဖြင့် တမိနစ်အတွင်း စာစောင်ရေ ၇၀၀ ခန့်ကို တံဆိပ်နှိပ်ပြီးနိုင်လေသည်။ စာပို့အိတ်များကို မြေအောက် စာပို့ရထားသို့ ပို့သည့်နေရာတွင်လည်း၊ ကြောင်လိမ်လျှောတခုကို တပ်ဆင်ထားခြင်းဖြင့် စာပို့အိတ်များကို အချိန်အနည်းငယ်အတွင်း လွယ်ကူလျင်မြန်စွာ မြေအောက်ရထား စကြံသို့ ရောက်စေနိုင်၏။ မြေအောက်စာပို့ရထားမှာ ကမ္ဘာတွင် တမျိုးတည်းသာရှိသော ရထားဖြစ်သည်။ ဥမင် လူစီးရထားနှင့် မတူဘဲ၊ လူ၏ရင်ခေါင်းမျှသာ အမြင့်ရှိ၏။ ယင်း၏လမ်းကြောင်းမှာ မြေပြင်မှ ပေ ၁၀၀ အနက်တွင် တသီးတသန့်ရှိသည်။ လန်ဒန် အနောက်ပိုင်းရှိ ပက်ဒင်တန် ဘူတာမှ ဝှိုက်ချက်ပယ်ရှိ အရှေ့ပိုင်း နယ်စာတိုက်ကြီးအထိ ၆½ မိုင်မျှရှည်သော လမ်းတွင် စာတိုက်ကြီးရှစ်ခုတို့သည် တခုနှင့်တခု ဆက်သွယ်၍ တနေ့လျှင် စာအိတ်ကြီးပေါင်း ၃၃,၀၀၀ မျှကို သယ်ပို့နေရလေသည်။ ထိုရထားတွင် စက်ခေါင်းဗိုလ်၊ ဂတ်ဗိုလ်ဟူ၍ တယောက်မျှမပါချေ။ လျှပ်စစ်ဓါတ်အားဖြင့် မောင်းနှင်သွားလာလေသည်။ ယင်းတွင် လျှပ်စစ်ခေါင်းနှင့် နောက်တွဲနှစ်တွဲပါသည်။ တတွဲလျှင် အခန်းကလေး ၄ ခန်းကျပါရှိ၍ တခန်းလျှင် စာပို့အိတ် ၁၅ အိတ်စီ တင်ဆောင်နိုင်သည်။ တနာရီလျှင် ၃၅ မိုင်နှုန်း မောင်းနှင်လျက်၊ ရပ်စေ၊ သွားစေလိုလျှင် စကြံပေါ်ရှိခလုတ်ဖြင့် ပြုလုပ်ပေးရသည်။ ထိုရထားကလေးမှ စာပို့အိတ်များကို မြေပြင်ပေါ် တင်ရာတွင်လည်း အမြင့်တင် ဓာတ်လှေကားများကို အသုံးပြုလေသည်။ ထိုပြင် စာပို့မီးရထားကြီးကလည်း မိမိတင်ဆောင်သွားသော စာပို့အိတ်များကို လဲလှယ်ရန်အတွက် လမ်းအကြားရှိ ဘူတာတိုင်းတွင် ရပ်နား၍ လဲလှယ်ခြင်းဖြင့် အချိန်ကုန်မခံချေ။ အားကုန် ခုတ်မောင်းသွားနေရာမှပင် စာပို့အိတ်များကို 'စာပို့အိတ်ဖလှယ်ရေး ကရိယာ' ဖြင့်သာ လဲလှယ်ပေးသည်။ ယင်းကို အသုံးပြုခြင်းဖြင့် လက်ဖျစ်တတွက်အတွင်း၌ အိတ်ဖလှယ်ရေး ပြီးမြောက်နိုင်သည်။

နိုင်ငံချင်းချင်း စာပေးစာယူပြုလုပ်သည့် အရာမှာ၊ ဆွစ်ဇာလန်နိုင်ငံ ဗန်းမြို့၌ ၁၈၇၄ ခုနှစ်တွင် တည်ထောင်ခဲ့သော ကမ္ဘာ့စာတိုက်သမဂ္ဂကြီးမှ ပြဋ္ဌာန်းသော စည်းကမ်းအရသာ ပြုလုပ်ကြရသည်။

စာပို့လုပ်ငန်းသည် ပဌမ အင်္ဂလိပ် မြန်မာ စစ်ပွဲ ပြီးသည့်နောက် ဗြိတိသျှပိုင် မြန်မာနယ်များသို့ ရောက်ရှိခဲ့၏။ ထိုနောက် လော့ဒ်ဒါလဟိုဇီ ချထွင်စီမံခဲ့သော အိန္ဒိယပြည်













(၁) စာအိတ်ပေါ်ရှိတံဆိပ်ခေါင်းများကို စာတိုက်တံဆိပ် ရိုက်နှိပ်ပေးနေကြပုံ

(၂) ပြည်တွင်းပြည်ပစာများကို ခွဲခြားရွေးထုတ်နေပုံ

(၃) မြန်မာနိုင်ငံအရပ်ရပ်သို့ပို့ရန်စာများကို ရွေးချယ်နေပုံ

(၄) ရန်ကုန်မြို့ဗဟိုစာတိုက်ကြီးရှိ စာတိုက်သေတ္တာများ

(၅) စာပို့ယာဉ်ပေါ်သို့ ချောစာအိတ်များကိုတင်နေပုံ



စာပို့စံနစ်ကို မြန်မာပြည်သို့ တိုးချဲ့ပေးခဲ့လေသည်။ ထိုစဉ်က ပြည်တွင်း စာပို့လုပ်ငန်း အနည်းငယ်ကိုသာ ဆောင်ရွက်နိုင်ခဲ့သည်။ ရေဝတီကုမ္ပဏီက ကန်ထရိုက်ယူ၍ စာပို့အိတ်များကို မီးသင်္ဘောဖြင့် ရန်ကုန်မှ ဓနုဖြူ၊ ဟင်္သာတ၊ မြန်အောင်ထိ ပို့ပေး၏။ ၁ဂဂ၅ ခုနှစ်တွင်မူ ထိုကုမ္ပဏီက ဗန်းမော်အထိ ပို့ပေးလေသည်။ ၁ဂ၇၆ ခုနှစ်မှစ၍ ရန်ကုန်နှင့် ပုသိမ်ကို နှစ်ပတ်လျှင် တကြိမ်ကျ ပို့ဆောင်ပေးသည်။ ၁ဂ၇၇ ခုနှစ်တွင် ရန်ကုန် ပြည် မီးရထားလမ်း ဖောက်လုပ်ပြီးသည့်နောက် ပြည်မြို့အထိ ကုန်းလမ်းခရီးဖြင့် စာပို့လုပ်ငန်းကို တိုးချဲ့ခဲ့လေသည်။ ရန်ကုန်နှင့် ကာလကတ္တားကိုမူ နှစ်ပတ်လျှင် တကြိမ်ကျ ဆက်သွယ်မှုရှိလေသည်။ ဤသို့ စတင်လုပ်ကိုင်ခဲ့၍ တစတစ တိုးတက်လာခဲ့ရာ ယနေ့အဖို့ ဆိုလျှင် မြန်မာနိုင်ငံလုံးအတွက် စာတိုက်ပေါင်း ၃၉၂ ခု အပြင် စာပို့တိုက်နယ်ကြီး ၃ ခုကို ကချင်ပြည်နယ်၊ ချင်းတောင်နှင့် ရှမ်းပြည်နယ်တို့၌ တိုးချဲ့ဖွင့်လှစ်ထားခဲ့၏။ စာတိုက်ခွဲပေါင်း ၂၅၀ ကို ထပ်မံဖွင့်လှစ်ရန် လျာထားရာ၊ ယခုအချိန်အထိ စာတိုက်ခွဲပေါင်း ၁၇၅ ကို ဖွင့်လှစ်ပြီးခဲ့ပြီ။ မြန်မာနိုင်ငံ စာပို့တိုက်သည် အစိုးရဌာနတခု ဖြစ်သော်လည်း ကူးသန်းရောင်းဝယ်ရေး ဝါဒအရ ဆောင်ရွက်လျက်ရှိသည်။ ထို့ကြောင့် ရှေးအခါက၊ အရှုံးပေါ်သော စာတိုက်ခွဲများ ပိတ်ပစ်တတ်ခဲ့သော်လည်း၊ ယခုအခါ ပြည်သူလူထု သက်သာမှုကို ရှေးရှု၍ ဆက်လက် ဖွင့်လှစ်ထားလေသည်။ စစ်မဖြစ်မီကာလက၊ ကုန်းလမ်း ရေလမ်း စာပို့လုပ်ငန်းမှာ တွင်ကျယ်ခဲ့သော်လည်း စစ်ပြီးခေတ်ကာလတွင်မူ လေကြောင်း စာပို့လုပ်ငန်းသာလျှင် အထူးတိုးတက်လျက် ရှိနေသည်။

မြန်မာနိုင်ငံသည် အိန္ဒိယနှင့် ပူးတွဲနေစဉ်က မြန်မာနိုင်ငံ စာပို့လုပ်ငန်းကို အိန္ဒိယပြည် ဗဟိုအစိုးရအောက်ရှိ စာတိုက်နှင့် ကြေးနန်းမင်းကြီးချုပ်က အုပ်ချုပ်ခဲ့သည်။ ၁၉၃၅ ခုနှစ်တွင် မြန်မာနိုင်ငံသည် အုပ်ချုပ်ရေးအသစ်ကို ရရှိခဲ့သော်လည်း စာတိုက်ဌာန အုပ်ချုပ်ရေးမှာ အိန္ဒိယ ဗဟိုအစိုးရလက်ထဲ၌ ကျန်ခဲ့လေသည်။ စာတိုက်ဌာနအုပ်ချုပ်ရေးကို အိန္ဒိယနှင့်မြန်မာ ခွဲခွာသော ၁၉၃၇ ခုနှစ်တွင်မှ အိန္ဒိယက မြန်မာနိုင်ငံသို့ လွှဲပြောင်းပေးခဲ့၏။ လွတ်လပ်ပြီးခေတ်အထိ၊ စာတိုက်ဌာနကို ကြေးနန်းဌာနနှင့် ပူးတွဲကာ မင်းကြီးချုပ်က အုပ်ချုပ်လေသည်။ ၁၉၄ဂ ခုနှစ် ဒီဇင်ဘာလတွင် စာတိုက်နှင့် ကြေးနန်းဌာနတို့ကို သီးခြားခွဲထားလျက် ညွှန်ကြားရေးဝန် တယောက်စီဖြင့် အုပ်ချုပ်စေသည်။ ယခုအခါ စာတိုက်ဌာနကို ပြည်ထောင်စုအစိုးရ သယ်ယူပို့ဆောင်ရေးနှင့် လမ်းပန်းဆက်သွယ်ရေး ဝန်ကြီးဌာန အောက်တွင် ထားရှိလေသည်။ စာတိုက်ညွှန်ကြားရေးဝန် အောက်တွင် နောက်ဆုံးဖွင့်လှစ်သော ပြည်နယ် ၃ နယ်အပါအဝင် နယ်ကြီး ၁၀ နယ်ခွဲထား၍ စာတိုက်ဝန်ထောက် တယောက်စီဖြင့် အုပ်ချုပ်စေလေသည်။ ထိုစာတိုက်ဝန်ထောက် တယောက်စီအောက်တွင် စာတိုက်အမှုထမ်း အသီးအသီးရှိ၏။ ဗြိတိန်နိုင်ငံ စံနစ်အတိုင်းပင် မြန်




ပြည်သူလူထုနှင့် နေ့စဉ်တိုက်ရိုက်ဆက်ဆံရသော စာတိုက်ဌာနခွဲများ



သုံးပါးပိဋကတ်၊ ပရိယတ်ဓမ္မကွန်၊ ကျိန်းဝပ်ရန်စာတိုက်

မာနိုင်ငံ စာတိုက် အမှုထမ်း အသီးသီး တို့သည် လုပ်ငန်းအလိုက် ဌာနဆိုင်ရာ အပြိုင်စာမေးပွဲများကို ဝင်ရောက်ဖြေဆိုအောင်မြင်မှသာ အလုပ်ဝင်ရလေသည်။

ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွက် ထူးခြားသည့်နေ့ရက်များတွင် အထိမ်းအမှတ်အဖြစ်ဖြင့် မြန်မာမှုဆိုင်ရာ တံဆိပ်ခေါင်းများကို ထုတ်ဝေခဲ့သည်။ ယင်းတို့မှာ ၁၉၄၈ ခုနှစ် ဇန်နဝါရီလ ၄ ရက်နေ့တွင် လွတ်လပ်ရေး အထိမ်းအမှတ်အဖြစ်ဖြင့် လွတ်လပ်ရေး တံဆိပ်ခေါင်းများကိုင်း၊ လွတ်လပ်ရေးခေါင်းဆောင် ဗိုလ်ချုပ်အောင်ဆန်းတို့ လုပ်ကြံခံရသည့် နှစ်ပတ်လည်နေ့ ၁၉၄၈ ခုနှစ် ဇူလိုင်လ ၁၉ ရက်နေ့တွင် အာဇာနည်နေ့ တံဆိပ်ခေါင်းကိုင်း၊ ၁၉၄၉ ခုနှစ် ဇန်နဝါရီလတွင် လွတ်လပ်ရေး နှစ်ပတ်လည်တံဆိပ်ခေါင်းကိုင်း၊ ကမ္ဘာ့စာတိုက်သမဂ္ဂ၏ စိန်ရတုသဘင်နေ့ ဖြစ်သော ၁၉၄၉ ခုနှစ် အောက်တိုဘာလ ၉ ရက်နေ့တွင် ယူပီယူ တံဆိပ်ခေါင်းကိုင်း၊ ခြောက်ကြိမ်မြောက် လွတ်လပ်ရေး နှစ်ပတ်လည်နေ့တွင် ပြည်တော်သာ စီမံကိန်းအတွက် ပြည်တော်သာ တံဆိပ်ခေါင်းနှင့် ၁၉၅၄ ခုနှစ် မေလ ၁၇ ရက်နေ့တွင် ဖွင့်လှစ်သော ဆဋ္ဌသင်္ဂါယနာတင် မဟာဓမ္မသဘင်အတွက် 'ဆဋ္ဌသင်္ဂါယနာ' တံဆိပ်ခေါင်းများကိုင်း ထုတ်ဝေခဲ့လေသည်။ (တံဆိပ်ခေါင်း။ တံဆိပ်ခေါင်းစုခြင်း — ရှု။) ထိုပြင် လူထုသက်သာမှုအတွက် ပြည်တွင်းစာပို့လွှာများကိုလည်း ထုတ်ဝေခဲ့ပေသည်။

**စာတိုက်**။ ။မြန်မာမှုတွင် စာတိုက်ဟူသည်ကား၊ ပိဋကတ်ပေစာ အစရှိသော စာပေ ကျမ်းဂန်များကို သိုမှီးရာ ဖြစ်သော ဓာတ်စုံသေတ္တာများဖြစ်သည်။ ရေးသောအခါ စာတိုက်ဟု ရေးသော်လည်း ဖတ်သောအခါ စတိုက်ဟု ဖတ်ရသည်။ ယခုခေတ်အခေါ်၌ စာတိုက်ဟူသည်ကို ချောစာများ ပေးပို့ရာဖြစ်သော စာပို့တိုက်ဌာနဟု နားလည်ကြသည်။ သို့သော် ရှေးအခေါ် စာတိုက်မှာမူ ပေစာများကို သိမ်းဆည်းသိုမှီးရာဌာန ဖြစ်သည်။

စာတိုက်များကို ရှေး ဘုန်းတော်ကြီး ကျောင်းများတွင် တွေ့ရသည်။ စာတိုက်မှာ စင်စစ်အားဖြင့် ကျွန်းသေတ္တာပင် ဖြစ်သော်လည်း၊ အခြေတပ်သော အမွှမ်းတင် ခိုနန်းချီး ဗီရိုများလည်း ရှိသေးသည်။ ရှေးအခါက ရှင်ပြုရဟန်းခံများ၌၊ လှူဖွယ်ဝတ္ထုပစ္စည်းများတွင် ပိဋကတ် သုံးပုံနှင့်တကွ စာတိုက်ကိုပါ လှူဒါန်းကြ၏။ ထိုအကြောင်းကို စလေဦးပုည၏ ရှင်ပြုမေတ္တာစာတစောင်တွင် 'ဇိနာပဝရ၊ လူ့ဘဘုရား၊ ရုပ်တော်ပွားနှင့်၊ သုံးပါးပိဋကတ်၊ ပရိယတ်ဓမ္မကွန်၊ ကျိန်းဝပ်ရန်စာတိုက်၊ သိုက်မြိုက်တင့်တယ်၊ လှူဒါန်းဖွယ်နှင့် ရင်ဝယ်ဖြစ်သော သားရတနာကို၊ သာကီယဝံသ၊ ဂေါတမအနွယ်သို့ ဝင်စေ၍' ဟု ပါရှိသည်။

မည်သည့်ခေတ်က စာတိုက် စတင်ပေါ်ပေါက်ကြောင်းကို မသိရသေးချေ။ သို့ရာတွင် တွေ့ရသမျှ အစောဆုံး အထောက်အထားကား ဘုရင့်နောင်လက်ထက် အခါပင် ဖြစ်သည်။ ဟံသာဝတီဆင်ဖြူများရှင် ဘုရင့်နောင် မင်းတရားသည် စာတိုက်နှင့်တကွ ပိဋကတ်တော်များကို သာသနာစည်ပင် အံ့သောငှာ မြန်မာ နိုင်ငံတော် အရပ်ရပ် သို့ ပို့ကြောင်းနှင့် သခင်ကြီးချေင်းတွင် 'ယိုးဒယားမကြွင်း၊ ခံ့လင်းဇင်းက၊ တနင်္သာရီ၊ ထားဝီထားဝယ်၊ ဇင်းမယ်သိန်းခို၊ ထိုထိုသာသနာ၊ တည်ရာရာသို့၊ ပရိက္ခရာ အကွ၊ ဒါနစေ့စုံ၊ စွန့်ကြဲကုံလျက်၊ သုံးပုံပိဋကတ်၊ တုလွတ်အံ့ထိုက်၊ ရွှေစာတိုက်ကို၊ အမြိုက်ဝေညို၊ ကြဲဖြန့်ချီ၏။' ဟူ၍ စပ်ဆိုထားသည်။

စာတိုက်ကို ရှေးမြန်မာတို့သည် လှပအောင် မွမ်းမံခြယ်လယ်ကြသည်။ ကျွန်းသားတွင် သစ်စေးသုတ်၍ မှန်စီရွှေချကြ၏။ အမွှမ်းအပြောက်ဆင်၏။ အခြေတပ်သော ပြာသာဒ်ကဲ့သို့ ပြုလုပ်၏။ ဓာတ်ရုပ်စုံတို့ဖြင့် တန်ဆာဆင်၏။ ထိုသို့ အလှအပ အဆန်းတကြယ် ပြုလုပ်ပုံများကို၊ ဦးပုည မေတ္တာစာများတွင် 'ဝိသုကံမာဿ၊ နတ်ဆရာမှီရသည့်၊ ပန်းချီတကာ့ဝိဇ္ဇာ၊ စိတြဂီဝါ၊ ရွှေမင်ဆေးဇဝါ၊ ရတနာကွက်ဆန်း၊ သဇင်ပန်းမုလေးတွဲ၊ နဂါးသွဲ့ခြူးနွယ်ရုံ၊ ဝတ်မှုံနှင့် ဝတ်ဆံ၊ ပြန် ကဟာပ် ပြန်ကပတ်၊ ဓာတ် ရုပ်စုံ အထွက်၊ ကောင်းကင်ပျံကျေးငှက်တို့၊ တေးချက်ကျူပလီဟန်၊ ဆေးစက်ကျစီမံလျက်၊ နီဖလံအချုပ်၊ ပန်းချီပုံခြယ်လုပ်သော၊ ဆယ်လော့်ခုတ်မင်းစံ၊ ရွှေစာတိုက်ဘိမ်းခံကို' ဟူ၍ မြင်းခြံက

ပုသိမ်သို့ စာတိုက်မှုနှင့်ပေး မေတ္တာစာတွင် ပေါ်လွင်စွာ ဖော်ပြထားသည်။

ရှေးမြန်မာဘုရင်၊ မိဖုရား နှင့် မင်းညီမင်းသားတို့လည်း မှန်စီရွှေချ စာတိုက်တော်များကို ဘုန်းတော်ကြီးကျောင်းများသို့ လှူဒါန်းလေ့ရှိကြသည်။ မင်းတုန်းမင်းတရားကြီး၏ မိဖုရားခေါင်ကြီးသည် မှန်စီရွှေချ စာတိုက်တော်ကို မှန်ကျောင်းသို့ လှူတော်မူခဲ့သည်။ ယင်းစာတိုက်မှာ လန်ဒန်မြို့ ပြတိုက်မှတဆင့်၊ မြန်မာနိုင်ငံသို့ ပြန်လည်ယူဆောင်ခဲ့သောစာတိုက်ဖြစ်၏။ ထိုစာတိုက်တွင် အခြေ ၁၂ ချောင်းရှိ၍ ၆ ပေခွဲခန့် မြင့်သည်။ မှန်စီရွှေချ၍ အထက်တွင် ပြာသာဒ်ပေါက်ထားသည်။ 'ရွှေဘို ရှင်ဘုရင်သမီးတော်၊ မင်းတုံးမင်း မိဘုရားခေါင်ကြီး၊ စုကြီး သို့မဟုတ် စုကြီးစု၊ မှန်ကြောင်းတွင်လှူသော စာတိုက်' ဟု ကြေးပြားတွင်ကမ္ပည်းထိုးထားလေသည်။

# နေ့စဉ်ကမ္ဘာအားအသိပေးသည့်ပညာ

**ကမ္ဘာပေါ်၌ နေ့စဉ်ဖြစ်ပေါ်လျက်ရှိသော အကြောင်းအရာအမျိုးမျိုး၏ သတင်းကို လူအများသိရှိစေရန် မှတ်တမ်းတင်၍ ရေးသားဖြန့်ချိသည့်ပညာသည် စာနယ်ဇင်းအတတ်ပင်ဖြစ်သည်။ တိုင်းပြည်၏စတုတ္ထမဏ္ဍိုင်ဖြစ်သော စာနယ်ဇင်းလောကသည် လူထုနှင့် အနီးစပ်ဆုံးဖြစ်ရကား၊ စာနယ်ဇင်းအတတ်ကို လူတိုင်းလေ့လာထိုက်လှသည်။**

**စာနယ်ဇင်းအတတ်။** ။သတင်းနှင့် ထင်မြင်ချက်များကို ရေးသား ပုံနှိပ်ထုတ်ဝေခြင်းသည် စာနယ်ဇင်းအတတ်ပင် ဖြစ်သည်။ ခေတ်နှင့်လျော်ညီစွာ နေ့စဉ် ဖြစ်ပျက်ပေါ်ပေါက်လျက်ရှိသော ကျိုးကြောင်း ခြင်းတများ၊ သတင်းများ၊ အကြံဥာဏ်များနှင့် ဝေဖန်ချက်များကို တစောင်တဖွဲ့ဖြစ်အောင် စုပေါင်း၍ အချိန်မှီ ဖော်ပြခြင်းအားဖြင့် စာနယ်ဇင်းအတတ်သည် ကိစ္စမြားမြောင် လူတို့ဘောင်၏ ဇာတ်ကွက်ဇာတ်လမ်းကို လူ့လောကအား တင်ပြပေးသော အတတ်ပညာတရပ်လည်း ဖြစ်သည်။ ထို့ကြောင့် စာနယ်ဇင်းအတတ်သည် တာဝန်ကြီးလေးသော သက်မွေးမှုပညာတရပ် ဖြစ်ပေသည်။ ထိုပြင် စာနယ်ဇင်းအတတ်သည် ကျွမ်းကျင်မှု၊ စွမ်းရည်၊ ပညာအရည်အခြင်းတို့နှင့် ပြည့်စုံမှသာ လုပ်ကိုင်၍ရသော လုပ်ငန်းတရပ်လည်း ဖြစ်သည်။ ထို့မျှ ဖကသေး၊ လုပ်ငန်းရပ် တခု ဖြစ်လာသည့် အခါ၌ ဘဏ္ဍာရေးနှင့် စီးပွားရေး အခြေအနေတို့ကို ပြုပြင်ပြောင်းလဲနိုင်သော အတတ်ပညာတခုလည်း ဖြစ်ပေသေးသည်။

မြန်မာအခေါ်တွင် စာနယ်ဇင်းဟု သုံးစွဲပုံမှာ သတင်းစာ၊ ဂျာနယ်၊ မဂ္ဂဇင်း ဟူသော စကားတို့၏ အဆုံးစကားသုံးလုံးကို စုပေါင်းထားခြင်းဖြစ်သည်။ ဤသို့ သတင်းစာ၊ ဂျာနယ်၊ မဂ္ဂဇင်းဟူ၍ ခွဲခြားထားသည့် သုံးမျိုးအပြင် စာ၊ နယ်၊ ဇင်း များမှရင်း၊ စာအုပ်များမှရင်း ထုတ်နုတ်၍ အနှစ်သာရ ပေါ်လွင်အောင် အကျဉ်းချုံးကာ ပြန်လည်ထည့်သွင်းထုတ်ဝေသည့် သတင်းစုံမဂ္ဂဇင်းနှင့် မဂ္ဂဇင်းပဒေသာ စာစောင်များလည်း ရှိသေး၏။ ယနေ့ မြန်မာသတင်းစာများတွင် အပတ်စဉ် မဂ္ဂဇင်းကဏ္ဍ ထည့်သွင်းဖော်ပြနေခြင်းသည် အမေရိကန်မှမှ နည်းယူခြင်းဖြစ်သည်။

သတင်းစာ၊ ဂျာနယ်နှင့် မဂ္ဂဇင်းများ မပေါ်မီခေတ်က သတင်းစကားပေးပို့ခြင်း အဆင့်ဆင့် ပြောင်းလဲတိုးတက်လာပုံများမှာ အမျိုးမျိုး ရှိခဲ့လေသည်။ ပုံစံ အားဖြင့်



သတင်းထောက်တဦး စကားပြောကြေးနန်းဖြင့်သတင်းပို့နေပုံ

အမေရိကတိုက်ရှိ အိန္ဒိယလူရိုင်းများသည် မိမိတို့ နယ်ပယ်အတွင်းသို့ ရန်သူများ ချဉ်းကပ်ဝင်ရောက်လာပါက၊ ကင်းစခန်း တခုမှတခုသို့ အုန်းမောင်း သို့မဟုတ် ကလဒက်များကို သံတိုသံရှည်ခေါက်၍ အချက်ပေး သတင်းပို့လေ့ရှိခဲ့ကြ၏။ ဘေးအန္တရာယ် ကျရောက်နေသည့် အခါများတွင်လည်း မီးပုံရှို့ကာ မီးခိုးဖြင့် သတင်းပို့ အကူအညီ တောင်းလေ့ရှိကြသည်။ ထိုနည်းတူစွာ အာဖရိကတိုက်သား တောတွင်းသားတို့သည်လည်း သားရေကြက်ထားသော စည်များကို တီးရိုက်၍ တစခန်းမှတစခန်း၊ တရွာမှတရွာသို့ သတင်းပေးလေ့ရှိခဲ့ကြသည်။ ရှေးမြန်မာတို့ လက်ထက်ကမူ ရွှေနန်းတော်နှင့် လွှတ်တော်မှ သတင်းနှင့် အမိန့်ပြန်တမ်းများကို

မောင်းကြေးနင်းခတ်၍ ရပ်ရွာများသို့ ဖြန့်ချိ ကျေညာခဲ့ပေသည်။ ဤကား စာနယ်ဇင်းများ မပေါ်မီက သတင်းစကား အဆင့်ဆင့်ပေးပို့နည်းများတည်း။

သို့သော် ကမ္ဘာတွင် ပုံနှိပ်အတတ်၌ ရှေးဦးဖြစ်သော တရုပ်နိုင်ငံသည် စာနယ်ဇင်း နယ်ပယ်တွင် သတင်းပြန်တမ်းတခုကို ချင်မင်းဆက်တွင် ထုတ်ဝေခဲ့ပေသည်။ ထိုသတင်းပြန်တမ်းကား တရုပ်အခေါ်အားဖြင့် 'ချင်ပါအို' ဖြစ်၍ နိုင်ငံခြားသားများကမူ ပီကင်းဂေဇက်ဟု ခေါ်လေသည်။ ပီကင်းဂေဇက်သည် အစိုးရကိုယ်တိုင်ပုံနှိပ်ထုတ်ဝေသော ပြန်တမ်းတစောင်ဖြစ်၍ အစိုးရ၏ အမိန့်များနှင့် ပြည်သူတို့၏ အသနားခံစာများကို ထည့်သွင်း ဖော်ပြ ထားလေသည်။ အထက်ပါ ပီကင်းဂေဇက်ကို အင်ပိုင်ယာတခုလုံးရှိ အထက်တန်း အရာရှိများ၏လက်သို့ ဝေငှ၍ ယင်းတို့မှတဆင့် စိတ်ဝင်စားသူတို့က သတင်းပြန်တမ်း တခုလုံးကို သော်၎င်း၊ အကျဉ်းချုပ်၍သော်၎င်း ကြိုက်နှစ်သက်သလို ကူးယူပုံနှိပ်ကာ အနှံ့အပြား ဖြန့်ချိခဲ့ကြလေသည်။ ဤကား သတင်းစကားများကို စုပေါင်း၍ ပြန်တမ်း တစောင် တဖွဲ့ အဖြစ် လူထုကို ပဌမဆုံးအကြိမ် ပေးပို့ဖြန့်ချိခဲ့ခြင်းပင်ဖြစ်သည်။

အနောက်နိုင်ငံများ၌မူ ခရစ် ၁၆၆၅ ခုနှစ်၌ လန်ဒန်မြို့မှ တပတ်လျှင် ၂ ကြိမ်ထုတ်ဝေသော အောက်စဖို့ဂေဇက် ပေါ်ပေါက်လာ၏။ မကြာမီပင် ယင်းအောက်စဖို့ဂေဇက်ကို လန်ဒန်ဂေဇက်ဟု အမည်ပြောင်းခဲ့သည်။ ဤသို့ အောက်စဖို့ဂေဇက် သို့မဟုတ် လန်ဒန်ဂေဇက်ဟူ၍ ၁၆၆၅ ခုနှစ်၌ ပေါ်ထွက်ခဲ့သော်ငြားလည်း ၁၆၇၀ ပြည့်နှစ်အထိ သတင်းစာဟူ၍ကား မပေါ်ပေါက်သေးချေ။ အစိုးရက ပုံနှိပ်တိုက်များကို ချုပ်ချယ်ထားမှုများကြောင့် တိုးတက်မှု ကြန့်ကြာနေခဲ့ရသော စာနယ်ဇင်းအတတ်သည် ၁၇ ရာစုကုန်ဆုံးခါနီးနှင့် ၁၈ ရာစု အစလောက်ရောက်၍ လွတ်လပ်စွာ ပုံနှိပ်ရေးသားနိုင်ခွင့်ကို ရရှိလာသော အခါကျမှ လျင်မြန်စွာ တိုးတက်ကြီးပွားလာတော့လေသည်။ ၁၇၀၂ ခုနှစ်၌ လန်ဒန်မြို့တွင် ဒေးလီးကူးရန့် အမည်ရှိ သတင်းစာသည် ပဌမဆုံးနေ့စဉ်သတင်းစာအဖြစ် ပေါ်ထွက်ခဲ့လေသည်။

ကျန် အခြားဥရောပနိုင်ငံများ၌ကား စာနယ်ဇင်းအတတ်သည် ၁၇၆၀ ပြည့်နှစ်လောက်မှ သက်မွေးဝမ်းကျောင်းမှုအတတ်တခု ဖြစ်လာ၏။ ယင်းခုနှစ်မတိုင်မီကသော်၊ နိုင်ငံရေးပါတီ ခေါင်းဆောင်များ၏ ဝါဒဖြန့်သော စာရွက်စာတမ်းများနှင့် အခြေအမြစ် ခိုင်လုံခြင်းမရှိဘဲ တဦးကိုတဦး ပုတ်ခတ်ပြောဆိုသော စာရွက်စာတမ်းများသာရှိခဲ့သည်။

အမေရိကန်တို့သည်ကား စာနယ်ဇင်းအတတ်ကို အင်္ဂလိပ်တို့ထံမှ စတင်ခံယူခဲ့ရခြင်း ဖြစ်ပေသည်။ အမေရိကန်ပြည်ထောင်စု ဖြစ်လာမည့် မြောက်အမေရိကတိုက် ဗြိတိသျှပိုင် ကိုလိုနီနယ်များတွင်၊ ပဌမဆုံးသော ပုံနှိပ်စက်ကို ၁၆၃၀ ပြည့်နှစ်၌ တည်ထောင်နိုင်ခဲ့၏။ သို့သော် ပဌမဆုံး သတင်းစာသည်ကား ၁၆၉၀ ပြည့်နှစ်တွင်မှ ထွက်ပေါ်လာခဲ့ပေသည်။ ဘင်ဂျမင် ဟဲရစ် ဆိုသူသည် အင်္ဂလန်၌ ပုံနှိပ်ထုတ်ဝေသော လုပ်ငန်းကို လုပ်ကိုင်နေရာမှ အာဏာပိုင်အစိုးရများနှင့် မသင့်မတင့်ဖြစ်သဖြင့် အမေရိကန် ကိုလိုနီများသို့ လာရောက်နေထိုင်ကာ ဗော်စတန်မြို့မှနေ၍ ၁၆၉၀ ပြည့်နှစ်တွင် 'ပြည်တွင်းပြည်ပ အဖြစ်အပျက်' အမည်ရှိသော သတင်းစာကို ထုတ်ဝေခဲ့၏။ သို့သော် အမေရိကန်နိုင်ငံ၌ ပဌမဆုံးအကြိမ် ထွက်ပေါ်ခဲ့သော ယင်းသတင်းစာသည် အာဏာပိုင်အစိုးရများ၏ အသိအမှတ် မပြုမှု၊ လိုင်စင်ထုတ်မပေးမှုများကြောင့် မကြာမီပင် ဖိနှိပ်ချိုးနှိမ်ခြင်း ခံလိုက်ခဲ့ရလေသည်။ ယင်းကာလမှ ၁၄ နှစ်ကြာပြီးနောက် ၁၇၀၄ ခုနှစ် ဧပြီလ၌မူ ဗော်စတန်မြို့ စာတိုက်ဗိုလ် ဖြစ်သူဂျွန်ကင်းဗဲသည် 'ဗော်စတန် သတင်းဆောင်းပါး' အမည်ရှိသတင်းစာကို ပဌမဆုံးအကြိမ် အောင်မြင်စွာ ထုတ်ဝေနိုင်ခဲ့လေသည်။

မြန်မာပြည်၌မူ ၁၈၃၆ ခုနှစ် မတ်လ ၃ ရက်နေ့တွင် ပဌမ



မြင်းပွဲသတင်းယူနေကြသော သတင်းထောက် ၂ ဦး

ဆုံး သတင်းစာ ထွက်ပေါ်လာခဲ့၏။ ထိုသတင်းစာမှာ 'မော်လမြိုင်သတင်း' ခေါ် အင်္ဂလိပ်ဘာသာဖြင့် ရေးသား ထုတ်ဝေသည့် သတင်းစာဖြစ်၏။ အယ်ဒီတာမှာ အမေရိကန် ခရစ်ယန် သာသနာပြုဆရာ ဗင်းနက် ဆိုသူဖြစ်၏။

မြန်မာဘာသာဖြင့် ပဌမဆုံးထွက်ပေါ်လာသည့် သတင်းစာကား မော်လမြိုင်မြို့၌ ၁၈၄၂ ခုနှစ်တွင် ပုံနှိပ်ထုတ်ဝေခဲ့သည့် 'ဓမ္မသတင်းစာ' ဖြစ်လေသည်။

မြန်မာမင်းတို့အုပ်ချုပ်သော မြန်မာနိုင်ငံတွင် ပဌမဦးစွာ ပေါ်ပေါက်သော သတင်းစာမှာ သက္ကရာဇ် ၁၂၃၆ ခု (ခရစ် ၁၈၇၄ ခုနှစ်) တန်ခူးလဆန်း ၇ ရက်နေ့တွင် စတင်ထုတ်ဝေသော ရတနာပုံနေပြည်တော် သတင်းစာ ဖြစ်သည်။ ထိုသတင်းစာကို နေမျိုးသီဟသိဒ္ဓိ ဘွဲ့ခံ တရုပ် မြန်မာ ကပြားဦးအဟီးဆိုသူက ပုံနှိပ်ထုတ်ဝေသည်။ အယ်ဒီတာမှာ မြန်မာစာပေ၌ ဖိုးဝဇီရဟု ထင်ရှားသော ပုဂ္ဂိုလ်ဖြစ်သည်။ (ဖိုးဝဇီရ — ရှု။)

သို့ရာတွင် ဖော်ပြပါ သတင်းစာများမှာ နေ့စဉ်သတင်းစာမဟုတ်ချေ။ အထောက်အထားများအရ တလတကြိမ်ထုတ်၊ တသီတင်းတကြိမ်ထုတ် သတင်းစာများသာ ဖြစ်ပေသည်။ နေ့စဉ်သတင်းစာအဖြစ် ၁၈၇၉ ခုနှစ်၌ ထုတ်ဝေသော အင်္ဂလိပ်သတင်းစာ 'ရန်ကုန်ဂေဇက်' သည် မြန်မာနိုင်ငံတွင် ပဌမဆုံးထုတ်ဝေသော နေ့စဉ်သတင်းစာ ဖြစ်လေသည်။

မည်သည့် မြန်မာသတင်းစာသည် ပဌမဆုံး နေ့စဉ်ထုတ်ဝေခဲ့သည်ဟူ၍ အထောက်အထား ရှာဖွေ မတွေ့ရသော်လည်း ၁၈၉၄ ခုနှစ်၌နေ့စဉ်ထုတ်ဝေခဲ့သည့် မြန်မာသတင်းစာ နှစ်စောင်အနက် တစောင်မှာ ရန်ကုန်မြို့၌ထုတ်ဝေသောမြန်မာအဆွေသတင်းစာ ဖြစ်ကြောင်းကိုကား တိကျစွာ သိရှိရပေသည်။ ကျန်တစောင်၏အမည်မှာမူမသိရပေ။

ဤကား စာနယ်ဇင်းအတတ်ဆိုင်ရာ သတင်းစာလုပ်ငန်းများ စတင်ပေါ်ပေါက်ခဲ့ပုံများ ဖြစ်လေသည်။ မျက်မှောက်ခေတ်၌မူ စာနယ်ဇင်းအတတ်သည် ကမ္ဘာတဝှန်းလုံး၌ များစွာ တိုးတက်လျက် ရှိနေခဲ့လေပြီ။ ယင်းအနက် သတင်းစာလုပ်ငန်းသည် အရေးအပါဆုံးနှင့် အကျယ်ဝန်းဆုံးဟု ဆိုရမည်ဖြစ်သည်။

သတင်းစာလုပ်ငန်း၌ တာဝန်အသီးသီးကို ခွဲဝေဆောင်ရွက်နေကြရသူများတွင် အယ်ဒီတာသည် သတင်းစာအယ်ဒီတာအဖွဲ့၏ အချုပ်ဖြစ်သည်။ သတင်းစာ၌ ထည့်သွင်းရန် သတင်းဆောင်းပါးမှန်သမျှကို စစ်ဆေးတည်းဖြတ်ရသည်။ နယ်သတင်းထောက်၊ မြို့သတင်းထောက်နှင့် နိုင်ငံခြားသတင်းဌာနများမှ ပေးပို့ရရှိသော သတင်းမှန်သမျှကို စစ်ဆေးရွေးချယ်ရ၏။ ပယ်သင့်သည်ကိုပယ်၍ အရေးတကြီးထည့်သွင်းသင့်သည့် သတင်းများကို ထည့်သွင်းရေးနှင့် ဆိုင်းငံ့ထားသင့်သည့် သတင်းများကို ဆိုင်းငံ့ထားရန် စီစဉ်ရသည်။

သူ့အားကူညီရန် လက်ထောက်အယ်ဒီတာများရှိသည်။ အယ်ဒီတာများကို ဌာနအလိုက် အမျိုးမျိုးခွဲထား၏။ နေ့အယ်ဒီတာ၊ ညအယ်ဒီတာ၊ မြို့မအယ်ဒီတာ၊ နိုင်ငံခြားအယ်ဒီတာ၊ သတင်းအယ်ဒီတာ၊ ကစားခုန်စားအယ်ဒီတာ စသည်ဖြင့် ဖြစ်သည်။

သတင်းထောက်ကား သတင်းရအောင် ရှာဖွေရသူဖြစ်သည်။ နေရာတကာမှ ရသမျှ သတင်း အတိုအထွာ အစအနများကို တိကျမှန်ကန်စွာ ထောက်လှမ်းစုပေါင်း၍ သတင်းဆောင်းပါးကောင်းတပုဒ်ဖြစ်အောင် ရေးဖွဲ့ပြီးလျှင် အထက်ဖော်ပြရာပါ ဌာနအလိုက် အယ်ဒီတာများသို့ ပေးပို့တင်ပြရ၏။ သတင်းရရန်အလို့ငှာ သတင်းထောက်များသည် ပေါင်းသင်းဆက်ဆံရေး၌ များစွာ ကျွမ်းကျင်လိမ်မာရလေသည်။ သတင်းထောက်တွင် သတင်းစာတိုက် တည်ရှိရာအရပ်၌လုပ်သော သတင်းထောက်၊ ရပ်ဝေးမှ သတင်းပို့



ကမ္ဘာကျော်လူရှင်တော် ချာလီချက်ပလင်ထံမှ သတင်းယူနေကြသောသတင်းထောက်များ



အင်္ဂလန်ပြည် သတင်းစာတိုက်ကြီးတခုမှအယ်ဒီတာအဖွဲ့ဝင်များ ဆွေးနွေးနေကြပုံ

သော သတင်းထောက်၊ နိုင်ငံခြားမှ သတင်းပို့သော သတင်းထောက်ဟူ၍ရှိသည်။

လက်ထောက်အယ်ဒီတာကား သတင်းစာ လုပ်ငန်း၌ အရေးကြီးဆုံးသော သူများတွင် အပါအဝင် တယောက် ပင်တည်း။ သူ၏အလုပ်တတ်တရားကား တနေ့အတွက် စုပေါင်းရရှိသော သတင်းမှန်သမျှကို သတင်းစာ၌ ထည့်သွင်းခြင်း မပြုမီ သတ်ပုံသတ်ညွှန်း၊ သဒ္ဒါဝါကျ မှန်ကန်ခြင်း ရှိမရှိကို စစ်ဆေး ကြည့်ရှုရသည့်အပြင် ရံဖန်ရံခါ သတင်းစာနေရာ အနည်းအများအလိုက် သတင်းများကို ချုံ့တန်ချုံ့၊ ကျဉ်းတန်ကျဉ်း၍ မူမပျက်စေဘဲ ပြုပြင်ပေးရ၏။ ထိုသို့ လိုအပ်သလို စစ်ဆေးပြုပြင်ပြီးသောအခါမှ သတင်းခေါင်းစဉ်းကို နောက်ဆုံး ရေးပေးရလေသည်။

သတင်းစာတွင် အထူးသီးသန့် တနေရာ သို့မဟုတ် တမျက်နှာယူ၍ မိမိကြိုက်နှစ်သက်ရာ ဆောင်းပါးကို ရေးသားသူကား အခန်းဆောင်းပါးရှင်ပင် ဖြစ်သည်။ အချို့က နေ့စဉ်ရေး၍၊ အချို့က တပတ်လျှင် ၂ ကြိမ် ၃ ကြိမ်မျှသာ ရေးလေ့ရှိကြသည်။

သတင်းစာတစောင်လုံးတွင် ခေါင်းကြီး သို့မဟုတ် သတင်းစာအာဘော်သည် အဓိက အရေးအကြီးဆုံး ဖြစ်လေသည်။ ယင်းခေါင်းကြီး သို့မဟုတ်သတင်းစာအာဘော်သည် အများအားဖြင့် နိုင်ငံရေးကို မိမိသတင်းစာ၏ဝါဒနှင့် ချိန်ထိုးကြည့်ရှု၍ ပြတ်သားစွာ ဝေဖန်သုံးသပ် ရေးသားရခြင်းဖြစ်သည်။ ဤခေါင်းကြီး သို့မဟုတ် သတင်းစာအာဘော်ကို ရေးသူများကား အယ်ဒီတာအဖွဲ့ဝင်များထဲမှပင် ဖြစ်ကြသည်။ အချို့ သတင်းစာများ၌ ခေါင်းကြီး ရေးရန် အထူးသီးသန့် အယ်ဒီတာများ ထားရှိကြလေသည်။

တိုင်းပြည်တပြည်တွင် သာသနာ့ဝန်ထမ်း၊ အုပ်ချုပ်ရေး အဖွဲ့၊ ပြည်သူလူထု၊ သတင်းစာဆရာများဟူ၍ မဏ္ဍိုင်ကြီး လေးခုရှိရာတွင် စတုတ္ထမဏ္ဍိုင်ဖြစ်သော သတင်းစာဆရာများသည် တိုင်းပြည်တွင် အရေးအကြီးဆုံးဖြစ်သည်ဟု အင်္ဂလန်ပြည် ပါလီမန်လွှတ်တော်တွင် အက်ဒမန် ဗတ် သည် တခါက အတိအလင်း ထုတ်ဖော်ပြောဆိုခဲ့ဘူးသည်။ သတင်းစာဆရာများနှင့် သတင်းစာ ထုတ်ဝေသူများ၏ လက်ထဲတွင် ကမ္ဘာကြီး၏ နေ့ာင်ရေးသည် တည်ရှိနေသည် ဟူ၍ပင် ဆိုကြ၏။ ထိုသူတို့၏ အရေးအသားများဖြင့် လူမျိုးအချင်းချင်း သို့မဟုတ် လူတန်းစားအချင်းချင်း မုန်းတီးရေးကို လည်း ဖန်တီးနိုင်၏။ အချင်းချင်း ညီညွတ်သင့်မြတ်ရေးကို လည်း တည်ဆောက်ပေးနိုင်၏။ လူတို့၏စိတ်ဓာတ် ပျက်စီး၍ နိမ့်ကျအောင်လည်း စွမ်းဆောင်နိုင်၏။ လူတို့၏စိတ်ဓာတ်ကိုလည်း မြင့်တင်ပေးနိုင်၏။

မျက်မှောက် ခေတ်၌ စာနယ်ဇင်းလုပ်ငန်းသည် ကမ္ဘာတွင် အရေးပါ အရာရောက်လာပြီ ဖြစ်သည့်အလျောက် စာနယ်ဇင်းအတတ်ကိုလည်း လူများသည် လေးစား၍ စိတ်ထက်သန်စွာ လေ့လာလိုက်စား သင်ယူလျက်ရှိကြလေပြီ။

အနောက်နိုင်ငံ တက္ကသိုလ်ကြီးများနှင့် အရှေ့တိုင်း တရုပ်နိုင်ငံ၊ ဂျပန်နိုင်ငံ၊ အိန္ဒိယနိုင်ငံ တက္ကသိုလ်ကြီးများ၌ စာနယ်ဇင်းသင်တန်းများကို ဖွင့်လှစ်သင်ကြားပေးလျက်ရှိကြ၏။

ဗြိတိန်၌ အချို့သော သတင်းစာတိုက်ကြီးများသည် စာနယ်ဇင်းအတတ်ကို သတင်းစာတိုက်တွင်း၌ လက်တွေ့သင်ကြားပေးလေသည်။ လန်ဒန်တက္ကသိုလ်ကမူ ၂ နှစ်သင်တန်း ပြီးဆုံးအောင်မြင်သူအား စာနယ်ဇင်းအတတ်ဆိုင်ရာ ဒီပလိုမာဘွဲ့ကို ပေးအပ်လေသည်။ အမေရိကန်ပြည်ထောင်စု၌ သတင်းစာအတတ်ကို ပညာရပ်တခုအဖြစ်ဖြင့် ပဌမဆုံး စတင် သင်ကြား သည့် တက္ကသိုလ်မှာ ဝစ္စကွန်းဆင်း တက္ကသိုလ်ဖြစ်သည်။

မြန်မာနိုင်ငံ၌ ၁၉၄၉ ခုနှစ်တွင် မြန်မာနိုင်ငံ သတင်းစာဆရာအသင်းမှ ကြီးမှူး၍ သတင်းစာအတတ်သင်တန်း ဖွင့်ခဲ့၍၊ ၁၉၅၂ ခုနှစ်၌တဖန် ရန်ကုန်တက္ကသိုလ်တွင် သတင်းစာပညာသင်တန်း ဖွင့်ခဲ့ဘူးလေသည်။

နှစ်ပေါင်း ၁၀၀ ခန့်အတွင်း စတင်ပေါ်ထွန်းလာခဲ့သော မြန်မာ သတင်းစာ လောက၌ သတင်းစာ လုပ်ငန်းနှင့် စပ်လျဉ်း၍ အသင်းဖွဲ့စည်းရေးကိစ္စများကို ဒုတိယကမ္ဘာစစ်ကြီးပြီးခဲ့သည်အထိ ကျကျနန မပြုခဲ့ကြပေ။ စစ်ကြီးပြီးသည့်နောက် ၁၉၄၆ ခုနှစ် ဖေဖွာရီလ ၂၆ ရက်နေ့တွင် မြန်မာနိုင်ငံ သတင်းစာဆရာအသင်းကြီး ဟူ၍၎င်း၊ ၁၉၄၇ ခုနှစ်တွင် မြန်မာနိုင်ငံ သတင်းထောက်အသင်းကြီးဟူ၍၎င်း ပေါ်ပေါက်လာကြခြင်းသည် သတင်းစာလုပ်ငန်းအတွက် အားတက်ဖွယ်ဖြစ်ပေသည်။

**စာပဒ္ဒေ။** ။ပေစာ — ရှု။

**စာပေ။** ။လူမျိုး အသီးသီး၊ ဘာသာစကား အသီးသီးတို့တွင် အများအားဖြင့် စာနှင့်စာပေရှိကြ၏။ စာနှင့်စာပေ မရှိသော လူမျိုးငယ်များမှာ ယခုအခါ ကမ္ဘာပေါ်၌ ပြောပလောက်အောင် မရှိတော့ချေ။ စာပေသည် စာမှ ပေါ်ပေါက်လာ၏။ စာဟူသည်ကား စကား၏သင်္ကေတ ဖြစ်သော အက္ခရာများကို စုပေါင်းဖွဲ့စည်း၍ စံနစ်တကျ စီစဉ်ရေးသား တင်မှတ်ထားသော အမှတ်အသားဖြစ်၏။ ဤတွင်၊ ဗျည်း သရ အက္ခရာများဖြင့် စုစည်းအပ်သော အရေးအမှတ်များသာမက၊ တရုပ်လူမျိုး၊ ရှေးရှေး အီဂျစ်လူမျိုးတို့ သုံးသော ရုပ်ပုံသင်္ကေတများမှ ဆင်းသက်လာသည့် အရေးအမှတ်များကိုပါ စာဟုခေါ်သည်။ ယခု မျက်မမြင်တို့လက်ဖျားကလေးများဖြင့်စမ်း၍ဖတ်ရသော အမှတ်ဖုကလေးများကိုလည်း စာဟုပင်ခေါ်ရပေမည်။ စာကို သုခုမအရာမြောက်အောင် (ဝါ) အနုပညာသက်ဝင်အောင် ဖွဲ့စည်းစီရင် တီထွင်သော်၊ စာပေဟု ဖြစ်လာ၏။ စာမဖြစ်ပေါ်မီ၊ စာပေ မပေါ်ပေါက်နိုင်ပေ။ အချို့ ဘာသာစကားများတွင် ရှေးရှေးအခါက စာဟူ၍ မပေါ်ပေါက်သေးသော်လည်း သီချင်းများ၊ ကဗျာလင်္ကာများကို ဖွဲ့နွဲ့ သီကုံးကာ စပ်ဆိုမှု ပြုကြသည်။ ယင်း ကဗျာများကို ကြားနာရသူများက စိတ်တွင် မှတ်သား၍ ပြန်လည် ရွတ်ဆိုခြင်းဖြင့် တဆင့်တဆင့် လက်ကမ်းသကဲ့သို့ ကာလရှည်မြင့်စွာ မတိမ်ကော မပျောက်ပျက်ရအောင် ထိန်းသိမ်းထားနိုင်ခဲ့ကြ၏။ သို့သော် မှတ်ဉာဏ်နှင့် စကားသံတွင်သာ အခြေတည်ထားသော ဤအဖွဲ့အနွဲ့များမှာ သုခုမအင်္ဂါဖြင့် ပြည့်စုံစေကာမူ၊ စာပေဟု ခေါ်နိုင်မည်မဟုတ်ပေ။ ဤအဖွဲ့အနွဲ့များ ပါဝင်သော ဘာသာစကားကို ပေ၊ ကျောက်၊ စက္ကူ၊ ရွှံ့ပြား၊ ကြေးပြား စသည်တို့၌ ထွင်း၍၊ ရေး၍၊ ခြစ်၍၊ ပုံဆွဲ၍၊ ထု၍၊ အစက်အကြောင်းချ၍၊ အမှတ်အသားတင်ကာ၊ စာဟု တီထွင်ပေါ်ပေါက်လာမှပင်၊ နှုတ်ဖြင့်သာ ရွတ်ဆိုလျက် မှတ်ဉာဏ်ဖြင့်သာ ထိန်းသိမ်းခဲ့ရသော အဖွဲ့အနွဲ့ ကဗျာလင်္ကာတို့သည် စာပေအရာမြောက်လေသည်။

စာရှိမှ စာပေရှိနိုင်မည်ဟူသော အထက်က အယူအဆကို ငြင်းဆိုသော ကေစိဆရာများလည်းရှိ၏။ စာဖြင့်မှတ်တမ်းတင်ခြင်း မပြုနိုင်သော်လည်း အနုပညာသက်ဝင်သည့် အဖွဲ့အနွဲ့ကဗျာများကို စာပေဟုခေါ်နိုင်သည်ဟု ကေစိဆရာများက ဆိုပေသည်။

သုခုမ အရာမြောက်အောင်၊ အနုပညာ သက်ဝင်အောင် ဖွဲ့စည်းစီရင်သော စာမှသာလျှင်၊ စာပေအခေါ်ခံထိုက်သည်ဟူသော အယူအဆကို ယခုခေတ်မှပင် အများက လက်ခံလာကြ၏။ မြန်မာတို့တွင် စာပေဟူသောစကားသည် ရှေးခေတ်များ၌ တရားစာပေ ဟူသော အနက် ရခဲ့၏။ ကိုးခန်းပျို့၌၊ 'စာပေနားဝင်၊ ငါ့ကိုသင်သည်၊ လင်လည်းစွန့်ထား၊ ယခုသွားခဲ့' ဟု စပ်ဆိုထားရာ၊ 'တရားစာပေကို နားလည်အောင် သင်ပြပေသောလင်' ဟု အဓိပ္ပါယ်ဖွင့်ကြရ၏။ တဖန် နေမိဘ်ရဲခန်းပျို့၌၊ 'ပုထိုးဘုရား၊ ကျောင်းကန်သွား၍၊ တရားစာပေ၊ နာပါချေအံ့' ဟု စပ်ဆိုထားရာ၊ စာပေဟူလျှင် တရားစာစုဖြစ်သည်ဟု ကျမ်းဂန်တတ်ပုဂ္ဂိုလ်များ နားလည်ယူဆခဲ့ကြ၏။ လောကုတ္တရာနှင့်ဆိုင်သော စာစုကို စာပေဟုခေါ်ခဲ့သည့် ခေတ်မှသည် လောကီနှင့်ဆိုင်သော စာစုများ ပေါ်ပေါက်ခေတ်စားလာချိန်၌ စာပေဟူသော ဝေါဟာရ၏ အနက်လည်း ပြောင်းခဲ့ရပေသည်။ ထိုကြောင့် ယခုအခါ တရားစာစုများကိုသာ စာပေဟုခေါ်လေ့ မပြုကြတော့ဘဲ၊ အနုပညာ သက်ဝင်သည့် စာမျိုးကိုလည်း စာပေဟု ခေါ်ကြသည်။ ထိုကြောင့် 'စာပေသမိုင်း' ဟူသော စာအုပ်အမည်ကို ကြားရသူတို့သည် တရားစာပါရှိသော ကျမ်းဂန်များ ပေါ်ပေါက်လာပုံ အစဉ်အလာအကြောင်း စာအုပ်မျှသာဟု မယူဆဘဲ၊ ရတုကဗျာ လင်္ကာ

နှင့်တကွ စကားပြေအဖွဲ့ အမျိုးမျိုးတို့ ရေးသားပေါ်ပေါက်လာပုံအကြောင်း စာအုပ်ဟု ချက်ခြင်း သိရှိနားလည်လာကြ၏။

သို့သော်လည်း အယူအဆတွင် အနုပညာသက်ဝင်သည့် စာအရေးအသားကိုသာမဟုတ်၊ ထိုစာအရေးအသားကို ဝေဖန်ခွဲခြား၊ စိစစ်အကဲဖြတ်၍ အရသာခံစားမှုကို ပေါ်လွင်စေသော အရေးအသားကိုလည်း စာပေအရာတွင် သွတ်သွင်းထား၏။ ဖွဲ့စည်း သီကုံးမှုတွင် စကားသား အရွေးအချယ် အစီအရင်ကြောင့် သုခုမအရာမြောက်သည်၊ ဖတ်ရှုသူ၏စိတ်နှလုံးကို လှုပ်ရှားထိခိုက်စေသည်ဟု ဆိုနိုင်သော စာမျိုးကို စာပေဟု အသိအမှတ်ပြုရပေမည်။ စာပေဟု ခေါ်ရမည့် စာမျိုး၌ သေးသိမ်သော စဉ်းစားစိတ်ကူးနည်း၊ ညံ့ဖျင်းသော အယူအဆ အကြည့်အမြင်၊ နုံ့သော ကလေးကလား အသွားမျိုးကို ပယ်၍၊ တင့်တယ်ကြည်နူး အံ့ဩဖွယ်ရာသော အရေးအသား ပါရှိရုံမျှမက၊ ဖြောင့်မတ်တည်ကြည်၍ သမာဓိပြည့်စုံသောစိတ်ထားမျိုးကို ပါရှိစေရသည်။

စာပေဟု ယေဘုယျအားဖြင့် ခေါ်ဝေါ်ပြောဆိုကြသော်လည်း၊ စာပေကို ကဏ္ဍခွဲခြားရန် မလွယ်လှပေ။ စာပေအမျိုးမျိုးရှိရာ၊ အချို့တရားစာများ၊ အချို့သမိုင်းစာများ၊ အချို့မိန့်ခွန်းများ၊ အချို့သိပ္ပံအကြောင်းရပ်စာများသည် သုခုမအင်္ဂါနှင့် ပြည့်စုံ၍၊ ယင်းတို့ကိုလည်း စာပေအသိုက်အအုံတွင် ထည့်သွင်းရပေမည်။ သဘောအားဖြင့် စာပေအမျိုးမျိုးကို ကဏ္ဍခွဲရမည်ဆိုလျှင်၊ တရားစာပေ၊ သဘာဝဗေဒအရ လောကကြီးကို ဆင်ခြင်သုံးသပ်သောစာပေ၊ ကဗျာလင်္ကာနှင့် ပြဇာတ်စာပေ၊ သမိုင်းစာပေ၊ အဟော အပြောစာပေ၊ ဝေဖန်အကဲဖြတ်မှုစာပေနှင့် စိတ်ကူး (ဝါ) စိတ်ကွန့်စာပေဟု ခွဲခြားနိုင်သည်။ သို့သော်လည်းတို့၏စာပေသည် ရှေးနှစ်ပေါင်း ၂၄၀၀ ခန့်ကစ၍ ပေါ်ပေါက်ထွန်းကားခဲ့သော ဂရိစာပေမှ သက်နွယ်ခဲ့၏။ ဂရိစာပေတွင် တရားစာပေနှင့် စိတ်ကူးယဉ် (ဝါ) စိတ်ကွန့်စာပေမျိုးတို့မှအပ၊ ဖော်ပြခဲ့သောစာပေမျိုး အစုံပါဝင်ခဲ့ပေသည်။

စာပေမှန်သမျှကို နည်းအမျိုးမျိုးဖြင့် ခွဲခြားနိုင်ပေသည်။ လူမျိုး အလိုက်၊ ဘာသာစကား အလိုက် ခွဲခြားနိုင်၏။ ဤစွယ်စုံကျမ်းတွင် ကနေဒါစာပေ၊ ဂရိစာပေ၊ ဂျာမန်စာပေ၊ အင်္ဂလိပ်စာပေ၊ စပိန်စာပေ၊ မြန်မာစာပေ စသည်ဖြင့် လူမျိုး၊ နိုင်ငံ၊ ဘာသာစကားအလိုက် ခွဲခြားကာ စာပေအမျိုးမျိုးကို ဖော်ပြထားသော ဆောင်းပါးများ မြောက်မြားစွာ ဖတ်ရှုနိုင်ပါသည်။ ခေတ်အလျောက်လည်း စာပေကိုခွဲခြားနိုင်၏။ သို့သော်လည်းစာပေတွင် ရှေးခေတ်စာပေ၊ အလယ်ခေတ်စာပေဟု ခွဲခြားနိုင်၏။ စာပေချင်းချင်း နှိုင်းရှည့်၍ စာပေနှိုင်းရှည့်မှုပညာဟု ပညာတရပ်အဖြစ်နှင့်လည်း ရှိပေသည်။ ဖွဲ့စည်းသီကုံးမှုကို အခြေခံထား၍၊ ဖွဲ့နည်းကို ခွဲခြားကာ၊ ကဗျာ၊ စကားပြေ၊ ပြဇာတ်၊ စာမွှန် စသည့် ဆောင်းပါးများ ကိုလည်း ဤစွယ်စုံကျမ်းတွင် တွေ့ရပေမည်။ စာပေ၌ ထင်ရှားကျော်စောသော အရှေ့တိုင်း၊ အနောက်တိုင်း စာရေးဆရာကြီးများနှင့် အလွန်အလွန် ကျော်ကြားခဲ့သောစာပေများကို သီးသန့်၍လည်း ဤကျမ်းတွင် ဖော်ပြပါရှိ၏။



ပဉ္စမဆုံး စာပေဗိမာန်ဝတ္ထုဆုရ 'မိုးအောက်မြေပြင်' ကိုရေးသူ
စာရေးဆရာမင်းအောင် (၁၉၄၇)

**စာပေဗိမာန်ဆုရစာအုပ်များ။** ။ခရစ် ၁၉၄၇ ခုနှစ် ဇန်နဝါရီလအတွင်း၌ မြန်မာနိုင်ငံ ဘာသာပြန်စာပေအသင်းကို ဖွဲ့စည်း တည်ထောင်ခဲ့ရာ၊ 'အမှောင်ခွင်း၍ အလင်းဆောင်အံ့' ဟူသော ဆောင်ပုဒ်အရ၊ စာအုပ် အမျိုးမျိုးကို ဖြန့်ချိ ထုတ်ဝေခဲ့၏။ ဘာသာပြန် စာပေများ အပြင် ဘာသာပြန်မဟုတ်ဘဲ၊ တကူးတကန့်ပြုစုရသည့် စွယ်စုံကျမ်း၊ သိပ္ပံကျမ်း၊ ကျောင်းသုံးစာအုပ်၊ ပြည်တော်သာစာစဉ်၊ လူထုအိတ်ဆောင် စသော စာအုပ်၊ စာစဉ်များကို ထုတ်ဝေရုံမျှနှင့်သာ ရောင့်ရဲတင်းတိမ်ခြင်း မရှိခဲ့ပေ။ ထို့ကြောင့် အသင်း၏ရည်ရွယ်ချက်များတွင် အပါအဝင်ဖြစ်သော စာပေနှင့် မြန်မာ့ယဉ်ကျေးမှု မြှင့်တင်အားပေးရေးအတွက် စာပေလောကတွင် စာကောင်းပေကောင်းများ ထွက်ပေါ်လာစေရန် ရည်သန်၍ စာပေဗိမာန်ဆုများကို နှစ်စဉ်ပေးခဲ့၏။ ဆုအသီးသီးအတွက် စဉ်းစားခြင်းခံရသည့် စာအုပ်များမှာ အသင်းထုတ်စာအုပ်များ မဟုတ်စေရချေ။ ပြင်ပမှ ပုံနှိပ်ထုတ်ဝေသော စာအုပ်များသာ ဖြစ်ရသည်။ သို့သော် အသင်းဝန်ထမ်း တဦးဦးက ရေးသော စာအုပ် ဖြစ်ပါက၊ ယင်းစာအုပ်ကို ပြင်ပမှ ပုံနှိပ်ထုတ်ဝေခဲ့ပါလျှင်၊ ထိုစာအုပ်

သည် ဆုအတွက် ရွေးချယ်ခံနိုင်ခွင့်ရှိ၏။ အရွေးခံရသော စာအုပ်များ၏ မူပိုင်ကိစ္စမှာ၊ ဘာသာပြန်စာပေအသင်းနှင့် မသက်ဆိုင်ပေ။ အသင်းတည်ထောင်သည့်နှစ် အတွင်းမှာ ပင်၊ ဘာသာပြန်မဟုတ်သော အကောင်းဆုံးဝတ္ထုကို စာပေဗိမာန်ဆုအဖြစ်ဖြင့် ငွေတထောင် နှစ်စဉ်ချီးမြှင့်ရန် ဆုံးဖြတ်ကျေညာခဲ့၏။ ထိုသို့ဆုံးဖြတ်ခဲ့သည့်အတိုင်း၊ ပဌမ စာပေဗိမာန်ဆုမှာ၊ ၁၉၄၈ ခုနှစ်အတွင်းက ထွက်ပေါ်ထုတ်ဝေခဲ့သော ဝတ္ထုများထဲမှ အကောင်းဆုံးဆု အဖြစ်ဖြင့် မင်းအောင်ရေး 'မိုးအောက်မြေပြင်' ကို ရွေးချယ်၍ ၁၉၄၉



ဝတ္ထုဆုရ 'မင်းမှုထမ်း' ကိုရေးသူ စာရေးဆရာတက်တိုး (၁၉၅၀)

ခုနှစ် ဇွန်လ ၁၉ ရက်နေ့တွင် ဆုနှင်းသဘင်ကျင်းပကာ ပေးအပ်ခဲ့သော စာပေဗိမာန်ဝတ္ထုဆုဖြစ်၏။ စာပေဗိမာန် ဝတ္ထုဆု ပေါ်ပေါက်လာပြီးနောက် နှစ်နှစ်ခွဲခန့်ကြာသော အခါ၊ အကောင်းဆုံး ဘာသာပြန်စာအုပ်ကို ရွေးချယ်၍ ဆုပေးရန် ဆုံးဖြတ်လိုက်၏။ သို့သော် ပဌမအကြိမ်တွင် တနှစ်အတွင်း ထွက်ပေါ်ခဲ့သည့် ဘာသာပြန်စာအုပ်များကို သာ မစဉ်းစားဘဲ၊ စစ်ပြီးနှစ် ၁၉၄၅ ခုမှ ၁၉၅၂ ခုနှစ် ကုန်အထိ၊ ထွက်ပေါ်ခဲ့သော ဘာသာပြန်စာအုပ်များကိုပါ စဉ်းစားရွေးချယ်ရန် ဆုံးဖြတ်ခဲ့ရာ၊ စာပေဗိမာန် ဘာသာပြန်ဆုကို ပဌမအကြိမ်အဖြစ်ဖြင့် ၁၉၅၃ ခုနှစ် ဒီဇင်ဘာလ၌ ကျင်းပခဲ့သော ဆုနှင်းသဘင်၌သာ ပေးခဲ့လေသည်။

၁၉၅၁ ခုနှစ်မှစ၍၊ ဝတ္ထုလည်းမဟုတ်၊ ဘာသာပြန်လည်း မဟုတ်သော စာစောင်စာအုပ်များကို ထည့်သွင်းစဉ်းစား၍ ဆုပေးရန် ဆုံးဖြတ်လေရာ၊ စာပေဗိမာန်၌ စာပဒေသာဆု တဆု တိုးလာလေသည်။ ထိုဆုကို ၁၉၅၂ ခုနှစ် အောက်တိုဘာလ တွင် ကျင်းပခဲ့သော ဆုနှင်း သဘင် တွင် ပဌမ အကြိမ် ပေးခဲ့လေသည်။ လက်ဦးအစတွင် ဤစာပဒေသာဆုမှာ၊ ဗဟုသုတဆိုင်ရာ မြန်မာစာပေ တိုးတက်ကြီး ပွားစေရန် ရည်ရွယ်သည်ဖြစ်၍၊ နိုင်ငံသမိုင်း၊ လူ့သမိုင်း၊ ခရီးသွားမှတ်တမ်း၊ စာပေဝေဖန်မှု၊ အတ္ထုပ္ပတ္တိမှအစ စာပေ မြောက်သည့် စာမွန်စာစုများ အပါအဝင် စာအုပ်အမျိုး မျိုးကို ထည့်သွင်းစဉ်းစား၍ ပေးသောဆု ဖြစ်ပေသည်။ သို့ရာတွင် ဆုအတွက် စဉ်းစားရမည့် စာအုပ် နယ်ပယ်မှာ ကျယ်ပြန့်လွန်းရကား၊ ဗဟုသုတ ပေးသည့် စာအုပ်မျိုးကို သုတပဒေသာဆုတခု တိုးကာပေးရန် ၁၉၅၄ ခုနှစ် အစပိုင်း တွင် ဆုံးဖြတ်လိုက်၏။ ပဌမ သုတပဒေသာဆုမှာ ၁၉၅၃ ခုနှစ်တွင်ထုတ် ဗဟုသုတပေး စာအုပ်များအတွက် ဖြစ်၍၊ ၁၉၅၄ ခုနှစ် ဒီဇင်ဘာလတွင်း၌ ကျင်းပသော ဆုနှင်းသဘင် တွင် ပဌမအကြိမ် ပေးခဲ့သည်။ ထို ၁၉၅၃ ခုနှစ်မှစ၍ စာပဒေသာဆုမှာ စာပေသဘော၊ ယဉ်ကျေးမှုသဘော၊ အနုပညာသဘော သက်ဝင်သည့် စာအုပ်များအတွက် သတ်မှတ်လျာထား၍၊ သုတပဒေသာဆုမှာ ဗဟုသုတအမျိုးစုံကို စာဖတ်သူ ပရိသတ်အား ပေးစွမ်းနိုင်သော စာအုပ်များ အတွက် ခွဲခြားသတ်မှတ်ထား၏။

သို့အတွက်၊ ယခုအခါ မြန်မာနိုင်ငံ ဘာသာပြန်စာပေ အသင်းက နှစ်စဉ် ဆုနှင်းသဘင်ကျင်းပ၍ ပေးနေသော စာပေဗိမာန်ဆုများမှာ ဆု ၄ ဆုဖြစ်၏။ သို့သော် နှစ်စဉ်နှစ်တိုင်း ဆု ၄ ဆုစလုံးကို ပေးဖြစ်သည်မဟုတ်ချေ။



'တပ်ထဲကမြတ်ကိုကို' ဝတ္ထုဖြင့် စာပေဗိမာန်ဝတ္ထုဆုရ စာရေးဆရာသာခု (၁၉၅၁)



စာပဒေသာဆုရ 'ဆင်ယင်ထုံးဖွဲ့မှု' ကျမ်းပြုဆရာ ရွှေကိုင်းသား အမည်ခံ ရဟန်းတော်ဦးသောဘိတ (၁၉၅၁)

အချို့နှစ်များတွင် သင့်လျော်သော၊ အဆင့်အတန်းမှီသော စာအုပ်ကောင်း မရပါက၊ ဆိုင်ရာဆုကို မပေးဘဲ ချန်ထား၏။ စာပေဗိမာန်ဘာသာပြန်ဆုမှလွဲ၍ အခြားဆုရ သူပုဂ္ဂိုလ်များသည် ဆုနှင်းသဘင် မကျင်းပမီ၊ ဆုရသောစာအုပ်များကို မိမိပင်ကိုယ်ဉာဏ်ဖြင့် ရေးသားပြုစု၍ တိုက်ရိုက်ဖြစ်စေ၊ မှီး၍ဖြစ်စေ ဘာသာပြန်ခြင်း၊ တပါးသော ဝတ္ထု၊ ကျမ်း စသည်တို့မှ စာကိုဖြစ်စေ၊ သဘောသွားကိုဖြစ်စေ ကူးယူခြင်း အလျင်းမပြုကြောင်းကို ဝန်ခံချက် ရေးသားပေးရသည်။

ယခုအခါ ဆု ၄ ဆုသာရှိသော်လည်း၊ နောင်ကို ဆုများတိုးလာရန် အကြောင်းရှိ၏။ ကဗျာနှင့်ပြဇာတ်စာပေ၊ ကလေးများအတွက်စာပေနှင့် ဝတ္ထုတိုစာပေ စသည့် စာပေကဏ္ဍများတွင် ဆုပေးရန် အချို့က လိုလားကြသည် ဖြစ်၍၊ ဆုပေးရေးဆိုင်ရာအဖွဲ့က စဉ်းစား ဆွေးနွေးဆဲဖြစ်သည်။ စာပေဗိမာန် ဘာသာပြန်ဆု၏ ငွေတန်ဖိုးကိုလည်း မြှင့်တင်ရန် စဉ်းစားဆွေးနွေးဆဲဖြစ်သည်။

### စာပေဗိမာန် ဝတ္ထုဆုမှတ်တမ်း

စာပေဗိမာန်ဝတ္ထုဆုသည် သိုးဆောင်းပြက္ခဒိန် တနှစ်အတွင်း ထုတ်ဝေခဲ့သည့် မြန်မာဝတ္ထုရှည်များထဲမှ အကောင်းဆုံးဝတ္ထုကို ရွေးချယ်၍ ပေးသောဆု ဖြစ်သည်။ ရည်ရွယ်ချက်မှာ ကာလပေါ် မြန်မာဝတ္ထုများ အဆင့်အတန်းတိုးတက်စေရန် ဖြစ်သည်။ တထောင်တန်ဆုဖြစ်၏။ ဝတ္ထုများမှာ အခြားဘာသာစကားများမှ ဘာသာပြန်ခြင်း၊ မှီးခြင်းပြုသော ဝတ္ထုများမဟုတ်စေရဘဲ၊ မြန်မာဝတ္ထုရေးဆရာတို့ ပင်ကိုယ်ဉာဏ်၊ ပင်ကိုယ်စိတ်ကူးဖြင့် ဖွဲ့စည်းရေးသားသော ဝတ္ထုများဖြစ်ရပေမည်။ ဝတ္ထုရွေးချယ်ရာ၌၊ ဇာတ်ကွက်ဇာတ်လမ်း၊ လူ့သဘာဝ လောကသဘာဝ အဖွဲ့၊ အရေးအသား (ဝါ) ဟန် ဟူသော အချက် ၃ ချက်ပေါ်တွင် မူတည်၍ လူ့သဘာဝ၊ လောကသဘာဝ အဖွဲ့ကိုအရေးအကြီးဆုံးထား၏။ လုံးချင်းဝတ္ထု တအုပ်စာမျှ ရှိသော မဂ္ဂဇင်းဝတ္ထုရှည်များကိုပါ ထည့်သွင်းစဉ်းစားရန် ၁၉၄၉ ခုနှစ်မှစ၍ ဆုံးဖြတ်ချက်ရှိသော်လည်း အချို့မဂ္ဂဇင်းဝတ္ထုများမှာ နှစ်ကူး၍ပါရှိခြင်း၊ အများအားဖြင့် လုံးချင်းဝတ္ထုအဖြစ်ဖြင့် ပြန်လည်ထုတ်ဝေခြင်း စသော အကြောင်းတို့ကြောင့်၊ ၁၉၅၅ ခုနှစ်အတွက်မှစ၍ မဂ္ဂဇင်းဝတ္ထုရှည်များကို ထည့်သွင်းစဉ်းစားခြင်းမပြုရန် ဆုံးဖြတ်လိုက်၏။ အောက်၌ စာပေဗိမာန်ဝတ္ထုဆုရ စာအုပ်နှင့် ဝတ္ထုရေးဆရာများစာရင်းကို ဖော်ပြထား၏။

| နှစ် | ဆုရဝတ္ထု | စာရေးဆရာ |
|---|---|---|
| ၁၉၄၈ | မိုးအောက်မြေပြင် | မင်းအောင် |
| ၁၉၅၀ | မင်းမှုထမ်း | တက်တိုး |
| ၁၉၅၁ | တပ်ထဲကမြတ်ကိုကို | သာဓု |
| ၁၉၅၄ | ငမဲကျွန် | စစ်ကိုင်းဦးဘိုးသင်း |

၁၉၄၉၊ ၁၉၅၂၊ ၁၉၅၃ ခုနှစ်များတွင် သင့်လျော်သော ဝတ္ထု၊ အဆင့်အတန်းမှီသောဝတ္ထုမရှိဟု ရွေးချယ်ရေးအဖွဲ့က ဆုံးဖြတ်လိုက်လေသည်။ ၁၉၄၉ ခုနှစ်ထုတ် ဝတ္ထုများထဲမှ ဝတ္ထုတအုပ်မှာ အဆင့်အတန်း ကောင်းစွာမှီသော်လည်း ပါတီသံယောဇဉ်ကိုင်၍ အငြိုအစွန်း မကင်းသဖြင့် အငြင်းပွားမှု ဖြစ်ပေါ်စေတတ်ခြင်း တို့ကို ရှောင်ရှားရမည် ဟူသော အသင်း၏ ရည်ရွယ်ချက်နှင့် ဆန့်ကျင်နေသောကြောင့် ဆုအတွက် ရွေးချယ်ခြင်းငှာ မသင့်လျော်ဟု ဆုံးဖြတ်ခဲ့လေသည်။

စာပေဗိမာန်ဝတ္ထုဆု အတွက် ထည့်သွင်း စဉ်းစားသော ဝတ္ထုဦးရေမှာ အောက်ပါအတိုင်းဖြစ်၏။

| | | | |
|---|---|---|---|
| ၁၉၄၈ | ခုအတွင်းထုတ် | .................... | ၆၆ အုပ် |
| ၁၉၄၉ | " " | .................... | ၄၀ " |
| ၁၉၅၀ | " " | .................... | ၅၄ " |
| ၁၉၅၁ | " " | .................... | ၄၅ " |
| ၁၉၅၂ | " " | .................... | ၅၂ " |
| ၁၉၅၃ | " " | .................... | ၃၆ " |
| ၁၉၅၄ | " " | .................... | ၄၃ " |

စာပေဗိမာန်ဝတ္ထုဆုများနှင့် စပ်လျဉ်း၍ ဆုရွေးချယ်ရေး အဖွဲ့က မှတ်ချက် ချခဲ့သည်များကို ဖော်ပြသင့်ပေသည်။ ၁၉၄၈ ခုနှစ်အတွက် ဆုရွေးခံရသော မိုးအောက်မြေပြင် ဝတ္ထုအား မည်သို့အကြောင်းကြောင့် ရွေးချယ်ခဲ့သည်ကို မှတ်တမ်းတင်ရာ၌၊ 'မိုးအောက်မြေပြင် ဝတ္ထုသည် တောရွာဖွဲ့ ဝတ္ထုကောင်းတပုဒ်ဖြစ်၍ ရေးသားသူ မင်းအောင်သည် အထက်အညာ တောရွာ၏ သဘောတခုကို ထင်ရှားစွာ ဖွဲ့နိုင်သည်။ ဇာတ်လမ်းမှာ ငြီးငွေ့ဖွယ်မရှိ၊ ရိုးရိုး ကလေးနှင့် သဘာဝကျသည်။ လောက၌ ဖြစ်ပျက်တတ်သော သဘောများကိုလည်း ထင်ရှားစေသည်။ ဝတ္ထုလုပ်ငန်း မဟုတ်လှသည့် အလွန်အကျံ့ အနည်းငယ် ပါသော်လည်း၊ အဆင့်အတန်းမှီသည်။ အတွေးအခေါ် နှင့် အရေးအသားမှာ တခုကိုတခုမလွန်၊ နွားပြေးနွားလိုက်ညီသည်' ဟု မှတ်ချက်ချခဲ့သည်။



ဘာသာပြန်ဆုရ 'မြှော်တလင့်လင့်' ဝတ္ထုရေးသူ
စာရေးဆရာကြီးရွှေဥဒေါင်း (၁၉၄၅–၁၉၅၂)

၁၉၅၀ ပြည့်နှစ်ထုတ် ဝတ္ထုများထဲမှ ရွေးချယ်ခံရသော မင်းမှုထမ်း ဝတ္ထုသည် 'ရိုးရိုးကျင့်၊ မြင့်မြင့်ကြံလိုသော လူငယ်တဦး၏ ကြိုးပမ်းမှုများကို ထင်ရှားအောင် သရုပ်ဖော်နိုင်သော ဂုဏ်နှင့် ပြည့်စုံပေသည်။ လူ့ဇာတ်ကို ဖော်ရာ၌လည်း နိုင်နင်းသည်။ ဇာတ်ကွက်ဇာတ်လမ်း ဆင်ရာ၌လည်း ရိုးရိုးနှင့် သဘာဝကျသည်။ စာအရေးအသားလည်း ပြေပြစ်ကျစ်လစ်၍ ဣန္ဒြေရှိသည်' ဟု ရွေးချယ်ရေးအဖွဲ့က မှတ်ချက်ချခဲ့၏။

၁၉၅၁ ခုနှစ်ထုတ် ဝတ္ထုများထဲမှ ရွေးချယ်ခြင်းခံရသော တပ်ထဲကမြတ်ကိုကို ဝတ္ထုနှင့် စပ်လျဉ်း၍၊ 'စာရေးဆရာသည် ဤဝတ္ထုတွင် လက်နက်ကိုင် ရာထမ်းမှုထမ်းများနှင့် အရပ်သားတို့ ဆက်ဆံရေးကို မှုတည်၍ ဆက်ဆံရေး အကောင်းအဆိုး နှစ်ဖက်စလုံးတို့ကို ထင်ရှားစွာ သရုပ်ဖော်နိုင်သည်။ စကား အချီအချ အပြန်အလှန် ပြောဆိုပုံကို ရေးသားသည့်အရာတွင် နှစ်သက်ဖွယ်ကောင်းသည်။ ဤဝတ္ထုတွင် လိုလားသလောက် မပြည့်စုံသေးဟု ဆိုနိုင်သော်လည်း၊ စာရေးဆရာ၏ ရည်မှန်းချက်ကို ကလောင်ဖြင့် သယ်ယူသွားပုံမှာ အောင်မြင်သည်' ဟု ဆုရွေးချယ်ရေးအဖွဲ့က မှတ်တမ်းတင်ခဲ့၏။

၁၉၅၄ ခုနှစ် အတွင်းထုတ် ဝတ္ထုများအနက် ငမဲကျွန် ဝတ္ထုကို ဆုအတွက်ရွေးလိုက်ရာ၊ အဖွဲ့၏မှတ်ချက်မှာ၊ 'ငမဲကျွန် ဝတ္ထုမှာ ရှေးလူကြီးများ အရေးအသား ထုံးနည်းတမျိုး ဖြစ်သည့်အပြင်၊ အားရှိသော အရေးအသားမျိုးဖြစ်၍၊ ဝတ္ထုဆင်ပုံ ရေးသားပုံ စေ့စပ်ပြီးလျှင် မှတ်သားဖွယ် အများအပြားပါရှိသည်' ဟူ၍ ဖြစ်သည်။

## စာပေဗိမာန် ဘာသာပြန်ဆုမှတ်တမ်း

စာပေဗိမာန်ဘာသာပြန်ဆုကို ပေးရန် ၁၉၅၁ ခုနှစ်က ဆုံးဖြတ်ခဲ့သည့်အတိုင်း၊ ၁၉၄၅ ခုမှ ၁၉၅၂ ခုနှစ်အထိ ပေါ်ပေါက်သော ဘာသာပြန်စာအုပ်များကို စုပေါင်းထည့်သွင်းစဉ်းစားခဲ့လေသည်။ ထိုသို့များပြားလှသော ဘာသာပြန်စာအုပ်များထဲမှ၊ အင်္ဂလိပ် ဝတ္ထုရေးဆရာ ချားဒစ်ကင်၏ 'ဂရိတ်အိတ်စပက်တေးရှင်း' ခေါ် ဝတ္ထုကို ဘာသာပြန်ထားသော မြှော်တလင့်လင့် ခေါ်ဝတ္ထုကို ရွေးချယ်လိုက်၏။ ရေးသူမှာ နာမည်ကျော် စာရေးဆရာကြီးရွှေဥဒေါင်းဖြစ်ပေသည်။ ၁၉၅၃ ခုနှစ်မှစ၍မူ၊ ပြက္ခဒိန် တနှစ်အတွင်းထုတ်ဝေပုံနှိပ်ခဲ့သည့် ဘာသာပြန်စာအုပ်များကိုသာ ရွေးချယ်ရေးအဖွဲ့က ဖတ်ရှုစဉ်းစားကြသည်။ စာပေဗိမာန်ဘာသာပြန်ဆု၏ ရည်ရွယ်ချက်မှာ၊ နိုင်ငံခြား ဘာသာ တရပ်ရပ်မှ ကမ္ဘာ့စာပေ အဆင့်အတန်းမှီသော စာအုပ်များကို မြန်မာဘာသာသို့ ပြန်ဆိုမှု အားပေးရန်နှင့် ဘာသာပြန်မှုအဆင့်အတန်း မြှင့်တင်ရန်အတွက် ဖြစ်သည်။ ဆုမှာ ၁၅ဝဝ တန်ဆုဖြစ်၏။ စည်းကမ်းချက်များ သတ်မှတ်ထားသည်မှာ၊ မူရင်းစာအုပ်သည် ကမ္ဘာ့ဂန္ထဝင်ဟု ခေါ်ဆိုရမည့် စာကြီးပေကြီးသမိုင်း အပါအဝင် စာအုပ်ဖြစ်ရမည်။ တနည်းအားဖြင့် စာပေအင်္ဂါနှင့် ပြည့်စုံညီညွတ်၍ ကမ္ဘာ့စာပေတို့တွင် ထင်ရှားသော စာအုပ်မျိုးဖြစ်ရမည်။ မူရင်းစာအုပ်သည် ဝတ္ထုဖြစ်ရန်မလိုပေ။ ဥပမာအားဖြင့် ပလေးတို၏ 'ရီပတ်ဘလစ်'၊ ကွန်ဖူးဇီး၏ အထွေထွေစာစုများစသည့် စာအုပ်တို့မှာ ဝတ္ထုမဟုတ်သော်လည်း ကမ္ဘာ့စာပေထဲတွင် အပါအဝင်ဖြစ်၏။ စာပေဗိမာန်ဘာသာပြန်ဆုအတွက် စဉ်းစားသည့် စာအုပ်များမှာ (၁) ကမ္ဘာ့စာပေဟု အသိအမှတ် ပြုနိုင်လောက်အောင် ထင်ရှားကျော်ကြားသော မူရင်းစာအုပ်မှ ဘာသာပြန်ထားခြင်း ဖြစ်ရမည်။ (၂) ဝတ္ထုသာမဟုတ်ဘဲ၊ မည်သည့်စာပေမျိုးမဆို

ဖြစ်နိုင်သည်။ (၃) မူလစာရေးဆရာ၏ အာဘော်နှင့်လက်ရာတို့ကို မပျက်စေဘဲ ဘာသာပြန်စွမ်းနိုင်မှုကို အဓိကထားသည်။ အစ အလယ် အဆုံး တတ်နိုင်သမျှ ပြည့်စုံစွာ ဘာသာပြန်ထားရမည်။ အစိတ်အပိုင်းများ ချန်ထားခြင်း၊ အလွန်အမင်း အကျဉ်းချုံးခြင်း မရှိစေရ။ (၄) ဆီလျော်အောင်ပြန်နည်းဖြင့် ပြန်ထားပါက၊ မူရင်းစာအုပ်ကို မမှတ်မိနိုင်လောက်အောင် ပြောင်းလဲထားခြင်း မရှိစေရ။ မူရင်းကျမ်း၏ အနှစ်သာရ မပျက်စေရဘဲ၊ အနည်းငယ်မျှကိုသာ ပြုပြင်ပြောင်းလဲနိုင်သည်။ တိုက်ရိုက်ဘာသာပြန်ခြင်းကို ရွေးချယ်ရေးအဖွဲ့က ပိုမိုအားပေးမည်။ (၅) ဘာသာပြန်မှု၌ တိကျမှန်ကန်၍၊ မြန်မာ့အသုံးအနှုန်း ပီသစွာရှိရမည်။ အစီပွါယ်ရှင်းလင်း၍ ဖတ်ပျော်ရမည် ဟူသော စည်းကမ်းချက်များနှင့် ညီညွတ်ရပေသည်။

စာပေဗိမာန်ဘာသာပြန်ဆုရ စာအုပ်များမှာ အောက်ပါအတိုင်းဖြစ်သည်။

| နှစ် | ဆုရစာအုပ် | စာရေးဆရာ |
|---|---|---|
| ၁၉၄၅ မှ ၁၉၅၂ | မြွော်တလင့်လင့် | ရွှေဥဒေါင်း |
| ၁၉၅၄ | အိစွတ်ပုံပြင်များ | မင်းယုဝေနှင့်ငွေတာရီ |

၁၉၅၃ ခုနှစ်တွင် ထုတ်ဝေခဲ့သော ဘာသာပြန်စာအုပ်များအနက် ဆုရွေးချယ်ရေး စည်းကမ်းနှင့် ညီညွတ်သော ဘာသာပြန်စာအုပ် မရှိသဖြင့် ဆုမပေးခဲ့ပေ။

ဘာသာပြန်ဆုအတွက် စဉ်းစားသော စာအုပ် အရေအတွက်မှာ ၁၉၄၅ ခုမှ ၁၉၅၁ ခုနှစ်ကုန်အထိ ၅၆ အုပ်၊ ၁၉၅၂ ခုနှစ်အတွင်းထုတ် ၁၇ အုပ်၊ ၁၉၅၃ ခုနှစ်ထုတ် ၁၆ အုပ်၊ ၁၉၅၄ ခုနှစ်ထုတ် အုပ် ၂၀ ဖြစ်သည်။

### စာပေဗိမာန် စာပဒေသာဆုမှတ်တမ်း

စာပဒေသာဆုမှာ တနှစ်အတွင်း ထုတ်ဝေခဲ့သည့် စာအုပ်များအနက်၊ ဝတ္ထု၊ ဘာသာပြန်၊ ကဗျာ၊ ပြဇာတ်မဟုတ်ဘဲ စာပေသဘော၊ ယဉ်ကျေးမှုသဘော၊ အနုပညာသဘော သက်ဝင်သည့် စာအုပ်များအတွက် သတ်မှတ်ထားသည့် တထောင်တန်ဆုဖြစ်၏။ ဤဆုအတွက် စဉ်းစားရွေးချယ်ရာတွင် ဗဟုသုတသက်သက်ပေးရန် ရည်ရွယ်သည့် စာအုပ်များ မပါပေ။ စာပေဝေဖန်မှု ပါရှိသော စာအုပ်များ၊ စာမွန်စာစုများ၊ ကိုယ်တွေ့မှတ်တမ်းများ အစရှိသည့် စာအုပ်မျိုးသည် စာပဒေသာဆုကို မှန်းနိုင်ပေသည်။ သုတေသနစာပေ၊ နိုင်ငံသမိုင်း၊ လူ့သမိုင်း၊ ခရီးသွားမှတ်တမ်း၊ အတ္ထုပ္ပတ္တိ စသည့် စာအုပ်များကိုမူကား၊ အရေးအသား အစီအစဉ်၊ ရေးသားသူ၏ ရည်ရွယ်ချက်ကိုလိုက်၍ စာပေသဘော၊ သုခုမသဘော၊ ယဉ်ကျေးမှုသဘော သက်ဝင်ပါက၊ စာပဒေသာဆုအတွက် ထည့်သွင်းစဉ်းစားနိုင်၍၊ ဗဟုသုတသက်သက်ရခြင်းသာ အကျိုးဖြစ်ထွန်းစေသည့် စာအုပ်မျိုးဖြစ်ပါက၊ သုတပဒေသာဆုအတွက် ထည့်သွင်းစဉ်းစားခြင်းပြု၏။ စာပဒေသာဆုအတွက် စည်းကမ်းတရပ်မှာ ထည့်သွင်းစဉ်းစားသော စာအုပ်များသည် အနည်းဆုံး ဒါဗယ်ကရောင်း ၁၆ ချိုးအရွယ် စာမျက်နှာတရာကျော်ရှိ၍၊ ကျမ်းတစောင်တဖွဲ့ဟု ယူဆနိုင်သည့် စာအုပ်မျိုးဖြစ်ရမည် ဟူ၏။ စာသားပေါင်း အဆင့်အတန်း မြင့်စေကာမူ၊ စာမျက်နှာ အနည်းငယ်သာရှိ၍ စာအုပ်အင်္ဂါနှင့် မပြည့်စုံပါမူ ဆုအတွက်မမှန်းနိုင်ပေ။

ပဌမအကြိမ်ဖြစ်သော ၁၉၅၁ ခုနှစ်အတွက် စာပဒေသာဆုကို ရွှေကိုင်းသား အမည်ခံ ရဟန်းတော် ဦးသောဘိတက 'ဆင်ယင်ထုံးဖွဲ့မှု' စာအုပ်ဖြင့် ဆွတ်ခူးခဲ့၏။ ထိုစာအုပ်နှင့် ပတ်သက်၍ ရွေးချယ်ရေးအဖွဲ့က 'ရှာဖွေစုံစမ်း၍ ရေးသားရသော မြန်မာ့ယဉ်ကျေးမှု အကြောင်းအရာများအနက် ဆင်ယင်ထုံးဖွဲ့မှုကျမ်းပါ အကြောင်းအရာသည် အားပေးထိုက်သော အကြောင်းမျိုးဖြစ်သည်' ဟု မှတ်ချက်ရေးခဲ့၏။ ထိုနှစ်တွင်းထုတ် စာအုပ် ၁၁ အုပ်ကို စာပဒေသာဆုအတွက် ထည့်သွင်းစဉ်းစားခဲ့သည်။

၁၉၅၂ ခုနှစ်ထုတ် စာအုပ်များ အနက်၊ ၉ အုပ်ကို စာပဒေသာဆုအတွက် စဉ်းစားစစ်ဆေးခဲ့ရာ၊ ဂျာနယ်ကျော်တင့်ဆွေရေး သတင်းစာအခြေခံပညာ စာအုပ်ကို ဆုအတွက်ရွေးချယ်လိုက်သည်။ 'ဤစာအုပ်တွင် စာရေးသူသည် မိမိ ဖတ်ရှုဆည်းပူးခဲ့သော သုတနှင့် တွေ့ကြုံဆည်းပူးခဲ့သော မှတ်တို့ကို ပေါင်းရုံးရေးသားထားသည်ဖြစ်ရာ၊ နှစ်သက်ဖွယ်ဖြစ်သည်' ဟု ရွေးချယ်ရေးအဖွဲ့က မှတ်ချက်တင်ပြခဲ့၏။



စာပဒေသာဆုရ 'သတင်းစာအခြေခံပညာ' ပြုစုသူ စာရေးဆရာ ဂျာနယ်ကျော်တင့်ဆွေ (၁၉၅၂)

စာပဒေသာဆုအတွက် စဉ်းစားရန် ၁၉၅၃ ခုနှစ်ထုတ်စာအုပ် ၂၀ ရရှိရာ၊ ၁၀ အုပ်ခန့်မှာ ဗဟုသုတပေးရန်သက်သက်ရည်ရွယ်သည့် စာအုပ်မျိုးဖြစ်နေသဖြင့် သုတပဒေသာဆုဟု တဆုတိုးပေးရန် ရွေးချယ်ရေးအဖွဲ့က အကြံပေးရာ၊ ထိုအကြံကို အသင်း အုပ်ချုပ်ရေး အဖွဲ့က လက်ခံ လိုက်လေသည်။ ထိုနှစ် အတွက် စာပဒေသာဆု ပေးရန် ကျန်ရှိသော ၁၀ အုပ်ကို အထပ်ထပ် စဉ်းစားစစ်ဆေးသော်လည်း၊ အဆင့်အတန်းမှီသော စာအုပ်များအနက် စည်းကမ်းနှင့် မကိုက်ညီသော စာအုပ်များသာ ဖြစ်နေသဖြင့် စာပဒေသာ ဆုကို မပေးခဲ့ပေ။

၁၉၅၄ ခုနှစ်ထုတ် စာအုပ်များအနက်မှလည်း၊ ၄ အုပ်သာ စာပဒေသာဆုအတွက် စဉ်းစားခဲ့နိုင်ပေသည်။ ထို ၄ အုပ်မှာလည်း ဆုပေးလောက်သည့်အခြေသို့မရောက်ဟု ရွေးချယ်ရေးအဖွဲ့က ယူဆသဖြင့် ထိုနှစ်အတွက် စာပဒေသာဆု မပေးရချေ။

## စာပေဗိမာန် သုတပဒေသာဆုမှတ်တမ်း

အထက်ကရေးခဲ့သည့်အတိုင်း သုတပဒေသာဆုမှာ ၁၉၅၄ ခုနှစ်တွင်မှ ဆုံးဖြတ်ကျေညာ၍ ၁၉၅၃ ခုနှစ်ထုတ် စာအုပ်များအနက်မှ ပဌမအကြိမ် ရွေးချယ်၍ပေးသော ဆုဖြစ်သည်။ ဆုမှာ တထောင်တန်ဆုဖြစ်၏။ ဆု၏ရည်ရွယ်ချက်မှာ ဗဟုသုတပေးသည့် စာအုပ်များ၊ သုတေသနမှုပါဝင်သည့် စာအုပ်များ၊ အသုံးဝင်မည့် အချက်အလက်များ ပါရှိသည့် စာအုပ်များ မြန်မာဘာသာဖြင့် အမြောက်အမြား ပေါ်ထွက်စေရန် ဖြစ်သည်။ ဤဆုကို ရည်မှန်းနိုင်သော စာအုပ်များသည် မူအားဖြင့် ဘာသာပြန်စာအုပ်များ မဖြစ်စေရချေ။ သို့သော် သုတပဒေသာသဘော သက်ဝင်ရန်မှာ အချက်အလက်နှင့် အကြောင်းရပ်များကို အခြားကျမ်းမှ မကိုးကားဘဲ မဖြစ်နိုင်ချေ။ ထို့ကြောင့် ပင်ကိုယ်ဉာဏ်သက်သက်ဖြင့် ရေးသော စာအုပ် ဟူ၍ လုံး၀ ဖြစ်နိုင်မည် မဟုတ်ပေ။ မှီငြမ်းပြုသော အကိုးအကားတို့ကို သုတပဒေသာဆုစာအုပ်၌ လက်ခံနိုင်ပေသည်။

၁၉၅၃ ခုနှစ်ထုတ် စာအုပ်များအနက်၊ ၁၀ အုပ်ကို သုတပဒေသာဆုအတွက် စဉ်းစား စိစစ်ပြီးနောက်၊ ဦးမျိုးစင်ရေး ဒေသန္တရအုပ်ချုပ်ရေး စာအုပ်ကို ရွေးချယ်လိုက်၏။ ‘ဤစာအုပ်သည် ခေတ်နှင့် လျော်ညီသည်။ စာရေးသူသည် ဒေသန္တရအုပ်ချုပ်ရေးနှင့် သက်ဆိုင်သော အခြေခံသဘောတရားများကို ရှင်းလင်းစွာ ရေးသားထားသည်’ ဟု ရွေးချယ်ရေးအဖွဲ့က မှတ်ချက်ချခဲ့၏။

၁၉၅၄ ခုနှစ်ထုတ် စာအုပ်မျဒးအနက်၊ ၆ အုပ်မှာ သုတပဒေသာဆုအတွက် စိစစ်စဉ်းစားခြင်းခံရသော်လည်း ဆုနှင့်ထိုက်တန်လောက်အောင် ကျေနပ်ဖွယ်ရာမရှိဟု ရွေးချယ်ရေးအဖွဲ့က အစီရင်ခံ၏။ ထိုစာအုပ် ၆ အုပ်အနက် တအုပ်ကို အဆင့်အတန်းမှီသည်ဟု ယေဘုယျအားဖြင့် ယူဆနိုင်သော်လည်း၊ စာအုပ်၌ ဖော်ပြပါ အချက်အလက်များ၊



သုတပဒေသာဆုရ ‘ဒေသန္တရအုပ်ချုပ်ရေး’ စာအုပ်ကိုရေးသားသူ ဦးမျိုးစင် (၁၉၅၃)

ဂဏန်းများ၊ စာရင်းများကို ကိုးကားရာ၌ မူရင်းကို တိကျစွာ ကိုးကားညွှန်းဆိုနိုင်ခြင်း မပြုသည်မှာ ကျမ်းပြုပုဂ္ဂိုလ်တို့၏ ဝတ်တရား မကျေပြွန်ရာကျသဖြင့် ထိုစာအုပ်မှာ ဆုနှင့်လွဲ၍ သွားချေသည်။

## စာပေဗိမာန် ဆုနှင်းသဘင်မှတ်တမ်း

စာပေဗိမာန်ဆုများကို မြန်မာနိုင်ငံ ဘာသာပြန်စာပေအသင်း တည်ရာဌာနဖြစ်သော ရန်ကုန်မြို့၊ ပြည်လမ်းရှိ စာပေဗိမာန်တွင် နှစ်စဉ် ခမ်းနားစွာ ဆုနှင်းသဘင်ကျင်းပ၍ အသင်းဥက္ကဋ္ဌကြီး၊ ဝန်ကြီးချုပ်ဦးနု မျက်မှောက်တွင် ပေးအပ် ခြီးမြှင့်၏။ ထို ဆုနှင်းသဘင် များသို့ ဝန်ကြီးများ၊ သံတမန်များ၊ သံအရာရှိများ၊ အရာရှိကြီးငယ်များ၊ စာရေးဆရာများ၊ စာပေလိုက်စားသူများ၊ တက္ကသိုလ် ပါမောက္ခများ၊ ကျောင်းသူ ကျောင်းသားများမှအစ ပြည်သူပြည်သား အမြောက်အမြား စည်ကားသိုက်ဝန်းစွာ တက်ရောက်၍ ဆုရသူ ပုဂ္ဂိုလ်များအား ခြီးကျူးဂုဏ်ပြုကြ၏။ ထိုစာပေဗိမာန် ဆုနှင်းသဘင်ပွဲတွင်အသင်းဥက္ကဋ္ဌဝန်ကြီးချုပ်ဦးနု

က သဘာပတိမိန့်ခွန်း မြွက်ကြားမြဲ ဖြစ်သည်။ နှစ်စဉ်နှစ်တိုင်းပင်၊ ထိုမိန့်ခွန်းတွင် ဘာသာပြန်အသင်း၏ လုပ်ငန်းများကို အကျဉ်းချုံး တင်ပြသည့်အပြင် စာပေတိုးတက်မှု ရေးရာများ၊ စာပေသမိုင်း အစဉ်အလာများနှင့် လက်ရှိစာပေအခြေအနေများကို သုံးသပ်ဆွေးနွေးချက်များ ပါဝင်သည်။ စာပေလောကကို ဖန်တီးသော စာရေးဆရာများအားလည်း တိုးတက်မှုရရှိအောင် တိုက်တွန်းနှိုးဆော်မေတ္တာရပ်ခံသည်။ ဥက္ကဋ္ဌ၏ မိန့်ခွန်း မြွက်ကြားပြီးနောက်၊ ဝန်ကြီးချုပ် ကတော် ဒေါ်မြရီက ဆုရသူများအား စာပေဗိမာန်ဆုငွေများချီးမြှင့်လေ့ရှိ၏။ ဆုရသူများကလည်း ပြန်လည်၍ စကားအနည်းငယ်စီ ပြောကြားလေ့ရှိသည်။ ထိုနောက် စာပေနယ်တွင် ဖြစ်စေ၊ ဆုရသောစာအုပ်နှင့် စပ်ဆိုင်သည့် အကြောင်းရပ် နယ်ပယ်တွင် ဖြစ်စေ၊ ထင်ရှားကျော်ကြားသော ပုဂ္ဂိုလ်ကြီးတဦးဦးက တနာရီခန့်မျှဟောပြောလေ့ရှိ၏။

အောက်တွင် ဆုနှင်းသဘင်များ ကျင်းပခဲ့သည့် မှတ်တမ်းကို ဖော်ပြလိုက်သည်။ ဆုနှင်းသဘင်တိုင်းတွင် လွန်ခဲ့သည့်နှစ်အတွက် ဆုများပေးခြင်းဖြစ်၏။

| ဆုနှင်းသဘင်ကျင်းပသည့်ရက် | ဆုရစာအုပ်များ |
|---|---|
| ၁၉၄၉ ခုနှစ် ဇွန်လ ၁၉ ရက် | မိုးအောက်မြေပြင် |
| (၁၉၅၀) မရှိ | မရှိ |
| ၁၉၅၁ ခုနှစ် ဧပြီလ ၂၀ ရက် | မင်းမှုထမ်း |
| ၁၉၅၂ ခုနှစ် အောက်တိုဘာလ ၁၇ ရက် | ၁။ တပ်ထဲကမြတ်ကိုကို<br>၂။ ဆင်ယင်ထုံးဖွဲ့မှု |
| ၁၉၅၃ ခုနှစ် ဒီဇင်ဘာလ ၂၀ ရက် | ၁။ မြော်တလင့်လင့်<br>၂။ သတင်းစာအခြေခံပညာ |
| ၁၉၅၄ ခုနှစ် ဒီဇင်ဘာလ ၂၂ ရက် | ဒေသန္တရအုပ်ချုပ်ရေး |
| ၁၉၅၅ ခုနှစ် ဒီဇင်ဘာလ ၁၂ ရက် | ၁။ မေကျွန်<br>၂။ အိစ္စတ်ပုံပြင်များ |

ဆုနှင်းသဘင်၌ ဟောပြောခဲ့သည့် ပုဂ္ဂိုလ်ကြီးများနှင့် အကြောင်းရပ်များမှာ အောက်ပါအတိုင်းဖြစ်၏။

| နှစ် | ဟောပြောသည့်ပုဂ္ဂိုလ် | အကြောင်းရပ် |
|---|---|---|
| ၁၉၄၉ | ပါမောက္ခချုပ် ဒေါက်တာထင်အောင် | ဝတ္ထုဆိုတာဘာလဲ |
| ၁၉၅၀ | မရှိ | မရှိ |
| ၁၉၅၁ | သခင်ကိုယ်တော်မှိုင်း | ရွှေခေတ်စာပေလောက |
| ၁၉၅၂ | ပါမောက္ခဦးဖေမောင် | အနုစာပေ၏စွမ်းရည်သတ္တိ |
| ၁၉၅၃ | အုပ်ချုပ်မှုအတွင်းရေးမှူး ဦးစံထွား | ဘာသာပြန်စာပေအသင်း လုပ်ငန်းများ |
| ၁၉၅၄ | ဝန်ကြီးဗိုလ်ခင်မောင်ကလေး | ဗမာ့ဒီမိုကရေစီဒေသန္တရ အုပ်ချုပ်ရေး |
| ၁၉၅၅ | ဝန်ကြီးဦးတင် | စာအုပ်ထုတ်ဝေသူ၏ ကိုယ်တွေ့ဗဟုသုတ |

## ဆုများရွေးချယ်ပုံ

စာပေဗိမာန်ဆုများ နှစ်စဉ် နှစ်တိုင်း မည်သို့ ရွေးချယ်သည်ကို အကျဉ်းမျှ ဖော်ပြရပေမည်။ ဘာသာပြန်စာပေအသင်း ရုံးပြင်လုပ်ငန်းဌာနခွဲမှူး၏ တာဝန်တရပ်မှာ ဆုရွေးချယ်ရေးလုပ်ငန်းများ စီမံဆောင်ရွက်ရန် ဖြစ်သည်။ ရုံးပြင်လုပ်ငန်း အရာရှိသည် စာပေဗိမာန်ဆု ကြေညာချက်များကို သတင်းစာများနှင့် ပုံနှိပ်တိုက်များ၊ ထုတ်ဝေသူများထံသို့ နှစ်စဉ်ပို့ရ၏။ အသင်းထုတ် မဟုတ်ဘဲ၊ အပြင်အပမှ ထုတ်ဝေသမျှ စာအုပ်များကို မျက်ခြည်မပြတ် သတိပြုနေရသည်။ စာရေးဆရာများ၊ စာအုပ်ထုတ်ဝေသူများသည် ဆုအသီးသီးအတွက် မိမိတို့စာအုပ်များကို တင်ပြလိုပါလျှင် ၅ အုပ်ကျစီ ပေးပို့ရန် မေတ္တာရပ်ခံထားသည်။ မပေးပို့သော စာအုပ်များကို စာအုပ်ထုတ်ဝေသူများ၊ စာအုပ်ဆိုင်များထံ သွားရောက်၍၎င်း၊ စာနယ်ဇင်း ကြော်ငြာများနှင့် ရန်ကုန်အရေးပိုင်ရုံး မှတ်ပုံတင်စာရင်းမှ၎င်း၊ သိရှိရသမျှ အသင်းက ဝယ်ယူသည်။ ဆိုင်ရာက ပေးလည်း မပေးပို့၊ အသင်းအရာရှိကလည်း မတွေ့မိ မသိမိသော စာအုပ်များ ရှိကောင်း ရှိပေမည်။ အသင်း ဝန်ထမ်းများ၊ အသင်းလူကြီးနှင့် အသင်းဝင်များက မိမိတို့ကြိုက်နှစ်သက်သည့်စာအုပ်အမည်များကို စာရေး၍ပေးသွင်းနိုင်သဖြင့် ဤနည်းဖြင့်လည်း စာအုပ်များဝယ်ယူသည့်စာရင်းတွင် ပါရှိ၏။

တနှစ်အတွက် ရသမျှ စာအုပ်များကို ဌာနခွဲမှူးက ရွေးချယ်ရေးအဖွဲ့ဝင် လူကြီးများထံသို့ ပေးပို့ရသည်။ သင့်



ဘာသာပြန်ဆုရ 'အိစ္စတ်ပုံပြင်များ' ကိုမြန်မာဘာသာပြန်သူ (ယာ) မင်းယုဝေနှင့် (ဝဲ) ငွေတာရီ (၁၉၅၄)

ချော်သည့် အချိန်တွင် ဌာနခွဲမှူးက အဖွဲ့ဝင်လူကြီးများ အား အစည်းအဝေးခေါ် ပေးသည်။ ထိုအစည်းအဝေးများ တွင် အဖွဲ့ဝင်လူကြီးများသည် မိမိတို့ဖတ်ရှုထားသော စာအုပ်များကို ဆွေးနွေး ဝေဖန် စိစစ်ကြသည်။ အစည်းအဝေးများမှာ ထပ်တလဲလဲ ကျင်းပရသည်။ ဆုရွေးချယ်ရေးအဖွဲ့ များမှာ ဝတ္ထုဆုအတွက် တဖွဲ့၊ ဘာသာပြန် ဆုအတွက် တဖွဲ့၊ စာပဒေသာနှင့် သုတပဒေသာ ဆုများ အတွက် တဖွဲ့၊ ပေါင်းသုံးဖွဲ့ရှိ၏။ အချို့အဖွဲ့ဝင်လူကြီးများသည် အဖွဲ့နှစ်ဖွဲ့တွင် ပါရှိ၏။ တဖွဲ့တဖွဲ့လျှင် အဖွဲ့ဝင် ၄ ဦးမှ ၇ ဦးအထိရှိ၏။ အဖွဲ့များ၏ သက်တမ်းမှာ တနှစ်ဖြစ်၍၊ အဖွဲ့များကို အသင်းအုပ်ချုပ်ရေးကောင်စီမှ နှစ်တိုင်း ပြန်လည်ဖွဲ့စည်းခန့်ထား၏။ အကယ်၍ အဖွဲ့ဝင်လူကြီး တဦးဦး၏ စာအုပ်သည် ပြိုင်ပွဲဝင် စာအုပ်အဖြစ် ပါဝင်လာလျှင် ရွေးချယ်ရေးအဖွဲ့ဝင်အဖြစ်မှ အလိုအလျောက် နုတ်ထွက်ပြီးဖြစ်ရသည်။ အဖွဲ့ဝင်လူကြီးများမှာ စာပေရေးသားမှုနှင့် ဝေဖန်မှုတို့တွင် ကျွမ်းကျင်သော ပုဂ္ဂိုလ်များ၊ စာပေလောကတွင် ထင်ရှားသော ပုဂ္ဂိုလ်များဖြစ်၏။ ရွေးချယ်ရေးအဖွဲ့အသီးသီးမှတင်ပြချက်များကို အုပ်ချုပ်ရေးကော်င်စီက လက်ခံအတည်ပြုမှသာ ဆုရစာအုပ်များဟု ဆုံးဖြတ်ကြေညာရသည်။



'ဓမ္မကျန်' ဝတ္ထုဖြင့် စာပေဗိမာန်ဝတ္ထုဆုကိုဆွတ်ခူးသူ စာရေးဆရာကြီး စစ်ကိုင်းဦးဘိုးသင်း (၁၉၅၄)

**စာပုံနှိပ်စက်။** ။ပုံနှိပ်ခြင်းအတတ် — ရှု။

**စာဖတ်ခြင်း။** ။မိဘတို့သည် သားသမီးများ စကားပြောတတ်သည့် အရွယ်သို့ ရောက်လျှင်ပင်၊ စာရေးတတ် ဖတ်တတ်လေအောင် ကျောင်းသို့စေလွှတ်၍ စာသင်စေသည်။ ကလေးများ ကျောင်းသို့ရောက်သောအခါ၊ ဆရာဆရာမတို့သည် ထိုကလေးများကို စာရေးတတ် ဖတ်တတ်ကြစေရန်၊ ပဌမဦးဆုံး ဗျည်းအက္ခရာများမှစ၍ စာကြီး ပေကြီးများအထိ သင်ကြားပို့ချကြလေသည်။ ဤသို့ ငယ်စဉ်က အစပြု၍ မိဘဆရာသမားတို့က စာဖတ်တတ်အောင် သင်ကြားပေးကြသည်မှာ၊ စာဖတ်တတ်ခြင်းအားဖြင့် ကလေးများသည် သူတို့၏ အနာဂတ်ကောင်းကျိုးကို ဖန်တီးနိုင်စေရန် ရည်သန်သောကြောင့် ဖြစ်လေသည်။

စာဖတ်ရာတွင် ပညာဗဟုသုတ တိုးပွားရန်နှင့် အတွေးအခေါ် ရင့်သန်စေရန်ဟူသော ရည်ရွယ်ချက်နှစ်မျိုးရှိသည်။ ပညာဗဟုသုတ မရှိလျှင် မိမိတို့၏ သက်ဆိုင်ရာလုပ်ငန်းကို တိုးတက်ကောင်းမွန်အောင် လုပ်နိုင်ဖို့ ခဲယဉ်းပေလိမ့်မည်။ စိတ်ကူးဉာဏ် အတွေးအခေါ် ရင့်သန်ခြင်း မရှိပါလျှင်လည်း၊ လူ့လောကတွင် တိုးတက်ဖို့ခဲယဉ်းပေလိမ့်မည်။ ထို့ကြောင့် လိမ်မာရေးခြား ဗဟုသုတ ကြွယ်ဝစေရန်အတွက် စာဖတ်ခြင်းအလေ့သည် အလွန် အရေးပါအရာရောက်ပေသည်။

ယခုခေတ်၌ စာဖတ်ခြင်းကို အထောက်အပံ့ဖြစ်စေသော သတင်းစာ၊ ဂျာနယ်၊ မဂ္ဂဇင်း၊ စာအုပ်ဟူသည်တို့သည် အမြောက်အမြား ထွက်ပေါ်လျက်ရှိ၏။ (စာနယ်ဇင်းအတတ် — လည်းရှု။) ထိုကဲ့သို့သော ပုံနှိပ်စာများ မပေါ်မီက ပညာဗဟုသုတ ဆည်းပူးရန် ကိစ္စသည် များစွာ ခဲယဉ်းလှပေသည်။ အရေးအသားဟူ၍ မရှိသေးသော ခေတ်တွင် လူတို့သည် တဆင့်စကား တဆင့်နားဖြင့်ကြားရသမျှသော ပညာဗဟုသုတတို့ကို နှုတ်ငုံဆောင်ကြရသည်။ ထို့နောက် ရွံ့ပြား၊ ကျောက်ပြားများ ပေါ်တွင် ရေးကြ၊ ထွင်းကြသော အရေးအသားများ ပေါ်လာသည်တို့ကို လူတို့သည် ကြည့်ရှုမှတ်သားကြရသည်။ ထို့နောက် ပေရွက်၊ ကျူရွက်၊ ပုရပိုက် စသည်တို့အပေါ်တွင် ရေးမှတ်ထားသည်ကို လူတို့ဖတ်ကြရသည်။ စက္ကူနှင့် ပုံနှိပ်စက်ခေတ်သို့ ရောက်လာသောအခါ၊ လူအများ၌ စာဖတ်ခြင်းအလေ့အထသည် ပိုမိုပြန့်ပွားလာလေသည်။ (စာအုပ် — ရှု။) ယခုခေတ်၌ မျက်မမြင်များအတွက်ပင် လျှင် လက်ဖြင့်စမ်း၍ဖတ်ရသော အပိမ့်အဖု အမှတ်အသားများဖြစ်သည့် ဗရေးလ စံနစ်သည် ထွန်းကားလျက်ရှိပြီ။

စာအုပ်သည် စာဖတ်သူ၏ မိတ်ဆွေကောင်း မည်ပေသည်။ စာအုပ်များမှာ ပညာဗဟုသုတ အမျိုးမျိုးကိုပေးသော ပညာပဒေသာပင်များ ဖြစ်ကြသည်။ စာဖတ်၍ ပညာ ဗဟုသုတ ကြွယ်ဝလာသောအခါ၊ စာဖတ်သူသည် မိမိ၏စိတ်ကို မိမိ ဆုံးမ ပဲ့ပြင်လာတတ်၏။ အမှားအမှန်ကို ပိုင်းခြား ဝေဖန်လာတတ်၏။ နေ့စဉ်ကြုံတွေ့ရသော ပြဿနာတို့ကို ဖြေရှင်းနိုင်တတ်၏။ အတွေးအခေါ် ရင့်သန်လာသည်နှင့်အမျှ မိမိ ပြုမူ ပြောဆို လုပ်ကိုင်သော အကြောင်းခြင်းရာတို့သည် လူ့လောကနှင့် ဝင်ဆံ့လာတတ်၏။ ဤအချက်ကို သိမြင်သော ခေတ်မှီ နိုင်ငံတို့သည် လူတိုင်း

စာဖတ်သောအလေ့အထ ပြန့်ပွားလာအောင် တိုက်တွန်းနှိုးဆော်ပေးကြ၏။ ထို့ကြောင့်လည်း နိုင်ငံတကာတွင် စာကြည့်တိုက်များ အဓွန့်ရှည်စွာ တည်တံ့အောင် ထူထောင်ခြင်းအလုပ်ကို အလေးဂရုပြု၍ လုပ်ဆောင်ကြခြင်းဖြစ်၏။ (စာကြည့်တိုက် — ရှု။)

သို့ရာတွင် စာဖတ်ခြင်းမှ အကျိုးများ ပြည့်ပြည့်ဝဝ ရနိုင်ရန်မှာ စာဖတ်ရာတွင် နည်းစံနစ်ကျနဖို့ လိုပေသည်။ ဦးစွာ၌ စာအုပ်ကောင်းကို မိတ်ဆွေကောင်းအား ရွေးချယ်ရသကဲ့သို့ ရွေးချယ်ရပေလိမ့်မည်။ စာအုပ်များ၌ မိမိစိတ်ကို ဖြေဖျော်ပေးသည့် စာအုပ်ကတမျိုး၊ မိမိအား ဉာဏ်ပညာ ဗဟုသုတ အတွေး အခေါ် ရင့်သန်အောင် သွန်သင်ပေးသည့် စာအုပ်ကတမျိုးဟူ၍ ရှိလေသည်။ အခါကာလအားလျော်စွာ မိမိစိတ်ကြိုက်လည်းဖြစ်၍၊ မိမိအားလည်း အကျိုးတရား ပွားများစေသော စာအုပ်ကို ရွေးချယ်တတ်ရမည်။ စာဖတ်ခြင်းနည်းကို ပညာရှင်အမျိုးမျိုးတို့ ညွှန်ပြခဲ့ကြသည်တွင်၊ ဂမ္ဘီသာရပျို့လာ၊ ရှင်မဟာရဋ္ဌသာရ၏ 'သု၊ စိ၊ ပု၊ ဘာ၊ ဝိ၊ လိ၊ သိ၊ ဓာ၊ အက္ခရာစွဲသုံး၊ ဤရှစ်လုံးကို၊ သီကုံးပန်းသွင်၊ နေ့တိုင်းဆင်လော့၊ စာသင်ပျိုနု၊ အခြေပြုတို့' ဟူသောဩဝါဒသည် တန်ဖိုးအရှိဆုံးဖြစ်သည်ဟု ယူဆထိုက်ပေသည်။ ထိုအက္ခရာရှစ်လုံးမှာ အကျဉ်းပြသော ပါဠိစကားများဖြစ်သည်။ အဓိပ္ပါယ်မှာ

- သု သုဏေယျ၊ ကြားနာရာ၏။
- စိ စိန္တေယျ၊ ကြံစည်ရာ၏။
- ပု ပုစ္ဆေယျ၊ မေးမြန်းရာ၏။
- ဘာ ဘာသေယျ၊ ပြောဆိုရာ၏။
- ဝိ ဝိစာရေယျ၊ ဆင်ခြင်ရာ၏။
- လိ လိခေယျ၊ ရေးသားရာ၏။
- သိ သိက္ခေယျ၊ လေ့ကျင့်ရာ၏။
- ဓာ ဓာရေယျ၊ နှုတ်ငုံဆောင်ရာ၏ ဟူလေသည်။

ထို အင်္ဂါရှစ်ပါးတို့မှာ စာဖတ်ခြင်း၏ အခြေခံ ဖြစ်လေသည်။ ထိုရှစ်ပါးတို့အနက်၊ စာဖတ်၍ ကြားသိရသော ဗဟုသုတတို့ကို ကြံစီကြည့်ပြီးလျှင်၊ မရှင်းမလင်းသည်တို့ကို သူတပါးအား မေးမြန်း၍ ဆွေးနွေးပြောဆိုရသည်။ သို့မှသာလျှင် အကောင်းအဆိုးတို့ကို ဆင်ခြင်ဝေခွဲနိုင်မည်ဖြစ်သည်။ ဤသို့ ပိုင်းခြား ဝေဖန်ကြည့်ပြီးသော်၊ စာ၏အမြုတေတို့ကို ရေးမှတ်ခြင်း၊ လေ့ကျင့်ခြင်း၊ အာဂုံဆောင်ခြင်းတို့ကို ပြုလုပ်ရသည်။

**စာဖြူစာမဲ။** ။စာဖြူ၏ ပါဏဗေဒအမည်မှာ 'တာဆီဖုန်းပါရာဒီဆီ' ဖြစ်သည်။ အလျားမှာ အမြီးမပါဘဲ ၉ လက်မခန့်ရှိသည်။ စာဖြူအဖိုသည် အဖြူရောင် ရှိသည့်အခါ ရှိ၍ အနီရောင်ရှိသည့်အခါ ရှိသည်။ စာဖြူမ သည် အနီရောင်ရှိသော စာဖြူဖိုနှင့်တူသည်။ စာဖြူဖို၏အမြီး၌ ရှည်ထွက်နေသော အလယ်အမြီးတောင် တစုံရှိသည်။ စာဖြူမ၌ကား ထိုအမြီးတောင်မျိုးမရှိချေ။

စာဖြူ၏အသံသည် စူးရှ၍ ကြမ်းတမ်း၏။ သို့ရာတွင် သားပေါက်ချိန်၌ အသံသာယာသည်ဟုဆို၏။ စာဖြူသည် အသိုက်ကို 'သစ်ပင်ထက်၌၎င်း၊ ချုံဖုတ်ပေါ်၌၎င်း၊ မလျှိုဝှက်ဘဲ ပြုလုပ်တတ်သည်။ ဥများမှာ ပန်းနုရောင်အောက်ခံတွင် အနီစက်များပါရှိသည်။

စာဖြူကို အရှေ့တိုင်းနိုင်ငံများတွင် တွေ့ရသည်။ မြန်မာနိုင်ငံတွင် အလယ်ပိုင်းဒေသရှိ အင်တိုင်းတောများတွင် ကျက်စားလေ့ရှိသည်။ တောင်ခြေရှိ စွတ်စိုသော ကျွန်းတောများ၌၎င်း၊ တောင်ပေါ်ရှိ အမြဲစိမ်းသစ်တောများ၌၎င်း၊ ရံဖန်ရံခါ တွေ့ရသည်။

စာမဲ၏ ပါဏဗေဒအမည်မှာ 'ဟိုင်ပိုသိုင်းမစ် အဇူးရီးယား' ဖြစ်သည်။ အလျားမှာ ၆ ½ လက်မရှိသည်။ ဦးခေါင်းတွင် ထူးထူးခြားခြား အမောက်နက်ရှိသည်။

စာမဲသည် ပဲခူးရိုးမတောင်ရှိ ကျွန်းတောများ၌ ကျက်



စာမဲငှက်ဖိုနှင့်ငှက်မပုံ

စားသည်။ အထူးသဖြင့် ဝါးပင်၊ ချုံဖုတ်များအောက်တွင် နေတတ်သည်။ တကောင်တည်းနေသော အလေ့ရှိသော်လည်း၊ တခါတရံ အအုပ်အသင်းဖွဲ့ကာ ကျက်စားတတ်သည်။ အခြားငှက်များကဲ့သို့ ဆူညံစွာမအော်တတ်ဘဲ၊ တိတ်ဆိတ်စွာ နေတတ်၏။ အသံမှာ သေးငယ်စူးရှသည်။

စာမဲသည် ဧပြီလမှ ဇွန်လအတွင်း သားပေါက်သည်။ အသိုက်ကို သစ်မျှင်၊ ဝါးမျှင်၊ မြက်နုတို့ဖြင့် ပြုလုပ်သည်။

တမြုံလျှင် ၃ ဥ သို့မဟုတ် ၄ ဥရှိသည်။ စာမဲဥများသည်စာဖို့ဥများနှင့်တူသည်။

စာမဲကို အရှေ့တိုင်းနိုင်ငံများတွင် အနှံ့အပြား တွေ့ရသည်။

**စာဗင်တီး**။ ။သာဗင်တေး — ရှု။



စာဖြူငှက်မောင်နှံပုံ

**စာမရီ**။ ။စာမရီသည် နွားမျိုးရင်းဝင်ဖြစ်၍ ယင်းကိုအောင်း ဟူ၍လည်းခေါ်သည်။ မြေမျက်နှာပြင်မှ ပေ ၁၆,၀၀၀ ကျော်မြင့်သော တိဗက်နိုင်ငံတွင် တွေ့ရသည်။ အိန္ဒိယနိုင်ငံ နှင့် တရုပ်နိုင်ငံရှိ အချို့ဒေသများတွင်လည်း တွေ့ရှိနိုင်သည်။ စာမရီ၏အမြင့်သည် ပခုံး၌တိုင်းလျှင် ၆ ပေကျော်သည်။ ကိုယ်အလေးချိန်သည် ပေါင် ၁,၀၀၀ ကျော်စီးသည်။ အရောင်မှာ အနက် သို့မဟုတ် အညိုရင့်ရောင်ဖြစ်သည်။ အမွေးများသည် နူ၍ရှည်သည်။ အထူးသဖြင့် အမြီး၊ ခြေထောက်နှင့် ကိုယ်အောက်ပိုင်းရှိ အမွေးမှာ ပို၍ရှည်သည်။ တခါတရံ မြေကြီး၌ပင် တရွတ်ဆွဲလျက်ရှိသည်။

ကိုယ်ထည်လေးသော်လည်း စာမရီသည် လျင်မြန်ပေါ့ပါး၏။ ရေခဲနေသော တောင်စောင်းများကို လျှောချနိုင်သည်။ အလွန် ရေစီးသန်သည့် မြစ်ကိုလည်း ကူးဖြတ်နိုင်သည်။ မတ်စောက်သည့် တောင်စောင်းကိုလည်း ပြေးတက်နိုင်သည်။ စာမရီ အထီး အမ နှစ်ကောင် စလုံး၌ ဦးချိုရှည်များရှိကြသည်။ ရန်သူနှင့်တွေ့၍ မရှောင်သာသည့်အခါ တဟုန်ထိုး တိုက်ခိုက်တတ်သည်။ ထို့ကြောင့်စာမရီများကို ပစ်ခတ်ရန်မှာ ဘေးများလှသည်။ တိဗက်နိုင်ငံတွင် စာမရီကို နှစ်ပေါင်းများစွာကပင် မွေးမြူလာခဲ့ကြ၏။ ယဉ်ပါးပြီး စာမရီများကို ဝန်တင်တိရစ္ဆာန်အဖြစ်အသုံးပြုကြသည်။ စာမရီ၏ နို့ရည်ကို ထောပတ်ချက်သည်။ အသားကိုစားကြသည်။ အမွေးကို ကြိုးကျစ်ကြသည်။ အထည်လည်း ရက်ယူကြသည်။ သားရေကိုကုန်းနှီး၊ ကျာပွတ်၊ နောက်ပိတ်ဖိနပ် လုပ်ကြသည်။ အမွေးများသည့် အမြီးကိုမူ အနီရောင်ဆိုးပြီး ပွဲလမ်းသဘင်များလှည့်ရာတွင် သားမြီးယပ်အဖြစ်* အသုံးပြုကြသည်။

မြန်မာစာပေတွင် စာမရီမည်သော သားကောင်ကို လှပတင့်တယ်သည်ဟု ရေးသားစပ်ဆိုလေ့ရှိသည်။ ရှင်မဟာသီလဝံသ၏ ပါရမီတော်ခန်းပျို့၌ 'ပမာသွေးညီ၊ စာမရီဟု၊ နောက်ချီပွပွ၊ မြီးဆံလှလျက်၊ တောမထိပ်ခေါင်၊ သရေဆောင်သည်၊ ရွှေရောင်ပြိုးပြိုး၊ သားအမျိုး' ဟု စပ်ဆိုသည်။ ထို့ပြင် စာမရီသားကောင်သည် ဘေးအန္တရာယ်နှင့် ကြုံတွေ့သည့်အခါ အမွေးအမျှင်ကို တပင်မျှလျှင် အကျွတ်မခံဘဲ၊ အသက်ကိုစွန့်၍ ကာကွယ်တတ်သော သတ္တိထူးရှိကြောင်းကိုလည်း ဖွဲ့နွဲ့စပ်ဆိုလေ့ရှိကြသည်။ အထက်ပါ ပါရမီတော်ခန်းပျို့၌ပင် 'အကြင်သရော်၊ မသွားတော်၍၊ ထော်လော်ကန့်လန့်၊ ခြုံနွယ်ညွန့်၌၊ အတွန့်လျှောက်လျှောက်၊ ငြိလေမြောက်အံ့၊ မျှလောက်မွေးသက်၊ တမျှင်ရွက်ကို၊ စုံမက်ချစ်စိုး၊ နှမြောနိုး၍၊ သားမျိုးတိရစ္ဆာန်၊ အားကုန်သွန်လျက်၊ လည်လန်မူးမော်၊ ရှုန်းချေသော်လည်း၊ ထိုရော်မြီးဖျား၊ ပြတ်ခန့်ငြား၍၊ မသွားတဆွေ၊ ထိုရွှေဝပ်တန့်၊ အသက်စွန့်လျက်' ဟူ၍ စပ်ဆိုသည်။ နဝဒေးကြီး၏ ပြည်ကျောင်းငယ်ညီနောင် ဘုရားတိုင် ရတု၌လည်း 'ရွှေစာမရီ၊ မြီးချီကျော့လန်း၊ ပုံဖြင့်သွန်းသို့၊ သွယ်ဝန်းစံတည်၊ လှဟန်ရည်




အောင်းဟူ၍လည်းအမည်ခေါ်တွင်သည့် စာမရီ

နှင့်၊ မွေးချည့်တပင်၊ စုံမက်ခင်လျက်၊ ဆံမျှင်တကွက်၊ သေမည့်သက်ကို၊ စွန့်ရက်လေဟန်’ ဟူ၍စပ်ဆိုသည်။

**စာမှန်။** ။သိုးဆောင်းစာပေ၌ ‘အက်ဆေး’ ဟုခေါ်သော စကားပြေ အဖွဲ့မျိုးကို ခရစ် ၁၆ ရာစုနှစ်နောက်ပိုင်းတွင် ပြင်သစ်နိုင်ငံ၌ မွန်တိန်းကရင်း၊ အင်္ဂလန်ပြည်၌ ဖရန်းစစ် ဗေကင်ကရင်း၊ စတင် ရေးသားခဲ့ကြ၏။ (မွန်တိန်း, အမ်၊ အီး။ ဗေကင်, ဖရန်းစစ် — ရှု။) ထိုသူတို့ ရေးစဉ်က အကြောင်းရပ်တခုခုကို မိမိတို့ဉာဏ်မှီသလောက် ရေးစမ်းကြည့်သော စာအဖွဲ့မျှသာ ဖြစ်သည်ဟူသော အဓိပ္ပါယ်ဖြင့်၊ ထိုဖွဲ့စီရေးသားလိုက်သော စာမျိုးကို ‘အက်ဆေး’ ဟု အမည်တပ်ခဲ့သည်။ ဤသို့ အမည်တပ်လိုက်ခြင်း၏ ဆိုလိုရင်းမှာ၊ သူတို့ ရေးဖွဲ့လိုက်သောစာသည် ပြည့်စုံကုံမြောက်သော ကျမ်းဂန်တစောင်တဖွဲ့မဟုတ်၊ ဝတ္ထုမဟုတ်၊ တရားစာမဟုတ်၊ အကြောင်းခြင်းရာ တခုခုကို တတ်သလောက်၊ မှတ်သလောက်ဉာဏ်ဖြင့် ဆင်ခြင်သုံးသပ်၍ရေးသားရသော ကြိုးပမ်းစမ်းသပ်မှုတရပ်မျှသာ ဖြစ်သည်။ စာကြီးပေကြီးကဲ့သို့ ဝေဖန်ယူဆရန်မဟုတ်ပါဟူသော သဘောမျိုးကို ဆိုလိုရင်းဖြစ်၏။ မာန်ကိုနှိမ့်ချ၍ ခပ်ယို့ယို့ အမည်တပ်လိုက်ခြင်းဖြစ်သည်။ သို့သော် သူတို့၏ ‘အက်ဆေး’ များကို အဆီအနှစ်ပါသော စဉ်းစားဉာဏ်ဖြင့်ရင်း၊ အဓိပ္ပါယ် ကြွယ်ဝစွာပါရှိသော တိုတုတ်ခန့်ညားသည့် စကားလုံး၊ စကားသွားဖြင့်ရင်း၊ တန်ဆာဆင်ထားရကား၊ စာပေလောကတွင် ထင်ရှားကျော်ကြား၍ လူကြိုက်များလာလေသည်။ ထိုနောက် ‘အက်ဆေး’ ဟူသည် အကြောင်းခြင်းရာတခုနှင့် စပ်လျဉ်း၍ စဉ်းစားစိတ်ကူးရသမျှကို စကားသွားခန့်ခန့်လှလှဖြင့် စာဖတ်သူ၏စိတ်ကို ဆွဲဆောင်နိုင်စွမ်းအောင်၊ မရှည်လွန်း မတိုလွန်း လှဘဲ၊ ရေးသား ဖွဲ့စီထားသော စာပေမြောက်သည့် စကားပြေအဖွဲ့မျိုးဖြစ်သည်ဟု စာပေလိုက်စားသူတို့က နားလည် မှတ်ယူလာကြလေသည်။

‘အက်ဆေး’ ဟူသောစကား၏ တိုက်ရိုက် အဓိပ္ပါယ်မှာ ‘စမ်းသပ်မှု’၊ ‘ကြိုးပမ်းမှု’ ဖြစ်သည်။ ဤပင်ရင်းအဓိပ္ပါယ်နှင့် မွန်တိန်း၊ ဗေကင်တို့၏ မူလရည်ရွယ်ချက်ကို နှလုံးသွင်းပြီး၊ ရန်ကုန်တက္ကသိုလ် ပါမောက္ခ ဆရာကြီး ဦးဖေမောင်တင် အမှူးပြုသော တက္ကသိုလ်ဆရာများက ဤစာအဖွဲ့မျိုးကို ‘အစမ်းစာ’ ဟု အမည်ပေးခဲ့သည်။ ‘အစမ်းစာ’ ဟူသော ဝေါဟာရ မပေါ်ခင်က၊ ဤစာမျိုးကို ဆောင်းပါးဟူ၍ ယေဘုယျ ခေါ်ခဲ့ကြသေးသည်။ သိုးဆောင်းတို့၏ စာပေလောကတွင် ‘အက်ဆေး’ ဟူသော အမည် ဝေါဟာရမှာ မပြောင်းလဲဘဲ၊ စွဲမြဲကျန်ရှိခဲ့သော်လည်း၊ ထိုဝေါဟာရဖြင့် ခေါ်ဆိုသော စကားပြေအဖွဲ့မျိုးမှာ သဘောအားဖြင့်ရင်း၊ အသွင်အားဖြင့်ရင်း၊ အသွားအားဖြင့်ရင်း၊ အတော်ပင် ပြောင်းလဲခဲ့ပြီဖြစ်ရာ၊ မူလမှည့်ခေါ်သောဝေါဟာရ၏ တိုက်ရိုက် အဓိပ္ပါယ်ကိုယူရန် မသင့်လျော်တော့ချေ။ အဘယ်ကြောင့်ဆိုသော် လွန်ခဲ့သည့်အနှစ် ၂၀၀ လောက်မှစ၍ ယခုထက်တိုင် ‘အက်ဆေး’ များရေးရာ၌၊ ရေးသူ၏ ဉာဏ်စွမ်းနှင့် စကားသွားနိုင်နင်းမှု စွမ်းရည်တို့ကို အကြောင်းခြင်းရာ တခုခုပေါ်တွင် မှတ်ကျောက်တင်၍စမ်းသပ်ခြင်း ဟူသော သဘောသည် မရှိတော့ပြီ ဖြစ်သော ကြောင့်တည်း။

ယခုလက်ရှိ သိုးဆောင်းတို့၏ စာပေလောကတွင်ရင်း၊ မြန်မာစာရေးဆရာများ ရေးသားနေကြသည့် စာပေလောကတွင်ရင်း၊ ‘အက်ဆေး’ ဟု အင်္ဂလိပ်လိုခေါ်နိုင်သော စာအဖွဲ့၏ သဘောသွားနှင့် အင်္ဂါရပ်များမှာ ဤသို့ဖြစ်၏။ ‘အက်ဆေး’ သည် မည်သည့်အကြောင်းရပ်ကိုမဆို ဖွဲ့စီရေးသားထားသော စာမျိုးဖြစ်သည်။ စကားပြေနှင့် ဖွဲ့နွဲ့စီကုံးထားခြင်းသာ ‘အက်ဆေး’ အမျိုးမျိုး၏ တူညီသောအင်္ဂါရပ်ဖြစ်သည်။ ခရစ် ၁၈ ရာစုနှစ်တွင် ထွန်းကားခဲ့သော အင်္ဂလိပ်ကဗျာဆရာ အယ်လက်ဇန္ဒာ ပုပ် ရေးသားခဲ့သော ‘လူ့သဘာဝအက်ဆေး’ နှင့် ‘ဝေဖန်မှုအက်ဆေး’ များမှာ ကဗျာလင်္ကာရှည်များဖြစ်၍၊ ပုပ်က ‘အက်ဆေး’ ဟူသောစကားကို မူလအဓိပ္ပါယ်နှင့် သုံးထားခြင်းဖြစ်သည်။ (ပုပ်, အယ်လက်ဇန္ဒာ — ရှု။) ‘အက်ဆေး’ တို့၏အခြားတူညီသော အင်္ဂါရပ်တခုမှာ ကျမ်းတစောင်တဖွဲ့၊ ဝတ္ထုရှည်တပုဒ်လောက် မရှည်လျားခြင်းဖြစ်သည်။ အတိုအရှည်ကွာခြားခြင်း ရှိကြသော်လည်း၊ အများအားဖြင့် ‘အက်ဆေး’ ကို တထိုင်ဖတ်နှင့် ပြီးနိုင်သည်။ ၁၈ ရာစုနှစ်တွင် နာမည်ကျော်ကြားခဲ့သော အင်္ဂလိပ် ‘အက်ဆေး’ ဆရာများဖြစ်သူ အက်ဒီဆင်နှင့် ဂျွန်ဆင်တို့က ‘အက်ဆေး’ ဟူသည်မှာ စည်းကမ်းစနစ် တိကျစွာမရှိသော၊ စည်းလွတ်ဝါးလွတ် စိတ်သွားတိုင်း ကလောင်ပါနိုင်သော၊ စိတ်ကူးဉာဏ်ကွန့်ချင်တိုင်း ကွန့်နိုင်သော စကားပြေအဖွဲ့ဟု သရုပ်ဖော်ခဲ့လေသည်။ (အက်ဒီဆင်, ဂျိုးဇက်။ ဂျွန်ဆင်, ဆယ်မျူယယ် — ရှု။)

ယခုခေတ်အခါ၌ ‘အက်ဆေး’ များတွင် အကြောင်းခြင်းရာအမျိုးမျိုးကို ရည်မှန်းချက်အမျိုးမျိုးဖြင့် ရေးကြသည်။ ရေးဟန် (ဝါ) လေယူ လေသိမ်း၌လည်း အမျိုးမျိုးကွဲပြားကြ၏။ အချို့ ‘အက်ဆေး’ များမှာ အကြောင်းရပ်တခုခု၏ သဘောသွားကို ခွဲစိတ်ဝေဖန်ပြ၏။ အချို့ ‘အက်ဆေး’ များမှာ အကြောင်းရပ် တခုခု၏ သဘောသွားကို ရှင်းလင်းသရုပ်ဖော်၍ ပြဆို၏။ အချို့မှာ စာဖတ်သူ၏ ဗဟုသုတ တိုးစေရန်၊ အသိဉာဏ် တိုးစေရန် ရည်ရွယ်၏။ အချို့မှာ ဗဟုသုတတိုးရန်မဟုတ်ဘဲ၊ ရသေ့စိတ်ပြေ အပြစ်နှင့် စိတ်ပျော်မွေ့စေရန် သက်သက်သာ ရည်

ရှယ်၏။ 'အက်ဆေး' အမျိုးမျိုး အဖုံဖုံ ကွဲပြားခြားနားသော်လည်း၊ 'အက်ဆေး' တိုင်းတွင် စာဖတ်သူ၏ စိတ်ဝင်စားမှုကို ဆွဲဆောင်ရန် အဓိကထားပေသည်။ 'အက်ဆေး' မှန်သမျှသည် စာပေအင်္ဂါ မြောက်ရပေမည်။ စာကောင်းစာမွှန် ဖြစ်ရပေမည်။ ဤကား 'အက်ဆေး' ၏ အရေးကြီးသော အင်္ဂါရပ် ဖြစ်ပေသည်။ 'အက်ဆေး' တွင် အများအားဖြင့် နက်နဲသိမ်မွေ့သော တွေးခေါ်ချက်၊ ကဝိလက္ခဏာဖြစ်သော စကားခက် စကားကြီးတို့ မပါရှိတတ်ပေ။ အကြောင်းခြင်းရာတခုခု ရေးရာတွင် နိုက်နိုက်ကျွတ်ကျွတ်ရှိရန် သော်ငင်း မရည်ရွယ်ဘဲ၊ အကျဉ်းချုံး၍ ကြည့်နည်းဖြင့် ကြည့်၍ဖြစ်စေ၊ မိမိကိုယ်တွေ့ မိမိစဉ်းစား စိတ်ကူးပေါ်ခဲ့သော တည်၍ဖြစ်စေ၊ 'အက်ဆေး' ကိုရေးကြလေသည်။ ဤအင်္ဂါရပ်များကို ခြုံ၍ စဉ်းစားသော်၊ 'အက်ဆေး' ဟူသော စကားပြေအဖွဲ့ အကြောင်းခြင်းရာ အဖွဲ့မျိုးကို မြန်မာလို 'စာမွှန်'၊ 'အက်ဆေး' သဘောမျိုးရှိသော စာပေကို 'စာမွှန်စာပေ' ဟု ခေါ်ဆိုရပေမည်။ ဝိဂြိုဟ်ပြုရသော်၊ စာမွှန်သည် အကြောင်းခြင်းရာတခုခုကို စိတ်ကူးဉာဏ်ကွန့်၍ စကားပြေဖြင့် စာပေမြောက်အောင် ရေးဖွဲ့သည့်စာ ဖြစ်သည်ဟူ၏။

စာမွှန်ကို ၁၅၇၁ ခုနှစ်တွင် ပြင်သစ်စာရေးဆရာမွန်တိန်းက ပဌမ စတင်ရေးသားသည်မှစ၍ ယခုထက်တိုင် အသွင်အပြင် ပြောင်းလဲလာသည်နှင့်အမျှ၊ စာပေဝါသနာပါသူတိုင်း နှစ်ခြိုက်ခဲ့ပေသည်။ ကမ္ဘာပေါ်ရှိ ဘာသာစကားတိုင်း၊ စာပေတိုင်းလိုလိုတွင် စာမွှန်ကို စာရေးဆရာများ ရေးသားကြ၏။ စာမွှန်ရေးရာတွင် ကျော်ကြားခဲ့ကြသူများမှာ အတော်ပင်များပြားကြသည်။ ယင်းတို့အနက် စာမွှန်ပေါ်ပေါက်ခဲ့သည့် မူရင်းဘာသာစကားဖြစ်သော ပြင်သစ်စာပေတွင် နာမည်ကြီးစာမွှန်စာပေဆရာများမှာ စန်ဗဗ်၊ တိန်း၊ မက်တာလင့်၊ ဘယ်လရီ၊ ဂိုးမွန်၊ ရေနွန်း၊ လမိုက်တား စသည်တို့ဖြစ်သည်။ အင်္ဂလန်ပြည်၌ ၁၈ ရာစုနှစ်တွင် ကောင်လီ၊ အက်ဒီဆင်၊ စတီး၊ ဂျွန်ဆင်၊ ဂိုးစမစ်တို့သည် စာမွှန်စာပေ၏ အသွင်အပြင်ကို ပြောင်းလဲစေခဲ့သည့်ပြင်၊ အဆင့်အတန်းကိုလည်း မြှင့်တင်ခဲ့ပေသည်။ သူတို့နောက် ၁၉ ရာစုနှစ်တွင် လမ့်၊ ဟက်ဇလစ်၊ လေးဟန့်၊ ဒီကွင်ဆီ၊ မက်ကောလေး၊ ပေတာ စသော စာရေးဆရာများသည် စာမွှန်အရေးအသား ကောင်းမွန်လှသောကြောင့်ပင် နာမည်ကျော်ကြားခဲ့ပေ့သည်။ အမေရိကန် စာရေးဆရာများအနက်၊ အီမာဆင်သည် ပြောင်မြောက်ခန့်ညားသော စာမွှန်များကိုရေးခဲ့၏။ (အီမာဆင်, အာ၊ ဒဗျူ — ရှု။) ယခုပစ္စုပ္ပန်ခေတ် ၂၀ ရာစုနှစ်တွင် စာမွှန်အရေးအသားသည် မှေးမှိန်သွားခြင်း မရှိဘဲ၊ အကျော်အမော် စာရေးဆရာ အမြောက်အမြားလိုက်စားလျက်ရှိ၏။

ကျွန်ုပ်တို့ မြန်မာစာပေတွင် မျက်မှောက်ခေတ်မှပင် စာမွှန်စာပေ သန့်သန့် ပေါ်လာပေသည်။ 'သခင်ကိုယ်တော်မှိုင်း၊ လယ်တီပဏ္ဍိတ ဦးမောင်ကြီး၊ ဆရာပီမိုးနင်းနှင့် မဟာဆွေတို့ ရေးခဲ့သော စကားပြေအဖွဲ့ အချို့တို့သည် စာမွှန်များဖြစ်ကြသည်။ ခေတ်စမ်းစာပေခေတ်တွင် ပဌမဦးစွာ စာမွှန်များကို အများအပြားရေးခဲ့သူမှာ သိပ္ပံမောင်ဝ ဖြစ်၏။ (စိန်တင်၊ ဦး — ရှု။) ဇော်ဂျီ၊ မင်းသုဝဏ်၊ တက္ကသိုလ် မောင်သန့်စင်၊ မောင်ထင်၊ မြကေတုဟူသော စာရေးဆရာတို့မှာ သက်ရှိထင်ရှား နာမည်ကြီး စာမွှန်စာပေဆရာများဖြစ်သည်။ ထိုသူတို့အပြင် အခြားထင်ရှားသော စာရေးဆရာများကလည်း စာမွှန်များကို အရေးထား၍ ရေးသားလျက်ရှိကြပေသည်။

**စာရေးတံ။** ။မြတ်စွာဘုရားလက်ထက်တော်အခါ သံဃာအများနှင့်စပ်ဆိုင်သော ဆွမ်းအလှူကိုစွ၊ ဝိနည်းကိစ္စတို့တွင် ပြဋ္ဌာန်းဆုံးဖြတ်ရာ၌ အမှုကို ပြီးစီးလွယ်သောငှာ၊ စာအက္ခရာအမှတ်အသားပါသော ဝါးခြမ်းတံကို မဲနှိုက်စေ၍ ဆုံးဖြတ်ရသည်။ ယင်းဝါးခြမ်းတံကို စာရေးတံဟုခေါ်သည်။ ပုံစံအားဖြင့် သံဃာတော်အများကို တကာတကာမများက ဆွမ်းပင့်ဖိတ်သောအခါ၊ မည်သည့် တကာ တကာမသည် မည်သည့်သံဃာအား ဆွမ်းကျွေးစေဟူ၍ ဆုံးဖြတ်ရန် မရကောင်းသော အခါတို့၌၊ စာရေးတံဟုခေါ်သော ဝါးခြမ်းတံဝယ် သံဃာအရေအတွက်ကို အမှတ်အသားပြု၍၊ ကံအလျောက် ဆွမ်းကပ်နိုင်ကြစေရန် အိမ်စဉ်အရ မဲနှိုက်စေ၍၊ သလာကဘတ္တ (စာရေးတံ) ဆွမ်းအလှူကို လှူဒါန်းစေသည်။ ဤအလှူမျိုးကို စာရေးတံမဲအလှူဟု ခေါ်သည်။ တဖန်တုံလည်း၊ သံဃာဝိနည်းတော်ကိစ္စ ဆုံးဖြတ်ရန် ဖြစ်လတ်သော်၊ သံဃာတော် အများ စုံညီစည်းဝေးတော်မူကြ၍၊ နှစ်ဦး နှစ်ဖက်သော သံဃာတော်တို့၏ အမှုအကြောင်းကို ပြောကြား လျှောက်ထားစေသည်။ ထိုလျှောက်ထားချက်တို့ကို ကြားနာပြီးလတ်သော်၊ အဆုံးအဖြတ်ပေးရမည့် သံဃာတော်တို့သည် သက်နံးစသော တစုံတခုပေါ်ဝယ် တင်ထားသော တရားမှန်သော ဓမ္မဝါဒီ ဝါးခြမ်းတံ၊ တရားမမှန်သော အဓမ္မဝါဒီ ဝါးခြမ်းတံဟု နှစ်မျိုးနှစ်စား ခွဲခြား အမှတ်အသား ပြုထားသည့် စာရေးတံတို့အနက် မိမိတို့ ကြိုက်နှစ်သက်ရာ စာရေးတံကိုယူ၍၊ မဲပေးသောအလား ကိုင်ယူချထားရသည်။ ဤစာရေးတံမဲဦးရေအနည်းအများကို ကြည့်၍၊ ယေဘုယျသိက ဝိနည်းအရ၊ မဲများရာကို အနိုင်ပေး၍ ဆုံးဖြတ်ကြသည်။ ယင်းဆုံးဖြတ်ခြင်း၌လည်း စာရေးတံမဲပေးသည်ဟု ခေါ်ဝေါ်ကြကုန်၏။

ဆရာဆိုင်။

# ငွေဝင်ငွေထွက်ပြစာရင်း

**ကုန်သည်ပွဲစားမှအစ အိမ်ထောင်ရှင်မအထိ ဝင်ငွေနှင့်ထွက်ငွေကို စံနစ်တကျ စာရင်းပြုလုပ်ထားရှိရန်လိုအပ်ပေသည်။ သို့မှသာလျှင် ကုန်သည်ပွဲစားသည် မိမိ၏လုပ်ငန်းအတွက် အရှုံးအမြတ်ကိုရင်း၊ အိမ်ထောင်ရှင်မသည် အိမ်ထောင်အတွက် ငွေဝင်ငွေထွက်အခြေအနေကိုရင်း တိကျစွာ သိရှိတွက်ချက်နိုင်ပေမည်။ ယခုအခါ စာရင်းကိုင်ပညာကို သီးခြားပညာတရပ်အနေဖြင့် လေ့လာသင်ကြားလျက်ရှိကြသည်။**

**စာရင်းကိုင်ပညာ။** ။ငွေအသပြာဟူ၍ တသီးတသန့်ထားကာ သုံးစွဲမှုမပြုကြသေးသည့် ခေတ်အခါကပင်၊ ကုန်ချင်းပစ္စည်းချင်း ဖလှယ်ကြရာ၌၊ မည်သည့်ကုန်ကို ရရှိ၍၊ မည်သည့်ကုန်ကို ထုတ်လိုက်သည် စသည်ဖြင့် မှတ်သားကာ စာရင်းပြုလုပ်လေ့ရှိကြသည်။ ငွေအသပြာကို စတင်သုံးစွဲလာကြသည့် အချိန်သမယတွင်မူ ငွေရခြင်းနှင့် ငွေသုံးခြင်းတို့အတွက် စာရင်းပြုလုပ်ကြ၏။ ငွေသုံးစွဲမှု များပြားလာသော မျက်မှောက်ခေတ် အခါ၌ကား မည်သည့်အလုပ်ကို လုပ်၍ မည်သည့်အဆင့်အတန်းတွင် ရှိသည်ဖြစ်စေ၊ မည်သူမဆို မိမိ၏ငွေကို စေ့စပ်စွာ သုံးစွဲ၍ ချွေတာစုဆောင်းလိုခဲ့လျှင် သော်၎င်း၊ မိမိ၏ လုပ်ငန်းအခြေအနေကို ခရေစေ့တွင်းကျ တခဏချင်းနှင့် အစအဆုံး မှန်ကန်လွယ်ကူစွာ သိရှိ၍ လုပ်ငန်း ကြီးပွားတိုးတက်စေလိုခဲ့လျှင် သော်၎င်း၊ ထိုသူသည် မိမိ၏ဝင်ငွေမှာ အဘယ်မှဝင်လာ၍ အဘယ်သို့ထွက်သွားသည် စသည်တို့အပြင်၊ ဝင်ငွေထက် ထွက်ငွေက လျော့နည်းလျက် လက်ကျန် အပိုအလျှံ ရှိသည်တို့ကိုပါ သိရှိနားလည်ရမည် ဖြစ်ပေသည်။ ထိုအကြောင်းခြင်းတကို တိကျသေချာစွာ သိရှိစေရန် ညွှန်ပြစွမ်းဆောင်သည့် အတတ်မှာ စာရင်းကိုင်ပညာပင် ဖြစ်လေသည်။

မည်သူမဆို စာတတ်လျှင် စာရင်းရေးမှတ်နိုင်သည့် အားလျော်စွာ ရိုးရိုး စာရင်းကိုင်ခြင်းမှာ ခက်ခဲလှသည် မဟုတ်ချေ။ သို့ရာတွင် စံနစ်တကျ ရှင်းလင်းပြတ်သားစွာ ရေးချတ်မှတ်သားရန်မှာ အရေးကြီးသည့်အလျောက် စာရင်းကိုင်နည်း နိသျှည်းများကို တတ်ကျွမ်းနားလည်ရန် လိုပေသည်။ စာရင်းကိုင် ပညာကို တတ်ကျွမ်းသဖြင့် အိမ်မှုထိန်းသိမ်းရေးမှအစ လုပ်ငန်းကြီးများအထိ သက်ရောက်ရာတာဝန်များကို အကျိုးကျေးဇူး ပွားများလေအောင် စီမံသွားနိုင်မည်ဖြစ်သည်။

စာရင်းကိုင်ခြင်းကို အလွယ်ဆုံး အခြေခံမှစ၍ ဖော်ပြရသော် စာရင်းဟူသော ဝေါဟာရကို ဦးစွာပဌမ ရှင်းလင်းရပေမည်။ စာရင်းဟူသည်မှာ ငွေအသပြာကိုဖြစ်စေ၊ ငွေအသပြာနှင့် စပ်လျဉ်းသည့် ကုန်ပစ္စည်း အရာဝတ္ထု အပေးအယူ အပြောင်းအလဲများကိုဖြစ်စေ စံနစ်တကျ ရေးမှတ်ခြင်းပင်ဖြစ်သည်။

စာရင်းရေးမှတ်ချက်များတွင် အပေးအယူများကို ဖော်ပြရသည်ဖြစ်ရာ၊ ပေးသောသူနှင့် ရသောသူဟူ၍ ရှိရပေမည်။ ငွေဖြစ်စေ၊ ငွေနှင့်အလားတူ အရာဝတ္ထုဖြစ်စေ၊ ပေးသောသူကို 'မြီရှင်' ဟူ၍၎င်း၊ ငွေဖြစ်စေ၊ ငွေနှင့်အလားတူ အရာဝတ္ထုဖြစ်စေ၊ ရသောသူကို 'မြီစား' ဟူ၍၎င်း၊ စာရင်းကိုင်ပညာရပ်တွင် ခေါ်ဆိုလေသည်။ ဥဒါဟရုဏ်ဖြင့် ဖော်ပြရသော်၊ မောင်စသည် မောင်ဘသို့ ငွေ ၅၀ိ ပေးသည်ဟုဆိုရာတွင် မောင်စသည် မြီရှင်ဖြစ်၍ မောင်ဘသည် မြီစားဖြစ်လေသည်။ ဤတွင် မှတ်ရန်ရှိသည်ကား၊ ထိုငွေ ၅၀ိ ပေးခြင်းကိစ္စမှာ မောင်စက မောင်ဘသို့ အကြွေးဆပ်ခြင်းသဘောနှင့် ပေးသည်ဟု ဆိုရစေကာမူ မောင်ဘမှာ ရသူဖြစ်သဖြင့် မြီစား၊ မောင်စမှာ ပေးသူဖြစ်သဖြင့် မြီရှင်ပင်ဖြစ်သည်။ စာရင်းကိုင်ပညာတွင် စာရင်းမှန်ကန်စွာ ရေးမှတ်နိုင်ရန်အတွက် မည်သူသည်မြီစား၊ မည်သူသည်မြီရှင်၊ မည်သည့်စာရင်းသည် မြီစား၊ မည်သည့်စာရင်းသည် မြီရှင်ဖြစ်သည် ဟူ၍ ခွဲခြား သိရှိရန် လိုချေသည်။ ငွေဖြစ်စေ၊ ကုန်ပစ္စည်းဖြစ်စေ အပေးအယူ အပြောင်းအလွဲ ရေးမှတ်ရာတွင် မည်သူက ရသည်၊ မည်သူက ပေးသည်ဟူသော အချက်ကို စိစစ်ကာ မြီစား မြီရှင် ခွဲခြားရသည်။

စာရင်းကိုင်ခြင်းတွင် တဖက်သွင်း စာရင်းကိုင်နည်းနှင့် နှစ်ဖက်သွင်း စာရင်းကိုင်နည်း ဟူ၍ နှစ်မျိုးရှိသည်။ တဖက်သွင်း စာရင်းကိုင်နည်းအရ အပေးအယူ အပြောင်းအလွဲများကို မြီရှင်ဖက်၌ဖြစ်စေ၊ မြီစားဖက်၌ဖြစ်စေ သက်ဆိုင်သည့် အလျောက် စာရင်း တခါသာ ရေးမှတ်လေသည်။ ဥဒါဟရုဏ်အားဖြင့် မောင်စသည် မောင်ဘသို့ ငွေ ၅၀ိ ထုတ်ချေးသည်ဟု ဆိုကြပါစို့။ မောင်ဘသို့ ထုတ်ချေးလိုက်သော ငွေ ၅၀ိ ကို မောင်စ၏ ငွေဝင်ငွေထွက်စာရင်းတွင် မြီရှင်ဖက်၌သာ ရေးမှတ်ပေမည်။ တဖန် မောင်ဘသည် ချေးယူငွေထဲမှ ငွေ ၂၅ိ ပြန်ဆပ်သည်ဟုဆိုလျှင် ထိုပြန်ဆပ်ငွေ ၂၅ိ ကို မောင်စ၏ ငွေဝင်ငွေထွက်စာရင်းတွင် မြီစားဖက်၌သာ ရေးမှတ်မည်ဖြစ်ပေသည်။

နှစ်ဖက်သွင်းစာရင်းကိုင်နည်းတွင် အပေးအယူ အပြောင်းအလွဲဟူသမျှကို စာရင်းတခု၌ မြီရှင်ဖက်တွင်၎င်း၊ အခြားစာရင်းတခု၌ မြီစားဖက်တွင်၎င်း၊ စာရင်းနှစ်ခါ ရေးမှတ်ရလေသည်။ အထက်ပါ ဥဒါဟရုဏ်နှင့်ပင် ရှင်းလင်းဖော်ပြရသော်၊ မောင်စ၏ ငွေချေးလုပ်ငန်းတွင် မောင်စသည် နှစ်ဖက်သွင်းစာရင်းကိုင်နည်းဖြင့် စာရင်းထားရှိသည်ဟု ဆိုကြ

ပါစို့။ မောင်ဘအား ထုတ်ချေးလိုက်သောငွေ ၅ဝိ ကို မောင်စ၏ ငွေဝင်ငွေထွက်စာရင်းတွင် မြီရှင်ဖက်၌ ထည့်သွင်းရေးမှတ်သည့်နည်းတူ မောင်ဘ၏ ချေးငွေစာရင်းတွင် မောင်ဘက ငွေကိုလက်ခံရရှိသည်အတိုင်း ယင်းငွေ ၅ဝိ ကို မြီစားဖက်၌ ထည့်သွင်းရေးမှတ်ရလေသည်။ တဖန် ပြန်ဆပ်ငွေ ၂၅ိ နှင့်စပ်လျဉ်း၍ ရေးမှတ်ရာတွင် မောင်စသည် ငွေရရှိသူဖြစ်သည့်အတွက် မောင်စ၏ ငွေဝင်ငွေထွက်စာရင်း မြီစားဖက်၌ ငွေ ၂၅ိ ကို ထည့်သွင်းလျက် မောင်ဘ၏ ချေးငွေစာရင်း မြီရှင်ဖက်တွင် ထိုငွေ ၂၅ိ ကို ထည့်သွင်းရေးမှတ်ရလေသည်။

နှစ်ဖက်သွင်း စာရင်းကိုင်နည်းမှာ စေ့စပ် သေချာ၍ အလုပ်များသည်နှင့်အမျှ အလုပ်အကိုင်တို့၏ အခြေအနေကို တိကျ လွယ်ကူစွာ စစ်ဆေး ကြည့်ရှုနိုင်ရန် စွမ်းဆောင်နိုင်သည့်အလျောက် အလုပ်ကြီးအကိုင်ကြီးများကို လုပ်သော ပုဂ္ဂလိက လုပ်ငန်းရှင်များ၊ ကုမ္ပဏီများ၊ အသင်းများနှင့် ဘဏ်တိုက်များသည် ထိုစာရင်းကိုင်နည်းကို လက်သုံးလက်စွဲပြုထားလေသည်။

လုပ်ငန်းတို့တွင် အသုံးပြုသော စာရင်းအမျိုးမျိုးရှိသည့် အနက် ထင်ရှားသော စာရင်းမှာ (၁) လက်ငင်းရသောငွေ၊ လက်ငင်းပေးသောငွေတို့ကို ထည့်သွင်းရေးမှတ်ရသည့် ငွေဝင်ငွေထွက်စာရင်းနှင့် (၂) အကြွေးရောင်း အကြွေးဝယ် စာရင်းတို့ကို ထည့်သွင်းမှတ်သားရသည့် အကြွေးစာရင်းတို့ပင် ဖြစ်ကြသည်။

ငွေဝင်ငွေထွက်စာရင်းသည် လုပ်ငန်းအရပ်ရပ်တွင် အရေးကြီးဆုံးဖြစ်သည်။ ဝင်ငွေထွက်ငွေအကြောင်းများကို ရေးမှတ်ထားသောစာအုပ်ကို ငွေစာရင်းစာအုပ်ဟု ခေါ်သည်။ ငွေဝင်ငွေထွက်စာရင်း ထည့်သွင်းရာ၌ မြီရှင် မြီစား အကြောင်းအရာများကို စာမျက်နှာ တမျက်နှာတည်း၌ဖြစ်စေ၊ မျက်နှာချင်းဆိုင် စာမျက်နှာအစုံ၌ဖြစ်စေ ရေးမှတ်ကြ၏။ မျက်နှာချင်းဆိုင် စာမျက်နှာတို့၌ ရေးမှတ်စေကာမူ ထိုစာမျက်နှာ အစုံကို တမျက်နှာတည်း ကဲ့သို့ပင် အမှတ်စဉ် တပ်ပေးရသည်။ ထိုသို့ မြီစား မြီရှင် နှစ်ဦးစလုံးအတွက် အမှတ်စဉ်ပေးထားသော စာမျက်နှာအစုံကို စာရင်းမျက်နှာ (စမ) ဟု ခေါ်သည်။

'ငွေဝင်ငွေထွက်စာရင်း' ဟူသော ခေါင်းစည်းကို စာမျက်နှာ၏ထိပ်တွင် ရေးမှတ်ပြီးနောက် 'မြီစား' သို့မဟုတ် (အရ) ဟု ရေးမှတ်ထားသည့် လက်ဝဲမျက်နှာတွင် ရရှိသမျှသော ငွေစာရင်းများကို ထည့်သွင်းရလေသည်။ ချက်လက်မှတ်များ၊ ငွေလွှဲလက်မှတ်များ စသည်တို့ကို လက်ခံရရှိလျှင်လည်း ထို 'အရ' ဖက်တွင် ပြရသည်။ 'မြီရှင်' သို့မဟုတ် (အပေး) ဟု ရေးမှတ်ထားသော လက်ျာမျက်နှာတွင် ထုတ်ပေးလိုက်သော ငွေဟူသမျှကို ထည့်သွင်းရ၏။

ငွေဝင်ငွေထွက်စာရင်း

| မြီစား | | | | | မြီရှင် | | | | |
|---|---|---|---|---|---|---|---|---|---|
| ရက်စွဲ | | အရ | ကျပ် | ပြား | ရက်စွဲ | | အပေး | ကျပ် | ပြား |
| ဇွန် | ၁ | တင့်သာကုမ္ပဏီရင်းငွေ | ၃၀၀၀ | | ဇွန် | ၂ | စာရေးကရိယာဝယ် | ၂၅ | |
| ,, | ၆ | ကုန်လက်ငင်းရောင်း | ၅၀၀ | | ,, | ၂ | ကိုဘိုးမြသို့ပေး | ၇၅ | |
| ,, | ၁၀ | ဦးဘကုန်ဖိုးရငွေ | ၃၂၀ | | ,, | ၃ | ကုန်လက်ငင်းဝယ် | ၁၀၀၀ | |
| ,, | ၁၄ | ဒေါ်ရှင် ရင်း | ၃၇၅ | | ,, | ၄ | တံဆိပ်ခေါင်းဝယ် | ၁၅ | |
| ,, | ၂၅ | ဒေါ်ငွေ ရင်း | ၅၀၀ | | ,, | ၁၅ | ပရိဘောဂဖိုးရှင်း | ၃၅၀ | |
| ,, | ၂၈ | ဒေါ်ဆန်း ရင်း | ၁၂၅ | | ,, | ၃၀ | ရွှေခဲဘရားသားကုန်ဖိုးရှင်း | ၅၀၀ | |
| | | | | | ,, | ၃၀ | လုပ်သားလစာများ | ၂၀၀ | |
| | | | | | ,, | ၃၀ | ဆိုင်ငှားခ | ၅၀ | |
| | | | | | ,, | ၃၀ | ဦးတင့်ထုတ်သုံး | ၁၀၀ | |
| | | | | | | | စာရင်းပိတ်လက်ကျန် | ၂၅၀၅ | |
| | | စုစုပေါင်း | ၄၈၂၀ | | | | စုစုပေါင်း | ၄၈၂၀ | |

ပုံစံ ၁။ ။တင့်သာကုမ္ပဏီ၏ ဇွန်လအတွက် ငွေဝင်ငွေထွက်စာရင်း

ပုံစံ ၁ မှာ ကုမ္ပဏီတခု၏ တလအတွက် ငွေဝင်ငွေထွက် စာရင်းဖြစ်သည်။ ငွေဝင်ငွေထွက် စာရင်းတို့ကို နေ့စဉ် သို့မဟုတ် လစဉ် သို့မဟုတ် သတ်မှတ်ထားသော အချိန်ကာလ၌ စာရင်းပိတ်ရသည်။ စရှိဖွင့်သော စာရင်းသစ်ဖြစ်ခဲ့သော်၊ အရဖက်မှ ဝင်ငွေပေါင်းနှင့် အပေးဖက်မှထွက်ငွေပေါင်းတို့ကို အသီးအသီး ရှာပြီးလျှင် ဝင်ငွေပေါင်းမှ ထွက်ငွေပေါင်းကို နုတ်ယူရသည်။ ထိုသို့ပြုလုပ်သည်ကို လက်ကျန်ရှာခြင်းဟု ခေါ်သည်။ လက်ကျန်ရှာ၍ ရရှိလာသောငွေကို ထွက်ငွေပေါင်းတွင် စာရင်းပိတ် လက်ကျန်ငွေဟူ၍ ထည့်ပေါင်းရ၏။ မြီစားဖက်မှ စုစုပေါင်းငွေသည် မြီရှင်ဖက်မှ စုစုပေါင်းငွေနှင့် ကိုက်ညီရလေသည်။ ခြားနားချက်ရှိခဲ့သော် စာရင်းတခုခု ကျန်ရစ်ခဲ့သည်၊ သို့မဟုတ် မှားယွင်းချက်တခုခု ရှိသည်ဟူ၍ သိနိုင်ပေသည်။ တဖန် မြီစားဖက်၌ရှိသော ဝင်ငွေပေါင်းသည် မြီရှင်ဖက်၌ရှိသော ထွက်ငွေပေါင်းထက် မည်သည့်အခါမျှ မနည်းနိုင်သည်ကိုမှတ်သားရပေမည်။ အဘယ်ကြောင့်ဆိုသော် မည်သည့်လုပ်ငန်း၌မဆို ရှိသည့်ငွေထက် ပို၍မသုံးနိုင်သောကြောင့်ပင် ဖြစ်သည်။ မြီစားမြီရှင်ကွက်များ၌ ရှိသော စုစုပေါင်းငွေများသည် တခုနှင့်တခု မျဉ်းတပြေးတည်း၌ ရှိရ၏။ အကယ်၍ တဖက်မှ အကြောင်းအရာများသည် နည်း၍နေခဲ့သော် မျဉ်းစောင်းခံပြီးမှ စာရင်းပိတ်ရလေသည်။ မျဉ်းစောင်းခံခြင်း၏ အဓိပ္ပါယ်မှာ စုစုပေါင်းငွေများသည် တခုနှင့်တခု ထမ်းပိုးထမ်း ညီစေရန်အပြင် စာရင်းပိတ်ပြီးသည့်နောက် စာရင်းထပ်မံ မရေးသွင်းနိုင်စေရန်ပင် ဖြစ်သည်။ လက်ရှိ ငွေဝင်ငွေထွက်စာရင်းကို ပိတ်ပြီးသည့်နောက် စာရင်းသစ် ထပ်၍ ဖွင့်သည့်အခါ၊ ယခုစာရင်းပိတ်လက်ကျန်ငွေကို နောက်စာရင်းသစ်တွင် စာရင်းဖွင့် လက်ကျန်ငွေအဖြစ်ဖြင့် မြီစားဖက်၌ ထည့်သွင်းရလေသည်။

ပုံစံ ၂ မှာ အိမ်ထောင်စုတစု၏ ငွေဝင်ငွေထွက်စာရင်းဖြစ်သည်။ စာရင်းရေးမှတ်ပုံ ရေးမှတ်နည်းမှာ ပုံစံ ၁ တွင်ဖော်ပြခဲ့သော စာရင်းနှင့် အတူတူပင်ဖြစ်သော်လည်း ခြားနားချက်တခုရှိသည်။ ယင်းမှာ ယခင်လ၏ စာရင်းဆက်ဖြစ်သဖြင့် ယခင်လ၏ စာရင်းပိတ်လက်ကျန်ငွေ ၄၅ ပြား ၅၀ မှာ ယခုစာရင်းတွင် စာရင်းဖွင့်လက်ကျန်ငွေအဖြစ်ဖြင့် ထည့်သွင်းထားခြင်းပင်ဖြစ်သည်။

လက်ငင်း အပေးအယူပြုသော ငွေစာရင်းတို့ကို ငွေဝင်ငွေထွက်စာရင်းစာအုပ်တွင် ရေးမှတ်ရသည့်နည်းတူ အကြွေးစာရင်းတို့ကို စာရင်းချုပ်စာအုပ်တွင် ထည့်သွင်းရေးမှတ်ကြသည်။ အကြွေးတာဝန်ရှိသောသူ၏ နာမည်နှင့် လိပ်စာကို စာရင်း၏ထိပ်၌ ရေးသားဖော်ပြပြီးလျှင် အကြွေးနှင့်ဆိုင်သော အကြောင်းအရာတို့ကို မြီစားဖက်တွင် ရေးမှတ်လျက် ထိုသူပေးသွင်းသမျှသော ငွေနှင့် ခုနှိမ်၍ရသင့်သမျှသောကုန်တို့၏ တန်ဖိုးကို မြီရှင်ဖက်တွင် ရေးမှတ်ရလေသည်။ ပုံစံ ၃ မှာ ရန်ကုန်မြို့၊ ရွှေတောင်တန်း၊အမှတ်

အိမ်သုံးငွေဝင်ငွေထွက်စာရင်း

| မြီစား ရက်စွဲ | | အရ | ကျပ် | ပြား | မြီရှင် ရက်စွဲ | | အပေး | ကျပ် | ပြား |
|---|---|---|---|---|---|---|---|---|---|
| မေ | ၁ | စာရင်းဖွင့်လက်ကျန် | ၄၅ | ၅၀ | မေ | ၁ | မေလတက်အိမ်လခ | ၄၀ | ၀၀ |
| ” | ၁ | လစာငွေ | ၂၅၅ | ၀၀ | ” | ၁ | နွားနို့ဖိုးပေး | ၁၀ | ၀၀ |
| | | | | | ” | ၂ | ကုန်စုံဆိုင်သို့ပေး | ၁၀၀ | ၆၉ |
| | | | | | ” | ၉ | အမျိုးသားဆန်ဆိုင် | ၃၁ | ၇၅ |
| | | | | | ” | ၁၁ | တယ်လီဖုန်းစရိတ် | ၅ | ၄၁ |
| | | | | | ” | ၁၅ | ဓါတ်မီးလခ | ၁၁ | ၅၀ |
| | | | | | ” | ၂၈ | ခေတ်စတိုး | ၁၂ | ၂၅ |
| | | | | | ” | ၃၀ | အမဲသားငါးဆိုင် | ၄၀ | ၀၀ |
| | | | | | | | စာရင်းပိတ်လက်ကျန် | ၄၁ | ၉၀ |
| | | စုစုပေါင်း | ၃၀၀ | ၅၀ | | | စုစုပေါင်း | ၃၀၀ | ၅၀ |

ပုံစံ ၂။

ဦးစံဖေ၊ အမှတ် ၁၈၊ ရွှေတောင်တန်း၊ ရန်ကုန်မြို့။

| မြီစား ရက်စွဲ | | | ကျပ် | ပြား | မြီရှင် ရက်စွဲ | | | ကျပ် | ပြား |
|---|---|---|---|---|---|---|---|---|---|
| ဇွန် | ၂ | စောင်တထည် | ၂၆ | ၅၀ | ဇွန် | ၁၇ | ပိုးထည် ၄ ကိုက် | ၂၈ | ၈၀ |
| „ | ၈ | စွပ်ကျယ် ၂ ထည် | ၃ | ၂၀ | ဇူလိုင် | ၂ | ငွေချေ | ၈၀ | ၂၀ |
| „ | ၁၆ | ပိုးထည် ၄ ကိုက် | ၂၈ | ၈၀ | | | | | |
| „ | ၁၇ | လုံချည် ၁ ထည် | ၃၈ | ၀၀ | | | | | |
| „ | ၂၈ | ဇာ ၁၀ ကိုက် | ၁၂ | ၅၀ | | | | | |
| | | | ၁၀၉ | | | | | ၁၀၉ | |

ပုံစံ ၃ ။

၁၈ နေ ဦးစံဖေအတွက် သူ၏ဖောက်သည်ဆိုင်တဆိုင်မှထား ရှိသော အကြွေးစာရင်းဖြစ်သည်။

ဦးစံဖေသည် ဇွန်လအတွင်းတွင် မိမိ၏ ဖောက်သည်ဆိုင် တဆိုင်၌ ငွေ ၁၀၉ တန်ဖိုးရှိသော ပစ္စည်းများကို အကြွေး ဝယ်ယူခဲ့၏။ ထိုပစ္စည်းများအနက် တကိုက်လျှင် ၇ ပြား ၂၀ နှုန်းဖြင့် ဝယ်ခဲ့သော ပိုး ၄ ကိုက်ကို များစွာ မနှစ်သက် သဖြင့် ဝယ်ပြီး နောက်တနေ့တွင် ဆိုင်သို့ ပြန်ပို့လိုက်၏။ ဇူလိုင်လ ၂ ရက်နေ့သို့ ရောက်သောအခါ ဦးစံဖေသည် ဆိုင် သို့သွား၍ အကြွေးများကို ရှင်းလင်း ပေးဆပ်လိုက်လေ သည်။ ဤအခြင်းအရာကို ဦးစံဖေ၏ ဖောက်သည်ဆိုင် သည် ပုံစံ ၃ စာရင်းတွင် ရေးမှတ် ဖော်ပြထားခြင်းဖြစ် သည်။ အကြွေးချ၍ ရောင်းသော ဆိုင်တို့သည် အကြွေး စာရင်းများကို ပုံစံ ၃ ကဲ့သို့သော စာရင်းမျိုးတွင် ထည့် သွင်းရေးမှတ်လေ့ ရှိကြလေသည်။

**စာရင်းစု။** ။ယခုအခါ စာရင်းစုပညာသည် ခေတ်စား လျက်ရှိသည်။ ပမာအားဖြင့် လူဦးရေ တိုးတက် ဆုတ် ယုတ်မှုကို သိရှိနိုင်ရန် သန်ကောင်စာရင်း ကောက်ခြင်း၊ တိုင်းပြည်လူထု တမျိုးသားလုံး၏ တနှစ်အတွက် ဝင်ငွေ သုံးငွေ စာရင်းများ၊ မြန်မာနိုင်ငံ လယ်များမှ ပျမ်းမျှ တ ဧက စပါးအထွက်နှုန်း သိနိုင်ရန် စာရင်းများ စုဆောင်း ခြင်း အစရှိသည့် စံနစ်များသည် စာရင်းစုပညာနှင့် သက် ဆိုင်သည်။

စာရင်းစုပညာ ဟူသည်မှာ အဓိကအားဖြင့် တိုင်းထွာ ရေတွက်၍ ရကောင်းသော အရာဝတ္ထုများ၏ အတိုင်း အထွာ ပမာဏများကို စာရင်းပြုလုပ်၍ ယင်းဝတ္ထုပစ္စည်း တို့နှင့် ဆက်စပ်သော ကိစ္စတို့ကို လေ့လာခြင်းဖြစ်သည်။ ပမာဆိုသော် ဖွား သေ စာရင်းများ စုဆောင်းခြင်းဖြင့် တိုင်းပြည် လူထု၏ ပျမ်းမျှ သက်တမ်းကို ခန့်မှန်းနိုင်၏။ ထိုစာရင်းများကို အသုံးပြု၍ အသက်အာမခံလုပ်ငန်းကို အောင်မြင်စွာ ဆောင်ရွက်နိုင်၏။ ဒေသအလိုက် နေ့စဉ်မိုး ရွာသော စာရင်းများ ပြုစုခြင်းဖြင့် ဒေသတခု၌ နှစ်စဉ် မိုးနည်းသည် များသည်ကို သိနိုင်၏။ ရာသီဥတုကို ကြိုတင် ခန့်မှန်းနိုင်၏။ ထိုနည်းအတူ စပါးအရောင်းအဝယ် ဈေး နှုန်းစာရင်းများ၊ အဝတ်အထည် ဈေးနှုန်းစာရင်းများ၊ ငါး သား ဗုဇ္ဇန် အစားအစာများ၏ ဈေးနှုန်းစာရင်းများ စု ဆောင်းလေ့လာခြင်းဖြင့် လူထု သက်သာချောင်ချိမှု တိုး တက်ခြင်း ဆုတ်ယုတ်ခြင်းတို့ကို သိနိုင်၏။ မြို့တမြို့၏

လူသေစာရင်းတွင် သက်ဆိုင်သော ရောဂါအမျိုးအမည်ကို လေ့လာခြင်းဖြင့် မည်သည့်ရောဂါအတွက် ဆေးဝါးနှင့် ဆရာဝန်များ အထူးလိုအပ်ကြောင်း သိနိုင်၏။

အသုံးပြုလေ့ရှိသော နည်းတခုမှာ စံနမူနာယူနည်း ဖြစ်သည်။ ပမာအားဖြင့် မအူပင်ခရိုင်တွင် စပါး တဧက မည်မျှထွက်သည်ကို သိလိုသည်ဟု ဆိုကြပါစို့။ ခရိုင်တခုလုံးထွက်သော စပါးစာရင်းများ၊ စိုက်ပျိုးသော ဧကအားလုံး၏ စာရင်းများကို စုဆောင်းရပေလိမ့်မည်။ သို့ရာတွင် ဤမျှကျယ်ပြန့်များပြားသော စာရင်းများကို အတိအကျ ရယူစုဆောင်းရန် မလွယ်ကူပေ။ အချိန်များစွာ ကုန်မည်။ လူများစွာ ကူညီဆောင်ရွက်ရပေမည်။ ထိုကြောင့် ဖြတ်လမ်းနည်း အလွယ်နည်းမှာ မအူပင်ခရိုင်အတွင်းရှိ သင့်တော်သော လယ်ကွက်ဆယ်ခုကို ရွေးချယ်၍ စပါးထွက်ကို အသေးစိတ် စုံစမ်းခြင်းဖြစ်၏။ ထိုဆယ်ကွက်ကို ရွေးချယ်ရာ၌ သင့်တော်မည်ထင်သော လယ်ကွက်ဆယ်ကွက်ကိုရွေးချယ်ခြင်း သို့မဟုတ် လယ်ကွက် ၁၀၀၊ ၂၀၀ အထဲမှ မဲနှိုက်၍ရသော လယ် ၁၀ ကွက်ကို ရွေးချယ်ခြင်းဟူ၍လည်း နည်းအမျိုးမျိုးရှိ၏။ သင့်တော်သလို အခြေအနေအရ ဆောင်ရွက်ရမည်ဖြစ်သည်။ ဤနည်းအားဖြင့် အချိန်အနည်းငယ်အတွင်း စရိတ်များစွာမကုန်ဘဲ မအူပင်ခရိုင်၏ တဧက ပျမ်းမျှစပါးထွက်နှုန်းကို သိနိုင်၏။ ခန့်မှန်းနိုင်၏။ ထိုကြောင့် စီးပွားရေး အကြောင်းအရာများ၊ အုပ်ချုပ်မှု ကိစ္စများ၊ စက်ရုံကြီးများ၌ ကုန်ထုတ်စရိတ်၊ တနာရီတွင် ကုန်ချောပစ္စည်း အထွက်နှုန်း စသည်များကို သိရှိနိုင်ရန် ဤနည်းကို အသုံးပြုကြ၏။ ရက်တို လတို စုံစမ်းရေးအဖွဲ့များကလည်း ဤစံနစ်ကိုအသုံးပြုကြ၏။

စာရင်းစုပညာတွင် ဇယားများနှင့် ဇယားကွက် ပုံစံအမျိုးမျိုးကို အသုံးပြုရသည်။ ပမာအားဖြင့် အနှစ် ၅၀ အတွင်း မြန်မာနိုင်ငံ စပါးဈေး အတက် အကျ အခြေအနေများ၊ လူဦးရေ တိုးတက်မှုများကို ဇယားများဖြင့် ရေးဆွဲဖော်ပြခြင်းသည် တိုးတက်မှု ဆုတ်ယုတ်မှုများကို ရှင်းလင်းစွာ နားလည်နိုင်စေသည်။

စာရင်းစုပညာဖြင့် အမှန်ကို အတိအကျမသိနိုင်။ သန်ကောင်စာရင်း၊ တိုင်းပြည် စပါးထွက်စာရင်း၊ မိုးရွာစာရင်းများသည် နယ်အသီးသီးမှ ကောက်ခံရသော စာရင်းများဖြစ်၍ မှားယွင်းချက် အနည်းငယ်ရှိနိုင်သည်။ သို့ရာတွင် ထိုစာရင်းများသည် များစွာတန်ဖိုးရှိ၏။ ထိုစာရင်းများဖြင့် အနှစ် ၅၀ အတွင်း လူဦးရေ တဖြည်းဖြည်းတိုးပွားလာခြင်း၊ မြန်မာနိုင်ငံ စပါးထွက် တနှစ်ထက် တနှစ် တိုးတက်ဆုတ်ယုတ်ခြင်းများ၊ ရန်ကုန်မြို့တွင် ပြည်မြို့ထက် နှစ်စဉ်မိုးနှစ်ဆရွာသွန်းခြင်း စသည်များကို သိနိုင်၏။

သတိပြုရမည့်အချက်မှာ စာရင်းများစုဆောင်းရာ၌ စံနစ်တကျဖြစ်စေအပ်သော အချက်ပင်တည်း။ မှန်ကန်နိုင်သမျှ မှန်ကန်စွာ ဂဏန်းများ၊ စာရင်းများကို ကောက်ယူနိုင်လေလေ၊ ထိုစာရင်းများ၌ တန်ဖိုးရှိလေလေဖြစ်သည်။ စာရင်းစုပညာကို တိုင်းပြည်အသီးသီးတို့က တနေ့တခြား ပိုမိုလေ့လာကျင့်သုံးပြုကြောင်း တွေ့ရှိရ၏။ စီးပွားရေး၊ ဘဏ္ဍာရေး၊ စိုက်ပျိုးရေး၊ လူမှုရေးရာအဖြာဖြာနှင့် သက်ဆိုင်သော သုတေသီပုဂ္ဂိုလ်တို့အတွက် များစွာ တန်ဖိုးရှိသော ပညာရပ်တခုဖြစ်သည်။ ဦးတင်အုံး။

**စာရင်းတွက်စက်**။ ။ကုန်တိုက်၊ ဘဏ်တိုက်မှစ၍ အလုပ်တိုက်အသီးသီးတွင် စာရင်းအင်း အမြောက်အမြားကို မှန်ကန်စွာ တွက်ချက်ရေးမှတ်၍ စံနစ်တကျ ထားရှိရသော အလုပ်မှာ လွယ်ကူသည့် အလုပ်မဟုတ်ချေ။ လူတို့သည် အဆိုပါ စာရင်းအင်းများကို ရှေးအခါက လက်နှင့်သာလျှင် ပင်ပန်းကြီးစွာ ရေးမှတ်ခဲ့ကြရ၏။ နောင်သော် လက်နှိပ်စက်များ၊ စာကူးစက်များ ပေါ်လာသဖြင့် ထိုအလုပ်မှာ ယခင်ကထက် အဆပေါင်းများစွာ လျင်မြန်ရှင်းလင်း၍လာသည်။ ယခုအခါ တိုးတက်လျက်ရှိသော စက်မှုပညာ၏ ကျေးဇူးကြောင့် ‘စာရင်းတွက်စက်’ များ ပေါ်လာပြန်ရာ၊ ထိုစက်မျိုးနှင့် စာရင်းအင်းများကို တွက်ချက်သောအခါ ယခင်ကထက် တိုး၍ အံ့ဩလောက်အောင် အလုပ်တွင်ကျယ်လာသည်ကို တွေ့ရလေသည်။

စာရင်းတွက်စက်မှာ လက်နှိပ်စက်တမျိုးပင် ဖြစ်သည်။ ထိုစက်တွင် ဂဏန်းများကို တလုံးချင်းဖြစ်စေ၊ စုပေါင်းဖြစ်စေ၊ ပေါင်းနိုင် နုတ်နိုင်သည့် ကရိယာများ တပ်ဆင်ထားသည်။ ပေါင်းလို နုတ်လိုသည့်အခါ၊ ဆိုင်ရာခလုတ်ကို နှိပ်ပေးရန်သာလို၏။ အချို့သော စာရင်းမျိုးတွင် မင်နီကိုလည်း တခါတရံ ကြားဖြတ်သုံးရန် အလိုရှိတတ်သည်။ ထိုအခါမျိုး၌ လက်နှိပ်စက်မှာကဲ့သို့ပင် ခလုတ်ကို နှိပ်ပေးရုံဖြင့် ကာဗွန်ကြိုးကို အလိုရှိသလို ပြောင်းပေးနိုင်သည်။ အထက်ဖော်ပြပါ ခလုတ်များ ပါရှိခြင်းကြောင့် လက်ကျန်ငွေ၊ အပိုထုတ်ယူငွေ စသည်တို့ကို မင်နီဖြင့် ပြလိုကလည်း လွယ်ကူစွာ ပြနိုင်သည်။ ကုန်စာရင်း၊ လချုပ်စာရင်း စသည်တို့တွင် ဆိုင်ရာ စာရင်းကို တတန်းစီ ပေါင်းနုတ်သွားရုံမက၊ စုစုပေါင်းကိုပါ ပြလိုကလည်း ဆိုင်ရာခလုတ်ကို နှိပ်ပေးခြင်းဖြင့် အလိုရှိသော အဖြေကို အလိုအလျောက် တွက်ချက်ပြီး ထွက်ပေါ်စေနိုင်သည်။ စာရင်းတွက်စက်သည် အလုပ်နှင့် အချိန်ကိုသာ အဆပေါင်းများစွာ သက်သာစေသည်မဟုတ်၊ တိကျမှန်ကန်သော စာရင်းများကိုလည်း ရရှိစေနိုင်၏။ သို့ရာတွင် ဤစက်ကို ရိုက်နှိပ်ရသော စက်သမားသည် စာရင်းကိုင်စာရေးများနည်းတူ မိမိအလုပ်ကို မှန်ကန်စွာ ပြုလုပ်ရန်လိုပေသည်။

စာရင်းတွက်စက်တွင် စီမံထားပုံမှာ ခုမှဆယ်သို့၊ ဆယ်မှရာသို့၊ ရာမှထောင်သို့ စသည်ဖြင့် ဂဏန်း ပြောင်းသွားစေရန်အတွက် ခွေးသွားစိတ် ၁၀ ခုစီပါသည့် ဘီးကလေးများ တပ်ဆင်ထားသည်။ ထို ခွေးသွားစိတ် ကလေးများသည် နှိပ်လိုက်သည့် ခလုတ်ပေါ် ရှိ ဂဏန်း အမှတ် အတိုင်း နေရာရွေ့ကြ၏။ ပမာအားဖြင့် ၅ အမှတ်ခလုပ်ကိုနှိပ်က ခွေးသွားစိတ် ၅ ခုရွေ့၍ ၉ အမှတ်ကိုနှိပ်လျှင်လည်း ၉ ခုရွေ့လေသည်။ သို့ရာတွင် တကျပ်၌ ၁၆ ပဲရှိခြင်း၊ တပဲ၌ ၁၂ ပိုင်ရှိခြင်းတို့ကြောင့်၊ ပိုင်မှပဲသို့ ပြောင်းပေးရမည့်ဘီးတွင် ခွေးသွားစိတ် ၁၂ စိတ်ရှိရန်လို၍ ပဲမှကျပ်သို့ ပြောင်းပေးရမည့်ဘီးတွင်း ခွေးသွားစိတ် ၁၆ စိတ်ရှိရန် လိုပေသည်။ ထို့အတူ အင်္ဂလိပ်ငွေ ပေါင်၊ သျှီလင်၊ ပဲနီကိုသုံးသည့် စက်တွင်လည်း ပဲနီမှသျှီလင်၊သျှီလင်မှပေါင်သို့ပြောင်းပေးနိုင်ရန်အတွက်၊ ခွေးသွားစိတ် ၁၂ စိတ်နှင့် အစိတ် ၂၀ အသီးသီးရှိသည့် ဘီးများကို အထက်ပါ ကျပ်၊ ပဲ၊ ပိုင် ဘီးများအစား တပ်ဆင် ပေးရန် လို၏။ ထိုအတူပင် ကျပ်နှင့်ပြားစံနစ်အတွက် ဖန်တီးရန်စက်တွင်လည်း ၁ ကျပ်တွင် ၁၀ မူးရှိ၍ ၁ မူးတွင် ၁၀ ပြားရှိသောကြောင့် ပြားမှမူးသို့ ပြောင်းပေးရမည့်ဘီးတွင် ခွေးသွားစိတ် ၁၀ စိတ်ရှိရန်လို၍၊ မူးမှကျပ်သို့ ပြောင်းပေးရမည့်ဘီးတွင် ခွေးသွားစိတ် ၁၀ စိတ်ရှိရန်လိုပေမည်။ ဆိုလိုသည့်အဓိပ္ပါယ်မှာ စာရင်းတွက်စက်များကို ပြုလုပ်သည့်အခါ၊ အသုံးပြုမည့် နိုင်ငံရှိ ငွေကြေး အမျိုးအစားကို လိုက်၍ သင့်တော်အောင် ပြုပြင်စီမံပေးရန် လိုသည်ဟု ဆိုလိုပေသည်။



ဂဏန်းများကိုပေါင်းနိုင်နုတ်နိုင်သော စာရင်းတွက်စက်

**စာလုံးပေါင်း။** ။လိုအပ်သော စကားဖြစ်အောင် အက္ခရာတို့ကို ပေါင်းစည်းခြင်းသည် စာလုံးပေါင်းမည်၏။

အဌေ္ဌာအက္ခရသညာတော ဟူသော ကစ္စည်းသဒ္ဒါကြီးသုတ်နှင့်အညီ အနက်ကို အက္ခရာဖြင့်မှတ်ရပေသည်။ မြန်မာဘာသာတွင် သရ သက်သက်ဖြင့်လည်း အနက်ကိုမှတ်ရသည်။ ဗျည်းနှင့်သရကို ပေါင်း၍လည်း မှတ်ရသည်။ အက္ခရဝိပတ္တိယံဟိအတ္ထဿဒုန္နယတာ ဟူသည် နှင့်အညီ အက္ခရာဖောက်ပြန်လျှင် အနက်သိရခက်ပေသည်။ ဤကိုရည်၍ ရွှေတောင် ရာဇကျော်က ကဝိလက္ခဏာသတ်ပုံတွင် 'အသတ်အလတ်၊ အရစ်အပင့်၊ သင့်မသင့်၊ ရာမရာကို၊ မလိမ္မာချေက၊ အဖတ်၊ အရွတ်၊ အမှတ်အသား အဓိပ္ပါယ်အယူ ပျက်၍မကောင်းကျိုးပင် ရောက်ရာသည်' ဟု ဆို ခဲ့ ပေ သည်။ ထိုကြောင့် ပုဂံခေတ်မှစ၍ ပညာရှိ အဆက်ဆက်တို့သည် အက္ခရာစာလုံး ရေးနည်း၊ ပေါင်းနည်းတို့ကို အထူးအလေးပြု လေ့လာ စောင့်ရှောက်ခဲ့ကြပေသည်။

စာလုံးပေါင်းနည်းမှာ အထက်တွင် ဆိုခဲ့သည့်အတိုင်း ဗျည်းနှင့်သရကို ပေါင်းနည်းအပြင်၊ ဗျည်းဗျည်းချင်း သံယုတ်အဖြစ် ပေါင်းခြင်း၊ နောက်ပါဗျည်းတွင် တံခွန်တင်၍ အသံကိုသတ်ကာ ပေါင်းခြင်းတို့လည်း ရှိပေသေးသည်။ ဥဒါဟရုဏ်ဆိုသော် ယပင့်၊ ရရစ်၊ ဝဆွဲ၊ ဟထိုး စသည်တို့မှာ ဗျည်းဗျည်းချင်း သံယုတ်အဖြစ်ပေါင်းခြင်း ဖြစ်ပေသည်။ ကသတ်၊ ငသတ်၊ စသတ်၊ ညသတ်၊ တသတ်၊ နသတ်၊ ပသတ်၊ မသတ်၊ သေးတင်တို့မှာ အသံကိုသတ်ကာ ပေါင်းခြင်းတို့ ဖြစ်ပေသည်။

ဤသို့ စာလုံးပေါင်းခြင်း အမျိုးမျိုး ရှိရာတွင် ပင့်ရစ်ပေါင်းခြင်းသည် အသံထွက်ပုံတူသဖြင့် ရောထွေး မှားယွင်းနိုင်ဖွယ် အကြောင်းများသော ပေါင်းခြင်း ဖြစ်သည်။ တသတ်၊ ပသတ်၊ နသတ်၊ မသတ်တို့ဖြင့် ပေါင်းခြင်းသည်လည်း အသံထွက်ပုံတူသဖြင့် ရောထွေး မှားယွင်းနိုင်ဖွယ် အကြောင်းများသော ပေါင်းခြင်းဖြစ်သည်။ ထို့ကြောင့် ပျို့လင်္ကာဆရာတို့သည် မိမိတို့၏ ပျို့လင်္ကာတို့တွင် အပင့်နှင့်အရစ်ကို ခွဲထားပြု၍ စပ်ဆိုခဲ့ကြသည်။ အသတ်ကာရန်ကို စောင့်ရှောက်၍ စပ်ဆိုခဲ့ကြသည်။ ထိုစပ်ထုံးဆိုထုံးတို့ကို လေ့လာစုဆောင်း၍ ရှာကြီးသျှင်ဥက္ကံသမာလာက ဝဏ္ဏဗောဓန သတ်အင်းနှင့် သတ်ညွှန်းတစောင်ကိုရင်း၊ ဂဇဗလ အမတ်က ဂဇဗလ သတ်ညွှန်း ကိုရင်း၊ တွင်းသင်းမင်းကြီး ဦးထွန်းညိုက ဝိဘဇ္ဇပိတ ခွဲထားနှင့် သတ်ညွှန်းသစ်ကိုရင်း၊ ရွှေတောင် ရာဇကျော်က ကဝိလက္ခဏာ သတ်ပုံကိုရင်း၊ လက်ဝဲနော်ရထာအမတ်က မြန်မာသံယောဂဒီပနီကိုရင်း၊ မုံရွေး ဆရာတော်က မုံရွေးသတ်ညွှန်းကိုရင်း၊ ကျည်းကန်ရှင်ကြီးက စွယ်စုံကျော်ထင် သတ်ပုံကိုရင်း၊ ဆရာအများက သတ်ပုံ သတ်ညွှန်း ခွဲထား အများ ကိုရင်း ရေးသားပြုစုခဲ့ကြပေသည်။ ဦးဝန်။

**စာသင်ကျောင်း။** ။မြန်မာနိုင်ငံပညာရေးစံနစ် — ရှု။

# ပုံနှိပ်ပြီးစာအုပ်တအုပ်၏အံ့ဩဖွယ်

ရှေးအခါက ပပိုင်းရပ် ကျူရွက်များ၊ သားရေပြားများပေါ်တွင် စာရေးသားကာ၊ စာအုပ်ပြုလုပ်သည်မှစ၍၊ ပုံနှိပ်စာအုပ်ဖြစ်ပေါ်ထုတ်ဝေသည်အထိ စာအုပ်သမိုင်းသည် စိတ်ဝင်စားဖွယ်ဖြစ်သည်။

**စာအုပ်။** ။ယခုခေတ်တွင် စာအုပ်အမျိုးမျိုး ပေါ်ပေါက်လျက်ရှိ၏။ ထိုကဲ့သို့ ပေါ်ပေါက်လာနိုင်ခြင်းမှာ စာအုပ်ဖက်ဆိုင်ရာ လုပ်ငန်းများကို တဆင့်ထက်တဆင့် ကောင်းမွန်သည်ထက် ကောင်းမွန်လာအောင် ပြုပြင်ပေးနိုင်သောကြောင့်ပင် ဖြစ်သည်။ ပုံနှိပ်စက်မပေါ်မီက စာအုပ်များရှိခဲ့သော်လည်း စာအုပ်အမြောက်အမြား ထုတ်ဝေနိုင်ခြင်းမှာ စာပုံနှိပ်စက်ပေါ်တွင်တည်သည်။ စာပုံနှိပ်စက်များကို ကောင်းမွန်လာအောင် ပြုပြင်ပေးနိုင်သောကြောင့် စာအုပ်ကောင်းမြောက်မြားစွာ ဖြစ်ပေါ်လာနိုင်ပေသည်။ (ပုံနှိပ်ခြင်းအတတ် — ရှု။)

ရှေးပဝေဏီကဆိုလျှင် စာအုပ်များ မပေါ်သေးချေ။ ရှေးခေတ်လူများသည် ရွှံ့စေးပြား၊ သစ်ခေါက်၊ သားရေ၊ ပျဉ်ပြား စသော မပျက်စီးလွယ်သည့် ပစ္စည်းများပေါ်၌ စာအုပ်များကို ရေးသားကြသည်။ ကျောက်ပြားများပေါ်တွင် စာလုံးများကို ထွင်းကြသည်။ ဆင်စွယ်ပြား၊ ခကြေးညိုပြား၊ ခဲပြားများပေါ်တွင် ပြည်သူအများနှင့်ဆိုင်သော မှတ်တမ်းများကို ရေးခဲ့ကြသည်။ ယင်းတို့ကို နံဘေးတဖက်၌ တွဲထားလေ့ရှိရာ စာအုပ်ခပ်ဆင်ဆင် ဖြစ်လာ၏။

ထိုနောက် ပပိုင်းရပ်ဟု ခေါ်သော ကျူပင်တမျိုးမှရသည့် အရွက်များပေါ်တွင် စာများကိုရေးသား၍ စာအုပ်သဘော ဖြစ်ပေါ်လာသည်။ ပပိုင်းရပ်အရွက်များကို ယခုခေတ် စာအုပ်ချုပ်သကဲ့သို့ မချုပ်ကြဘဲ၊ ကော်ဖြင့်သာ တခုနှင့်တခု နံဘေးချင်းယှဉ်၍ ကပ်ထားသည်။ ဤသို့ စာရေးပြီးသား ပပိုင်းရပ်ရွက်များကို ယှဉ်၍ကော်ကပ်လိုက်ရာ၊ အလိပ်ရှည်ကြီး ဖြစ်လာသည်။ ပပိုင်းရပ်ရွက်၏ အလျားကိုလိုက်၍၊ အလိပ်များမှာ ပြက် ၅ လက်မမှ ၁၂ လက်မအထိရှိသည်။ ပပိုင်းရပ်ရွက်များ၏ အရေအတွက်လိုက်၍ အလိပ်များမှာ ၁၅ ပေမှပေ ၄၀ အထိရှည်သည်။ ပပိုင်းရပ်ရွက်များပေါ်တွင် တဖက်သာ စာရေးလေ့ရှိ၏။ ပပိုင်းရပ်ရွက်များကို ဆေးခြယ် သို့မဟုတ် ရွှေချထားသော တုတ်တံတချောင်း၌ ပတ်၍ထား၏။ ထိုတုတ်တံ၏ အစွန်းနှစ်ဖက်၌ ဖုများတပ်ထားသည်။ စာဖတ်လိုသောအခါ၊ စာဖတ်သူသည် ညာဖက်လက်ဖြင့် ပပိုင်းရပ်အလိပ်ကိုကိုင်၍ ဖြန့်ကာဖြန့်ကာ တရွက်ပြီးတရွက် ဖတ်ပြီးလျှင် ဗယ်ဖက်လက်ဖြင့် အခြားတုတ်တံတခုပေါ်တွင် ပြန်လိပ်သွားသည်။ တလိပ်လုံးကို ဖတ်ပြီးလျှင် ပြန်၍ ပဌမတုတ်တံပေါ်တွင် လိပ်ထားရသည်။ ပပိုင်းရပ် စာလိပ်များမှာ ရှေးအီဂျစ်ခေတ်မှစ၍ ပေါ်ခဲ့သည်။ (ပပိုင်းရပ်။ စက္ကူ — ရှု။)

ကမ္ဘာ့အရှေ့တိုင်းများတွင် ပုရပိုက်နှင့် ပေစာများ အသုံးပြုခဲ့ရာ၊ ပုရပိုက်မှာ စာအုပ်သဘော သက်ဝင်၍၊ ပေစာများကိုမူ ပေထုပ်ပြု၍၊ စာပလွေဖြင့် ရစ်ပတ်ကာ သိမ်းဆည်းထားလေ့ရှိ၏။ (ပုရပိုက်။ ပေစာ — ရှု။)

ရှေးဂရိနှင့် ရောမလူမျိုးများသည် ရှည်လျားသော စာမူများအတွက် ပပိုင်းရပ် စာလိပ်များကို အသုံးပြုသော်လည်း၊ အတိုအထွာ မှတ်စရာအတွက်မူ၊ ဖယောင်းအမည်းသုတ်ထားသော ပျဉ်ပြားကလေးများကို သုံးကြသည်။ စတိုင်းလပ်ခေါ် သံချောင်းချွန် သို့မဟုတ် အရိုးချွန်ဖြင့် ဖယောင်းပေါ်တွင် စာလုံးများကို ရေးခြစ်ကြသည်။ ထိုစတိုင်းလပ်မှာ မြန်မာပေစာများကို ရေးသားသော ကညစ်နှင့် သဘောချင်းတူသည်။ အထက် ဖော်ပြရာပါ ပျဉ်ပြားကလေးများကို အလျားတဖက်၌ အပေါက်များဖောက်၍ သားရေကြိုး၊ သံကွင်း စသည်ဖြင့် တွဲထားတတ်ရာ စာအုပ်သဘော ဖြစ်ပေါ်လာပြန်သည်။

ရှေးခေတ်က စာအုပ် (ဝါ) စာလိပ်များအတွက် ပပိုင်းရပ်ကို အသုံးများသော်လည်း အရေးကြီးသော စာမူများကို 'ဗယ်လမ်' ခေါ် နွားကလေးသားရေပေါ်၌ ဖြစ်စေ 'ပတ်ချမင့်' ခေါ် သိုး သို့မဟုတ် ဆိတ်သားရေ၌ဖြစ်စေ ကူးယူ၍ စာအုပ်ပြုလုပ်ထားလေ့ရှိ၏။ သိုးနှင့် ဆိတ်သားရေတို့မှာ နွားကလေးသားရေလောက် ချောမွတ်နူးညံ့ခြင်းမရှိပေ။

စာရေးသားရန်သားရေမှာ နယ်ပြီးသားဖြစ်သော သားရေမဟုတ်ချေ။ ရေနှင့်ဆေး၍ အမွေးများကျွတ်အောင် ထုံးနှင့် ပွတ်တိုက်၍သာ ထားသော သားရေဖြစ်သည်။ အမွေးကျွတ်သွားသောအခါ သစ်သားဘောင်တွင်ကြက်၍ သားရေကိုခြစ်သည်။ မြေဖြူမှုန့်များနှင့် လိမ်းကျံသည်။ ပြောင်လာအောင် ကျောက်ပွနှင့် ပွတ်တိုက်ပေးရသည်။ ထိုအခါမှ စာရေးသား၍ရသော 'ဗယ်လမ်' နှင့် 'ပတ်ချမင့်' ခေါ် သားရေဖြစ်လာသည်။ နွားကလေးသားရေသည် စာအုပ်ပြုလုပ်သည့် ပစ္စည်းများထဲတွင် ကြာရှည်အခံဆုံး၊ အလှပဆုံးပစ္စည်း ဖြစ်လေသည်။ သို့ရာတွင် ဈေးကြီးသဖြင့် အခါတိုင်း စာအုပ်ပြုလုပ်ရာတွင် မသုံးနိုင်ပေ။ ပုံနှိပ်ရာ၌လည်း အလွယ်တကူ ကိုင်တွယ်၍မရပေ။

နွားကလေးသားရေနှင့် သိုး၊ ဆိတ်တို့၏ သားရေများကို စာရေးရန်၊ စာအုပ်ပြုလုပ်ရန် အတွက် ခရစ်မပေါ်မီ နှစ်ပေါင်း ၅၀၀ ခန့်မှစ၍ အသုံးပြုခဲ့သည်။ ခရစ်တော်ပေါ်သည့် အချိန်လောက်မှစ၍၊ နွားကလေးသားရေ၊ သိုးဆိတ်

သားရေများကို ပပိုင်းရပ်အရွက်များအစား တဖြည်းဖြည်း ပိုမိုသုံးလာကြသည်။ ခရစ်တော်ပေါ်ပြီး အနှစ် ၄၅၀ ခန့် ကြာသောအခါ စာအုပ်များအတွက် သားရေများကိုသာ သုံးလေ့ရှိတော့၏။ သားရေချပ်များကို အရွယ်ညီအောင် ဖြတ်၍၊ သားရေကြိုးများဖြင့် စုစည်းချုပ်လုပ်လိုက်သော အခါ စာအုပ်ဖြစ်လာ၏။

ရောမအင်ပိုင်ယာကြီး ပျက်စီးသွားပြီးသည့်နောက် နှစ်ပေါင်းတထောင်အတွင်းတွင် စာအုပ်များကို လက်ဖြင့်သာ ရေးသားချုပ်လုပ်ခဲ့ကြရသည်။ စာရေးသားရာ၌ ကျူရိုးနှင့် ငှက်တောင်များကို ကလောင်အဖြစ်ဖြင့် အသုံးပြုကြသည်။

ပပိုင်းရပ်ပေါ်တွင် အများအားဖြင့် မီးခွက်မှိုင်းမှရသော မင်ဖြင့် ရေးခဲ့၏။ သားရေများပေါ်၌လည်း ထိုမင်ဖြင့် ဆက်လက်ရေးသားကြ၏။ ထိုနောက် မင်အသစ်တမျိုး ပေါ်လာ၏။ သံမှုန့်များနှင့် ဝက်သစ်ချခေါက်ဖြစ်စေ၊ ပဥ္စကာနီသီးဖြစ်စေ၊ ရောစပ်၍ ရှရကာရည်ဖြင့်ကျိုလိုက်ရာ မင်ဖြစ်လာသည်။ မင်တွင် ထနောင်းစေးကို ထည့်ထားသဖြင့် သားရေ၌ မင်မှုန့်များ စွဲကပ်နေစေ၍ ပျက်ပြယ်ခြင်းမရှိပေ။ စာမရေးသားမီ သားရေပေါ်၌ စာများကိုရေးသားရန် မျဉ်းများကို ချွန်ထက်သောခဲချောင်းဖြင့် သားလေ့ရှိကြသည်။



လှပသောရုပ်စုံပုံများရေးခြယ်ထားသည့် ရှေးဟောင်းစာမူတခု

ဥရောပ အလယ်ခေတ်တွင် စာအုပ်များကို ကူးယူရေးသားကြသည်မှာ အများအားဖြင့် ခရစ်ယန် ဘုန်းကြီးကျောင်းများတွင် ဖြစ်သည်။ သားရေလေးချပ်ကို ထပ်ပြီးလျှင် တခေါက်ချိုးလိုက်သောအခါ၊ အရွက်ရှစ်ရွက်ပါ စာအုပ်တပိုင်း ဖြစ်လာသည်။ စာကူးသူသည် တရွက်စီခွဲ၍ ရေးသည်။ စာမျက်နှာ နှစ်ဖက်စလုံးတွင် ရေးသည်။ ခေါင်းစဉ်များကို မင်နီနှင့်ရေး၍ အစစာလုံးများကို လှပစွာ ရေးထည့်သည်။ တပိုင်းပြီး တပိုင်း ရေးပြီးသောအခါ ပြန်လည်ဖတ်ရှု၍ အမှားများကိုပြင်ပြီးလျှင် စာအုပ်ချုပ်သူထံသို့ စာအုပ်ချုပ်ရန် စာအုပ်အပိုင်းများကို ပေးပို့ကြရသည်။ စာအုပ်ချုပ်သူသည် သားရေချပ်ခေါက်များကို ခေါက်ရိုးနားတွင်ဖေါက်၍ ကြိုးများဖြင့် သီပြီးလျှင် သစ်သားပြားများကို စာအုပ်အဖုံးပြုလုပ်ရန် အပေါက်ဖေါက်ကာ တပါတည်းချုပ်လိုက်၏။ ထိုနောက် သစ်သားပြားများနှင့် စာအုပ်ကျောကို သားရေပြားကြီးတချပ်ဖြင့် ကော်ကပ်ရန် ဖုံးလိုက်၏။ ထိုသားရေဖုံးကို လှပအောင် သံပူထိုး၍ ခြယ်လယ်လေ့ရှိကြ၏။ ဘာသာရေး ကျမ်းစာအုပ်များကို အထူးသဖြင့် လှပအောင် ခြယ်ထားလေ့ရှိကြသည်။ စာမျက်နှာတိုင်းလိုလိုပင် လှပစွာ ရောင်စုံဖြစ်စေ၊ ရွှေမှုန့်ချ၍ဖြစ်စေ၊ ရေးဆွဲထားသောပုံများ ပါလေ့ရှိသည်။

အလယ်ခေတ်တွင် ဘာသာရေး ကျမ်းစာအုပ်များကိုသာ အများအပြား ရေးခဲ့သည်။ သို့သော် တရားဥပဒေ၊ ဆေးပညာ၊ သဘာဝသမိုင်း၊ ဗေဒင် စသည့် စာအုပ်စာတမ်းများကိုလည်း ရေးသားခဲ့ကြသေး၏။ အသုံးပြုသောဘာသာမှာ လက်တင်ဘာသာဖြစ်သည်။

လက်ရေးနှင့်ရေးသားသော စာအုပ်များတွင် ခရစ်တော်မပေါ်ထွန်းမီခေတ်က လက်တင် လင်္ကာရေးဆရာ ဗာဂျီရေးသားခဲ့သော ကဗျာလင်္ကာများကို ခရစ် ၃ ရာစုနှစ်အတွင်းတွင် တစုံတယောက်က ကူးယူ၍ လက်ရေးစာအုပ်များပြုလုပ်ခဲ့ရာ၊ ယခုထက်တိုင် မပျောက်မပျက်သေးသော စာအုပ်များအနက် ရှေးအကျဆုံး စာအုပ်များဖြစ်နေသည်။ ယင်းကို ဗက်တီကင် စာကြည့်တိုက်၌ တွေ့နိုင်ပေသည်။

ခရစ် ၁၂၀၀ ပြည့်နှစ် ကျော်လွန်သောအခါတွင် စာပေ လိုက်စားခြင်း၊ ကျမ်းပြုခြင်း၊ ပညာ သင် ကြား ခြင်း စသည့် ကိစ္စများမှာ ဘုန်း ကြီး ကျောင်း များ မှာ ထက် တက္ကသိုလ် များတွင် ပိုမိုထွန်းကားလာလေသည်။ ခရစ်ယန်ဘုန်းကြီးများ ရေးသား ကူးယူ ချုပ်လုပ်သော စာအုပ်များအပြင် တက္ကသိုလ်အမှုထမ်း လူပုဂ္ဂိုလ် စာကူးဆရာများ ရေးကူးချုပ်လုပ်သော လက်ရေးစာအုပ်များ ပေါ်ထွက်လာလေသည်။ တက္ကသိုလ်များနှင့် တွဲဖက်၍ စာအုပ်ဌာနများ ပေါ်လာလေသည်။ ကျောင်းသားများသည် စာအုပ်ဌာနများမှ စာအုပ်များကို ငှားဖတ်ရသည်။ စာ



စာချုပ်ခေါက်ဝက်

အုပ်များကို ကိုယ်ပိုင်ပစ္စည်းအဖြစ်ဖြင့် အခြားသို့ယူသွားခွင့် မရှိချေ။ တဖြည်းဖြည်းနှင့် စာအုပ်များကို အပိုင်ရောင်းချသော အလေ့အထ ပေါ်လာလေရာ၊ စာအုပ်ဌာနမှ စာအုပ်ဆိုင်အဖြစ်သို့ ရောက်သွားလေသည်။

ထိုနောက်၌မူ စာရေးစက္ကူ ပေါ်ပေါက်လာသည်နှင့် စာအုပ်ဈေးများကျဆင်းသွားသည်။ ၁၁ ရာစုနှစ်မှစ၍ ဥရောပတိုက်တွင် စက္ကူကို အများအပြား အသုံးပြုလာကြသည်။ (စက္ကူ — ရှု။)

စက္ကူပေါ်လာသော်လည်း စာအုပ်များ မြောက်မြားစွာ မဖြစ်ပေါ်နိုင်သေးချေ။ အဘယ်ကြောင့်ဆိုသော် စာပုံနှိပ်စက်များ မပေါ်ပေါက်သေးခြင်းကြောင့် ဖြစ်သည်။ စာပုံနှိပ်စက်များ မပေါ်ပေါက်မီ သစ်သားဗလောက်များနှင့် ဘာသာရေးဆိုင်ရာ ကျမ်းစာအုပ်ငယ်များကို ရိုက်နှိပ်ကြသည်။ ဗလောက်များဖြင့် ဖြစ်ပေါ်လာသော စာအုပ်များကို ဗလောက်စာအုပ်များဟု ခေါ်ကြသည်။ ထိုစာအုပ်များတွင် စာတမျက်နှာ အတွက် သစ်သားဗလောက်တခုထွင်း၍ ရိုက်ရသည်။ ဗလောက်နှင့်ရိုက်ပြီးနောက် လက်ဖြင့် ဆေးရောင်စုံ ရေးခြယ်သွင်းလေ့ရှိ၏။ ထိုနောက် ပုံနှိပ်စက် ပေါ်လာလေသည်။ ပုံနှိပ်စက်ပေါ်တွင် စာလုံးတလုံးစီအတွက် ခဲတခုစီဖြင့်စီ၍ ရိုက်နိုင်လာလေသည်။ ပုံနှိပ်စက်ဖြင့်ရိုက်သော စာအုပ်များမှာ ရောင်စုံ မဖြစ်နိုင်တော့ချေ။

၁၅၅၀ ပြည့်နှစ်လောက် ရောက်သောအခါ ယခုခေတ်စာအုပ်များ၏ ပုံသဏ္ဌာန်အတိုင်း စာအုပ်များ ပေါ်ပေါက်လာပေပြီ။ စာအုပ်၏ အစမျက်နှာတွင် စာအုပ်၏အမည်၊ စာရေးသူ၏ အမည်နှင့် စာအုပ်ထုတ်ဝေသူ၏ အမည်၊ သူ၏လုပ်ငန်းတည်ရာမြို့၊ စာအုပ်ထုတ်ဝေသည့်နှစ် စသည်များကို ဖော်ပြပါရှိလေ့ရှိသည်။ ကျောဖက်တွင် မူပိုင်ကျေညာချက်နှင့် ပုံနှိပ်သူ၏ အမည်ပါရှိ၏။ ယင်း၏ နောက်မျက်နှာများတွင် လေးစား ဂုဏ်ပြုခြင်း အနေဖြင့် ပုဂ္ဂိုလ်တဦးဦးအား မှတ်တမ်းတင် ရည်စူးချက်၊ ပဏာမ၊ နိဒါန်း စသည်တို့ ပါရှိသည်။ ဗဟုသုတပေးသည့် စာအုပ်မျိုးတွင် စာသားနောက်၌ ကြောင်းခြင်းရာအညွှန်း ပါလေ့ရှိ၏။

စက္ကူကို လက်ဖြင့်ပြုလုပ်သည့်ခေတ်က စာအုပ်အတွက်အသုံးပြုသည့် စက္ကူများမှာ အရွယ်တစားတည်း ဖြစ်၍၊ စက္ကူတခေါက်ချိုး၊ နှစ်ခေါက်ချိုး စသည်ကိုလိုက်၍ စာအုပ်များ၏ အရွယ်ကို ခေါ်ဝေါ်သတ်မှတ်ခဲ့ကြ၏။ သို့ရာတွင် စက္ကူများကို စက်ဖြင့်ပြုလုပ်သောအခါ၊ စက္ကူ အရွယ်အစားစား ရှိလာသဖြင့် စာအုပ်များ၏ အရွယ်အစားစားကိုလည်း စက္ကူအရွယ် လိုက်၍ ခေါ်ဝေါ်သတ်မှတ်ကြ၏။ သို့သော် ယခုခေတ်တွင် စာအုပ်အရွယ်များကို အမည်အားဖြင့်မဖော်ပြကြဘဲ၊ အလျားအနံ လက်မအားဖြင့်သာ ဖော်ပြကြသည်မှာ များလေသည်။

### စာအုပ်ပြုလုပ်ရာတွင်ပါဝင်သောအချက်များ •

စာအုပ်တအုပ်ကို စတင်မရိုက်နှိပ်မီ အသုံးပြုမည့် စက္ကူအမျိုးအစား၊ အရွယ် အစား၊ စာအုပ်အထူ၊ စာအုပ်အဖုံးအမျိုးအစားနှင့် သုံးမည့်ခဲစာလုံးတို့၏ အနေအထားတို့ကိုလျာထားသော 'ဒမ်မီ' ခေါ် ပုံစံစာအုပ်ကို ကြိုတင်စီစဉ်လေ့ရှိကြ၏။ စာစီရာ၌ မြန်မာနိုင်ငံရှိ ပုံနှိပ်တိုက်များတွင် ခဲစာလုံးများကို လက်ဖြင့်စီသည်မှာ များပြားသည်။ အနောက်နိုင်ငံများတွင်မူ မိုနိုတိုက် သို့မဟုတ် လိုင်နိုတိုက် စာစီစက်များဖြင့် စီလေ့ရှိ၏။ မြန်မာနိုင်ငံတွင်လည်း ဘာသာပြန်စာပေအသင်းပိုင် ပုံနှိပ်တိုက်၊ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ပိုင် ပုံနှိပ်တိုက်နှင့် အခြားသတင်းစာ၊ မဂ္ဂဇင်းတိုက် အနည်းငယ်တို့တွင် မြန်မာလိုစီသော မိုနိုတိုက် စာစီစက်များကို ယခုအခါ အသုံးပြုနေကြပြီ။ (မိုနိုတိုက် စာစီစက်။ လိုင်နိုတိုက်စာစီစက် — ရှု။)

စာစီပြီးလျှင် စာမျက်နှာများကို အကြမ်းရိုက်ထားသော



စာအုပ်အဖုံးပြုလုပ်သောစက်

ပရူခေါ် ပုံနှိပ်စာကြမ်းကို ဖတ်ရှုပြင်ဆင်ပြီးသောအခါ၊ မြန်မာနိုင်ငံတွင် ပုံနှိပ်စက်များဖြင့် အချောတခါတည်း ရိုက်ကြ၏။ အနောက်နိုင်ငံများတွင်မူ စာအုပ်တအုပ်လျှင် အုပ်ရေ သိန်းသောင်းချီ၍ ပုံနှိပ်ရသည်ဖြစ်ရကား၊ အမှားများပြင်ဆင်ပြီးသောအခါ၊ စာမျက်နှာများကို ကြေးနီပြားများပေါ်တွင် အီလက်ထရိုတိုက်ခေါ် လျှပ်စစ်ပုံသွင်းနည်းဖြင့်ကူးယူ၍၊ ထိုကြေးနီပြားများမှတဆင့် ပုံနှိပ်ခြင်းပြုသည်။ အခြားနည်းတခုမှာ စတီရီယိုပုံသွင်းနည်းဖြင့် ကူးယူ၍ ပုံနှိပ်ခြင်းပြုသည်။ (စတီရီယိုပုံသွင်းနည်း — ရှု။) ထိုသို့ တဆင့်ကူးယူရခြင်း အကြောင်းမှာ၊ ရိုးရိုး ခဲစာလုံးများနှင့် စီဖွဲ့ထားသော စာမျက်နှာများကို အခါပေါင်း ထောင်သောင်းမက ရိုက်နှိပ်ပါလျှင် ခဲစာလုံးများမှာ ပျော့သဖြင့် ပျက်စီးလွယ်သောကြောင့် ပုံနှိပ်ပြီးစာသားမှာ ကြည်လင်ပြတ်သားစွာ ထင်နိုင်မည် မဟုတ်တော့ပေ။ ထို့ကြောင့် ထပ်ကာ ထပ်ကာ ပြန်လည်စီရပေမည်။ လျှပ်စစ်ပုံသွင်းနည်း၊ စတီရီယိုပုံသွင်းနည်းဖြင့် ခဲစာမျက်နှာကို တဆင့်ပုံသွင်း၍ နှိပ်ပါမူ၊ ပုံနှိပ်ချက် အခါပေါင်း ထောင်သောင်းရှိသော်လည်း မပျက်စီးနိုင်ပေ။ ခဲစာလုံးများစီထားသော စာမျက်နှာများ အတိုင်းဖြစ်စေ၊ လျှပ်စစ်ပုံသွင်းနည်း၊ စတီရီယိုပုံသွင်းနည်းအရ တဆင့်ပုံသွင်းထားသော အချပ်များဖြစ်စေ၊ ယင်းစာမျက်နှာများ (ဝါ) အချပ်များကို တွဲဖက်စီစဉ်၍၊ သံဘောင်တခုတွင် ထည့်ကာ ကျွတ်မကျအောင် စို့များဖြင့် တင်းကြပ်ထားသည်။ ဤသို့ စာမျက်နှာများကို တပြင်တည်း တသားတည်းဖြစ်အောင် သံဘောင်တွင် တင်းကြပ်စွာ ထည့်ထားသောအခါ၊ ယင်းတခုလုံးကို 'စာဖေါင်' ဟု ခေါ်သည်။ စာဖေါင်တခုတွင် ခဲစာမျက်နှာ (ဝါ) စတီရီယိုအချပ်ပေါင်း ၄ မျက်နှာမှ ၆၄ မျက်နှာအထိ အရွယ်အစားလိုက်၍ သွင်းနိုင်သည်။ မြန်မာဝတ္ထုများ ရိုက်လေ့ရှိသော အရွယ်အတွက် တဖေါင်လျှင် ၁၆ မျက်နှာပါသည်။ မြန်မာတရားစာအုပ်များ အရွယ်မှာ၊ တဖေါင်လျှင် ၈ မျက်နှာပါသည်။ စာဖေါင်များပေါ်တွင် တင်၍ ရိုက်ပြီးသော စာရွက်ကြီးများကို ခေါက်လျက် ထိုစာရွက်ခေါက်များကို အစဉ်လိုက်စု၍ ချုပ်လိုက်သောအခါ စာအုပ်ကြမ်းဖြစ်လာသည်။ နံဘေးသားများကို ဖြတ်ရန်နှင့် အဖုံးဖုံးရန်သာ လိုတော့သည်။

စာအုပ်တအုပ်ကိုဖွင့်၍ ဖတ်ရှုရာတွင် စာမျက်နှာ အစီအစဉ်နှင့် စာများကို တဆက်တည်း ဖတ်ရှုနိုင်ပေသည်။ သို့ရာတွင် စာပုံနှိပ်ရာ၌ ထိုကဲ့သို့ မပြုလုပ်နိုင်ပေ။ စာမျက်နှာအမျိုးမျိုးကို တွဲ၍ပုံနှိပ်ရသည်။ စာဖေါင်များပေါ်တွင် ရိုက်လိုက်သော စာရွက်များကို ချိုးခေါက်၍ စာမျက်နှာ အစီအစဉ် ပြုလုပ်ပြီးသောအခါတွင်မှ စာအုပ်ချုပ်ရသည်။ (ပုံနှိပ်ခြင်းအတတ် — ရှု။)

စာအုပ်ပြုလုပ်ရာတွင် ပဌမဦး စာရွက်များကို စာပုံနှိပ်စက်တွင် ရိုက်နှိပ်ရသည်။ စာပုံနှိပ်ခြင်း၏သဘောမှာ စာရွက်လွတ်သည် ဒလိမ့်တုံးနှင့် ရစ်ပတ်၍ပါသွားပြီးလျှင် ဒလိမ့်တုံးအောက်တွင် ရှိသော စာဖောင်ပေါ်တွင် ဖိပေးခြင်းဖြစ်သည်။ စာဖောင်ကို ချိတ်ခွက်ခေါ် အောက်ခံ သံပြားခွက်တခုပေါ်တွင်ထည့်၍၊ စက်ပေါ် တင်လိုက်သောအခါ၊ စက်သည် စာဖောင်ကို အဆက်မပြတ် ရှေ့တိုးနောက်ငင် ရွှေပေးလေသည်။ စာဖောင်သည် နောက်ဖက်သို့ ရွှေသွားခိုက်တွင် ဒလိမ့်တုံးသည် အပေါ်မြောက်နေသည်။ နောက်ဖက်သို့ ရွှေသွားသော စာဖောင်ကို မင်ဆွတ်ပေးသည့် ဒလိမ့်တုံးများက ညီညာစွာ မင်ဆွတ်ပေးပြီးလျှင် စာဖောင် ရှေ့သို့ရွှေလာသောအခါတွင် စာရွက်ပါလာသည့် အပေါ်မှဒလိမ့်တုံးက စာရွက်ကို စာဖောင်ပေါ်၌ဖြန့်ကာ နှိပ်ပေးလေသည်။ ထိုအခါ၌ စာဖောင်မှစာသည် စာရွက်ပေါ်တွင် ထင်လာ၏။ စာရွက်တွင် စာများ ထင်ပေါ်လာသော်

လည်း၊ စာရွက်၌ မင်စိုနေသေးသဖြင့် မင်ခြောက်မှသာ လျှင် စာရွက်၏ကျန်တဖက်ကို ပုံနှိပ်ရပြန်သည်။

စာရွက်များကို ပုံနှိပ်ပြီးသောအခါ၊ စက်ဖြင့် စာရွက်များကိုခေါက်၍ စာမျက်နှာများကို ဖြတ်ပေးပြီးလျှင် စာရွက်များကိုစီ၍ စာအုပ်ချုပ်ယူသည်။ စာအုပ်၏ မျက်နှာစာဖက်နှင့် ကျောဖက်တွင် ကော်သုတ်၍ စာအုပ်မျက်နှာဖုံးကို တပ်သည်။ စာအုပ်ဖြစ်၍ အစွန်းများမညီလျှင် ညီအောင် စက်ဓားဖြင့်ဖြတ်ရသည်။

အနောက်နိုင်ငံများ၌ စက်များဖြင့် စာအုပ်ချုပ်ခြင်း၊ အဖုံးဖုံးခြင်း ပြုလုပ်ကြ၏။ အဖိုးထိုက်တန်သည့် စာအုပ်များကိုသာ လက်ဖြင့် အတူးတလည် ချုပ်လေ့ရှိ၏။ မြန်မာနိုင်ငံ အစရှိသော အရှေ့တလွှား တိုင်းပြည်များတွင် စာအုပ်များကို လက်ချုပ်ချုပ်သည်က များလေသည်။ ယခုခေတ် လက်ဖြင့် စာအုပ်ချုပ်နည်းသည် လွန်ခဲ့သည့် နှစ်ပေါင်း ၅၀၀ လောက်က ပေါ်ခဲ့သောနည်းပင် ဖြစ်၏။ စာအုပ်ချုပ်ရန်အတွက် ချုပ်ခွက်ရှိရန် အရေးကြီးသည်။ ချုပ်ခွက်သည် ခေါက်ထားသော စာရွက်များကို ဖိထားရန်ဖြစ်သည်။ ထိုကဲ့သို့ဖိပြီးမှ စာအုပ်ချုပ်ခြင်းကို စတင်ပြုလုပ်ရသည်။ စာအုပ်ကို ချုပ်ပြီးသောအခါ အဝတ်ဖုံးဖြစ်စေ၊ သားရေဖုံးဖြစ်စေ၊ အဖုံးပေါ်တွင် တင်၍ ချုပ်နိုင်သည်။ ရှေးနှစ်ပေါင်း ၅၀၀ ခန့်က စာအုပ်ချုပ်ရာတွင် ဝက်သစ်ချသားကို စာအုပ်ဖုံးအဖြစ်ဖြင့် ချုပ်လေ့ရှိခဲ့ကြသည်။ ယခုခေတ်တွင် စာအုပ်မျက်နှာဖုံးများ ဖြစ်စေရန် စက္ကူချပ်အထူများကို အသုံးပြုကြသည်။ ထိုစက္ကူချပ်အထူပေါ်တွင် စက္ကူကိုသော်၎င်း၊ အဝတ်ကိုသော်၎င်း၊ သားရေကိုသော်၎င်း၊ ကော်နှင့် ကပ်ထားနိုင်ပေသည်။ စာအုပ်ဖုံးအဖြစ် အသုံးပြုရန်အတွက် အဝတ်သည် သားရေထက်လွယ်ကူ၍၊ ထင်ရှားသော စာလုံးများကို အဝတ်ပေါ်၌ အလွယ်တကူနှင့် ရိုက်နှိပ်နိုင်ပေသည်။

၁၅ ရာစုနှစ် နောက်ပိုင်းလောက်တွင် စာအုပ်ဖုံးများကို ရွှေချပေးလေ့ရှိခဲ့ကြသည်။ စာအုပ်ဖုံးများကို အမျိုးမျိုး ရွှေချထားသဖြင့် လှပသော စာအုပ်အမျိုးမျိုး ဖြစ်ပေါ်လာနိုင်သည်။ စာအုပ်များကို ရွှေချသောနည်း ခေတ်စားလာသော်လည်း၊ ဂျာမနီနိုင်ငံတွင် ၁၈ ရာစုနှစ်တိုင်အောင် စာအုပ်မျက်နှာဖုံးများကို ရိုးရိုးသာ ချုပ်လုပ်ခဲ့ကြသည်။ ဣတလီ၊ ပြင်သစ်နှင့် အင်္ဂလန်တို့တွင် ရွှေချထားသော သားရေများကို မျက်နှာဖုံးတွင်ကပ်၍ တန်ဆာဆင်ထားလေ့ရှိကြသည်။ ပြင်သစ်နိုင်ငံတွင် လှပသောစာအုပ်များ ထွက်ပေါ်ရေးအတွက် ဘုရင်မှစ၍ မှူးကြီးမတ်ကြီးတို့က စာအုပ်ချုပ်သူများအား ငွေဖြင့် ထောက်ပံ့ခဲ့ကြသည်။ ထွက်ပေါ်လာသော လှပသည့်စာအုပ်များကို ပြတိုက်များနှင့် ပိဋကတ်တိုက်များတွင် ထားလေ့ရှိကြသည်။

၁၉ ရာစုနှစ်အကုန်လောက်တွင် စာအုပ်ချုပ်နည်းများ၌ အသစ်ထွင်ချက်များ ပေါ်ပေါက်လာခဲ့သည်။ စာအုပ်မျက်နှာဖုံးများကို စာအုပ်နှင့် အချိုးအစား ကိုက်အောင် ပြုပြင်ပေးခြင်း၊ စာအုပ်မျက်နှာဖုံးကို မြင်ရုံနှင့် စာအုပ်ကို လိုချင် ဝယ်ချင်စေအောင် ပြုပြင်ပေးနည်းများကို ပြုလုပ်လာကြသည်။ ယခုခေတ်တွင် ထွက်ပေါ်သည့် စာအုပ်အမျိုးမျိုး၌ စာအုပ်နှင့်လိုက်လျောသော မျက်နှာဖုံးများ တပ်ဆင်ထားသည်ဖြစ်၍ စာအုပ်တိုင်းသည် လှပတင့်တယ် ဖတ်ချင့်စဖွယ်ဖြစ်ပေသည်။



စာအုပ်ချုပ်စက်

**စားမြုံ့ပြန်ကောင်။** ။စားမြုံ့ပြန်တတ်သည့် သတ္တဝါများတွင် နွား၊ သိုး၊ ကုလားအုပ်၊ သမင်၊ ဆိတ်၊ တောဆိတ်၊ သစ်ကုလားအုပ် စသော တိရစ္ဆာန်များပါဝင်သည်။ ဤတိရစ္ဆာန်များ၌ ထူးဆန်းသော အစာချေနည်းရှိသည်။ အများအားဖြင့် ယင်းတိရစ္ဆာန်များသည် အစာကို ကြိတ်ခြင်းမပြုဘဲ၊ တံထွေးနှင့် ရောရှ၍ မျိုချလေ့ရှိသည်။ အစာသည် အစာဝင်လည်ချောင်းမှတဆင့် အစာအိမ်သို့ ရောက်သွားသည်။

အစာအိမ်တွင် အခန်းလေးခန်းပါရှိရာ ပဌမအခန်းမှာ ရူးမင်း၊ ဒုတိယအခန်းမှာ ရက်တီကျူးလမ်၊ တတိယအခန်းမှာ အိုမာဆမ်၊ စတုတ္ထအခန်းမှာ အဗိုမာဆမ်ခေါ် အခန်းတို့ဖြစ်ကြသည်။ စတုတ္ထအခန်းမှာ အစာအိမ်

အစစ်အမှန်ဖြစ်သည်။ အခန်းအားလုံးပင် အစာကိုချေချက်ရာ၌ ကူညီကြသည်။ အစာကို လုံးထွေးပြီး အကြမ်းလိုက်မျိုချလိုက်သောအခါ အစာသည် ရှူမင်းခေါ် အကြီးဆုံးအစာအိမ်အခန်းသို့ ရောက်လာသည်။ အစာသည် ဤအခန်းမှ ရက်တီကျူးလမ်းခေါ် ပျားလပို့နှင့်တူသော အစာအိမ်၏ ဒုတိယအခန်းသို့ ရောက်ရှိသွားသည်။ ရက်တီကျူးလမ်းတွင် အစာသည် စားမြုံ့အလုံးကလေးများ အဖြစ်သို့ပြောင်းသွားသည်။ အစာစားပြီးသော တိရစ္ဆာန်သည် စားမြုံ့ပြန်လိုသောအခါ ရက်တီကျူးလမ်းတွင် ပါရှိသော ကြွက်သားက ထိုစားမြုံ့ပြန်လုံးကလေးများကို ပါးစပ်သို့ရောက်အောင် ပြန်လည်ပို့ဆောင်ပေးသည်။ ပါးစပ်သို့ပြန်ရောက်လာသော စားမြုံ့ကို မေးဝဲ၍ချေချက်ပြီးလျှင် အစာအိမ်၏ တတိယအခန်း ဖြစ်သော အိုမာဆမ်သို့ ပို့လိုက်သည်။ ထိုနေရာမှတဖန် အစာသည် အစာအိမ်အစစ် အဗိုမာဆမ်သို့ရောက်သွားသည်။ ကုလားအုပ်၏ ထူးခြားချက်တရပ်မှာ အခြား စားမြုံ့ပြန်ကောင် တို့ကဲ့သို့ အစာအိမ် တတိယအခန်း အိုမာဆမ် မပါရှိခြင်းပင် ဖြစ်သည်။ အစာအိမ်မှအစာသည် အစာအိမ်ရည် သို့မဟုတ် ဂဲစကြစ်ရည်တို့ဖြင့် ရောစွ၍ အူသိမ်များသို့ ရောက်ရှိသွားသောအခါ အစာချေချက်ခြင်းလုပ်ငန်းပြီးဆုံးသွားသည်။ ချေချက်ပြီးသားအစာကို အူသိမ် အတွင်းမျက်နှာပြင်က စုတ်ယူ၍ ခန္ဓာကိုယ်အနှံ့အပြားသို့ သွေးကြောများဖြင့် ပို့ဆောင်ပေးသည်။

စားမြုံ့ပြန်ကောင်များ ထဲတွင် ကုလားအုပ်နှင့် လာမာကုလားအုပ်တို့မှလွဲ၍ အခြားတိရစ္ဆာန်များ၌ အထက်မေးရိုးတွင် ရှေ့သွားများ မပါချေ။ သို့သော် သွားဖုံးသည်မာသောချပ်ပြားကြီး ဖြစ်နေသောကြောင့် သွားကဲ့သို့ပင်



တမြုံ့မြုံ့ဖြင့် စားမြုံ့ပြန်နေသောနွား

အသုံးပြုနိုင်သည်။ အစာစားသောအခါ မြက်ကို အပေါ်သွားဖုံးချပ်ပြားနှင့် အောက်သွားများ အကြားတွင် ကိုက်ထားသည်။ ထိုနောက် ခေါင်းကို ဘေးဖက်သို့ ရမ်းလိုက်သောအခါ မြက်ပင်များသည် ပြတ်၍ပါလာသည်။ စားမြုံ့ပြန်ကောင်များသည် အံသွားများဖြင့် ဟင်းသီးဟင်းရွက်မျှင်များကို ကြိတ်ဝါးနိုင်ကြသည်။

**စိတြနက္ခတ်။** ။နက္ခတ် ၂၇ လုံး — ရှု။

**စီးကရက်။** ။ဆေးပင် — ရှု။



မိမိစုဆောင်းထားသည့်လိပ်ပြာများကို သူတပါးအားပြသနေသူ

**စုဆောင်းခြင်းအလေ့။** ။အရှည်မြော်တတ်သူတို့သည် နောင်ရေးဖူလုံစေရန် ငွေကြေးဥစ္စာတို့ကို စုဆောင်းတတ်ကြ၏။ သို့သော် ထိုကဲ့သို့ စီးပွားရေးအလို့ငှာ မဟုတ်ဘဲ၊ ဝါသနာအလျောက်ပစ္စည်းစုဆောင်းခြင်းလည်း ရှိသေးသည်။ ယင်းသို့စုဆောင်းသောပစ္စည်းတို့မှာ နောင်အခါတွင် ရှေးဟောင်းပစ္စည်းတရပ် အနေနှင့် လူ့သမိုင်းအတွက် သော်၎င်း၊ ယဉ်ကျေးမှုသမိုင်း အတွက် သော်၎င်း၊ အနုပညာသမိုင်းအတွက် သော်၎င်း၊ အလွန်တရာ တန်ဖိုးရှိလာတတ်သည်။ ထိုကြောင့် အချို့က ရှေးဟောင်းပစ္စည်းများကို စုဆောင်းကြ၏။ အချို့ကား ကျောက်စာ၊ ပေစာ၊ ပုရပိုက်၊ မင်စာ၊ စာအုပ်၊ ပန်းချီကား၊ ရုပ်တု စသည်တို့ကို စုဆောင်းကြ၏။ အချို့မှာမူ တံဆိပ်ခေါင်း၊ မီးခြစ်ခွံ၊ စီးကရက်အရုပ်ကား စသည့် အသေးအဖွဲ ပစ္စည်းတို့ကို စုဆောင်းကြ၏။ ပါဏဗေဒကို လိုက်စားသူတို့မှာ သတ္တဝါအမျိုးမျိုး တို့၏ အရိုးစုများ၊



တိုင်းနိုင်ငံအသီးသီးမှတံဆိပ်ခေါင်းများကိုလည်း စုဆောင်းလေ့ရှိကြသည်။

အကြေးခွံများ၊ ယောက်သွားခွံများ စသည်တို့ကိုစုဆောင်းကြသည်။

ထိုကဲ့သို့ စုဆောင်းခြင်း၌ ဝါသနာပါသော သဒ္ဓေးသူကြွယ်များသည် ရှေးဟောင်းပစ္စည်းများကို ဈေးကြီးပေး၍ဝယ်ယူသိမ်းထားတတ်ကြသည်။ သို့ဖြစ်၍ ပစ္စည်းတို့ကို အပျင်းပြေသဘောထားကာ မှန်မှန် စုဆောင်းသွားသော်၊ နောင်တနေ့တွင် အကျိုးခံစားနိုင်ဖွယ်ရှိသည်။ ထို့ကြောင့် အနောက်နိုင်ငံများတွင် ဤစုဆောင်းခြင်း အလေ့အထသည် ကလေးသူငယ်ကအစ ခေတ်စားလေသည်။

စုဆောင်းရာ၌ ပစ္စည်းနှစ်မျိုးရှိသည်။ အိမ်တွင်းနှင့်ဆိုင်သော ပစ္စည်းနှင့် အိမ်ပြင်ပနှင့်ဆိုင်သော ပစ္စည်း ဟူ၍ဖြစ်၏။ တံဆိပ်ခေါင်း၊ ဓာတ်ပုံ၊ စာအုပ် စသည်တို့ကို စုဆောင်းခြင်းမှာ အိမ်တွင်းဆိုင်ရာပစ္စည်းများကို စုဆောင်းခြင်းဖြစ်၏။ ပန်းပွင့်၊ ခရုခွံ၊ လိပ်ပြာ၊ ဖလံကောင် စသည်တို့ကို စုဆောင်းခြင်းမှာ အိမ်ပြင်သို့ထွက်၍ ရှာဖွေစုဆောင်းရခြင်းဖြစ်၏။ စုဆောင်းမှု၌ မကျွမ်းကျင်သူတို့သည် ရရာပစ္စည်းမျိုးစုံကို ရှာဖွေ စုဆောင်းတတ်ကြသည်။ ဤစုဆောင်းနည်းမျိုးမှာ အလုပ်ပို၍ အချိန်ကုန် သလောက်အကျိုးမများချေ။ တမျိုးကောင်းကိုရွေး၍ စွဲစွဲမြဲမြဲ စုဆောင်းခြင်းသည် သာ၍အကျိုးရှိစေတတ်သည်။

စုဆောင်းသည့်အခါ၊ စုဆောင်းသည့် ပစ္စည်း အမျိုးအမည်၊ စုသည့်နေ့ရက်၊ မည်သို့ရရှိကြောင်း၊ ရရှိသည့်ဌာန၊ ပစ္စည်းနှင့်စပ်ဆိုင်သောသမိုင်း စသည်တို့ကို မှတ်တမ်းတင်၍ထားသင့်သည်။ နောင်သောအခါ၌ ထိုမှတ်တမ်းသည် အဖိုးတန် သမိုင်းအကျဉ်းချုပ် ဖြစ်လာပေလိမ့်မည်။

**စူကာပန်း**။ ။စူကာပန်းကို နွယ်နီနတ်ပန်းဟူ၍လည်း ခေါ်သည်။ ရုက္ခဗေဒအမည်မှာ 'ပက်ဆီဖလိုရာ လောရီဖိုးလီးယား' ဖြစ်သည်။ အလွန်လှပ၍ မွှေးကြိုင်သည်။ ထိုပန်းပင်မျိုးသည် နိုင်ငံခြား၌ မူလပေါက်သည်။ အနောက်အိန္ဒိယကျွန်းစုတွင် ထိုပန်းပင်ကို ကျဲခေါင်းသီးနွယ် ဟူ၍ခေါ်သည်။ ဤလောရီဖိုးလီးယား ပန်းမျိုးသည် အနောက်အိန္ဒိယကျွန်းစုမှ မြန်မာနိုင်ငံသို့ အဦးဆုံးယူလာသော စူကာပန်းမျိုးဖြစ်သည်ဟု ယူဆရသည်။

ရုက္ခဗေဒအမည်ဖြင့် 'ပက်ဆီဖလိုရာ ဖိတီတာ' ဟုခေါ်သော စူကာပန်းမျိုးလည်းရှိသည်။ ထိုပန်းမျိုးကို တောစူကာ ဟူ၍၎င်း၊ သကြားသီးနွယ် ဟူ၍၎င်း ခေါ်သည်။ ထိုပန်းအနံ့မှာ မကောင်းချေ။ ဥယျာဉ်များတွင် တွေ့ရခဲသော်လည်း၊ ခြံစည်းရိုးများပေါ်၌ နွယ်လျက်ပေါက်သည်ကို တွေ့ရတတ်သည်။ တောစူကာပန်းပင်မျိုးကို မော်လမြိုင်မြို့အနီးတွင် အများအားဖြင့်တွေ့ရသည်။

**စူဠာမဏိစေတီ**။ ။စူဠာမဏိစေတီကား နတ်ပြည်ခြောက်ထပ်တွင် နှစ်ထပ်မြောက်ဖြစ်သော တာဝတိံသာနတ်ပြည်ဝယ် နတ်များ တည်ထားကိုးကွယ်အပ်သော စေတီဖြစ်၏။ ယင်းစေတီ တည်ထားကိုးကွယ်ခြင်း အကြောင်းကား ဤသို့တည်း။



စူကာပန်းနွယ်ပင်မှသီးသော စူကာသီးများ



နရပတိစည်သူမင်းကြီးတည်ထားခဲ့သော ပုဂံမြို့ စူဠာမဏိစေတီ

ဂေါတမဘုရား အလောင်းတော် သိဒ္ဓတ္ထမင်းသားသည် ကပိလဝတ်ပြည်ကြီးဝယ် ထီးနန်းစည်းစိမ်ကို စံစား၍နေရာ၊ အသက်တော် နှစ်ဆဲ့ကိုးနှစ်သို့ ရောက်သောအခါ၊ သူအို၊ သူနာ၊ သူသေ၊ ရဟန်း၏အသွင် နိမိတ်ကြီးလေးပါးကို မြင်သဖြင့်၊ သံဝေဂရ၍၊ ထီးနန်းစည်းစိမ်ကို စွန့်လွှတ်လျက်၊ ဖိုးတော် အဋ္ဌနမင်း ဖြိုကြွင်းသက္ကရာဇ် ၉၇ ခု ဝါဆိုလပြည့် တနင်္လာနေ့ သန်ကောင်ယံအချိန်တွင် ဆန္နအမတ်ကို နောက်လိုက်ခေါ်၍၊ ကဏ္ဍကမြင်းကို စီးနင်းကာ တောထွက်တော်မူ၏။ ညအတွင်းမှာပင် ယူဇနာသုံးဆယ်မျှ ခရီးကိုလွန်၍၊ ရှစ်ဥသဘမျှကျယ်သော အနောမာမြစ်ကို ကူးပြီးလျှင်၊ မြင်းတော်မှဆင်းသက်၍ ဝတ်ဆင်သောတန်ဆာနှင့် မြင်းတော်ကို ဆန္နအမတ်အား အပ်နှင်းကာ၊ ကပိလဝတ်နေပြည်တော်သို့ ပြန်လွှတ်လိုက်၏။

ထိုနောက် လက်စွဲတော်သန်လျက်ဖြင့် ဆံတော်ကိုဖြတ်ပြီးလျှင်၊ 'ငါသည် စင်စစ် ဘုရားဖြစ်မည်မှန်မူ၊ ဆံတော်သည် မြေသို့မကျဘဲ၊ အထက်ကောင်းကင်၌ တည်စေသော' ဟုအဓိဋ္ဌာန်၍ ကောင်းကင်သို့ လွှင့်မြှောက်လတ်သော်၊ တယူဇနာမျှလောက်သောအရပ် လေထဲ၌ ပန်းဆိုင်းဆွဲသကဲ့သို့ တည်လေ၏။ ထိုအခါ သိကြားမင်းသည် ဆံတော်ကိုမြင်လျှင်၊ ရတနာပန်းတောင်းဖြင့် ခံယူကာ တာဝတိံသာနတ်ပြည်ဝယ် ဆံတော်ကို ဌာပနာ၍၊ ရတနာခုနစ်ပါးဖြင့် ခြယ်လယ်လျက် စူဠာမဏိစေတီကို တည်ထားကိုးကွယ်လေ၏။ ဥဏှီသတော်အမြင့်ကား သုံးယူဇနာ မြင့်သည်ဟု ဗုဒ္ဓဝံသအဋ္ဌကထာ၌ဆို၏။

ထိုစူဠာမဏိစေတီဝယ် အလောင်းတော်၏ ဆံတော်ဓာတ်တမျိုးသာ ဌာပနာသည်မဟုတ်၊ မြတ်စွာဘုရား ပရိနိဗ္ဗာန်စံလွန်တော်မူသောအခါ ကြွင်းကျန်ရစ်သော ဓာတ်တော်တို့ကို ရှစ်ပြည်ထောင်မင်းတို့အား ဒေါဏပုဏ္ဏား ဝေငှစဉ် ဦးရစ်ကြား၌ ဝှက်ထားသည့် လကျ်ာစွယ်တော်ကိုလည်း သိကြားမင်းပင် ယူဆောင်ကာ ဌာပနာသည်ဟု ဗုဒ္ဓဝံသအဋ္ဌကထာ၌ပင်ဆို၏။ လကျ်ာညှပ်ရိုးတော်ကိုကား အထူးမဆို။ သို့မဆိုသော်လည်း ထိုစဉ် အခါမှာပင် သိကြားမင်း ယူဆောင်၍ လကျ်ာစွယ်တော်နှင့်အတူ ဌာပနာသည်ဟု ယူဆရန်ရှိ၏။ သို့အတွက် စူဠာမဏိစေတီမှာ ဗုဒ္ဓဓာတ်တော်သုံးမျိုး ဌာပနာ၍ တည်ထားသော စေတီဖြစ်၏။

(မှတ်ချက်။ ။လကျ်ာညှပ်ရိုးတော်ကိုဌာပနာသည်ဟု ဗုဒ္ဓဝံသအဋ္ဌကထာ၊ သုတ်မဟာဝါပါဠိနှင့် သုတ်မဟာဝါ အဋ္ဌကထာ စသည်တို့၌ တိုက်ရိုက်အဆိုမရှိသော်လည်း၊ ပါရာဇိကဏ်အဋ္ဌကထာ ဗာဟိရနိဒါန်း၌ကား သီဟိုဠ်ကျွန်းရောက် အရှင်မဟိန္ဒ မထေရ်က သုမနသာမဏေကို သိကြားမင်းထံသို့ ဓာတ်တော်အတောင်းခိုင်းရာ လကျ်ာညှပ်ရိုးတော်ဓာတ် ရခဲ့ကြောင်း အဆိုရှိသဖြင့် ယင်းလကျ်ာညှပ်ရိုးတော်ကိုလည်း သိကြားမင်းပင်ယူဆောင်၍ ဌာပနာကြောင်းထင်ရှား၏။)

ဤသို့ဆိုအပ်ခဲ့ပြီးသော စူဠာမဏိစေတီကား၊ နတ်ပြည်တွင်ရှိသောစေတီဖြစ်၏။ လူ့ပြည်တွင်လည်း ပုဂံမြို့၌ စူဠာမဏိစေတီတဆူရှိ၏။ ယင်းစေတီ တည်ထားကိုးကွယ်ခြင်းအကြောင်းကား ဤသို့တည်း။

သက္ကရာဇ် ၅၃၆ ခုနှစ်တွင် နန်းတက်သော နရပတိစည်သူ မင်းကြီးသည် သက်တော် ၄၆ နှစ်၊ နန်းစံ ၉ နှစ်၊ သက္ကရာဇ် ၅၄၅ ခုနှစ်တွင် ပုဂံမြို့အရှေ့ တုံ့ဝပ်တောင်သို့တက်၍၊ ဘေးတော် နေ့ဝ်ရထာမင်းကြီး ကောင်းမှုတော် စွယ်တော်ရှင် ဇေတီကို ဖူးမြော်ပူဇော်ပြီးလျှင် ပြန်လာခဲ့ရာ၊ ချောက်ကမ်းပါးတခုသို့ရောက်၍၊ယင်းချောက်ကမ်းပါးဝယ် ညအခါ ပဝင်းတောက်ပြောင် အရောင်တလက်လက် ထွက်လတ်သည်ကို မြင်လျှင် မှူးမတ်တို့ကို မေးတော်မူ၏။ (နရပတိစည်သူမင်း — ရှု။) မှူးမတ်တို့သည် မီးကိုလည်းမတွေ့ရ၊ တစုံတရာကျောက်ကိုလည်း မတွေ့ရသဖြင့် မည်သည့်အရာဝတ္ထုမှထွက်သော အရောင်ဖြစ်သည်ဟု တပ်အပ် သေချာ မလျှောက်ထား နိုင်ကြကုန်။ ထိုအခါ မင်းကြီးသည် ငါ့အား ဤနေရာဌာန၌ ဘုရားတည်စေလို၍ ဗုဒ္ဓခတ်တော်မှ ရောင်ခြည်တော်ကွန့်မြူးသည် ဖြစ်လိမ့်မည်ဟု ဆင်ခြင်တော်မူပြီးလျှင်၊ ပြည်သူပြည်သားတို့အား အပူတပြင်း ဆင့်ဆိုကာ ထိုချောက်ကို ပြည့်အောင်ဖို့စေ၏။ စည်မျက်နှာကဲ့သို့ ညီညွတ်၍ စင်ကြယ်သန့်ရှင်းသော မြေအပြင်ဝယ် လိုဏ်နှစ်ဆင့်ရှိ ဧတီတဆူကို တည်ထားကိုးကွယ်လေ၏။ ထိုစေတီ၏ ဘွဲ့တော်ကိုလည်း တာဝတိံသာနတ်ပြည်ရှိ စူဠာမဏိစေတီ၏ ဘွဲ့တော်ကိုယူ၍ သဒိသူပစာအားဖြင့် တင်စားကာ စူဠာမဏိစေတီ ဟူ၍ပင် ဘွဲ့တော်ကမ္ပည်း တပ်တော်မူ၏။

ဤသည်တို့ကား၊ မန္တလေးမြို့ မဏိရတနာမြတောင်တိုက်၊ မြတောင် ဆရာတော်ဘုရားကြီး ရေးသား စီရင်အပ်သော ပုဂံမြို့ ဘုရားဆယ့်ခုနှစ်ဆူသမိုင်းတွင် ရေးသား ပါရှိသည့် အတိုင်းဖြစ်၏။ ထိုသမိုင်းလာ တုံ့ ဝပ် တောင် ကို ပုဂံမြို့ စူဠာမဏိကျောက်စာရင်း၌ တုရင်ဟုပြသည်။ ကျောက်စာပါစကားကို အောက်တွင်ဖော်ပြလိုက်ပါသည်။ (ခေတ်ပုံနှိပ်စာကိုငဲ့၍၊ ခေတ်သုံးစာလုံးအတိုင်း ဖော်ပြပါသည်။)

'**** သကရာစ် ၅၄၅ ခု စိဿနှစ် တန်ဆောင်မှုန်းလွှန် ၃ ရက် ကြာသပတေနေအာ စံပွုတိတ်ကျွန်းထက်တော် တေနိယ်အရောင်သိုဝ် တောက်ပစ္စာစသော နတ်နှင်တူသော စည်သူမင်ကြီ သည်ကာ အရှေ့တုရင်သိုဝ် ထွက်တ်မုလတ်သောအခါ၌လျှင် ထိုတောက်သည်ကာ မီလောဟုမေတ်မု၏။ သုမျာတိုဝ်ကာ မီဟုရှုယ် နာတ်လျှောက်၏ မင်ကြီ (ကာ) ပတ္တာမြါတောက်စသအမှတ်ကိုဝ် သိတ်မုရှုယ် ဆ(င်)တ်ပြန်လတ်ရှယ် ဩဤမြေအရပ်ကာ မြတ်စွာတကားဟု ဆိုဝ်တ်မူရှုယ် ကူတ်အ (ရာ) နှင်ခ၏ နှင်မြိမှုလျှင် မြေထွတ်ခွင်ရှယ်ထာမနာ၏ ကုတ်အရာလေတော၏ ကုတ်တဆင်ပြိုကလျှင်။ ဩဖုရာလေပြုတ်မု၏။ ထိုဝ်ပြီမှုလျှင် အထက်တဘင်ပြုတ်မုတုံပြို၏။ ထိုဝ်ပြီမှုလျှင် အထက်ဖုရာပြုတ်မူသည်ပြိုဟူ မင်ကြီကိုဝ်နာတ်လျှောက်၏ ---- (မင်) ကြီ ဟူတ်ပှင်ဝင်ရွှေဖုရာရှေ့ နေတ်မူသအခါနှိုက်လျှင် မဟာ (သွန်ကြီ) ကိုခဝ်တ်မူရှုယ် ရေစင်တ်ချသည်ကာ ****'

ကျောက်စာပါ တုရင်တောင်ကို မှန်နန်းမဟာရာဇဝင်၌ တူရွှင်းတောင်ဟု ရေးသည်။ ယခုခေတ်၌ တုံ့ဝပ်တောင်ဟုလည်း ခေါ်ကြသည်။ ဦးကြီးဖေ။

**စေဇန်း,ပီ** (ခရစ် ၁၈၃၉–၁၉၀၆)။ ။ပြင်သစ်ပန်းချီဆရာ ပေါ် စေဇန်းသည် ရှေးရိုးပန်းချီစံနစ်ကို တော်လှန်ခဲ့သူ တယောက်ဖြစ်၏။ ထိုခေတ်အခါက တော်ဝင်ပန်းချီဆရာများ လိုက်နာ ကျင့်သုံးလျက်ရှိသော အစဉ်အလာများကို ဖီလာပြုကာ မိမိစိတ်ကူးဖြင့်ပန်းချီကားများကို ရေးဆွဲခဲ့လေသည်။ ထိုကြောင့် ပါရစ်မြို့တွင် စေဇန်းအား ပန်းချီတော်လှန်ရေးသမားတယောက် ဟူ၍ အသိအမှတ် ပြုထားကြလေသည်။ သို့ရာတွင် ပါရစ်မြို့၌ သာမက ဥရောပတိုက်တခုလုံးရှိ များစွာသော ပန်းချီပညာသည်တို့၏ ရှုတ်ချခြင်းကို ခံခဲ့ရဘူးသည်။ ဤခေတ်၌ကား စေဇန်းသည် ခေတ်ပန်းချီပညာရပ်၏အခြေခံကို စတင်ပြုစုခဲ့သူဟု အသိအမှတ်ပြုခြင်းကို ခံရသည်။



ရှေးရိုးပန်းချီစံနစ်ကိုတော်လှန်ခဲ့သူ ပြင်သစ်ပန်းချီဆရာ ပေါ်စေဇန်း

စေဇန်းသည် ပြင်သစ်နိုင်ငံ အရှေ့တောင်ပိုင်း ပရောဗန်းနယ်ရှိအက်မြို့တွင် ၁၈၃၉ ခုနှစ် ဇန္နဝါရီလ ၁၉ ရက်နေ့၌ ဖွားမြင်လေသည်။ ဖခင်ဖြစ်သူမှာ ဘဏ်လုပ်ငန်းရှင်တဦး ဖြစ်သော်လည်း၊ စေဇန်းသည် ပန်းချီပညာကို ဝါသနာပါသူဖြစ်ရာ အသက် ၂၄ နှစ်အရွယ်မှစ၍ ပါရစ်မြို့တွင် ပန်းချီပညာကို လေ့လာဆည်းပူးခဲ့လေသည်။



နက်နဲသောအဓိပ္ပါယ်ကိုဆောင်သည့် စေဇန်း၏ရှုခင်းပန်းချီလက်ရာ

ပေါ်တွင် ထိရောက်အောင် တင်မပြနိုင်ဟု ယူဆကာ စိတ်ပျက်စွာဖြင့် သူ၏ပန်းချီကားများကို သူတပါးတို့အား ပေးပစ်၏။ သူ့သားကိုလည်း ထိုပန်းချီကားများကို ဖြတ်တောက် ကစားစေ၏။ ထိုစဉ်အခါက စေဇန်းရေးဆွဲသော ပန်းချီကားတို့၏ နက်နဲသော အဓိပ္ပါယ်ကို လူများ သဘောပေါက် နားမလည်ကြချေ။ သို့ဖြစ်၍ ထိုပန်းချီကားများမှာ တန်ဖိုးမရှိ ဖြစ်ခဲ့ရလေသည်။ စေဇန်း စွန့်ပစ်လိုက်သောပန်းချီကားများသည် ယခုခေတ်တွင် ဒေါ်လာ

စေဇန်းသည် ပန်းချီဆရာ၏ အမြင်သက်သက်ကိုသာ ရေးဆွဲခြင်းဖြင့် ထိုပန်းချီကား၏ နက်နဲသော အဓိပ္ပါယ်ကို ပေါ်လွင်စေနိုင်မည်မဟုတ်ဟု ယုံကြည်သည်။ ထိုယုံကြည်ချက်အတိုင်း သူရေးဆွဲသောပုံတွင် ဆေးရောင်အမျိုးမျိုးကို နက်နဲသော အဓိပ္ပါယ် ဖော်ရာ၌ အသုံးပြုသည်။ စေဇန်းရေးခြယ်သော ပန်းချီကားများသည် ရိုးရိုးနှင့် နက်နဲသည်။

သို့သော် စေဇန်းသည် မိမိ၏စိတ်ကူးကို ပန်းချီကားချပ်ပေါင်း ထောင်သောင်းမက ထိုက်တန်လာလေသည်။

စေဇန်းရေးဆွဲသော ပန်းချီကားများ၏ နက်နဲခြင်းကို ထိုပန်းချီဆရာ ကွယ်လွန်ပြီးနောက်မှ လူများ သဘောပေါက် နားလည်ကြသည်။ ထို့ကြောင့် စေဇန်းသည် အသက်ရှင်နေစဉ် ပန်းချီကျော်ကြီးတဦး အဖြစ်ဖြင့် မကျော်ကြားခဲ့ချေ။ ၁၉၀၆ ခုနှစ် အောက်တိုဘာလ ၂၃ ရက်နေ့တွင် ပေါစေဇန်း အနိစ္စရောက်လေသည်။

# ဩကာသဝန္ဒနာ ဆယ်ယူရာဌာန

**စိမ်းလန်းစိုပြည်လျက်ရှိသော ပြည်ထောင်စုမြန်မာနိုင်ငံတော်ကြီးကား ‘များလှစေတီ၊ မြန်ဌာနီ’ ဟု ကမ္ဘာအရပ်ရပ်က အသိအမှတ် ပြုရလောက်အောင် စေတီပုထိုးနှင့် တင့်ရှန်း ဝေဆာလှပေသည်။ ကုန်းမြင့်တောင်ထိပ်၊ တောရိပ်မြစ်နား၊ မြို့ရွာများတွင် ဗုဒ္ဓသာသနာရောင် ထိန်ထိန်ပြောင်နေသည်မှာလည်း စေတီပုထိုးများ၏ တန်ခိုးရှိန်စော် အာနုဘော်ကြောင့်ပင် ဖြစ်ချေသည်။ ထိုစေတီပုထိုးတို့ စတင်ပေါ်ပေါက်လာသည်မှ ယနေ့တိုင် တည်မြဲနေသော ဖြစ်စဉ်သမိုင်းကားချပ်ကို လေ့လာကြည့်ရှုနိုင်ကြရန် တင်ပြအပ်ပါသတည်း။**

**စေတီပုထိုးများ။** ။စေတီဟူသည်မှာ အရိုအသေပြုအပ်သော အရာဝတ္ထုဖြစ်၏။ စေတီ တည်ထားကိုးကွယ် ပူဇော်ခြင်းကို ခံထိုက်သော ပုဂ္ဂိုလ်များမှာ (၁) ဘုရားရှင်၊ (၂) ပစ္စေကဗုဒ္ဓ အရှင်များ၊ (၃) သီလဝန္တဖြစ်သော မြတ်စွာဘုရား၏ တပည့်သား သံဃာများနှင့် (၄) စကြဝတေးမင်းတို့ ဖြစ်သည်။ ဗုဒ္ဓစေတီမှာလည်း (၁) မြတ်စွာဘုရား ကိုယ်တော်မြတ်မှ ဖြစ်သမျှ ဓာတ်တော်များကို ခေါ်ဆိုသည့် သာရီရိကစေတီ၊ (၂) ဗောဓိပင်နှင့်တကွ မြတ်စွာဘုရား၏ အသုံးအဆောင်တော် ပရိက္ခရာ စသည်ကို ခေါ်ဆိုသော ပရိဘောဂစေတီနှင့် (၃) မြတ်စွာဘုရား၏ အနန္တဂုဏ်တော်တို့ကို မှန်းဆရည်ရွယ်အပ်သော ရုပ်ပွားဆင်းတုတော် စသည့် ဥဒ္ဒိဿစေတီ ဟူ၍ သုံးပါးပြားသတည်း။ ပဋိစ္စသမုပ္ပါဒ် စသော တရားတော်ဒေသနာတို့ကို ပေ၊ ရွှေပြား၊ ငွေပြား စသည်များပေါ်တွင်ရေးကာ သိုမှီးဌပနာပြုသည်ကို ဓမ္မစေတီ မည်စေ၍၊ စေတီလေးပါးဟု ရေတွက်ကြသေးသည်။

### စေတီပုထိုးများဖြစ်ပေါ်လာပုံ

တေရသနိပါတ် ကာလိင်္ဂဗောဓိဇာတ်ကိုထောက်၍ အနာထပိဏ်သေဌေး တောင်းပန်၍ ရှင်အာနန္ဒာ လျှောက်ထားသဖြင့် သာဝတ္ထိပြည်တွင် သာရီရိကစေတီ၊ ပရိဘောဂစေတီနှင့် ဥဒ္ဒိဿစေတီတို့ကို မြတ်စွာဘုရား ခွင့်ပြုတော်မူကြောင်း

သိသာလေသည်။ မြတ်စွာဘုရား ပရိနိဗ္ဗာန်စံယူတော်မူသည့်နောက် ရာဇဂဟ၊ ဝေသာလီ၊ ကပိလဝတ္ထု၊ အလ္လကပ္ပ၊ ရာမဂါမ၊ ဝေဌဒီပ၊ ပါဝေယျက၊ ကုသိနာရ ဟူသော ရှစ်ပြည်ထောင်သော မင်းတို့သည် အသီးအသီး ဓာတ်တော်တို့ကို ယူဆောင်၍ မိမိတို့ တိုင်းပြည်၌ စေတီ တည်ကြကြောင်း၊ ထိုစေတီတို့သည် ဓာတ်တော်ကို ဌပနာ၍တည်သောကြောင့် ဓာတုစေတီမည်ကြောင်း၊ ထိုနောက် ရှင်မဟာကဿပ ထေရ်သည် ထိုမင်းတို့လက်ထက်၌ ကိုးကွယ်လောက်ရုံ ပေးထားခဲ့၍၊ ဓာတ်တော်တို့ကို ယူဆောင်ပြီးလျှင်၊ အဇာတသတ် မင်းအား ရာဇဂြိုဟ်ပြည်တွင် မြေအတွင်း စေတီတည်လုပ် မြှုပ်ထားစေကြောင်း ဟူ၍ ကျမ်းဂန်များ၌ အသီးသီး လာရှိ၏။ သက်တော်ထင်ရှား မြတ်စွာဘုရားကို ပူဇော်ခြင်းနှင့် မြတ်စွာဘုရား၏ ဓာတ်တော်တို့ကို ပူဇော်ခြင်းသည် ကုသိုလ်ပုည တူမျှသည်၏အဖြစ်ကြောင့်၊ သာသနာပြု မင်းကောင်းမင်းမြတ်ဖြစ်သော သီရိဓမ္မာသောက မင်းကြီးသည် အများသတ္တဝါတို့၏ အကျိုးကို တောင့်တတော်မူသဖြင့်၊ အဇာတသတ်မင်းနှင့် ရှင်မဟာကဿပတို့ မြှုပ်ထားခဲ့သော ဓာတ်တော်တို့ကို တူးဖော်၍၊ မြို့ပေါင်း ၈၄,၀၀၀ တို့၌ စေတီပေါင်း ၈၄,၀၀၀ တည်စေကြောင်း သုတ်မဟာဝါ အဋ္ဌကထာ၌ လာရှိချေသည်။ ဤအချက်များကို ထောက်ရှု၍၊ မြတ်စွာဘုရား ပရိနိဗ္ဗာန်စံတော်မူပြီးနောက် ဓာတ်တော်များကို ရှစ်ပြည်ထောင်မင်းတို့ ခွဲဝေ ပူဇော်သည်မှ စ၍ စေတီ တည်ထားကိုးကွယ်ကြောင်းနှင့် သီရိဓမ္မာသောကမင်း လက်ထက်တွင် စေတီ မြောက်မြားစွာ တည်ထားကိုးကွယ်ကြောင်းကို ထင်ရှားသိသာသည်။ (သီရိဓမ္မာသောကမင်း — ရှု။)

## စေတီပုထိုးများသဏ္ဌာန်ပြောင်းလဲလာပုံ

ရှစ်ပြည်ထောင်မင်းတို့ တည်လုပ်ကြသော စေတီများ၏ပုံသဏ္ဌာန်ကို ကျမ်းဂန်တို့၌ အထူးအထွေမဆို၊ မျက်မြင်လက်တွေ့လည်း မရှိသောကြောင့် အတိအကျ မသိရချေ။ သို့သော် ထူပါ ဟူသော ဝေါဟာရသည် သက္ကတဘာသာ သတု(ပ်) မှ သက်ဆင်းလာခြင်း ဖြစ်၏။ သတု(ပ်)သဒ္ဒါသည် တောင်ပူစာ၊ တောင်ကုန်း ဟူသော အနက်အဓိပ္ပါယ်ကို ဟော၏။ ထိုမှတဆင့်၊ ယင်းတောင်ကုန်းပေါ်၌ တည်ထား၍ အမြတ်တနိုး ကိုးကွယ်သော ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ်တို့၏ ဆံတော်ဓာတ်တော်တို့ကိုလည်း သတုပ် မည်ခေါ်၏။




စေတီပုံသဏ္ဌာန် အဆင့်ဆင့်ပြောင်းလဲလာပုံ

သတုပ် ဝေါဟာရမှသည် တုပ်၊ ယင်းမှသည် ပါဠိမြန်မာ ဝေါဟာရ ထူပ သို့ ရွှေ့လျောသက်ဆင်းလာသည်ဟု ယူဆနိုင်၏။ သတုပ် ဝေါဟာရသည်ပင်လျှင် ချီးမွမ်းထိုက်သော အနက်ဟော သတုတသဒ္ဒါမှ ပေါက်ပွားလာသည် ဖြစ်သောကြောင့် စေတီ၊ ထူပ ဟူသော ဝေါဟာရများသည် ပူဇော်ကိုးကွယ်ထိုက်သော အရာ၊ ချီးမွမ်းအပ်သော အရာဟု အဓိပ္ပါယ်ပေါ်လွင်လေသည်။ ပုထိုးဟူသော ဝေါဟာရသည်လည်း အလားတူ အဓိပ္ပါယ် သက်ရောက်သည်ပင်ဖြစ်၏။ ပုထိုးသည် ပရိထု (သက္ကဋ) ပုထု (ပါဠိ) သဒ္ဒါ၊ ကျယ်ပြန့်ခြင်း၊ ကြီးကျယ်ခြင်း၊ ပြန့်ပြောခြင်း၊ မရေမတွက်နိုင်ခြင်း၊ အနန္တဂုဏ်နှင့် ပြည့်စုံခြင်း၊ အနက်များ ဟောသောပုဒ်မှ ရွှေ့လျောလာသည်ဟု ယူဆနိုင်သည်။ စေတီဟူသည်မှာ မုတ်မပါသော မြေစိုက်ဘုရား အဆောက်အဦ၊ ပုထိုးဟူသည်မှာ မုတ်နှင့်တကွသော ဘုရားအဆောက်အဦဖြစ်သည်ဟု အချို့က မှတ်ယူလေ့ရှိကြ၏။ စင်စစ်မူကား၊ စေတီ၊ ပုထိုး၊ ထူပ ဟူသော ဝေါဟာရတို့သည် ယေဘုယျအားဖြင့် သဏ္ဌာန် မကွဲပြား၊ တမျိုးတစား တည်းသော အဆောက်အဦကိုဟောသော ဝေါဟာရများသာ ဖြစ်ချေသည်။ အမရပူရမြို့ ဘကြီးတော်မင်း၏ ကောင်းမှုတော် မဟာဝိဇယရံသီ ဘွဲ့တော်ရှိသည့် စေတီကြီးကို ပုထိုးတော်ကြီးဟု ခေါ်ဝေါ်သည်ကိုထောက်၍၊ မုတ်မပါသော်လည်း ပုထိုးဟု သမုတ်နိုင်ကြောင်း သိသာလေသည်။

ထူပ ဟူသော ဝေါဟာရ၏ အနက်အဓိပ္ပါယ်ကို ထောက်ခြင်းအားဖြင့် စေတီ၏ မူလသဏ္ဌာန်သည် ကုန်းမို့မို့ တောင်ပူစာကဲ့သို့ ဖြစ်သတည်း။ သိရိဓမ္မာသောကမင်း လက်ထက်တွင်မူ ပိသုကာလက်ရာများ ပါဝင်သော စေတီပုံသဏ္ဌာန်များ တီထွင်ဆောက်လုပ်သည်ကို သိသာနိုင်သည်။ ထိုမင်းသည် စေတီပေါင်း ၈၄,၀၀၀ ကို တည်ထားစေခဲ့သော်ငြားလည်း၊ နှစ်ပရိစ္ဆေဒ ကြာမြင့်ခဲ့ပြီ ဖြစ်သောကြောင့်၎င်း၊ မူရင်းစေတီယ်တို့ ပျက်စီးယိုယွင်းသည်တို့ကို နောက်နောင် မင်းကောင်းမင်းမြတ်တို့သည် မဖြိုဖျက်ဘဲ၊ အပြင်မှတထပ် ကြီးကြီး မြင့်မြင့် တည်လေ့ရှိသောကြောင့်၎င်း၊ အသောကမင်း၏ ကောင်းမှု စေတီတော် များကို မူလသဏ္ဌာန်အတိုင်း ဖူးတွေ့ရခဲလေသည်။ သို့သော် အိန္ဒိယနိုင်ငံ ကမ္ပည်းကျောက်စာ ဌာန၏ သုတေသန လုပ်ငန်းများကြောင့် ဆန်ချီနှင့် ဘာရဟုတ် ဒေသများတွင် အသောကမင်း၏ ကောင်းမှုတော်နှင့် အသောကမင်း နန်းစံပြီးနောက် နှစ်ပေါင်း ၂၀၀ အတွင်းက တည်ဆောက်ကိုးကွယ်ခဲ့ကြောင်း ခိုင်လုံစွာ သိရှိရသည့် စေတီများကို တူးဖော်တွေ့ရှိရလေသည်။ ယင်းသို့ ဖူးတွေ့ရသော စေတီများမှာ နှောင်းခေတ် ကုသိုလ်ရှင်များ၏ မွမ်းမံခြယ်လယ်မှုတို့ဖြင့် တန်ဆာဆင်ထားသည့် လက်ရာတို့ကိုပါ တွေ့ရလေသည်။ သို့သော် အုတ်အင်္ဂတေဖြင့်သာပြီးသော မူလ အဆောက်အဦ သဏ္ဌာန်သည်ကား ပြိုပျက်လျက်ရှိသော အပေါ်လွှာကျောက်အုတ် ကျောက်ချပ်များ အကြား၌ ထင်ရှားစွာပေါ်ပေါက်နေချေသည်။ ထိုမျှသာမကသေး၊ ကျောက်ဆစ်ပညာဖြင့် ရှေးဟောင်း အဆောက်အဦ ဗုဒ္ဓဝင်ရုပ်ကြွများ ထုလုပ်ကိုးကွယ်သော အခါ၌ စေတီပုံများကို သရုပ်ဖော်ထားသည်ကို ထောက်ရှုခြင်းဖြင့်လည်း၊ ရှေးအကျဆုံးသော စေတီသဏ္ဌာန်ကို ကောင်းစွာ သိသာနိုင်လေသည်။ ယင်း စက်ဝန်းတခြမ်း ပုံသဏ္ဌာန်၏ ညီပြန့်သော ထိပ်ပေါ်တွင် သေတ္တာသဏ္ဌာန် လေးထောင့်ဌပနာတိုက်ရှိ၍၊ ထိုဌပနာတိုက်အလယ်တွင် ပိန္နဲတိုင် စိုက်ထူကာ ထီးတင်ထားခြင်းဖြစ်၏။ ထိုသို့သော ပုံရိုးရိုးမှ တစတစဖြင့် ပစ္စယာဆင့်၍ လှေကားများတပ်ခြင်း၊ ထီးအထပ်ထပ်တင်ခြင်း၊ ပန်းပုပန်းပြောက်တို့ဖြင့်ပြီးသော လက်ရန်းအကာနှင့် မုတ်ဝ တုရိုဏ်တိုင်များ စိုက်ထူခြင်း စသည်တို့ကို ဆန်းပြားကြီးကျယ်စွာ ပြုလုပ်လေသည်။ 'အဏ္ဍ' ဟုအခေါ်ရှိသော စက်ဝန်းတခြမ်းပုံကို မြင့်မားစွာ တည်ဆောက်ရာမှတဖန် မုတ်များ ထွင်းထု၍ ဆင်းတု ရုပ်ကြွများ ပူဇော်ထားကြ ပြန်သည်။ ထို့နောက်တွင် မြတ်စွာဘုရား ရုပ်ပွားတော်များကို ဂန္ဓကုဋိတိုက်တွင် ပူဇော်ကာ၊ ကျောက်ဆစ်ပညာ ထွန်းကားလာချိန်၌ ကျောက်ဂူဘုရားများ ထွင်းထု ဆောက်လုပ်ကြချေ၏။ မဇ္ဈိမဒေသ၌ သာသနာတော် ညှိုးမှိန်စ ပြုချိန်လောက်တွင် စေတီတည်ထားကိုးကွယ်မှုသည် ဟိန္ဒူဘုရားရှိခိုးကျောင်း သဏ္ဌာန် အဆောက်အဦတို့ဖြင့် အဆုံးသတ်လေတော့သည်။

## မြန်မာနိုင်ငံစေတီပုံများ

စေတီတည်ထားမှု ပိသုကာ အနုပညာသည် သာသနာတော် စည်ပင်ပြန့်ပွားလာသည့်အလျောက် မဇ္ဈိမဒေသမှ သီဟိုဠ်ကျွန်းနှင့် မြန်မာနိုင်ငံသို့ ပျံ့နှံ့လာခဲ့ရာ၊ ရှေးအကျဆုံးသော မြန်မာ စေတီပုထိုးများသည် မိဂဒါဝုန်တော၌ မြတ်စွာဘုရား တရားဦးဟောရာ နေရာကို အထိမ်းအမှတ် တည်ဆောက်ထားသော ဓမ္မရာဇိက စေတီနှင့် ဆင်တူလေသည်။ မူလ စေတီပုံသဏ္ဌာန်များသည် စကြာဝဠာကို ရည်ရွယ်မှန်းဆကာ သရုပ်ဆောင်ထားသည်ဖြစ်ရာ၊ မြန်မာပြည်၌ သာသနာ ထွန်းကားသည်နှင့် အမျှ စေတီပုထိုးများကို အနှံ့အပြား တည်ဆောက်ပူဇော်ကြရာဝယ်၊ ပိသုကာ လက်ရာသဏ္ဌာန် အနေအထား အားဖြင့် ၃၁ ဘုံကို၎င်း၊ မြင့်မိုရ်တောင်ကို၎င်း၊ မှန်းဆ အတုယူကာ တဆင့်ထက်တဆင့် ဆန်းကြယ်စွာ တည်ဆောက်ကြလေသည်။ ထို့ကြောင့် မြန်မာစေတီရိုးရိုး၏ သပိတ်မှောက်နှင့် ခေါင်းလောင်းပုံမှာ မဇ္ဈိမဒေသစေတီတို့မှ အဏ္ဍခေါ် စက်ဝန်းတခြမ်းသဏ္ဌာန်မှ

ဆင်းသက် ပုံပြောင်းလာခြင်း၊ ဖောင်းရစ်များမှာ ဆတ္တာလိခေါ် ထီးအဆင့်ဆင့်၏ ပုံပန်းကို အတုယူ ပြောင်းလဲထားခြင်း ဖြစ်သည်မှာ သိသာချေသည်။ ပစ္စယာထောင့်များတွင် ကြာအိုးများ၊ စေတီယ်များ တည်ခြင်း၊ လှေကားနှင့်မုတ်ဂူများ တပ်ဆင်ခြင်း၊ စေတီရံများ တည်ဆောက်ခြင်းနှင့် ခြင်္သေ့ရုပ်၊ မနုသီဟရုပ်များ စေတီရင်း၌ တည်ထားခြင်း စသော မွမ်းမံခြယ်လှယ်မှုတို့မှာ ကုသိုလ်ရှင်များ၏ စိတ်ကူးဥာဏ် ဆန်းကြယ်သည်နှင့်အမျှ ဖြည့်စွက် တိုးပွားထားသော အင်္ဂါရပ်များ ဖြစ်ကြသည်။

မြန်မာနိုင်ငံရှိ စေတီရိုးရိုးတဆူ၏ အစိတ်အပိုင်း တို့ကို လိုရင်းမျှ ရေတွက်ပြရသော်၊ ရှေးဦးစွာ မြေပေါ်၌ ပန်းတင်ခုံ သို့မဟုတ် ဖိနပ်ဟုခေါ်သော စတုရန်းအုတ်ခုံရှိ၏။ ထိုအထက် ပလ္လင်အောက်ပိုင်းသဏ္ဍာန် ပစ္စယာ ၃ ဆင့်ကိုတည်ဆောက်၏။ ပစ္စယာများ အထက်တွင် ကြေးပန်းကြေးဝိုင်း၊ ထိုအထက် ခေါင်းလောင်းပုံနှင့် သပိတ်မှောက်၊ ထိုအထက် ဖောင်းရစ်များ၊ ထိုအထက် ကြာမှောက်၊ ရွှဲနှင့်ကြာလန်၊ ယင်းအထက်တွင် ချယားသီး သို့မဟုတ် ငှက်ပျောဖူး၊ ယင်းအထက်တွင် ထီး၊ ငှက်မြတ်နားနှင့် စိန်ဖူး တို့ဖြစ်သတည်း။



ပုဂံမြို့တွင်တွေ့ရသောစေတီနှစ်ထပ်ပုံ
(စေတီကိုအဆင့်ဆင့်ငုံ၍တည်သည်ကိုပြသည်။)

## မြန်မာနိုင်ငံရှိစေတီပုထိုးများ

မြတ်စွာဘုရားသခင်သည် ဘု ရား ဖြစ် တော် မူ ၍ ခုနစ်သတ္တာဟမြောက် ရာဇာယတန လင်းလွန်းပင်၌ သီတင်းသုံးနေတော်မူသောအခါ၊ ဥက္ကလာပ ဇနပုဒ် အသိတဉ္စန မည်သော ပေါက္ခရဝတီမြို့သား တပုဿ ဘလ္လိက ကုန်သည်ညီနောင်နှစ်ဦးတို့ ရောက်လာကြ၍ ပျားမုံ့ဆုပ် ကပ်လှူခြင်း၊ ဒွေဝါစိက သရဏဂုံ ခံယူခြင်းတို့ကို ပြုလတ်ပြီးသော်၊ 'မြတ်စွာဘုရား၊ ထိုနေ့မှစ၍ အဘယ်ကို ရှိခိုးပူဇော်ရပါကုန်အံ့နည်း' ဟု လျှောက်ထားကြရာတွင်၊ မြတ်စွာဘုရားသည် ဦးခေါင်းတော်ကို လက်ဖြင့် သုံးသပ်တော် မူပြီးလျှင်၊ 'ဆံတော်ရှစ်ဆူကို ကောင်းစွာကိုးကွယ်ကြကုန်' ဟု မိန့်တော်မူ၍ ပေးအပ်လိုက်ကြောင်း၊ ဝိနည်းအဋ္ဌကထာ၌ လာရှိ၏။ ရာဇဝင်သမိုင်းတို့၌ကား ယင်းဆံတော်ရှစ်ဆူကို ညီနောင်နှစ်ယောက်တို့ ခွဲယူ၍ စေတီတဆူစီ တည်ကြောင်း၊ ညီတော်သည် ရွှေတိဂုံတွင်စေတီတည်ကြောင်း ဟူ၍ ဆက်လက်ဖော်ပြ၏။ ညီတော်တပုဿ၏ စေတီတော် ရွှေတိဂုံဘုရားမှာ သံတောင် ၄၀ မြင့်၏ဟုဆိုသည်။ (ရွှေတိဂုံဘုရား — ရှု။)

မြတ်စွာဘုရားသည် ဘုရားဖြစ်တော်မူ၍လေးဝါမြောက်သောအခါ ဖိုးဦးတောင်သို့ ကြွတော်မူ၍ ခေတ္တရာမည်သောရသေ့မြို့ကို ဗျာဒိတ်ပေးတော်မူပြီးနောက် ဆံတော် ၄ ချောင်းကို ရေပထနဂါးမင်း ကပ်လှူသော မြကြုတ်၌ထည့်သွင်း၍ ကိုးကွယ်ထိုက်သော သူတို့အား ရစေသတည်းဟုဓိဋ္ဌာန်တော်မူ၍ ကောင်းကင်သို့ ပစ်လိုက်သည် ရှိသော်၊ သုဝဏ္ဏဘူမိ သထုံပြည်မှ ပြန်လာသော အဇ္ဇိတ ဖလိတ ညီနောင်နှစ်ယောက် ရကြကုန်သည် ဖြစ်၍၊ သုဒဿန တောင်ထိပ်၌ အမြင့်သံတောင် ၄၂ တောင်ရှိသော ရွှေဆံတော်စေတီ တည်ထားခဲ့ကြောင်း ရာဇဝင်သမိုင်းများတွင် လာရှိ၏။ (ရွှေဆံတော်ဘုရား — ရှု။) မြတ်စွာဘုရားသည် ထိုမှတဖန် ဥက္ကံသုံးဆယ်အရပ်သို့ ရောက်တော်မူလျှင် ပိဏ္ဍိက သဌေးကြီး၏ သားနှစ်ယောက်အား ဆံတော် ၄ ချောင်းပေးအပ်တော်မူလျှင်၊ ညီနောင်နှစ်ယောက်တို့လည်း ဟံသာဝတီပြည်ကြီးတည်ရှိရာ မဟာသုဒဿန ဆေးဒန်းမြင်းသီလာတောင်ထိပ်၌ အမြင့်သံတောင် ၄၀ ရှိသော ရွှေမော်ဓောစေတီ တည်ကြောင်းလည်း ရာဇဝင်သမိုင်းများ၌လာရှိချေသည်။ (ရွှေမော်ဓောဘုရား — ရှု။) ထို့ကြောင့် မြန်မာနိုင်ငံရှိ စေတီတော်များအနက် အကြိမ်ကြိမ် အပန်ပန် မွမ်းမံမြင့်တင် တည်ဆောက်ခြင်းမပြုမီ၊ မူလစေတီယ်များအသွင် ရှိစဉ်က၊ ရွှေတိဂုံ၊ ရွှေဆံတော်နှင့် ရွှေမော်ဓော စေတီတော်များသည် ရှေးအကျဆုံးဖြစ်သည်ဟု မှတ်ယူကြ

ရပေမည်။ သို့သော် ယင်းမူလစေတီငယ်တို့ကို မဖူးတွေ့နိုင်ကြတော့လေရာ၊ စေတီများ၏ ပိသုကာ လက်ရာ သဏ္ဌာန် ပြောင်းလဲလာပုံကို လေ့လာရာ၌ ပကတိ ပုံပန်းမှ လွန်စွာခြားနားပြောင်းလဲခြင်း မရှိသေးသည့် စေတီတော်များကို အထောက်အထားပြုရချေမည်။



ဒွတ္တပေါင်မင်းကြီး၏ကောင်းမှုတော်ဟုယုံကြည်ရသော ပေါပေါကြီးစေတီ

သာသနာတော်သက္ကရာဇ် ၁၀၁ ခုနှစ်တွင် သရေခေတ္တရာပြည်ကိုတည်သော ဒွတ္တပေါင်မင်းကြီးသည် စေတီပုထိုးများတည်ကြောင်းကို၆ဆူ၊ ၇ဆူ၊ ၉ ဆူဟူ၍ ရာဇဝင်များက အကွဲကွဲ အပြားပြား မှတ်တမ်း တင်ထားကြချေသည်။ မည်သို့ပင် ဆိုထားစေကာမူ၊ ယင်းတို့အနက် ဒွတ္တပေါင်မင်း၏ကောင်းမှု အပါအဝင်ဟု ယုံကြည်ရသော ပေါပေါ (ဘောဘောကြီး) နှင့် သရမာ (ဘုရားမာ) စေတီတော်ကြီး ၂ ဆူကို ယခုတိုင် ဖူးတွေ့နိုင်ပေသည်။ ယင်းစေတီတော်တို့မှာ ယခုကာလ တည်လုပ်သော စေတီကဲ့သို့ ဖောင်းရစ်မပါ၊ တဖြိုးတည်း လုံးလုံးလျောင်းလျောင်း သဏ္ဌာန်ရှိသည်။ ပုံပန်းသဏ္ဌာန်အားဖြင့် ပေါပေါဘုရားထက် ရှေးကျသောစေတီများကို သရေခေတ္တရာ ခေတ်အတွင်း၌ တည်ဆောက်ပူဇော်ခြင်း ရှိခဲ့ဟန်တူကြောင်းလည်း အထောက်အထားတွေ့ရသေးသည်။



ဘုရားမာစေတီ
(သရမာဘုရားဟု ရာဇဝင်တွင်ဆိုသည်။)

သရေခေတ္တရာ မြို့ဟောင်းတွင် မြန်မာ နိုင်ငံ ကမ္ဘည်းကျောက်စာဌာနက ရှေးဟောင်း သုတေသနကိစ္စအတွက် တူးဖော်ရာတွင်၊ ခင်ဘားကုန်း၌ ဘုရားပျက်တဆူ၏ ဌပနာတိုက် ပေါ်ပေါက်ခဲ့၏။ ယင်းဌပနာတိုက်ကို ဖုံးအုပ်ထားသော ကျောက်ပြားပေါ်တွင် ရေးထုထားသော စေတီပုံများမှာ အသောကမင်း နန်းစံပြီးနောက် နှစ်ပေါင်း ၁၀၀ မှ ၂၀၀ အတွင်း မဇ္ဈိမဒေသတွင် များစွာ ထုလုပ်ကိုးကွယ် တည်ဆောက်ခြင်းဖြစ်သော ထီးသုံးဆင့်ပါသော စေတီဝိုင်းပုံကို ဖူးတွေ့ရပါသည်။ အဆိုပါ ဌပနာတိုက်တွင်း၌ တွေ့ရှိသော ဓမ္မစေတီ ရွှေပုရပိုက်များ၊ ရှေးဟောင်းသာသနိက ပစ္စည်းများနှင့်အတူ ငွေခေါင်းပွစေတီငယ် နှစ်ဆူကိုလည်း တွေ့ရှိရ၏။ ယင်းငွေခေါင်းပွစေတီများ၏ အချိုးအစားမှာ မြင့်မြင့်လုံးလုံး ရှိသော်လည်း၊ ဆတ္တဝလီခေါ် အဆင့်ဆင့် အထပ်ထပ် ပြုလုပ်ထားသည့် ထီးတော်များကို ထောက်ရှု၍ မဇ္ဈိမဒေသစေတီများ သဏ္ဌာန်သည် ပေါ်လွင်ထင်ရှားလေသည်။

ပြူစောထီးမင်း၏ ကောင်းမှုဟု အဆိုရှိသော ပုဂံမြို့ ဗူးဘုရား၏ စေတီလုံးသည်ပင် ပေါပေါဘုရားသဏ္ဌာန်နှင့် များ





မှော်ဇာမြို့ ခင်ဘားကုန်းမှ တူးဖော်ရရှိသော (ဝဲ) ဌပနာတိုက်ဖုံးကျောက်ပြားပေါ်တွင် ထွင်းထားသည့် ရှေးဟောင်းစေတီပုံ (ယာ) ဆတ္တဝလီခေါ် ထီးအဆင့်ဆင့်ပါရှိသည့်ငွေစေတီနှစ်ဆူ

စွာ မကွာခြားလှချေ။ အနော်ရထာမင်း လက်ထက်တွင်မူ ပစ္စယာများ၊ ဖောင်းရစ်များ၊ နတ်လှေကားများကို တိုးချဲ့ ထည့်သွင်းကာ တည်ဆောက်လာချေ၏။ သို့သော် လောကနန္ဒာဘုရား၏ လုံးပတ်တော်မှာ ရှေးလက်ရာများကဲ့သို့ တဖြိုးတည်းမျှ ရှိသေး၏။ အနော်ရထာမင်း စတင်တည်ဆောက်၍ ကျန်စစ်သားမင်း အပြီးသတ် တည်ထားသော ညောင်ဦး ရွှေစည်းခုံဘုရားတွင် ပစ္စယာထောင့်များ၌ စေတီငယ်များ စိုက်ထူခြင်း၊ နတ်မုတ် နတ်လှေကားများ တပ်ဆင်ခြင်းတို့ ပါဝင်လေသည်။ ရွှေစည်းခုံဘုရား၏ သပိတ်မှောက်နှင့် ခေါင်းလောင်းပုံမှာကား ဝန်းဝိုင်း ဖြောင့်မတ်လျက်ရှိ၏။ (ရွှေစည်းခုံဘုရား — ရှု။) ထိုနောက်မှ ပုဂံပြည်တွင် မင်းမှူးမတ်နှင့် ပြည်သူအများ တည်ထားကိုးကွယ်သော စေတီများမှာ ခေါင်းလောင်းပုံမှ အထက်သို့ သွယ်ပျောင်း ငယ်ငေါ်း သေးသိမ် လာလေတော့သည်။ တရုပ်ပြေးမင်းကောင်းမှု မင်္ဂလာစေတီတော်သည် ပုဂံစေတီများအနက်တွင် အချိုးအစား ပြေပြစ်ဆုံးဖြစ်သည်ဟု ဆိုရပေမည်။ ပစ္စယာထောင့်များတွင် ကလသာအိုးခေါ်သော အမြိုက်အိုး၊ ကြာအိုးများဖြင့် တန်ဆာ ဆင်ထား၏။ (ကလသာအိုး — ရှု။)

ထိုသို့ စေတီပုံရိုးကို တစတစဖြင့် သေးသွယ် ချွန်ထက်သော သဏ္ဌာန်များအဖြစ် ပြောင်းလဲ တည်ဆောက်သည့် အပြင်၊ အသွင် ကွဲပြားခြားနားစွာလည်း တည်ဆောက်ကြသေး၏။ ပုံစံအားဖြင့် ပုဂံပြည် နရပတိစည်သူမင်း လက်ထက်တွင် သီဟိုဠ်ကျွန်းသို့ ဥတ္တရာဇီဝထေရ်နှင့်အတူ ကြွသွားသော ရဟန်းတော်များအနက် ဆပဒထေရ်သည် ပုဂံမြို့သို့ ပြန်လည် ကြွရောက်သည်တွင် တည်ထားသော သီဟိုဠ စေတီပုံ ဆပဒဘုရား၊ အင်းဝမြို့ သာလွန်မင်းတရား လက်ထက်တွင် သီဟိုဠ်မှ ထူပါရုံစေတီတော် သဏ္ဌာန် တည်ဆောက်သော စစ်ကိုင်းမြို့အနီး ကောင်းမှုတော်ဘုရားခေါ် ရာဇမဏိစူဠာစေတီတော် စသည်တို့မှာ အသွင်ကွဲပြားခြားနားသည့် စေတီများဖြစ်ကြ၏။ (ကောင်းမှုတော်စေတီ — ရှု။)

မုတ်ခံစေတီ သို့မဟုတ် ကုလားကျောင်းခံ စေတီတို့မှာကား မဇ္ဈိမဒေသ၌ မြေစိုက်စေတီများ နောက်မှ တည်ဆောက်သည်ဖြစ်၏။ သို့သော် မြန်မာနိုင်ငံတွင် သရေခေတ္တရာ၌ ပေါပေါဘုရားနှင့် တခေတ်တည်းလိုလိုပင် လေးမျက်နှာဘုရား၊ ဗဲဗဲဘုရား၊ ဈေးကူဘုရား စသည့် ဂန္ဓကုဋိတိုက်ပါသော ဘုရားများကို တည်ဆောက် ပူဇော်သည်ကိုတွေ့မြင်ကြရ၏။ ပုဂံခေတ်တွင် ကျန်စစ်သား လက်ထက်၌ တဖက်မုတ်ဂူဘုရားများ စတင် တည်ထားလေသည်။ ထေရဝါဒ သာသနာတော်သည် သုဝဏ္ဏဘုမ်



အနော်ရထာမင်းတည်ခဲ့သော ပုဂံမြို့ သီရိပစ္စယာရွာ လောကနန္ဒာဘုရား

**နရသီဟပတေ့မင်း၏ကောင်းမှုဖြစ်သော ပုဂံမြို့ မင်္ဂလာစေတီ**
(ပုဂံစေတီများအနက် အသပ်ရပ်ဆုံးစေတီဟုအသိအမှတ်ပြုကြသည်။)

မှ တဆင့် ပုဂံပြည်သို့ ပြန့်ပွားလာသည်ဖြစ်ရာ ပုဂံပြည်၌ တည်ဆောက်သော တဖက်မုတ်ဂူဘုရားများသည် မွန်လက်ရာဖြစ်သည်ဟု မှတ်ယူကြ၏။ ပုဂံ အလိုပြည့်ဂူ၊ ပုထိုးသားများဘုရား၊ မြင်းပုဂံ ဂူပြောက်ကြီးဘုရား၊ နဂါးရုံဘုရား စသည်တို့တွင် ဆေးရေးရုပ်များ၊ မွန်အက္ခရာဖြင့် နံရံမင်စာများကို ထောက်၍လည်း မွန်လက်ရာဘုရားများ ဖြစ်သည်ကို သိသာနိုင်၏။ သို့သော် ပိသုကာအရာ၌ကား မဇ္ဈိမဒေသမှ သဏ္ဌာန်ပင်လျှင် တိုက်ရိုက်သော်ငြား၊ မွန်နိုင်ငံ သုဝဏ္ဏဘူမိမှ တဆင့်သော်ငြား၊ အတုယူထားခြင်းမှာ ယှဉ်မှားဖွယ်ရာ မရှိချေ။ မဇ္ဈိမဒေသ၌ သာသနာတော် ထွန်းကားနေစဉ် အသောကမင်းတရားလက်ထက်နှင့် နှောင်းခေတ်ကာလ၌ ကျောက်ဆစ်ပညာ တိုးတက်နေသည့် အလျောက် တောင်ကမ်းပါးများကို ထွင်းဖောက်၍ တဖက်မုတ်ဂူများကို ဝိဟာရစေတီအဖြစ် တည်



ညောင်ဦးမြို့ ဆပဒဘုရား
(သီဟိုဠ်စေတီပုံတည်ထားသည်။)



ညောင်ဦးမြို့မှ တဖက်မုတ်ပါသောစေတီ

### နိုင်ငံခြားမှရှေစတီတော်များနှင့်နှိုင်းရှည့်ချက်

မြန်မာစေတီပုထိုးများ၏ မူလဇာစ်မြစ်မှာ မဇ္ဈိမဒေသမှ သဏ္ဍာန်အနေအထား ပေါက်ပွားလာခြင်း ဖြစ်သော်ငြား လည်း၊ သရေခေတ္တရာခေတ်မှ ယခုမျက်မှောက်အထိ ပုံပန်း သဏ္ဍာန် ပြောင်းလဲ ဆန်းကြယ်လာခြင်းမှာ မြန်မာတို့၏ ကြံရည် ဖန်ရှည်ဖြင့် အနုပညာလက်ရာ ပြောင်မြောက် အောင် စွမ်းဆောင်မှုကြောင့်ပင် ဖြစ်တော့သည်။ ထို ကြောင့် မဇ္ဈိမဒေသမှ စေတီတော်များတွင် ကျောက် ဆစ် ရုပ်တု ရုပ်ကြွ တို့ဖြင့် တန်ဆာ ဆင်ထားသော အရံ အတားများနှင့် တုရိုဏ်တိုင်များ အစား မြန် မာ နိုင် ငံ ၌ စောင်းတန်းနှင့် မုတ်ပြာသာဒ်များကို သစ်သားပန်းပုဖြင့် လက်ရာမြောက်စွာ ခြယ်လယ်ထားသည်ကို တွေ့ရသည်။ သီဟိုဠ်ကျွန်း၌ကား ယခုတိုင်အောင် ဓာတ်တော်တိုက်ဖြစ် သည့် ဓာတုဂဗ္ဘာကို သပိတ်မှောက်အထက်၌ တည်ဆောက် နေသေး၏။ မြန်မာတို့အဖို့မူကား စေတီလုံး၏ ပြေပြစ်မှုကို ရည်ရွယ်ဟန်ဖြင့် အချိုးကျကျ အထက်ပိုင်းသို့ သွယ်ပျောင်း သေးငယ်စွာ ဆောက်လုပ်ကြ၏။ ယိုးဒယားမှ အချို့သော စေတီမြင့်မြင့်များကဲ့သို့ ရှည်လျားသောအထွတ်များ တပ် ဆင်ခြင်းကိုလည်း မပြုလုပ်ကြချေ။ သို့သော် သာသနာ တော် ထွန်းကားရာဖြစ်သော အခြားနိုင်ငံများသည်လည်း မိမိတို့၏ဒေသ၌ ကြွယ်ဝပေါများသော သဘာဝ ဝတ္ထုပစ္စည်း များကို လိုက်၍ရင်း၊ အနုပညာများ တိုးတက်သည်နှင့် အမျှရင်း၊ ဘုရားပုထိုးများကို အံ့မခန်းအောင် ဖန်ဆန်းတည် ဆောက်ကြလေသည်။ ပုံစံအားဖြင့် အင်ဒိုနီးရှား နိုင် ငံ

ဆောက်သည်ကိုတွေ့ရလေသည်။ ထိုမှတဆင့် နည်းယူမှီငြမ်း ၍ ဟိန္ဒူ ဘုရားရှိခိုးကျောင်းများကို တည်ဆောက်လေသ ဖြင့် ပုဂံမြို့မှ ဂူဘုရားများတွင် အချို့ကို စေတီအထွတ်စိုက် ထူ၍ အချို့ကိုသိခရခေါ် ကွမ်း ထောင်ပုံများ တည်ထားပြု လုပ်ကြလေသည်။ ကျန်စစ် မင်းသည် ဂန္ဓမာဒနတောင် နန္ဒမူလလိုဏ် သဏ္ဍာန် နှင့် တူ စွာ အာနန္ဒာဂူဘုရားကို တည် တော်မူကြောင်း အဆိုရှိ၏။ စင်စစ်သော်ကား၊ လေးဖက် မုတ်ပါသော ဂူဘုရားကို အ ဆန်း တ ကြယ် မွမ်း မံ ခြယ် လယ်ထားခြင်း ဖြစ်ချေ သ တည်း။ ထိုမှတဆင့် ကုလား ကျောင်း ခံ စေ တီ တော် များကို လိုဏ် မုတ် နှစ် ဆင့်၊ ငါးမျက်နှာ ရှစ်မျက်နှာ စ သည်ဖြင့် ထူးခြားစွာ တိုး၍ တည်ဆောက်ကြ ပြန်သည်။



ပုဂံမြို့ မြင်းပုဂံရွာ ဂူပြောက်ကြီးဘုရား
(မြစေတီ၏အနောက်မြောက်ယွန်းတွင်ရှိသည်။)

ဂျာဗားကျွန်းတွင် ပုဂံခေတ်မတိုင်မီ ဧအ၊ ဒီ၊ ၇၅၀ ခန့်က တည်ထားသော ဗောရောဗုဓောဘုရားသည် မြင့်မိုတောင် သဏ္ဌာန် ဖြစ်၍ ကျောက် ရုပ်တု ဆင်းတုပေါင်း ထောင် သောင်းတို့ဖြင့် ဇာတ်နိပါတ်တော်များကို သရုပ်ဖော်ကာ မွမ်းမံခြယ်လယ်ထားသဖြင့်၊ ဗုဒ္ဓအယူဝါဒီများအားသာလျှင် သဒ္ဓါကြည်ညိုစိတ် ပွားများစေသည်သာမက၊ နိုင်ငံတကာ ကပင် ချီးမွမ်းအံ့သြဖွယ်ရာဖြစ်စေသည်။ ဦးလှမောင်။

**စေတုတ္တရာမြို့။** ။မင်းဘူးခရိုင် စေတုတ္တရာမြို့နယ်၏ ရုံး စိုက်ရာမြို့ဖြစ်သည်။ စလင်းနယ်တွင် ပါဝင်၍၊ ဧရာဝတီ မြစ်ကမ်းမှ ဝေးကွာသည့် အတွင်းဖက်ကျသော အရပ်တွင် တည်ရှိသည်။ စလင်းမြို့မှ ၃၆ မိုင်ခန့် ဝေးသည်။ စေတုတ္တ ရာမြို့သည် ရခိုင်ရိုးမတောင်၏ အရှေ့ဖက် ဆင်ခြေလျှော တွင် တည်ရှိသည်။ မြို့မှာ ရှည်လျားသည်။ ရဲဌာနသည် မြို့အဝင်ဝတွင်ရှိသည်။ မုန်းမြစ်သည် မြို့နယ်အလယ်ကို တည့်တည့်ဖြတ်၍ မြောက်မှတောင်သို့ စီးဆင်း၏။ ထို ဒေသကို မုန်းချောင်းနယ်ဟုလည်း ခေါ်သည်။ မြို့နယ် ၏အကျယ်အဝန်းမှာ ၁၁၂ စတုရန်းမိုင်ဖြစ်၍ ရွာပေါင်း ၂၀၀ ကျော်ပါဝင်သည်။ မုန်းမြစ်ဝှမ်းတလျှောက်တွင် ညီညာ ပျံ့ပျူးသော မြေပြင်များရှိသည်။ မြို့နယ်၏ ကျန်အပိုင်းမှာ တောင်ကုန်းဒေသများသာဖြစ်၍ ၄က် ဖျားထူသည်။

မြို့နယ်၏ လူဦးရေမှာ ၁၉၅၆ ခုနှစ်အတွက် ခန့်မှန်းခြေ စာရင်းအရ ၃၀,၇၄၇ ယောက်ခန့်ဖြစ်သည်။ မြန်မာလူမျိုး၏လူဦးရေ များ ပြားသော်လည်း ချင်းလူမျိုးတို့လည်း ရှိသေးသည်။ ထိုဒေသရှိ ချင်းများ သည် မြန်မာများနှင့် နီးစပ်ရောနှော ပေါင်းသင်း ဆက်ဆံခဲ့သည်မှာ ကြာ မြင့် ဖြစ်သဖြင့် အမူအရာ ဓလေ့ ထုံးစံ အားဖြင့် မြန်မာများနှင့် များစွာ ကွဲပြားခြားနားခြင်း မရှိပေ။

စေတုတ္တရာနယ်မှ ထွက်ကုန်များမှာ ကျွန်းသစ်၊ အင်ကြင်း၊ ရှားစေး၊ ချိပ်၊ အင်တွဲ၊ ဝါ၊ လူး၊ ဆပ်၊ ပြောင်းများ ဖြစ်၍ အဓိက အလုပ်အကိုင်များမှာ စပါးစိုက်ပျိုးခြင်း၊ သစ်ဝါးခုတ်ခြင်း စသည်တို့ဖြစ်၏။

စေတုတ္တရာ မြို့နယ်၌ ယနေ့တိုင် ရှေးရိုးဆန်သော ဝတ်စားဆင်ယင် ပုံကို တွေ့နိုင်သည်။ အသုံးအ ဆောင်များတွင်လည်း ဒေါင်းလန်း၊ မြေအိုး၊ မြေခွက်၊ ယွန်းထည် စသည်တို့ကို ယခုတိုင် သုံးစွဲ လျက်ရှိကြသည်။ အလှူအတန်း ပွဲလမ်းသဘင် စသည် တို့တွင် မြန်မာ ရှေးဟောင်း တူရိယာများကို တီးမှုတ် ကြလျက် အရာရာတွင် စုပေါင်းလုပ်ဆောင်ကြသော အလေ့ အထရှိသည်။

စေတုတ္တရာမြို့၏ မြောက်ဖက် ၂၇ မိုင်ခန့် အကွာတွင် တောင်ထိပ်ပေါ်၌ ရေကန်ရှိသော ကန်တောင်ကြီးရှိသည်။ မြို့နှင့် သုံးမိုင်ကွာ ဆင်မြီးချောင်း ကမ်းပါး၌ ကျောက်ခဲ ပေါ်တွင် စေတီသဏ္ဌာန် ကျောက်အဆင့်ဆင့် တင်လျက်ရှိ သော ခမောက်ပုံနှင့်တူသည့် ကျောက်ခမောက် ဆိုသည့် နေရာလည်းရှိသည်။

**စဲလဗီးကျွန်း။** ။စဲလဗီးကျွန်းမှာ ယခုအခါ အင်ဒိုနီးရှား ပြည်ထောင်စုနိုင်ငံဟု ခေါ်သော အရှေ့အိန္ဒိယကျွန်းစုတွင် ပါဝင်သည့် ကျွန်းကြီး ငါးကျွန်းအနက် တကျွန်းဖြစ် သည်။ ဖိလစ်ပိုင်ကျွန်းစု တောင်ဖက် ဗော်နီယိုကျွန်းနှင့် မိုလပ်ကပ်ကျွန်း နှစ်ခုစပ်ကြားတွင် တည်ရှိသည်။ အကျယ်အဝန်းအားဖြင့် စတုရန်းမိုင်ပေါင်း ၇၂,၀၀၀ ကျော်ရှိသည်။

စဲလဗီးကျွန်းမှာ အရှေ့နှင့်တောင်ဖက်သို့ ကျွန်းဆွယ် ၄ ခု ထိုးထွက်လျက် ရှိ၍ ပင် လယ် ကမ်း ရိုး တန်း မှာ အကွေ့ အကောက်များလှသဖြင့် မိုင်ပေါင်း ၃၅၀၀ မျှရှည်လျား သည်။ အလယ်ပိုင်းနှင့် မြောက်ပိုင်းဒေသတို့သည် တောင်



စဲလဗီးကျွန်း တည်နေရာပြမြေပုံ

ထူထပ်၍ မီးတောင်ပေါ်များသည်။ ထူးခြားသည့် အချက်တခုမှာ ရေအိုင်ကြီးငယ် အမြောက်အမြား ရှိခြင်းပင် ဖြစ်သည်။ ရှခင်းတို့မှာ အလွန်သာယာသည်။ သစ်တောများ၌ ဝက်သစ်ချပင်၊ ကျွန်းပင်၊ ပျဉ်းကတိုးပင် စသော အဖိုးတန်သစ်ပင်များပေါက်သည်။

စဲလဗီးကျွန်းသည် အီကွေတာအပူပိုင်းဒေသ၌ ကျရောက်နေသော်လည်း ပင်လယ်လေပြေအေးတိုက်ခတ်ခြင်းကြောင့် များစွာ မပူအိုက်လှချေ။ ဤကျွန်း၏ အဓိက ထွက်ကုန်များမှာ ကာဖီ၊ သကြား၊ ဟင်းခတ်အမွှေးအကြိုင်၊ ဆန်၊ ပြောင်းဖူး၊ ကြက်ပေါင်စေးနှင့် ဆေးရွက်တို့ ဖြစ်သည်။ ရွှေ၊ ကြေးနီ၊ သွပ်၊ သံ၊ ဆားနှင့် ကျောက်မီးသွေးအပြင် အဖိုးတန် ကျောက် မျက် ရတနာ များ လည်း အနည်းငယ် ထွက်သည်။

စဲလဗီးကျွန်း၏ လူဦးရေမှာ ၄,၂၃၀,၀၀၀ (၁၉၃၀) ခန့်ရှိသည်။ အများဆုံးနေထိုင်သော လူမျိုးမှာ ပသျှူးလူမျိုးဖြစ်သည်။ ပသျှူးလူမျိုးတို့သည် တုတ်ခိုင်သန်မာသော ကိုယ်ကာယရှိ၍ ဝီရိယကောင်းသည်။ ဤကျွန်းကို ၁၅၁၂ ခုနှစ်တွင် ပေါ်တူဂီ လူမျိုးတို့က ရှေးဦးစွာ တွေ့ရှိသိမ်းပိုက်ခဲ့ကြသည်။ ၁၇ ရာစုနှစ် အလယ်ပိုင်းလောက်တွင် ဒပ်ချတို့၏ လက်ထဲသို့ ကျရောက်ခဲ့သည်။ ဒုတိယကမ္ဘာစစ် ဖြစ်သော အခါ ဂျပန်က ၁၉၄၂ ခုနှစ်မှ ၁၉၄၅ ခုနှစ်အထိ သိမ်းပိုက်ထားသည်။ ၁၉၄၆ ခုနှစ် နိုဝင်ဘာလတွင် အင်ဒိုနီးရှားပြည်ထောင်စု နယ်တနယ် အဖြစ်သို့ ရောက် ရှိ သွား လေ သည်။ (အင်ဒိုနီးရှားနိုင်ငံ — ရှု။)

**စော်ဘွား။** ။ရှမ်းစော်ဘွား — ရှု။

# ကျောက်စာနှင့်တရုတ်ရာဇဝင်ထွက် မိဖုရားဖွားစော

**ပုဂံမင်းဆက် နောက်ပိုင်းတွင်၊ စောဘွဲ့ခံ မိဖုရားအများ ပေါ်ပေါက်ခဲ့သည်ကို နှောင်းခေတ် ရာဇဝင်ဆရာတို့ စထွေးရှက်မှတ်မှား ခဲ့ကြ၏။ ဤစာမူ၌၊ မိဖုရားဖွားစောကိုယ်တိုင် ရေးထိုးခဲ့သော ကျောက်စာပါ တိကျမှန်ကန်သော အချက်အလက်များကို တင်ပြထားသဖြင့်၊ ရာဇဝင်သုတေသီများအဘို့ အသုံးဝင်မည့် သုတေသနတရပ်ဖြစ်ပေသည်။**

**စောမိဖုရား။** ။ပုဂံကျောက်စာတို့တွင် စဝ်ဟု ပါရှိလျက် ယခုအခါတွင် စောဟု ရေးကြသော စကားလုံးသည် နန်ချောင်ရှမ်းတို့၏ ဘွဲ့အမည်တခုဖြစ်၍၊ ယင်းကို ပုဂံကျောက်စာပါ မင်းမိဖုရား အမည်များတွင် မကြာခဏ တွေ့ရသည်။ ပုဂံဆက် နောက်ပိုင်းတွင် စောဘွဲ့ခံ မိဖုရားအများ ပေါ်ပေါက်ခဲ့သည်ကို နှောင်းခေတ် ရာဇဝင်ဆရာတို့သည် ထွေးရှက်မှတ်မှားကြသည်။ တရုတ်ပြေးမင်း (တရုက်ပ္လိယ်မင်း၊ မြန်မာ ၆၁၇-၆၄၈) ၏ ကျော်စောထင်ရှားသော မိဖုရားကြီး ဖွားစောသည်ကား သက္ကရာဇ် ၆၅၂ ခုနှစ်၊ ၆၅၃ ခုနှစ်တို့တွင် ပုဂံပြည် မင်းနံ့သူအရပ်၌ စောလှဝန်းဘုရားကျောက်စာတို့ကို ရေးထိုးခဲ့သည့် သခင်ရာဇသူ ဖွားစော (သိုင်ရစသူဖွာစဝ်) ဖြစ်သည်။ ယင်းကျောက်စာတို့ကို မြန်မာ တိုင်း ရင်း ကျောက် စာ များ၊ တတိယထုပ်၊ ဓာတ်ပုံ ၂၇၂-၅ တို့တွင် ပြထားသည်။ မြန်မာနိုင်ငံသုတေသန အသင်းဂျာနယ်၊ အတွဲ ၂၆၊ စာမျက်နှာ ၁၃၇-ဂ တို့တွင်လည်း အချို့အဝက်ကို အင်္ဂလိပ်ဘာသာ ပြန်ဆိုပုံနှိပ်ထားသည်။ ယင်းတို့အရဆိုလျှင် မိဖုရားဖွားစောသည် ဇာတိအားဖြင့် တောင်သူကြီးသမီးမဟုတ်။ ပုဂံနန်းရိုး မင်းသမီးတပါးဖြစ်သည်ကို သိရသည်။

ဖွားစော၏အဖိုးမှာ ကျစွာမင်းကြီး (က္လစွာမင်ကြီ၊ မြန်မာ ၅၉၇-၆၁၁) ဖြစ်သည်။ မင်းကြီးသည် ဖွားစောကို အလွန်ချစ်မြတ်နိုး၍ သမီးဟုခေါ်လေ့ရှိသည်။ အဖွားမှာ မင်းကြီး၏ မိဖုရားတပါး ဖြစ်ရာ၏ဟု မှတ်ယူဘွယ် ရှိသော စောမင်းလှ (စဝ်မင်လှ) ဖြစ်သည်။ စောမင်းလှသည်လည်း ဖွားစောကို အလွန်ချစ်မြတ်နိုးသည်။ အမိမှာ ကျစွာမင်းကြီး၏ သမီးတော်တပါး ဖြစ်၍ ဟန်လင်းသည်၏ သား(မြေး ?) အမတ်သရေ (သရိယ်) နှင့် လက်ထပ်သည်။ အမတ်သရေသည် ကျစွာမင်းနှင့် ဥစ္စနာမင်းတို့၏ လက်ထက်တွင်၎င်း၊ တရုတ်ပြေးမင်းလက်ထက် စောစောပိုင်းတွင်၎င်း ထင်ရှားသည်။ သက္ကရာဇ် ၅၉၉ ခုနှစ်တွင် စောလှဝန်းဘုရားနှင့် ကျောင်းတို့ကို ဦးစွာတည်သည်။ ဖွားစော၏ ညီမတယောက်ကား တြိလောကစန္ဒြ ဟူ၍၎င်း၊ သုံးလူ.လ (သုံလူလ) ဟူ၍၎င်း တွင်၍ ဥစ္စနာမင်း (မြန်မာ ၆၁၁-၇) ၏ တောင်ဖြင်သည် မိဖုရားကြီးဖြစ်သည်။ (ကြာသော် သုံလူလကို သမ္ဘူလဟု မှတ်မှားကြသည်။) တလမြို့ (တွံတေးမြို့) တွင် ဥစ္စနာမင်းတို လုပ်ကြံခံရပြီးနောက်၌ တရုတ်ပြေးမင်းဟု တွင်အံ့သော ပန်းပွတ်သည်မနှင့် ရသော သားတော်သည် ပုဂံထီးနန်းကို ဆက်ခံသည်။ ထိုမင်းသည် ငယ်ရွယ်သေးသည် ဖြစ်၍၊ မင်းအဖြစ်၌ တည်တံ့ ခိုင်မြဲရန် အလို့ငှာ ဖွားစော၏အစ်မ ရတနာပုံကို နန်းတင်သည်။ အလွန်လည်း ချစ်မြတ်နိုးသည်။ နန်းတင်၍ခုနစ်နှစ်အကြာ သက္ကရာဇ် ၆၂၄ ခုတွင် ရတနာပုံ အနိစ္စရောက်လျှင်၊ မင်းကြီးသည် မိဖုရားကိုရည်၍၊ မင်းနံ့သူအရပ်တွင် ကျောင်းနှင့်ကူတို့ကို တည်သည်။ ကူမှာ ယခုအခါ လေးဂူဟုတွင်သည်။ ရတနာပုံမရှိမှ ညီမတော် ဖွားစောကို နန်းတင်သည်ဟု ယူမှတ်ဖွယ်ရှိသည်။ ဖွားစောတွင် သားသမီးမရှိဟု

ရာဇဝင်တို့ဆိုသည်ကား မမှန်။ တရုတ်ပြေးမင်းနှင့် သားတော်နှစ်ပါးရသည်။ ယင်းတို့ကား ကျောက်စာတို့တွင် 'ချစ်စွာသောငါ့သားလှ' ဟု ဆိုသော မင်းသား ရာဇသူတပါး၊ ညီ မင်းသားကျစွာတပါးတို့သည်း။ သက္ကရာဇ် ၆၂၆ ခုနှစ်တွင် ဖွားစောသည် ခမည်းတော်၏ကျောင်း၌ ဦးစွာသောအလှူကို ပြုတော်မူသည်။

၆၄၆ ခု (ခရစ် ၁၂၈၄) နှစ် ဆောင်းရာသီတွင် တရုတ်စစ်ရောက်၍ မင်းကြီး အကြေသို့စုန်သော်၊ ဖွားစောလည်း ပါ၍၊ ပြည်မြို့ အနောက်ဖက် လှည်းကျမုဆိုးရွာ (လှည်းကျွမုဆိုဝ်ရွာ) သို့ ရောက်ဝင်စခန်းချခဲ့ပုံရသည်။ ၆၄၇၊ ၆၄၉ ခုနှစ်ဆီတွင် တရုတ်မင်း ခုဗိလဲခန်နှင့် စစ်ပြေငြိမ်း၍ ပုဂံသို့ဆန်တက်ရာတွင် ပြည်မြို့၌ ပြည်သူကြီးလုပ်ကြံ၍ မင်းကြီးအနိစ္စရောက်သည်။ တဖန် ပြည်သူကြီးကို မင်းကြီး၏သားတော်တပါး ဖြစ်သော တလသူကြီးက လုပ်ကြံဖျောက်ဖျက်လိုက်ပုံရသည်။ ထိုနောက် တလသူကြီးသည် တရုတ်တို့ထံတွင် အညွှံခံ၍၊ ၆၅၁ ခုနှစ် နွယ်တာလတွင် ပုဂံပြည်၌ ရွှေနန်းရှင် (ရှယ်နန်သျှင်) ဟူသောအမည်ဖြင့် အဘိသိက်ခံယူသည်။ သို့ပင်ဖြစ်လင့်ကစား၊ ရွှေနန်းရှင်သည် ကျောက်ဆည်ကိုမင်းပြုသော ရှမ်းညီနောင်အမတ်သုံးပါးတို့၏ မျက်နှာကိုကြည့်၍သာလျှင် မင်းပြုရရှာသည်။ ထိုအခါ ဖွားစောသည် နှစ်ဦးနှစ်ဖက်လုံးနှင့် သင့်မြတ်အောင် ကြံဆောင်နေထိုင်သည်။ ရွှေနန်းရှင်၏ မိဖုရားအဖြစ်ကိုလည်း ခံယူသည်။ ၆၅၂ ခုနှစ်တွင် ဖွားစောသည် သားတော်များနှင့်အတူ ပုဂံပြည်သို့ ပြန်ရောက်နေပြီ ဖြစ်၍၊ စောလှဝန်းကျောင်းကို မြတ်ကြီးအစလဗုဒ္ဓိအား တင်လှူသည်။ ၆၅၃ ခုနှစ် တန်ခူးလပြည့်နေ့တွင် သားတော်ရာဇသူ အနိစ္စရောက်ရာ ဖွားစောသည် နှလုံးထိတ်လန့်ရကား၊ သားတော်၏ကောင်းမှုစေတီ မပြီးသေးသည်ကို အပြီးတိုင် တည်တော်မူပြီးလျှင်၊ ခမ်းလည်း ခမ်းနား ကျေ့လည်း ကျေ့ကွဲ့ဘွယ်ကောင်းသော ဆုတောင်းကြီးကို တောင်းဆို ရေးထိုးခဲ့သည်။ ထိုဆုတောင်းကြီးကား ပုဂံခေတ်၏ နောက်ဆုံးပိတ် မရဏတေးသံကြီးပင်ဖြစ်သည်ဟု ဆိုထိုက်တော့သည်။ ထိုဆုတောင်းကြီးမှ ကောက်နုတ်ချက်အနည်းငယ်ကို ယခုခေတ် အရေးမျိုးဖြင့် လဲလှယ်၍ အောက်တွင် ဖော်ပြထားသည်။

"သက္ကရာဇ် ၆၅၃ ခု နယုန်လဆန်း ၁၁ ရက် ၅ နေ့ အစောရာဇသူ စေတီတည်သော ရာဇသူမိ နှလုံးထိတ်လန့်ရကား ငါ၏ မိဖဘိုးဘေးတို့လည်း အမွေဥစ္စာတို့ကို စွန့်ခဲ့၍ သွားခဲ့ကုန်၏။ ချစ်စွာသော ငါ့သားလှလည်း အမွေဥစ္စာနှင့်အကွ ငါမိရင်းကို့ စွန့်ခဲ့ပြီးကား ငါလည်း သူမယူနိုင်၍ထားခဲ့သော အမွေဥစ္စာကို ငါလည်း ထိုသို့လည်းကောင်း မပါတတ်သောအကြောင်းကို သိရကား ငါ့မိ ငါ့ဖ ငါ့သား အမျိုးခပ်သိမ်းကို နိဗ္ဗာန်၏ ပစ္စည်း၊ အထောက်အပင့် ဖြစ်စိမ့်သောငှာ လှူတဲ့သောမြေ - - -"

"သက္ကရာဇ် ၆၅၃ ခု နယုန်လဆန်း ၁၀ ရက် ၄ နေ့ ကွန်းပြောက်ကြီး ထွက်တော်မူသော် အတို့ကျွန် ဖလည်း မရှိ။ အတို့ကျွန် မိလည်း မရှိ။ အတို့ကျွန် သားလည်း မရှိ။ အတို့ကျွန် ဖကျွန်၊ အတို့ကျွန် မိကျွန်၊ အတို့ကျွန်ကျွန်၊ ခပ်သိမ်းသောကျွန်ကား အတို့ကျွန်မိကျောင်း၊ အတို့ကျွန်ဖကျောင်း၊ အတို့ကျွန်သားစေတီ၊ ဤသုံးပါးကို အတို့ကျွန် လှူရကား လှူတော်မူပါစေချင်ဟု ဆိုသတည်း။"

"ဤသို့ ငါလှူသောအကျိုးကား ငါ့အဖိုး ကျစွာမင်းကြီး၊ ငါ့ဖွား စောမင်းလှ၊ ငါ့မိမင်း၊ ငါ့ဖ၊ ငါ့ချစ်သားနှစ်ယောက် အဖဖြစ်သော အတို့သခင်မင်းကြီး၊ ငါ့သခင်သား တရားမင်းကြီး၊ ငါ့ဦးရီး သိက်သူ၊ ငါ့မိထွေး အမိဖုရား သုံးလူ့လ၊ ငါ့အစ်မ အမိဖုရား ရတနာပုံ၊ ငါ့မောင်သုံးယောက်၊ ငါ့ညီမ ၂ ယောက်၊ လွန်လေသော အမျိုးခပ်သိမ်း၊ ယခုသော အမျိုးခပ်သိမ်း၊ ကျေးကျွန်ခပ်သိမ်း၊ ရှေတော်နေသော အမတ်ခပ်သိမ်း၊ မောင်းမမိသင်ခပ်သိမ်း၊ အထက်ကား ဘဝဂ်တိုင်အောင်၊ အောက်ကား အဝီစိတိုင်အောင်၊ လေးမျက်နှာ အနန္တစကြာဝဠာခပ်သိမ်း ရပါစေ၏။ - - -"

"ငါလည်း ဤကောင်းမှုအကျိုးဖြင့်ကား ဤမှုသေခဲ့လျှင် စွယ်တော်ကိုလျှင် မကွဲမကင်း ညန်နက်လျှင် ရှိခိုးရသော နတ်သား ဖြစ်လို၏။ ငါလိုသောဆု မရောက်သောကြားကား ဘုရားလောင်းတကာ ဖြည့်ရာသော ဒသပါရမီကို ဖြည့်ရလိုသတည်း။"

သက္ကရာဇ် ၆၅၉ ခုနှင့် ၆၆၁ ခုအတွင်းတွင် ရှမ်းညီနောင်တို့သည် တရုတ်တို့ထံတွင် အညွှံခံသော ရွှေနန်းရှင်ကို အရိုသေတန်ကာ နန်းမှချ၍ ဖျောက်ဖျက်ခဲ့သည်။ ထိုနောက် ရွှေနန်းရှင်၏သား စောနစ် (စဝ်နစ်) ကို ပုဂံရွှေနန်းတွင် တင်ကြပြန်၍ မိမိတို့မှုကား ကျောက်ဆည်တွင် မင်းထီးမူကြသည်။ ပုဂံထီးမွေနန်းမွေကို ပိုမို ခံယူခွင့်ရှိသော ဖွားစော၏သား ကျစွာကိုမူ ရှမ်းညီနောင်တို့သည် ကျောက်ဆည်တွင် ထိန်းသိမ်းထားပုံရသည်။ နောင်သောအခါ ထိုမင်းသားကို မြင်စိုင်းမြို့အနီးရှိ ပုထိုးနီရွာကိုစားရသော ပုထိုးနီးမင်း (ပုထိုဝ်နီမင်) နှင့် လက်ထပ်ပေးစားလိုက်သည်။

ဖွားစောမှာ မောင်သုံးယောက်နှင့် ညီမနှစ်ယောက် ရှိသည်။ ဖွားစော မည်သည့်သက္ကရာဇ်တွင် အနိစ္စရောက်သည်ကို အတိအကျ မသိရသော်လည်း ရွှေနန်းရှင်အလျှင် အနိစ္စရောက်သည်မှာကား ထင်ရှားသည်။ ဖွားစောမရှိလျှင် ညီမတော်သည် တတိယဖွားစော အဖြစ်ဖြင့် မိဖုရားအရာကိုရ၍ နောင်သောအခါ စောနစ်၏ မိဖုရားကြီးလည်း

ဖြစ်လာသည်။ ဤတတိယဖွားစောသည် သားတော်သမီးတော်တို့နှင့်အတူ ပုဂံအရှေ့တောင်ဘက် သုံးမိုင်ကွာတွင် တည်ရှိသော ရွာကြီး၌ ဆက်လက်နေထိုင်ကာ ရွာကို ဖွားစောရွာဟု တွင်စေခဲ့သည်။ ကူဘုရား၊ စေတီ၊ ကုလားကျောင်း များစွာတို့ကိုလည်း တည်ဆောက် လှူတန်းခဲ့သည်။ ယင်းတို့သည်ကား ပုဂံခေတ်၏ နောက်ဆုံးပိတ်ပိသုကာလက်ရာကောင်းများပေတည်း။ ဂျီ၊အိပ်၊လု(စ)။

**စောနှင့်စော်**။ ။ပုဂံကျောက်စာတို့တွင် စဝ်၊ အစဝ်၊ စာဝ်၊ ဇဝ်၊ အဇဝ်၊ ဇာဝ် စသည်ဖြင့်ရေး၍ ယခုအခါ စောဟူ၍ရင်း၊ စော် ဟူ၍ရင်း ရေးကြသော စကားလုံးသည် ကား တဲလူမျိုးစု၏စကားမှ ဆင်းသက်သည့် ရှေးဟောင်းမြန်မာစကားတလုံးဖြစ်သည်။ ရှမ်းစာတွင် စဝ် ဟူ၍ ရေးသည်။ ယိုးဒယားစာတွင် စော ဟူ၍ ရေးသည်။ အသျှင်၊ သခင်၊ မင်း၊ ဘုရင်ဟု အနက်ထွက်သည်။

ခေတ်ဦးမြန်မာတို့သည် မြန်မာပြည် မြေနိမ့် လွင်ပြင်များသို့ မဆင်းသက်မီက တရုတ်မြန်မာနယ်ခြား ပေါ်ရှမ်း (မောရှမ်း) တို့၏ တောင်ဘက် ယူနန်ပြည် နန်စောမင်းတို့၏ ပိုင်နက်တွင် နေထိုင်ကြသည်။ သက္ကရာဇ် ၂၂၅ ခုနှစ် (ခရစ် ၈၆၃) တွင် ရာဇဝင်ဆရာ ဖန်ချိုသည် မန်ရှူခေါ် ရာဇဝင် အခန်း ၄ ၌ မြန်မာတို့ အကြောင်းကို ဤသို့ရေးခဲ့သည်။

'ထိုသူတို့သည် မိမိတို့၏ အကြီးအကဲများကို မင်းဟု ခေါ်ကြသည်။ ထို မင်းကိုပင် နန်စောတို့က မင်းစောဟု ခေါ်ကြပြန်သည်။'

နန်စောဆိုသည်မှာ တရုတ်စကားနှင့် တဲစကား စပ်နေသော တရုတ်တဲစပ်စကားဖြစ်သည်။ နန်ဆိုသည်မှာ တရုတ်စကား တောင်ဘက်အရပ် ဆိုသည်။ စော ဆိုသည်မှာ တဲစကား မင်းဆိုသည်။ တဲစကား စော နှင့် မြန်မာစကား မင်း တို့မှာ အနက်တူကြသည်။ အရှေ့သို့လားပြန်သော်၊ သံလွင်နှင့် မဲခေါင်မြစ်အကြား ဒေသတွင် မြန်မာနွယ်လူမျိုးများ ရှိကြပြန်သည်။ ထိုလူမျိုးတို့ကိုလည်း ရာဇဝင်ဆရာဖန်ချိုက မွှင်စို သို့မဟုတ် ဝင်စုဟု ခေါ်ထားသည်။ ယင်းစကားတို့သည် မင်းစောနှင့် သဘောတူ ဒေသန္တရစကားများ ဖြစ်ကြသည်။ နန်စော မြန်မာ လူမျိုးတို့၏ ရှေးစကားတွင် ထင်ရှား သော ပျူစောထီးနှင့် ထီးမင်းစောတို့ကိုလည်း တရုတ်တို့က ပျူစုတိနှင့် တိမင်စုဟု ရေးကြသည်။

မူလထိုးကျောက်စာတို့တွင် အစောဆုံးတွေ့ရသည့် စောရဟန်းမင်း (စဝ်ရဟန်) သည် ဤ နန်စောဘွဲ့ကို ခံယူထားသည်။ အနိရုဒ္ဓကိုလည်း ရာဇဝင်တို့တွင် အနော်ရထာမင်းစောဟု ခေါ်ကြသည်။ (အနော်ရထာ—ရှု။) အနော်ရထာ၏သားတော်ကို မူလထိုးကျောက်စာတို့တွင် မင်းလုလင်ဟုရေး၍ ရာဇဝင်တို့တွင် စောလူးဟု ရေးကြသည်။ (စောလူးမင်း—ရှု။) တရုတ်ရာဇဝင်နှင့် မြန်မာရာဇဝင်တို့တွင် စောနစ်ဟုခေါ်သောမင်းကို ကျောက်စာတို့တွင် မင်းလုလင်ဟုပင် ရေးကြသည်။ ကျစွာမင်းကြီးကိုလည်း မျက်မှောက်ထိုး ကျောက်စာတို့တွင် စောကြီး (စဝ်ကြိ) ဟု ရေးကြသည်။

ပုဂံခေတ် ဖိုဖုရားနှင့် မင်းသမီးများသည် မိမိတို့၏အမည် အစ၌ စော (စဝ်) ကို များစွာ တပ်လေ့ရှိသည်။ နားတောင်းများမင်း၏ မယ်တော်သည် စောမြကန်သည် ဟူသော အမည်ကို ခံယူသည်။ အစောမင်းလှဆိုသော မင်းသမီးတပါးလည်း ရှိသေးသည်။ ဥစ္စာနာ၏မိဖုရား သုံးလူလတွင် အစောကြွ (အစဝ်ကြွ = ဂျမ်းတို့၏ အသျှင်) ဟူသော သမီးတော်တပါးရှိသည်။ ဤစကားလုံးပါသော မိဖုရားမောင်းမတို့၏ အမည်ကား များစွာ။ (စောမိဖုရား—ရှု။)

သက္ကရာဇ် ၅၆၀ ပြည့်နှစ်တွင် ဓမ္မရာဇက ဘုရား၌ မောင်းမခင်မိယယ်အမည်ရှိသော မောင်းမယယ်တဦးသည် အလှူပြုသည်။ သက္ကရာဇ် ၅၆၇ ခုနှစ်သို့ ရောက်သောအခါ ထိုမောင်းမယယ် သည်ပင် အလှူ ပြုပြန်သည်။ သို့သော် အမည်ကိုကား မောင်းမ စောခင်မိယယ်ဟု စောဘွဲ့ဆင့်၍ ရေးသည်။ ထိုသက္ကရာဇ်နှစ်ရပ်အကြားတွင် နရပတိစည်သူမင်းသည် ထိုမောင်းမယယ်ကို စော အဆင့်အတန်းသို့ တင်မြှောက်လိုက်ခြင်း ဖြစ်တန်ရာသည်။

သက္ကရာဇ် ၅၂၇ ခုနှစ်ထိုး ဓမ္မာရံကျောက်စာတွင် မင်းသမီး အစောလတ် (အဇာဝ်လတ်) သည် မြန်မာစာ စံပြုရေးထုံးကို တီထွင်သည်။ ထိုကျောက်စာတွင် မင်းသမီးသည် မိမိ၏အမည်ကို အဇာဝ်လတ်ဟု ရေးသည်။ • ဤအချက်ကိုထောက်သော် ထိုခေတ်ကပင် ဤစကားလုံးကို စော်ဘွား (ကောင်းကင်အသျှင်) ဟူရာတွင်ကဲ့သို့ အော်ကာရန်သံနှင့် ခေါ်ဝေါ်နေကြပြီဟု မှတ်ယူဘွယ်ရှိသည်။

ကရင်လူမျိုးတို့သည် ယောကျ်ားအမည်ရှေ့တွင် အမြတ်တနိုး ထည့်သွင်း ခေါ်ဝေါ်ကြသော စော သည့်လည်း ဤ စကားလုံးပင် ဖြစ်ပေရာသတည်း။ ဂျီ၊အိပ်၊လု(စ)။

**စောလူးမင်း** (မြန်မာ ၄၃၉–၄၄၆)။ ။'ကောင်းကျိုးမှေ့ရွာ၊ နောရထာလျှင်၊ နောင်လာရှင့်၊ ပြုစုခဲ့၏၊ သုံးဆဲ့သုံးနှစ်၊ နတ်ဌာန်ဖြစ်က၊ သားစစ်စောလူး၊ ဆက်ကာမျူးသည်၊ ကြည်နူးတည့်နီးဝေး၊ ပျပ်ဝတ်ကျေး၊' ဟု ပလိပ်ရွာစား ဦးဖျော်၏ ရှေ့နားတော်သွင်း ချောင်း၌ ဖွဲ့ဆိုထားသည်အတိုင်း စောလူးမင်းသည် ပဌမ မြန်မာ၊ မွန်၊ ပျူ နိုင်ငံတော်ကြီးကို စတင် တည်ထောင်ခဲ့သူ အနော်ရထာမင်း၏ မိဖုရားကြီး အဂ္ဂမဟေသီမှ ဖွားမြင်၍ အနော်ရထာ လွန်သောအခါ၊

သက္ကရာဇ် ၄၃၉ မှ ၄၄၆ ခုနှစ်အထိ ပုဂံထီးနန်းကို ဆက်လက်စိုးစံလေသည်။ ဤသက္ကရာဇ်နှင့် စပ်လျဉ်း၍၊ မှန်နန်းမဟာရာဇဝင်တော် အလိုမှာ စောလူးမင်း ထီးနန်းစံ သက္ကရာဇ်သည် ၄၂၁ မှ ၄၂၆ ခုနှစ်အထိဖြစ်သည်။ သို့ရာတွင် ပုဂံမင်းဆက်တွင် အနော်ရထာ၏ခေတ်ကို မြစေတီကျောက်စာနှင့် ညှိနှိုင်းကြည့်သောအခါ၊ အနော်ရထာ နန်းစံသက္ကရာဇ် ၄၀၆-၄၃၉ ခုနှစ်၊ စောလူး နန်းစံသက္ကရာဇ် ၄၃၉-၄၄၆ ခုနှစ်၊ ကျန်စစ်သား နန်းစံသက္ကရာဇ် ၄၄၆-၄၇၄ ခုနှစ် ဟု တွေ့ရလေသည်။ (ကျန်စစ်သားမင်း — ရှု။) အနော်ရထာ၏ နန်းတက်နှစ်ကို ၄၀၆ ဟူ၍ သာလွန်မင်းတရားကြီး လက်ထက်တွင် ဇာဂရ ပြုစုရေးသားသော ဇာတာပုံနှင့်ပြ ထားသည့် ရာဇဝင်တွင် ဖော်ပြထားသည်။ အနော်ရထာ နန်းစည်းစိမ် ၃၃ နှစ်ကိုနှောသော် စောလူးမင်း၏ နန်းတက်သက္ကရာဇ်မှာ ၄၃၉ ဖြစ်သည်။

စောလူးမင်းကား ခမည်းတော်ကဲ့သို့ အရည်အခြင်းနှင့် ပြည့်စုံသူ မဟုတ်ချေ။ လုပ်ရည်ကြံရည်မရှိ၊ အပျော်အရွှင်နှင့်သာနေ၏။ ပညာရှိတို့လျှောက်သော စကားကိုလည်း မယူ၊ မှူးကြီးမတ်ရာတို့ကိုလည်း နှလုံးမကြည်ရှိအောင် ပြုလေ့ရှိ၏။ အနော်ရထာမင်း တည်ထောင် ပြုစုခဲ့သော နိုင်ငံအရေးနှင့် သာသနာအရေးများကို ဆက်လက်ဆောင်ရွက်ခြင်း မရှိခဲ့ချေ။ ထို့ကြောင့်လည်း စောလူးမင်း၏လက်ထက်၌ အနော်ရထာမင်း တည်ထောင်ခဲ့သော ပျူ၊ မွန်နှင့် မြန်မာ နိုင်ငံတော်ကြီး၌ ပြိုကွဲမည့် အရိပ်အယောင်များ ပေါ်ပေါက်လာလေသည်။

အရည်အခြင်း ညံ့ဖျင်းသော စောလူးမင်း လက်ထက်၌ ဥဿာပဲကူကို ဗဟိုပြုသည့် မြန်မာနိုင်ငံတောင်ပိုင်းရှိ မွန်မြန်မာတို့သည် အခွင့်ကောင်းကိုယူကာ ပုန်ကန်ထကြွခဲ့ကြလေသည်။ ခေါင်းဆောင်ကား စောလူးမင်း နို့ထိန်း၏သား ငရမန်ကာန်း ဖြစ်သည်။ (ငရမန်ကာန်း — ရှု။) သူပုန်တို့သည် ပုဂံနေပြည်တော်သို့ ချီတက်လာ၍ သရက်ခရိုင် မင်းလှအောက် ပြည်တော်သာကျွန်း၌ စောလူးမင်း၏ တပ်များနှင့် စစ်တွေ့ကြရာ၊ စောလူးမင်း အရေးနိမ့်သောကြောင့်၊ ငရမန်ကာန်းသည် စောလူးမင်းအား ဖမ်းယူသွားလေသည်။ နောင်အခါ၌ စောလူးမင်းအား ကျန်စစ်သား ခိုးယူရန် အားထုတ်သော်လည်း မအောင်မြင်ချေ။ ထိုနောက် ငရမန်ကာန်းလည်း အနုရာဓအရပ်၌ စောလူးမင်းကို ကွပ်မျက်လိုက်လေသည်။ စောလူးမင်း လွန်သော် ငရမန်ကာန်း၏ရန်ကို နှိမ်နင်း၍ ပုဂံပြည်၌ ကျန်စစ်သားမင်းပြုသည်။ စောလူးမင်း၏ ကောင်းမှုတော်ကား ပင်းချောင်းဝ၌ စက္ကလိပဘုရား၊ မိတ္ထီလာခရိုင် မြို့ကြီး၌ ရွှေစောလူးဘုရား၊ မင်းဘူးခရိုင် ဖောင်းလင်း၌ ရွှေစောလူးဘုရား ဖြစ်သည်။

**စိုးညွန့်၊ ဦး** (ခရစ် ၁၈၉၈-၁၉၅၀)။ ။ရန်ကုန်မျူနီစီပယ်မင်းကြီးဟောင်းနှင့် အမေရိကန် ပြည်ထောင်စု သမတနိုင်ငံဆိုင်ရာ မြန်မာသံအမတ်ကြီးဟောင်း ဦးစိုးညွန့်သည် ၁၈၉၈ ခုနှစ် နိုဝင်ဘာလတွင် ရန်ကုန်မြို့၌ ဖွားမြင်သည်။ ဖခင်မှာ ရန်ကုန်မြို့ ဟိုက်ကုတ်တရားလွှတ်တော်တွင် မြန်မာလူမျိုးထဲမှ ပဌမဦးစွာ ပစ္စည်းထိန်းမင်းကြီးအဖြစ် ထမ်းရွက်ခဲ့ရသူ ဝတ်လုံတော်ရ ဦးသင်းဖြစ်၍၊ မိခင်မှာ ဗြိတိသျှအောက်မြန်မာပြည်တွင် မြန်မာဘုရင်များ၏ ကိုယ်စားလှယ်တော်အဖြစ် ဆောင်ရွက်ခဲ့ရသော မဟာသီရိဇေယျ သာရဘွဲ့ခံ၊ သဒ္ဒေးဦးစံ၏သမီး ဒေါ်ချစ်စု ဖြစ်လေသည်။ ဦးစိုးညွန့်သည် ဒုတိယမြောက်သားဖြစ်သည်။

ငယ်စဉ်အခါက ရန်ကုန်မြို့ ဒိုင်အိုစီဇင် အင်္ဂလိပ်ကျောင်းနှင့် ရန်ကုန်ကောလိပ်တို့တွင် ပညာသင်ယူခဲ့၏။ ၁၉၁၉ ခုနှစ်တွင် အင်္ဂလန်သို့သွားရောက်၍ အောက်စဖို့တက္ကသိုလ်၊ ဗေလီယို ကောလိပ်တွင် ပညာသင်ယူသည်။ ထို့နောက် အက်ဒင်ဗာရာ တက္ကသိုလ်သို့ ရွှေ့ပြောင်း ပညာသင်၍၊ ၁၉၂၄ ခုနှစ်တွင် အမ်၊ အေ၊ ဘွဲ့ကို ထိုတက္ကသိုလ်မှ ရရှိသည်။ ထို့နောက်တဖန် လန်ဒန်မြို့၌ ဝတ်လုံအတတ်ပညာများကို ဆက်လက် ဆည်းပူးခဲ့ပြီးလျှင်၊ ၁၉၂၆ ခုနှစ်တွင် ဝတ်လုံတော်ရဘွဲ့ကို ရရှိခဲ့လေသည်။

ဦးစိုးညွန့်သည် အောက်စဖို့တက္ကသိုလ် အာရှတိုက်သား အသင်း၌ ပဌမဦးစွာ ပါဝင်ခဲ့သော အသင်းသားဖြစ်၏။



ပဌမဆုံး အမေရိကန်ပြည်ထောင်စုဆိုင်ရာ
မြန်မာသံအမတ်ကြီး ဦးစိုးညွန့်

၁၉၂၀ ပြည့်နှစ်အတွင်းတွင် မြန်မာပြည် အုပ်ချုပ်မှုပြုပြင်ရေးကို ဆွေးနွေးတောင်းဆိုရန် မြန်မာကိုယ်စားလှယ်များ လန်ဒန်မြို့သို့ ရောက်ရှိနေခိုက်၊ ထိုအသင်း၌ 'မြန်မာပြည် အနာဂါတ်ရေး' စာတမ်းတခု ဖတ်ကြားခဲ့ရာ၌ ဦးစိုးညွန့်သည် မြန်မာပြည်အား အိန္ဒိယပြည်မှခွဲထွက်ရန် တိုက်တွန်းနှိုးဆော်ခဲ့လေသည်။

မြန်မာပြည်သို့ ပြန်လည်ရောက်ရှိသောအခါ ဝတ်လုံတော်ရအဖြစ် ၁၀ နှစ်ခန့် ဆောင်ရွက်ခဲ့သည်။ ၁၉၃၃ ခုနှစ်တွင် ဦးစိုးညွန့်သည် မြေပိုင်ရှင် ဦးသက်ရှည်ကြီး၊ ဒေါ်သင်တို့၏သမီး ဒေါ်သိန်းချစ်နှင့် လက်ထပ်သည်။ သား ၃ ယောက်၊ သမီး ၂ ယောက် ထွန်းကားခဲ့သည်။

၁၉၂၉ ခုနှစ်မှ ၁၉၃၆ ခုနှစ်အထိ ၇ နှစ်တာမျှအတွင်း ဦးစိုးညွန့်သည် ပုသိမ် (ကျေးလက်) မင်းတိုင်ပင်အမတ်အဖြစ် ထင်ရှားသော နိုင်ငံရေးသမား တဦး ဖြစ်လာခဲ့သည်။ ထိုစဉ်အခါက အတိုက်အခံဖက်မှ ပြင်းပြင်းထန်ထန် ဆောင်ရွက်ခဲ့သူတဦးလည်း ဖြစ်သည်။ အိန္ဒိယနှင့်မြန်မာ ခွဲရေး တွဲရေး ကိစ္စ ပေါ်ပေါက်လာသောအခါ မိမိယုံကြည်ချက်ဖြစ်သော ခွဲရေးဖက်မှနေ၍ လွှတ်တော်တွင် နှစ်ရက်ဆက်၍ ၈ နာရီကြာမျှ စကားပြောခဲ့ဘူးသည်။ ဦးစိုးညွန့်သည် ရန်ကုန်တက္ကသိုလ် အုပ်ချုပ်ရေးအဖွဲ့ဝင်လူကြီးအဖြစ်ဖြင့်၎င်း၊ မြင်းပွဲအသင်းတွင် စတူးဝပ်နှင့် ဒါရိုက်တာလူကြီး အဖြစ်ဖြင့်၎င်း၊ ဘီ၊ အေ၊ အေ၊ အသင်းတွင် ဥက္ကဋ္ဌအဖြစ်၎င်း၊ ဆောင်ရွက်ခဲ့သေးသည်။

၁၉၃၆ ခုနှစ်တွင် ရန်ကုန် မျူနီစီပယ် အတွင်းရေးမှူးအဖြစ် ခန့်ထားခြင်း ခံရပြီးနောက် ဒုတိယမင်းကြီးအဖြစ်လည်း ခန့်ထားခြင်းခံရလေသည်။ ၁၉၃၉ ခုနှစ်သို့ ရောက်သောအခါ ဒေါက်တာဦးဆက် ပင်စင်ယူသဖြင့် ဦးစိုးညွန့်သည် မျူနီစီပယ်မင်းကြီး ဖြစ်လာခဲ့လေသည်။ သူ၏လက်ထက်၌ မျူနီစီပယ်အမှုထမ်းများတွင် မြန်မာများထဲမှ ၅၀ ရာခိုင်နှုန်း အထိ တိုးတက် ခန့်ထားနိုင်ရန် ကြိုးစားထမြောက်ခဲ့သဖြင့် လက်အောက်ငယ်သားများ၏ ချစ်ကြည်လေးစားမှုကို အများဆုံး ခံယူခဲ့ရသည်။ ဒုတိယကမ္ဘာစစ်ကြီး မဖြစ်မီတွင် မျူနီစီပယ်မင်းကြီး၏ အလုပ်ဝတ်တရားများအပြင် ရန်ကုန် ပြည်သူ့ကာကွယ်ရေးမင်းကြီး အဖြစ်ဖြင့်လည်း ဆောင်ရွက်ခဲ့လေသည်။

ဂျပန်များ ဝင်ရောက်လာပြီးနောက် တနှစ်ခန့် အကြာတွင် ရန်ကုန်မျူနီစီပယ်မင်းကြီး အဖြစ်နှင့် ကာကွယ်ရေးအလုပ်ဝတ်တရားများကိုပါ ဆောင်ရွက်ရပြန်သည်။ ဒုတိယကမ္ဘာစစ်ကြီးအပြီး အုပ်ချုပ်ရေး ပြန်လည်ထူထောင်သောအခါ မျူနီစီပယ်မင်းကြီး တာဝန်များအပြင် မြို့တော်ဝန်၏ တာဝန်များကိုပါ ထမ်းရွက်နိုင်ရန် မျူနီစီပယ်အဖွဲ့၏ ဥက္ကဋ္ဌ အဖြစ်ဖြင့်လည်း ထမ်းဆောင်ခဲ့ရသည်။ ရန်ကုန် စည်ပင်သာယာရေးအဖွဲ့၊ ရေဝန်အဖွဲ့ နှင့် ပညာရေးနှင့်သက်ဆိုင်သောအဖွဲ့များ စသည်တို့တွင်လည်း ပါဝင်ဆောင်ရွက်ခဲ့ရလေသည်။

၁၉၄၇ ခုနှစ် စက်တင်ဘာလအတွင်း အမေရိကန်ပြည်ထောင်စု ဆိုင်ရာ သံအမတ်ကြီး အဖြစ် ခန့်ထားခြင်း ခံရသည်။ ၁၉၄၈ ခုနှစ်တွင် မြန်မာနိုင်ငံသည် ကုလသမဂ္ဂအသင်းဝင် ဖြစ်လာ၍ ဦးစိုးညွန့်သည် ကုလသမဂ္ဂ ညီလာခံကြီး၌၎င်း၊ အပြည်ပြည်ဆိုင်ရာ အလုပ်သမားအစည်းအရုံးကြီး၏ ညီလာခံ၌၎င်း မြန်မာနိုင်ငံ၏ ကိုယ်စားလှယ်အဖွဲ့ကို ခေါင်းဆောင်၍ တက်ရောက်ဆွေးနွေးခဲ့သည်။ အမေရိကန်ပြည်ထောင်စု သံအမတ်ကြီး အဖြစ် ဆောင်ရွက် နေစဉ်အတောအတွင်း 'အိန္ဒိယလူနီမျိုးတို့၏ အကြီးအကဲ' ခေါ်ဂုဏ်ထူးဆောင်ဘွဲ့ဖြင့်လည်း ချီးမြှင့်ခြင်းခံရသည်။

၁၉၅၀ ပြည့်နှစ်တွင် မကျန်းမာသဖြင့် ခွင့်ယူ၍ မြန်မာနိုင်ငံသို့ပြန်ခဲ့ရာ၊ ထိုနှစ် ဒီဇင်ဘာလ ၃၀ ရက်နေ့ ညနေ ၆ နာရီအချိန်၊ အသက် ၅၃ နှစ်အရွယ်တွင် မိမိနေအိမ် ကန်ဘဲ့လမ်း အမှတ် ၃ တွင် ကွယ်လွန်အနိစ္စရောက်လေသည်။

**စိုးသိမ်း၊ ဦး** (မြန်မာ ၁၂၄၇–၁၃၀၆)။ ။ဦးစိုးသိမ်းသည် မြန်မာသက္ကရာဇ် ၁၂၄၇ (ခရစ် ၁၈၈၅) ခုနှစ် သီတင်းကျွတ်လတွင် ရေနံချောင်း၌ အဖ တွင်းစားရိုး ဦးအောင်မြတ်၊ အမိ ဒေါ်မေတို့မှ ဖွားမြင်သည်။ အသက် ၅ နှစ်အရွယ်ခန့်တွင် ရေနံချောင်းမြို့ ဝက်ချုပ်ဆရာတော်ထံတွင် ခြောက်နှစ်ခန့် ပညာသင်ကြားခဲ့ပြီးလျှင်၊ ၁၂၅၉ ခုနှစ်မှ ၁၂၆၅ ခုနှစ်အထိ ပြည်မြို့ အထက်တန်းကျောင်း၌၎င်း၊ ၁၂၆၆ ခုနှစ်မှ ၁၂၆၈ ခုနှစ်အထိ မန္တလေးမြို့ စိန်ပီတာ အထက်တန်းကျောင်း၌၎င်း၊ အင်္ဂလိပ်မြန်မာ နှစ်ဘာသာတို့ကို သင်ကြားခဲ့လေသည်။ ထိုနောက် ၁၂၆၉ ခုနှစ်တွင် ရေနံချောင်းမြို့သို့ ပြန်လာပြီးလျှင် ဘီ၊ အို၊ စီ၊ ကုမ္ပဏီတွင် အလုပ်လုပ်သည်။

၁၂၇၄ ခုနှစ် (ခရစ် ၁၉၁၂ ခုနှစ်) တွင် ဂျပန်နိုင်ငံသို့ ပညာသင်သွားရောက်ရာ မြန်မာ့နိုင်ငံရေးသမိုင်းတွင် ကျော်စောထင်ရှားသော ဆရာတော် ဦးဥတ္တမနှင့် တွေ့ရှိသဖြင့်၊ ဦးဥတ္တမ၏ အားပေး တိုက်တွန်း ကူညီမှုကြောင့် ဂျပန်နိုင်ငံတွင် သုံးနှစ်ကြာမျှ ပညာသင်ယူပြန်သည်။ ထိုနောက် တဖန် အမေရိကန်ပြည်ထောင်စု ကာလီဖိုးနီးယားပြည်နယ် ဆန်ဖရန်စစ္စကိုမြို့သို့ သွားရောက်ပြီးလျှင်၊ ထိုမှတဖန် လော့စိန်းဂျလီးမြို့ရှိ အနောက်တိုင်းကောလိပ်၌၎င်း၊ စတန်းဖို့မြို့ရှိ စတန်းဖို့တက္ကသိုလ်၌၎င်း ပညာသင်ကြားရာ၊ သတ္တုတွင်းလုပ်ငန်းဆိုင်ရာ ဘူမိဗေဒပညာရပ်တွင် မဟာသိပ္ပံဘွဲ့ ရရှိခဲ့သည်။ ဤသို့ ပညာသင်ကြားပြီးသည့်နောက်၊ ဒေသန္တရဗဟုသုတ အလို့ငှာ၊ မက္ကဆီကိုနိုင်ငံ၊ ကနေဒါနိုင်ငံ၊ ဟာ



ဂျီ၊ စီ၊ ဘီ၊ အေ၊ ဥက္ကဋ္ဌ သမတဦးစိုးသိမ်း

ဝိုင်းယန်းကျွန်းစု၏မြို့တော် ဟိုးနိုလူးလူး စသည်တို့သို့ရင်း၊ အင်္ဂလန်၊ စကော့တလန်၊ အိုင်ယာလန်၊ ပြင်သစ်၊ ဂျာမနီ၊ ဣတလီ၊ ဟော်လန်၊ ဆွစ်ဇာလန်၊ ဗဲလဂျီယမ် စသည်တို့သို့ ရင်း၊ အီဂျစ်၊ အိန္ဒိယ၊ သီဟိုဠ်၊ တရုပ်၊ ယိုးဒယား၊ မလ္လာယု ကျွန်းဆွယ် စသည်တို့သို့ရင်း၊ အနှံ့အပြား လှည့်လည်ခဲ့ လေသည်။ ၁၂၈၄ ခုနှစ် (ခရစ် ၁၉၂၂ ခုနှစ်ခန့်) တွင် မြန်မာပြည်သို့ ပြန်လည်ရောက်ရှိခဲ့သည်။

ဦးစိုးသိမ်းသည် နိုင်ငံခြားသို့ အနှံ့အပြား သွားလာ လည်ပတ်ခဲ့သော်လည်း၊ မျိုးရိုး ဇာတိမာန်ကို မဖျောက် သောသူ ဖြစ်သည်။ မျိုးချစ်စိတ် ထက်သန်သည့် အား လျော်စွာ၊ မြန်မာပြည်သို့ ပြန်ရောက်သောအခါ၊ ပင်နီ အင်္ကျီကို အမြဲဝတ်သည်။ များသောအားဖြင့်၊ ခေါင်း ပေါင်းအစား ပင်နီဦးထုပ်ကို ဆောင်းလေ့ရှိသည်။ တိုင်း ရင်းဖြစ်ပစ္စည်းကို အားပေးသောအနေဖြင့်၊ ထမင်းစားရာ၌ ပင် ယွန်းပန်းကန်နှင့်စားသည် ဟူ၍ရင်း၊ သူ၏အိမ်ကိုမိုးရာ၌ ပင်လျှင် ထန်းရွက်ကို စံနစ်တကျ ဖြတ်လှီး၍ မိုးသည် ဟူ၍ ရင်း၊ ဦးစိုးသိမ်းနှင့် သိကျွမ်းသူတို့က အမှတ်တရ ပြောဆို ကြသည်။ နိုင်ငံခြားမှပြန်ရောက်သော်၊ ၁၂၈၄–၈၅ ခုနှစ် တွင် ရေနံချောင်းဆရာတော် ဦးတေဇိန္ဒကျောင်းတွင် စက် မှုလက်မှု ပညာသင်ကျောင်းတခုကို ဖွင့်လှစ်၍၊ ကျောင်း သူကျောင်းသား လူငယ်လူရွယ် ၈၀၀ ကျော်တို့ကို ကိုယ် တိုင်ကြပ်မ၍ ကျောင်းအုပ်ကြီးအဖြစ်ဖြင့် ပညာသင်ကြား ပေးသည်။

သက္ကရာဇ် ၁၂၈၆ (ခရစ် ၁၉၂၃–၂၄) ခုနှစ်လောက်တွင် အမျိုးသား ပညာရေးကောင်စီသည် မြန်မာနိုင်ငံရှိ အမျိုး သားကျောင်းများအတွက် အစိုးရအထောက်အပံ့ကို ခံယူ ရန်သင့်သည်ဟု ဆုံးဖြတ်ခဲ့လေသည်။ ထိုအခါ ဦးစိုးသိမ်း သည် အထောက်အပံ့ခံယူခြင်း မပြုသင့်ဟူသော အကြောင်း ပြချက်ဖြင့်၊ အမျိုးသား ပညာရေးဘုတ်အဖွဲ့ကို တည် ထောင်ရာ၌ ပါဝင်အားပေးခဲ့သည်။ ဤသည်ကား နိုင်ငံရေး နယ်ထဲသို့ ဦးစိုးသိမ်း ကိုယ်ထိလက်ရောက် ဝင်လာစေရန် အထောက်အပံ့ပြုသည့် အချက်တရပ် ဖြစ်လေသည်။ ဤ ကဲ့သို့ အမျိုးသား ပညာရေးဘုတ်အဖွဲ့တွင် ဆောင်ရွက် နေဆဲတွင်၊ ဦးစိုးသိမ်းသည် ဂျီ၊ စီ၊ ဘီ၊ အေ၊ အသင်းတွင် အရေးပါ အရာရောက်သူတို့နှင့် ဆက်သွယ်မိပြီးလျှင်၊ သူ၏ ရိုးသားမှုကြောင့် အများ၏ ယုံကြည်လေးစားခြင်းကို ခံခဲ့ ရလေသည်။ ထိုအတွင်း ဦးချစ်လှိုင်၏ ဂျီ၊ စီ၊ ဘီ၊ အေ၊ သည် ၁၂၈၆ ခုနှစ်တွင် နှစ်ကွဲကွဲလေသည်။ (ချစ်လှိုင်၊ ဦး။ ဂျီ၊ စီ၊ ဘီ၊ အေ — ရှု။) ဤသို့နှစ်ကွဲကွဲသောအခါ ဦးစိုး သိမ်းကို ကြည်ညိုသူတို့က ဦးစိုးသိမ်းအား ဂျီ၊ စီ၊ ဘီ၊ အေ၏ ဥက္ကဋ္ဌအဖြစ် တင်မြှောက်ရန် စီစဉ်ကြလေရာ၊ ရွှေဘိုမြို့တွင် ၁၂၈၇ ခုနှစ် နယုန်လပြည့်ကျော် ၁၁ ရက်နေ့တွင် စတင် ကျင်းပသော ၁၂ ကြိမ်မြောက် ဂျီ၊ စီ၊ ဘီ၊ အေ၊ အစည်း အဝေး၌ ဦးစိုးသိမ်းသည် ဥက္ကဋ္ဌဖြစ်လာပြီးလျှင်၊ သမတ ဦးချစ်လှိုင်ဟု ခေါ်တွင်သော အစဉ်အလာအတိုင်း၊ သမတ ဦးစိုးသိမ်းဟု အမည်တွင်လာလေသည်။

ဤကဲ့သို့ ဦးစိုးသိမ်းသည် ဂျီ၊ စီ၊ ဘီ၊ အေ၊ ဥက္ကဋ္ဌအဖြစ် ဖြင့် ဆောင်ရွက် လာခဲ့သည်မှာ ၁၂၉၁ ခုနှစ် တန်ခူးလဆန်း ၁၀ ရက်မှ ၁၃ ရက် နေ့များတွင် တောင်ငူမြို့၌ ကျင်းပသော နှစ်လည်အစည်းအဝေးအထိ ဖြစ်လေသည်။ ဦးစိုးသိမ်း သည် နိုင်ငံရေးကို သူ၏အမြင်အတိုင်း တည့်မတ်ဖြောင့်မှန် စွာလုပ်ဆောင်သူဖြစ်၏။ ရိုးသားဖြောင့်မတ်သူဟု ကျော် ကြား၏။ ဝံသာနုခေါင်းဆောင်ပီပီ ဆင်းရဲသားများနှင့် ရောပြွမ်းကာ ဆက်ဆံနေထိုင်၏။ အစိုးရနှင့်မဆက်ဆံဘဲ၊ နိုင်ငံရေးဆောင်ရွက်ရန် ဟူသောဝါဒကို ထားရှိ၏။ ထို အတွက် ၁၂၈၈ ခုနှစ် ၁၅ ကြိမ်မြောက် မင်းဘူးကွန်ဖရင့် အထိ ဦးစိုးသိမ်း၌ နောက်လိုက်အင်အား များခဲ့၏။ သို့ သော် ထိုခေတ်၏ နောက်ပိုင်းသို့ ရောက်လာသောအခါ နိုင်ငံရေး၌ ဦးစိုးသိမ်းသည် အကြမ်းဖက်သော စံနစ်ကို လက်ကိုင်ပြုသည်ဟု အများက စွပ်စွဲလာကြသည်။ ဤသို့ စွပ်စွဲခံရခြင်းမှာ ဆရာစံ ခေါင်းဆောင်သော သာယာဝတီ သူပုန်တွင် ဆရာစံနှင့်တကွ နောက်လိုက်နောက်ပါအများ သည် ဦးစိုးသိမ်း ဂျီ၊ စီ၊ ဘီ၊ အေ၊ ၏ အသင်းဝင်များ ဖြစ် သောကြောင့်တည်း။ ဆရာစံသည် ခရစ် ၁၉၃၀ ပြည့်နှစ် ဒီဇင်ဘာလ ၂၃ ရက်နေ့တွင် ဗြိတိသျှအစိုးရကို တော်လှန်

ပုန်ကန်ခဲ့သည်။ (စံ၊ ဆရာ — ရှ။) ၁၉၃၁ ခုနှစ် နိုဝင်ဘာလ ၂၈ ရက်နေ့၌ သေဒဏ်အပြစ်ပေးခြင်းကို ခံရသည်။ သို့ပါသော်လည်း၊ ထိုစဉ်က သူပုန်မှုကို အလွန်တရာမှ ချိုးနှိမ်လိုစိတ်ရှိသော ထိုခေတ်အစိုးရ၏ မှတ်တမ်းအရပ်ရပ်တွင်၎င်း၊ ရုံးတင်စွဲဆိုသော အမှုတွဲတို့တွင်၎င်း၊ ဦးစိုးသိမ်းသည် အကြမ်းဖက်စနစ်ဖြင့် သူပုန်ကို လှုံ့ဆော်ခဲ့သည်ဟု အခိုင်အမာစွပ်စွဲနိုင်ခြင်း မရှိခဲ့ချေ။ သူပုန်မှုများ စီရင်နေသော တချိန်လုံးတွင် အစိုးရသည် ဦးစိုးသိမ်းအား သူပုန်ကိစ္စနှင့် စပ်လျဉ်း၍ ဖမ်းဆီးခြင်း မပြုနိုင်ခဲ့ချေ။ ထိုမျှမကသေး ဗိုလတ်တွင်ကျင်းပသော မြန်မာပြည် မျက်နှာစုံညီအစည်းအဝေးတွင် ၁၉၃၁ ခုနှစ် ဒီဇင်ဘာလ ၃ ရက်နေ့၌ သာယာဝတီ ဦးပုက ဆွေးနွေးသော စကားရပ်များအရ မှာလည်း၊ ဦးစိုးသိမ်းသည် ဆရာစံနှင့် မည်သို့မျှ ပတ်သက်ခြင်းမရှိသည်ကို တွေ့ရသည်။ သာယာဝတီဦးပု၏ ပြောစကားအရမှာ ဆရာစံသည် ဦးစိုးသိမ်း ဂျီ၊ စီ၊ ဘီ၊ အေ၊ မှထွက်၍၊ ထိုဂျီ၊ စီ၊ ဘီ၊ အေ၊ မသိစေရဘဲ၊ လျှို့ဝှက်သောအသင်းတို့ကို သူ့အလိုအလျောက် တိတ်တဆိတ် တည်ထောင်ကြောင်းကို ကိုယ်တိုင် ရုံးတွင် ဖြောင့်ဆိုဝန်ခံသည်။ ဤအချက်တို့ကြောင့် သက်ဆိုင်ရာ အာဏာပိုင်တို့သည် သာယာဝတီသူပုန်မှုထဲတွင် ဦးစိုးသိမ်းအား ပါဝင်သည်ဟု မစွပ်စွဲနိုင်ရှိခဲ့သည်။ ထို့ကြောင့်လည်း မြန်မာပြည် နိုင်ငံရေးရာဇဝင်ကို ရေးသားသူ ဦးဘခိုင်က 'ဦးစိုးသိမ်းကဲ့သို့ နိုင်ငံခြားရောက်သူ ခေါင်းဆောင်တယောက်သည် လက်ချည်းသက်သက် မြန်မာများအား စက်သေနတ်ကို အသုံးပြုသည့် အစိုးရကို အကြမ်းဖက်၍ တိုက်ခိုက်ရန် တိုက်တွန်းသည် ဆိုသည်မှာ ဟုတ်နိုင်မည်မထင်' ဟု မှတ်ချက်ချခြင်းပင် ဖြစ်ပေလိမ့်မည်။ ဦးစိုးသိမ်းနှင့်အတူ လုပ်ဖော်ကိုင်ဖက်ဖြစ်သူတို့ကလည်း ဦးစိုးသိမ်း၏ ဂျီ၊ စီ၊ ဘီ၊ အေ၊ ကို အစိုးရက မတရားအသင်းဟု မူလကကြေညာခဲ့သော်လည်း၊ ဗိုလတ်၌ မြန်မာပြည် မျက်နှာစုံညီအစည်းအဝေးတွင် မြန်မာခေါင်းဆောင်တို့က ရှင်းပြလိုက်သောအခါ၊ မတရားအသင်းဟုကြေညာခြင်းမှ ကင်းလွတ်သည်ဟု ဆိုစမှတ်ပြုကြသည်။

မည်သို့ပင်ဖြစ်စေ၊ အထက်ကဖော်ပြခဲ့သည့် တောင်ငူမြို့၌ ကျင်းပသော ဂျီ၊ စီ၊ ဘီ၊ အေ၊ ကွန်ဖရင့်၌မူကား ဆရာတော်အချို့နှင့် လူအချို့တို့က ထိုကွန်ဖရင့်၌ တင်သွင်းသော အခွန်မပေးရေးနှင့် အာဏာဖီဆန်ရေး အဆိုတို့မှာ အစိုးရကို ပုန်ကန်ရန် အဆိုများ ဖြစ်သည်ဟု ယူဆကာ၊ ဦးစိုးသိမ်းအား ထောက်ခံခြင်းမပြုဘဲ၊ ဦးစုကို ဥက္ကဋ္ဌအဖြစ်ဖြင့် တင်မြှောက်လိုက်ကြလေသည်။ ဤတွင် ဦးစိုးသိမ်း ဂျီ၊ စီ၊ ဘီ၊ အေ၊ နှင့် ဦးစု ဂျီ၊ စီ၊ ဘီ၊ အေ၊ ဟူ၍ နှစ်ကွဲကွဲပြန်လေသည်။ ထိုနောက် ၁၂၉၂ ခုနှစ်တွင် မြန်မာပြည်ကို အိန္ဒိယပြည်မှ ခွဲထုတ်ရန် ဗြိတိသျှအစိုးရတို့က ဆုံးဖြတ်လိုက်လေသော် မြန်မာနိုင်ငံရေးတွင် အိန္ဒိယနှင့် ခွဲရေး တွဲရေး ပြဿနာ ဝင်ရောက်လာလေသည်။ ထိုအခါ ဦးစိုးသိမ်းသည် နိုင်ငံရေးနယ်ပယ်မှ အနားယူကာ နေထိုင်လျက်ရှိလေသည်။ ထိုနောက်၌ကား ဦးစိုးသိမ်း၏ နိုင်ငံရေးဆောင်ရွက်ချက်တို့သည် မှတ်တမ်းတင်လောက်အောင် မရှိတော့ချေ။ သက္ကရာဇ် ၁၃၀၆ (ခရစ် ၁၉၄၄) ခုနှစ်တွင် ဦးစိုးသိမ်းသည် ရန်ကုန်မြို့၌ ကွယ်လွန်လေသည်။

ဦးစိုးသိမ်း၏ဇနီးမှာ ပြည်မြို့သူ ဒေါ်သော့ဖြစ်၏။ ဒေါ်သော့သည် ဦးစိုးသိမ်းနှင့် ပါရမီဖြည့်ဖက်အမျိုးသမီး ဖြစ်လေသည်။ ငယ်စဉ်ကပင် ဦးစိုးသိမ်းနှင့် အတူတကွ ဂျပန်နိုင်ငံသို့လိုက်ပါ၍ ပညာသင်ပြီးလျှင်၊ ယင်းတို့ နှစ်ဦးသည် ဇနီးမောင်နှံအဖြစ်ဖြင့် နိုင်ငံခြားအရပ်ရပ်တို့သို့ အတူတကွ ရောက်ခဲ့ကြလေသည်။ သားသမီးကား တယောက်မျှ မထွန်းကားချေ။ ဒေါ်သော့သည် ရန်ကုန်မြို့၌ပင်လျှင်၊ ၁၃၀၇ ခုနှစ်၌ ကွယ်လွန်လေသည်။

**စက်ကတုံးပင်။** ။စက်ကတုံးပင်သည် နွေဥတုတွင် အရွက်ကြွေသော အပင်ကြီးမျိုးဖြစ်သည်။ ရုက္ခဗေဒအမည်မှာ 'ထရူဝီယာ နူဒီဖလိုရာ' ဖြစ်သည်။ မျိုးရင်းမှာ 'ယူဖောဗီးယားစီအီး' ဖြစ်သည်။ စက်ကတုံးပင်၏ အခေါက်သည် မွဲပြာရောင်ရှိသည်။ အရွက်များမှာ ကြက်ဥပုံသဏ္ဌာန်ရှိ၍ ချောမွတ်သည်။ အကြောပေါင်း ၃ ခုမှ ၅ ခုထိရှိသည်။ ရွက်ညှာသည် ၁ လက်မမှ ၂ လက်မထိရှည်ပြီး မွေးနုတို့ များရှိသည်။ ပန်းပွင့်များမှာ သေးငယ်သည်။ အရွက်ကြွေသည့်နေရာများ၌ အဖိုပွင့်များ ပွင့်သည်။ အမွေးထူပြီး တိုတုတ်သည့် ပွင့်ညှာများတွင် အမပွင့်များ ပွင့်သည်။ ဝတ်ဆံမ ထိပ်သည် အလွန်ရှည်သည်။ အသီးမှာ ခွံမာသီးဖြစ်၍၊ သီးသီးအရွယ်ခန့်ရှိသည်။ အသီးသည် ချောမွတ်၍ အသားများသည်။ အစေ့လည်းများသည်။

မြန်မာနိုင်ငံ အထက်ပိုင်းနှင့် အောက်ပိုင်းရှိ ချောင်းများအနီးတွင် စက်ကတုံးပင်များကို တွေ့ရသည်။ စက်ကတုံးသားသည် ဖြူ၍ပျော့သည်။ တာရှည်လည်း အသုံးမခံချေ။ ထမ်းပိုး၊ စည်၊ ရပ်တာ၊ မီးခြစ်ဆံ၊ မီးခြစ်ဗူးများ ပြုလုပ်ရန်အတွက် ကောင်းသည်။ မြန်မာဆေးကျမ်းအလိုအားဖြင့်၊ စက်ကတုံးသည် သွေးငန်း၊ လေငန်း၊ သလိပ်ငန်းတို့ကို ပယ်နိုင်သည်ဟု အဆိုရှိ၏။

**စက်ကရိယာများ။** ။လူ၏ယဉ်ကျေးမှုတိုးတက်လာခဲ့ရာ၌ မူလက လက်ဖြင့် ပင်ပန်းစွာ လုပ်ကိုင်ခဲ့ရသော အလုပ်များကို လက်သုံး ကရိယာတန်ဆာပလာတို့၏ အကူအညီဖြင့် တဖြည်းဖြည်း လုပ်ကိုင်ခဲ့ကြ၏။ ထိုမှတဆင့် လက်သုံးကရိယာ တန်ဆာပလာတို့ထက် သာလွန် ကောင်းမွန်သည့်



လူတို့သည် လက်သုံးကရိယာများကို သုံးစွဲရာမှ တဆင့်တက်၍ စက်ကရိယာများကို တီထွင်သုံးစွဲခဲ့ကြသည်။ စက်ကရိယာများသည် လူ၏ စိုက်အားနှင့် အချိန်ကို များစွာ သက်သာစေသည်။ စက်ကရိယာများ တိုးတက် ကောင်းမွန်လာသည်နှင့်အမျှ ကုန်ထုတ်လုပ်မှုသည်လည်း ပိုမို၍ တိုးတက်လာပေသည်။

စက်ကရိယာများကို အသုံးပြုလာနိုင်ခဲ့ကြ၏။ ရူပဗေဒအရ လက်သုံးကရိယာတန်ဆာပလာတို့သည် ရိုးရိုးစက်များပင်ဖြစ်ကြ၏။ စက်ဆိုသည်မှာ ရှုပ်ထွေးခက်ခဲသော လုပ်ငန်းတို့ကို လက်သုံး ကရိယာတို့ဖြင့် လုပ်သည်ထက် အချိန်တိုတို့နှင့် ပြီးစီးနိုင်စေသော ကရိယာကို ဆိုလိုပေသည်။ စက်များတွင် လူအားကို အသုံးပြုရာ၌ လက်သုံးကရိယာနှင့် ပြုလုပ်စဉ်ကကဲ့သို့ ပင်ပန်းစွာ အားမစိုက်ထုတ်ရတော့ပေ။ အချိန်ကုန်ရာ၌လည်း များစွာသက်သာသည်။

ပဌမဆုံးစက်မှာ ရေနွေးငွေ့မှ စွမ်းအင်အဖြစ်သို့ ပြောင်းလဲနိုင်သည့်အခါ ပေါ် ပေါက်လာသော စက်ဖြစ်သည်။ ထိုရေနွေးငွေ့အား အင်ဂျင်စက်များ ပေါ် လာသောအခါ ရှေးက လူမလုပ်နိုင်ခဲ့သည့် အလုပ်များကို ရေနွေးငွေ့မှရသော စွမ်းအင်ဖြင့် လုပ်ကိုင်နိုင်ခဲ့ကြ၏။ ခရီးသွားလာရာတွင် မီးရထား၊ မီးသင်္ဘောများဖြင့် ထိုအချိန်ကမလျင်မြန်စဘူးထူးကဲလျင်မြန်လှသော နှုန်းများနှင့် သွားလာနိုင်ခဲ့ကြ၏။ စက်ရုံလုပ်ငန်းတို့တွင်လည်း ရေနွေးငွေ့အားအင်ဂျင်စက်များဖြင့် မောင်းနှင်လုပ်ကိုင်နိုင်ခဲ့ကြလေသည်။ (ရေနွေးငွေ့အားအင်ဂျင်စက် — ရှု။) ထိုမှတဆင့် ရေနွေးငွေ့အား အင်ဂျင် စက်ထက်

## စက်ကရိယာများ

ကောင်းမွန်သော အတွင်းမီးအား အင်ဂျင်စက်ကို ဖြစ်မြောက်အောင် မြင်ခဲ့ရာတွင် ဓာတ်ဆီ၏စွမ်းအင်ကို လုပ်ရည်အဖြစ်သို့ လွှဲပြောင်း အသုံးချနိုင်ခဲ့ကြ၏။ (အတွင်းမီးအားအင်ဂျင်စက် — ရှု။) လျှပ်စစ်ဓာတ်ပါဝါကို ထုတ်ယူရရှိနိုင်ခဲ့ကြသည့်အခါတွင် လျှပ်စစ်ဓာတ်ကို နေရာအနှံ့အပြားသို့ သွယ်ယူအသုံး ပြုနိုင်ခဲ့ကြ၏။ (လျှပ်စစ်ဓာတ်—လည်းရှု။) လျှပ်စစ်မော်တော်များသည် ဓာတ်ဆီမော်တော်ကားများထက် သာ၍ပင် အသုံးဝင်လာကြပေသည်။ အလွန်သေးငယ်သော မျဉ်းတံ အမှတ်အသားများ၊ နာရီမျက်နှာပြင်ပေါ်မှ မိနစ်ကွက်၊ စက္ကန့်ကွက်များ စသည်တို့ကို စက်ကရိယာများဖြင့် တိကျစွာ ပြုလုပ်ပေးနိုင်ပေသည်။ ယခုခေတ် စက်ရုံများတွင် မော်တော်ကား အများအပြားကို နောက်ဆုံးပေါ် သိပ္ပံနည်းများအရ ပြုလုပ်လျက်ရှိသည်။ မြစ်လက်တက်များမှ ရေတို့သည် မြစ်မကြီး၌ ပေါင်းဆုံကာ ပင်လယ်ထဲသို့ စီးဝင်ကြသကဲ့သို့ မော်တော်ကား အစိတ်အပိုင်းများလုပ်ရာ ဌာနခွဲများမှ လုပ်ပြီးမော်တော်ကား အစိတ်အပိုင်းတို့သည် ဗဟိုဌာနသို့ စုရောက်လာကြသည်။ ထိုဗဟိုဌာနတွင် မော်တော်ကား အစိတ်အပိုင်းများကို တခုနှင့်တခု နေရာတကျ



ခေတ်မှီ မြေတူးစက်

တပ်ဆင်ပေး၍ မော်တော်ကားဖြစ်မြောက်အောင် ပြုလုပ်ယူကြသည်။

စီးပွားရေးမျက်စိနှင့် ကြည့်လျှင် အလုပ်သမား ထောင်ပေါင်းများစွာတို့သည် စက်ကရိယာတို့ဖြင့် လုပ်ကိုင်သော စက်ရုံများကိုမှီခို၍ အသက်မွေးမှုနိုင်ကြ၏။ စက်ကရိယာများတိုးတက်မှုသည် လူအားကို သက်သာစေနိုင်သဖြင့် ရှေးကထက် ကုန်များကို များပြားစွာ ထုတ်လုပ်လာနိုင်၍ ကုန်ဈေးနှုန်းမှာလည်း တဖြည်းဖြည်း ကျဆင်း သက်သာလာရလေသည်။ ဈေးနှုန်းကျလာသည့်အမျှ ကုန်အလိုရှိသူ ဦးရေသည်လည်း တိုးပွားလာ၍ ကုန်ထုတ်ရာ၌ တွင်ကျယ်လာလေသည်။ သို့သော် ကုန်ထုတ်လုပ်ငန်းသည် လိုသည်ထက ပိုလာ၍၊ ကုန်ဈေးနှုန်းများ အဆမတန် ကျဆင်းလာသောအခါ စက်ရုံလုပ်ငန်းကို ထိခိုက်လာလေသည်။ ထိုကမှ တဆင့် စက်ရုံအလုပ်သမားတို့ကိုပါ ထိခိုက်လေတော့သည်။ ထိခိုက်ပုံမှာ၊ စက်ရုံတို့တွင် အလုပ်သမားဦးရေမှာ လိုသည်ထက်ပိုနေ၍ စက်ရုံပိုင်ရှင်များသည် အလုပ်သမားတို့အား မသေရုံမျှ အခများကိုသာ ပေးနိုင်ကြသည်။ သို့သော် ဤကဲ့သို့သောအဖြစ်မျိုးကို အလုပ်သမားများ ကြာရှည်စွာ မခံစားခဲ့ကြရချေ။ ထပ်မံ၍ တီထွင်မှုများ ပေါ်ပေါက်လာသည့် စက်ရုံလုပ်ငန်းတို့တွင် လူလိုလာ၍ အလုပ်သမားတို့သည် မိမိတို့၏ နေရာဟောင်းများကို ရရှိကြပြန်လေသည်။ ယခုအခါ လုပ်ငန်းအသစ်တို့၏ နယ်ပယ်မှာ ကျယ်ပြန့်သည်ထက် ကျယ်ပြန့်လာသည်ဖြစ်၍ ရှေးကထက် အဆပေါင်းများစွာ ပိုမိုများပြားသော အလုပ်သမားတို့ကို အလုပ်ပေးနိုင်ပြီဖြစ်သည်။

**စက္ကဝက်ငှက်။** ။စက္ကဝက်သည် ဝံပိုငှက်တမျိုးဖြစ်သည်။ ပါဏဗေဒအမည်မှာ 'ပယ်လီကင်နပ် အိုနိုကရိုတဲလပ်' ဖြစ်သည်။ အလျား ၆၅ လက်မရှိ၏။ စက္ကဝက်အကောင်ကြီးသည် သာမန်အချိန်တွင် ဖြူ၍ သားပေါက်ချိန်၌ ပန်းရောင်ရှိ၏။ ငှက်ကလေးသည် အောက်ပိုင်းတွင် သစ်ကျားသီးရောင်ရှိ၏။ ယင်းတို့သည် သုံးနှစ်လေးနှစ်ကြာမှ အမွေးအတောင်ပြည့်စုံကြသည်။

စက္ကဝက်ငှက်သည် ဥရောပတိုက် အရှေ့တောင်ပိုင်း ဒေသများနှင့် အာရှတိုက်ရှိ အချို့ ဒေသများတွင် သားပေါက်သည်။ ဆောင်းရာသီတွင် ထိုငှက်များကို တရုပ်နိုင်ငံတောင်ပိုင်း၊ မြန်မာနိုင်ငံ၊ အိန္ဒိယနိုင်ငံ၊ ပါးရှင်းပင်လယ်ကွေ့၊ အာဖရိကတိုက်တို့တွင် တွေ့ရသည်ဟု ဆို၏။ မြန်မာနိုင်ငံသို့ ဆောင်းရာသီတွင်သာ လာရောက်သည်။ ဩဂုတ်လတွင် ရောက်လာ၍ ဇန်နဝါရီလ၊ ဖေဖွာရီလတွင် ထွက်ခွာသွားကြသည်ဟု ထင်မှတ်ရသည်။



ဝံပိုငှက်တမျိုးဖြစ်သော စက္ကဝက်ငှက်များ

# သစ်ပိုင်းသစ်စမှ စက္ကူဖြစ်လာပုံ

**လူတို့သည် ရှေးနှစ်ပေါင်း ၂၀၀၀ ခန့်ကပင် စက္ကူလုပ်နည်းကို သိရှိခဲ့ကြသော်လည်း၊ စက္ကူစက်များ ပေါ်ပေါက်သည့်အခါမှာမှ၊ စက္ကူကို အသုံးများလာကြလေသည်။ ယခုအခါ စက္ကူသည် အထူးအရေးပါသော လူသုံးပစ္စည်းတရပ်ဖြစ်၍ မြန်မာနိုင်ငံ၌ စက္ကူစက်များတည်ထောင်ရန်ကိုပင် စီစဉ်လျက်ရှိပေပြီ။**

**စက္ကူ။** ။စက္ကူကို နကျယ်ကောင်တို့သည် သူတို့၏သဘာဝအလျောက် ပြုလုပ်နိုင်ကြသည်။ သူတို့သည် သစ်ပင်ခြောက် သစ်ကိုင်းခြောက်များမှ ကိုက်ဖဲ့၍ရသော သစ်စကလေးများကို သစ်ပျော့ဖတ်ဖြစ်အောင် ဝါးပြီးနောက်၊ ထိုပျော့ဖတ်ဖြင့် အိမ်ပြုလုပ်ကြသည်။ နကျယ်အိမ်ကို ဖျက်ကြည့်သောအခါ၊ လှပစွာ အခန်းဖွဲ့ထားသော သူတို့၏ စက္ကူကို တွေ့မြင်နိုင်သည်။

လူတို့မှာမူကား ရှေးနှစ်ပေါင်း ၂၀၀၀ လောက်ကမှ စက္ကူလုပ်နည်းကို သိလာကြသည်။ စက္ကူလုပ်နည်းကို ဦးစွာပဌမ သိသော လူမျိုးမှာ တရုပ်လူမျိုးဖြစ်၍၊ နကျယ်အိမ်ပြုလုပ်ပုံကို ရှေး တရုပ်ပညာရှိကြီး တဦးက အသေအချာ ကြည့်ရှုလေ့လာရာမှ လုပ်နည်းကို စတင် သိရှိခဲ့သည်ဟုဆိုလေသည်။ စက္ကူလုပ်နည်းကို မသိမီက လူတို့သည် အခြားပစ္စည်းများဖြင့် ရေးမှတ်ခဲ့ကြရလေသည်။ ကျောက်ပြား၊ ရွှံ့ပြား၊ သစ်သားပြားများပေါ်တွင် စာလုံးများကို ထွင်း၍ ရေးခဲ့ကြရသည်။ ထို့နောက်တွင် အီဂျစ်နိုင်ငံ၌ ကျူပြင်တမျိုးမှ ကျူချပ်များကို စာရေးရန် ပြုလုပ်လာနိုင်သည်။ ထိုကျူပြင်မျိုးကို ပပိုင်းရပ်ဟု ခေါ်သဖြင့်



ရှေးအခါက အီဂျစ်နိုင်ငံတွင် ပပိုင်းရပ်ခေါ် ကျူချပ်ပေါ်၌ စာရေးကြသည်။

ထိုအမည်ကို အစွဲပြု၍ အင်္ဂလိပ်ဘာသာဖြင့် စက္ကူကို 'ပေပါ' ဟု ခေါ်လေသည်။ (ပပိုင်းရပ်ပင် — ရှု။) ကျူချပ်ပြုလုပ်ပုံမှာ ကျူပင်၏ ပင်စည်များမှ အစကလေးများကို ခွာယူ၍၊ တခုပေါ်တွင် တခုထပ်ပြီးလျှင်၊ ရေစိမ်ပေးရသည်။ ထိုနောက် အပြားဖြစ်အောင် ဖိပေး၍ နေပူလှန်းပေးရသည်။ ခြောက်သွေ့ပြီးသောအပြားကို အရောင်တင်ပေးသောအခါ၊ စာရေးနိုင်သော ကျူချပ် ဖြစ်လာသည်။ ထိုကျူချပ်ကို ကောင်းစွာ မခေါက်နိုင်၊ သို့သော် လိပ်၍ ထားနိုင်သည်။ ရှေးဂရိလူမျိုးနှင့် ရောမလူမျိုးတို့သည် ထိုကျူချပ်များဖြင့် စာရေးကြသည်။

၃ ရာစုနှစ်နှင့် ၇ ရာစုနှစ်များအကြားတွင် သိုးသားရေ၊ နွားကလေး သားရေတို့မှ ပြုလုပ်သော သားရေချပ်များ ပေါ်ပေါက်လာပြန်သည်။ ထိုသားရေချပ်များမှာ ခိုင်ခံ့ချောမွတ်သဖြင့်၊ စာရေးသားရန် အတော်အတန်ကောင်းသည်ဟု ဆိုနိုင်ပေသည်။ ဥရောပတိုက်တွင် ထိုသားရေစက္ကူများဖြင့်ပင် စာများကို ရှေးက ရေးသားခဲ့ကြရပေသည်။ ထိုအချိန်တွင် တရုပ်နိုင်ငံ၌ စက္ကူများကို ပြုလုပ်သုံးစွဲနေပြီ ဖြစ်သော်လည်း၊ ပြုလုပ်နည်းကို လျှို့ဝှက်ထားသည့်အတွက် အခြား မည်သည့်နိုင်ငံကမျှ စက္ကူကို မပြုလုပ်နိုင်ကြချေ။ သို့ရာတွင် စစ်တိုက်ရာမှ ဖမ်းမိသော တရုပ်သုံ့ပန်းများထံမှ စက္ကူလုပ်နည်းကို အာရပ်လူမျိုးတို့သည် ခရစ် ၈၀၀ ပြည့်နှစ်မတိုင်မီက ရရှိသွားလေသည်။ ၁၂ ရာစုနှစ်တွင် ထိုနည်းကို အာရပ်လူမျိုးတို့သည် အာဖရိကတိုက် မြောက်ပိုင်းမှဖြတ်ကာ စပိန်ပြည်သို့ ယူဆောင်လာသည်။ စပိန်မှတဆင့် ဥရောပ တတိုက်လုံးသို့ စက္ကူလုပ်နည်း ပျံ့နှံ့သွားရာ၊ ၁၄၀၀ ပြည့်နှစ်လောက်တွင် စက္ကူကို အသုံးများလာကြလေသည်။ ဤသို့ဖြင့် ပုံနှိပ်စက်များ ပေါ်ပေါက်လာချိန်သို့ ရောက်သောအခါ စက္ကူကို လိုသ



အိန္ဒိယနိုင်ငံတွင် စက္ကူပြုလုပ်ရန် ဝါးကိုအသုံးများသည်။



စက္ကူအကောင်းစားပြုလုပ်ရန် စပရုထင်းရှူးသားသစ်ပိုင်းများကို စက်ရုံအနီးတွင်စုသိမ်းထားပုံ

လောက် ရနိုင်နေလေပြီ။ သို့ရာတွင် အစပဌမ၌ စက္ကူကို လက်ဖြင့်သာ ပြုလုပ်ခဲ့ကြ၏။ လွန်ခဲ့သည့် နှစ်ပေါင်းတရာ ကျော်လောက်ကမှစ၍ စက္ကူကို စက်ဖြင့် အများအစား ပြုလုပ်နိုင်လာကြသည်။

## စက္ကူလုပ်နည်း

စက္ကူကို အမျှင်ရှိသော သို့မဟုတ် ဆဲလျူလို့ ပါရှိသော အပင်အမျိုးမျိုးမှ ပြုလုပ်ယူနိုင်သည်။ အာရပ်တို့သည် လင်နင်ထည်၊ ဘီသွာလျှော်နှင့် အဝတ်စုတ်များ အပြင် ကောက်ရိုး၊ ဝါး၊ မြက် စသော အမျှင်ရှိသည့် အပင်တမျိုးမျိုးကို အသုံးပြုခဲ့ကြ၏။ ယခုခေတ်တွင်မူ စက္ကူလုပ်ငန်း အတွက် သစ်ကို အဓိက အမြောက်အမြား သုံးကြလေသည်။

ယခုအခါ စက္ကူလုပ်ငန်းကို စက်များဖြင့် အကြီးအကျယ် ပြုလုပ်ကြ၍ စက္ကူအမျိုးပေါင်း အမြောက်အမြားကိုလည်း ပြုလုပ်နိုင်လေပြီ။ သို့သော် အကောင်းဆုံးစက္ကူကိုမူ လက်ဖြင့်ပင် ယနေ့တိုင်အောင် ပြုလုပ်နေရဆဲဖြစ်သည်။ စက်ဖြင့်စက္ကူလုပ်နည်းကို မဖော်ပြမီ လက်ဖြင့်လုပ်နည်းကို ပဌမ ဖော်ပြလိုသည်။

လက်ဖြင့်စက္ကူလုပ်နည်း။ ။လက်ဖြင့်စက္ကူပြုလုပ်ရာ၌ လင်နင်ထည်နှင့် ဝါဂွမ်းထည် အစုတ်အပိုင်းများကို အသုံးပြုကြသည်။ အဝတ်စများကို အစွန်းအထင်း အညစ်အကြေးများ မရှိအောင် ဆေးဖြင့်ချွတ်ဆေးပြီးနောက်၊ အစိတ်စိတ် အမွှာမွှာ ဖြစ်အောင် ဆုတ်ပေးသည်။ ထိုနောက် ရေအပြည့်ရှိသော စည်ကြီးတွင် ထည့်ကာ ပျော့ဖတ် ဖြစ်လာသည့်တိုင်အောင် ချေပေးရသည်။ ထိုအခါ ရေပြင်တွင် အမျှင်ဖတ်များ ပေါလောပေါ်လာသည်။ ပျော့ဖတ်တွင် အတုံးအတစ်များ မကျန်ရအောင် အချိန်ကြာမြင့်စွာ မွှေနှောက်ပေးနေရသည်။ အားလုံးကြေ၍ ပျော့ဖတ်ဖြစ်လာသောအခါ စက္ကူပြုလုပ်ရန် အသင့်ဖြစ်လေပြီ။ ထိုအခါ နန်းကြိုးများဖြင့် ကွက်စိတ်ရက်ထားသော ဆန်ခါခွက်ကို ပျော့ဖတ်ရည်တွင်နှစ်၍ ဆယ်တင်ရသည်။ ထိုအချိန်တွင် ပျော့ဖတ်အမျှင်များ ညီညီညာညာ အနည်ထိုင်အောင် ဆန်ခါခွက်ကို ဖြည်းဖြည်းသက်သာ လှုပ်ပေးနေရသည်။ ရေသည် ဆန်ခါအပေါက်ကလေးများမှ ယိုကျသွားသောအခါ ဆန်ခါပေါ်၌ စို့ရွှဲနေသောစက္ကူ တရွက်စီ တင်၍ကျန်ရစ်ခဲ့သည်။ ထိုသို့ရရှိသော စက္ကူအစိုများကို သက္ကလတ်ကြမ်း နှစ်ချပ်ကြားတွင် တရွက်စီညှပ်၍ တခုပေါ်တခုဆင့် ထပ်ပုံပြီးသော် ရေအားလုံးလိုလို ထွက်သွားရအောင် ဖိစက်ဖြင့် ဖိညှစ်ပေးရသည်။ ထိုနောက် စက္ကူချပ်ကို ကျွဲကော် သို့မဟုတ် အခြား ကော်ရည်တမျိုးမျိုး ထည့်ထားသော စည်တွင် နှစ်၍ အခြောက်လှန်းလိုက်သောအခါ မင်ဖြင့်ရေးနိုင်သည့် သာမန်စက္ကူ ဖြစ်လာသည်။ အကယ်၍ ကော်ရည်တွင် မနှစ်ပေးပါက ခဲဖြင့်သာရေးနိုင်သော စက္ကူကြမ်းကို ရနိုင်သည်။

စက်ဖြင့်စက္ကူလုပ်နည်း။ ။၁၉ ရာစု နှစ်ဦးလောက်က စ၍ ခေတ်မှီ စက္ကူလုပ်စက်များ စတင်ပေါ်ပေါက်လာသည်။ ထိုရာစုနှစ် အလယ်ပိုင်းသို့ ရောက်သောအခါ စက္ကူအကောင်းစား ပြုလုပ်သည့်ကိစ္စမှလွဲ၍၊ စက်ဖြင့်ပြုလုပ်နည်း

သည် လက်ဖြင့်ပြုလုပ်နည်းကို နေရာတကာ၌တွင်လွှမ်းမိုးသွားသည်။ ယခုအခါ စက္ကူစက်များနှင့် စက္ကူလုပ်နည်းများသည် တစထက်တစ တိုးတက်ကောင်းမွန်လာခဲ့ရာ၊ တနေ့ကို စက္ကူတန်ချိန် တရာကျော်နှုန်းဖြင့် သစ်လုံးဘဝမှ စက္ကူဘဝ ရောက်သည်အထိ တဆက်တည်း ပြုလုပ်နိုင်သည်။ အလျား ပေ ၂၅၀ မျှရှည်သော စက်ကြီးများပင် ရှိနေလေပြီ။

စက္ကူစက်ရုံကြီးများတွင် စက္ကူလုပ်မည့်ပျော့ဖတ်များကို စိမ်ထားသော စည်ကြီးများရှိသည်။ အဝတ်စုတ်မှပြုလုပ်သော အဝတ်ပျော့ဖတ်ကို ရလိုပါက အဝတ်စုတ်များကို ထိုစည်ကြီးများတွင်ထည့်၍ စက်ဖြင့် မွှေနှောက် ချေဖျက်ပေးရသည်။ လုပ်ရိုးလုပ်စဉ် အတိုင်း သစ်သားမှ ပြုလုပ်သော သစ်ပျော့ဖတ်ကို ရလိုပါက အောက်ပါ နည်းနှစ်နည်းကို သုံးကြသည်။ ပဌမနည်းတွင် အခေါက်နှင့်အမြစ်များကို ခွာပစ် ထုတ်ပစ်ပြီးနောက် စက်ရုံသို့ ရောက်လာသော သစ်တုံးများကို အမျှင်များဖြစ်အောင် စက်ဖြင့် ကြိတ်ပေး၍ အမျှင်များကို အဆိုပါစည်များထဲသို့ ရေနှင့် မျှောချပေးသည်။ ထိုပျော့ဖတ်မျိုးကို စက်ကြိတ်ပျော့ဖတ်ဟု ခေါ်သည်။ သို့ရာတွင် ဤပျော့ဖတ်မှ ရသော စက္ကူမှာ အပေါ်စားဖြစ်၍ ညံ့သည်။ အခြားတနည်းမှာ



သစ်ပျော့ဖတ်ပြုလုပ်ရန် သစ်ပိုင်းသစ်စများ

ပျော့ဖတ်ကို ဓာတုဗေဒနည်းဖြင့် ပြုလုပ်ခြင်း ဖြစ်သည်။ ထိုနည်းတွင် သစ်တုံးများကို အစိတ်စိတ် အမြွာမြွာ ဖြစ်အောင် စက်ဖြင့်ကြိတ်ပြီးနောက်၊ ဓာတ်ဆေးရည်များနှင့် အတူ ရော၍ ပြုတ်ရသည်။

ဤသို့ပြုလုပ်ရရှိသည့် ပျော့ဖတ်မျိုးကို ဆေးစိမ်ပျော့ဖတ်ဟုခေါ်သည်။ ဆေးစိမ်ပျော့ဖတ်ပြုလုပ်ရာတွင် အသုံးပြုသော ဓာတ်ဆေးများကိုလိုက်၍ ဗိုင်ဆာလဖိုက်နည်း၊ ဆိုဒါနည်း၊ ဆာလဖိတ်နည်း ဟူ၍ အမျိုးမျိုးရှိသည်။ ဗိုင်ဆာလဖိုက်နည်းတွင် ကယ်လဆီယမ်နှင့် မက်ဂနီဇီယမ် ဗိုင်ဆာလဖိုက်များကိုဎင်း၊ ဆိုဒါနည်းတွင် ကော့စတစ်ဆိုဒါကိုဎင်း၊ ဆာလဖိတ်နည်းတွင် ဆိုဒီယမ် ဆာလဖိတ် ကိုဎင်း အသုံးပြုကြသည်။



သစ်ပျော့ဖတ်ကို ကြေအောင်ချေဖျက်ပေးရသည်။

ဆေးစိမ် ပျော့ဖတ်များမှ အမျိုးအစား ကောင်းသော စက္ကူများကို ရနိုင်သည်။ သစ်သား အပိုင်းအစများကို ဓာတ်ဆေးများနှင့် ပြုတ်လိုက်သောအခါ၊ သစ်သားတွင်ပါသော ပျက်စီးယိုယွင်းတတ်သည့် ပစ္စည်းများကို ဓာတ်ဆေးများက ချွတ်လိုက်သည့်အတွက် ကြာရှည်ခံသောစက္ကူကို ရလေသည်။

အဝတ် ပျော့ဖတ်မှ ပြုလုပ်သော စက္ကူတိုင်း ကိုလည်း အကောင်းစားချည်းဟု မဆိုနိုင်ပေ။ အဝတ်စုတ်များတွင် အကောင်းအညံ့ အမျိုးမျိုးရှိသဖြင့် စက္ကူတွင်လည်း အမျိုးမျိုးဖြစ်နိုင်သည်။ ထိုနည်းတူစွာ သစ်သားတွင်လည်း အမာအပျော့ အမျိုးမျိုးရှိသဖြင့် သစ်ပျော့ဖတ်မှရသော စက္ကူတို့သည် တမျိုးနှင့်တမျိုး မတူကြချေ။ စက္ကူအကောင်းစားထွက်စေသော အဝတ်မှာ ဘိသွာလျှော်ဖြင့်ပြုလုပ်သော လင်နင်ခေါ် အဝတ်ဖြစ်၍၊ စက္ကူအကောင်းစား ထွက်စေသော သစ်သားမှာ စပရူခေါ် ထင်းရှူးသားတမျိုး ဖြစ်ပေသည်။



စက္ကူစက်ရုံအတွင်းမှ စက္ကူလိပ်ကြီးများ

စက်ကြိတ်နည်းနှင့်သော်၎င်း၊ ဆေးစိမ်နည်းနှင့်သော်၎င်း ရရှိသော ပျော့ဖတ်များကို ထိုအတိုင်း စက္ကူစက်ထဲသို့ မသွင်းပေးနိုင်သေးချေ။ စက်ထဲသို့ မသွင်းပေးမီ ပတ်ချာလှည့်ဓားသွားများ တပ်ဆင်ထားသည့် စည်ကြီးများထဲတွင် ကြေမွသွားအောင် မွှေနှောက် ချေဖျက်ပေးရသည်။ ထိုနောက် အခြား လိုအပ်သော ဓာတ်ဆေး၊ ကော်ရည်၊ ဆိုးဆေး စသည်များကို ရောပေးပြီးမှ စက်ထဲသို့ သွင်းပေးရလေသည်။

ပျော့ဖတ်မှစက္ကူပြုလုပ်ပုံ။ ။ပျော့ဖတ်များ အသင့်ဖြစ်သောအခါ စက္ကူဖြစ်အောင်ပြုလုပ်ရန်မှာ မခဲယဉ်းတော့ပေ။ ရှေးဦးစွာ ပျော့ဖတ်များကို ကြေးနီကြိုးကလေး များဖြင့် ပိုက်ကွန်သဖွယ် ရက်လုပ်ထား၍ ဘီးများပေါ်တွင် မြန်စွာ ရွေ့နေသော ဆန်ခါပေါက်အပြားကြီးများက သယ်ဆောင်သွားသည်။ ထိုသို့သယ်ဆောင်သွားစဉ် ဆန်ခါပေါက်များမှ ရေများ ယိုကျသွား၍ လေစုတ်စက်ဖြင့်လည်း ရေကို စုတ်ထုတ်သည်။ ထိုအချိန်တွင် ပျော့ဖတ်ကို အထူအပါးညီစေရန်အတွက် ဆန်ခါပြားကြီးများက နံဘေးလိုက် အနည်းငယ် လှုပ်ရှားပေးလျက်ရှိသည်။

ထိုနောက် ရေစာကို ဖော်ပေးသည့် ဒလိမ့်များ ဆီသို့ ရောက်သွားသည်။ ထိုမှတဖန် ရေကို ထပ်မံညှစ်ထုတ်၍ စက္ကူသားကို ပိုပြီး ကျစ်အောင် ဖိညှစ်ပေးသော အခြား ဒလိမ့်များအကြားသို့ အကြိမ်ကြိမ် ဖြတ်ရသည်။ ထိုနောက် အပူတိုက်ပေးသော ဒလိမ့်များ၊ အချောကိုင်ပေး အရောင်တင်ပေးသည့်ဒလိမ့်များကို ကျော်လွန်ပြီးသောအခါ ကျွန်ုပ်တို့အလိုရှိသော စက္ကူသည် စက္ကူလိပ်ကြီးများ အဖြစ်နှင့် ထွက်ပေါ်လာလေသည်။ စက္ကူအရွယ်အစား အမျိုးမျိုးကိုလည်း လိုသလို စက်များနှင့်ပင် ဖြတ်ပေးနိုင်သည်။

စက္ကူကို အလွန်အသုံးများ၍ စက္ကူလုပ်ငန်းမှာ အလွန်ကြီးကျယ်သည့်အလျောက် တနှစ်တနှစ်တွင် စက္ကူလုပ်ရန်အတွက် ခုတ်လှဲရသော သစ်ပင်ပေါင်းမှာ မနည်းလှချေ။ စက္ကူကို အရမ်းမဲ့ သုံးဖြုန်းကြ၍၊ သစ်ပင်များကိုလည်း အလျင်မှီအောင် ထပ်မံ မစိုက်ပျိုးဘဲ ဤအတိုင်းသာ ဆက်သွားမည်ဆိုပါက တနေ့တွင် ဤကမ္ဘာ၌ ခုတ်လှဲစရာ မကျန်တော့အောင်ပင် သစ်ပင်များ ရှားပါးသွားမည့်ဘေးကို စိုးရိမ်နေရပေသည်။

စက်စီယင်။ ။ယင်ကောင်များတွင် လူတို့အား အန္တရာယ်အများဆုံး ပြုနိုင်သော ယင်ကောင်မှာ အာဖရိကတိုက် အပူပိုင်းဒေသရှိ စက်စီယင်ကောင် ဖြစ်သည်။ စက်စီယင်သည် သာမန်ယင်ကောင်များထက် အတန်ငယ် ကြီးထွားသောကိုယ်ရှိသည်။ အရောင်မှာ ညိုသည်။

စက်စီယင်ကြောင့် တနှစ်တနှစ်တွင် ပျက်စီးဆုံးပါးရခြင်းသည် မခန့်မှန်းနိုင်လောက်အောင် ဖြစ်သည်။ အာဖရိကတိုက်ရှိ အချို့ အရပ်ဒေသများတွင် လူမနေနိုင်လောက်အောင်ပင် ဆိုးရွားသည်။ ဤယင်မျိုး ကိုက်ခဲသည့်အခါ အကိုက်ခံရသူ၏ သွေးထဲသို့ ပရိုတိုဇွန်း ပိုးကလေးများ ဝင်

သွားသည်။ (ပရိုတိုဇွန်းကောင် — ရှု။) ဂလေဂ်စင်းနား ပါလပဲလစ် ခေါ် ယင်ကောင်မျိုးသည် လူတို့အား ကိုက်ခဲလျှင် အလွန်ကြောက်မက်ဖွယ်ကောင်းသော ဦးနှောက်ရောင် အိပ်မဝ ရောဂါကို စွဲကပ်စေတတ်၏။ ဦးနှောက်ရောင် အိပ်မဝ ရောဂါဟု ဆိုခြင်းမှာ ရောဂါစွဲကပ်သူသည် အစဉ် အိပ်ချင်နေတတ်ခြင်းကြောင့် ဖြစ်သည်။ ဂလေဂ်စင်းနား မော်စီတန်း ခေါ် ယင်ကောင်မျိုးသည် ကျွဲနွား တိရစ္ဆာန်၊ မြင်း၊ ခွေးနှင့် အခြားအိမ်မွေးတိရစ္ဆာန်များကို နဂါးနား ခေါ် ရောဂါမျိုး ဖြစ်စေတတ်သည်။

၂၀ ရာစုနှစ် မတိုင်မီက အဆိုပါရောဂါများသည် စက်စီယင်ကြောင့် ဖြစ်ပေါ်လာရကြောင်းကို မသိကြပေ။ နောင်အခါမှ သိပ္ပံပညာရှင်တို့ စူးစမ်းရှာဖွေ၍ ထိုအကြောင်းကိုသိရှိနားလည်လာကြသည်။ ယခုအခါ ထိုယင်မျိုးတို့၏ အန္တရာယ်ကို ကြိုတင်ကာကွယ်နိုင်ကြပေပြီ။ အထူးသဖြင့် စက်စီယင်သည် မြစ်၊ ချောင်း၊ အိုင် တို့၏ ကမ်းပါးတွင် ပေါက်ပွားလေ့ရှိရာ၊ ထိုကမ်းပါးတို့၏ အနီးအနားတဝိုက်ရှိ တောချုံ စသည်တို့ကို ရှင်းပစ်ခြင်းဖြင့် အန္တရာယ်မှ သက်သာရာ ရစေနိုင်သည်။



စက်စီယင်
(အာဖရိကတိုက်မှ သွေးစုတ်ယင်ကောင်)

ယင်ကောင်တို့တွင် စက်စီယင်ကောင်သည် အတော်ပင်ထူးဆန်းသည်။ အဘယ်ကြောင့်ဆိုသော် စက်စီယင်မသည် ဥမအုဘဲ ရက်သတ္တ ၂ ပတ်လျှင် တကြိမ် ပိုးလောင်း တကောင်ကျ ပေါက်တတ်သောကြောင့် ဖြစ်သည်။ စက်စီယင်သည် နားနေသည့်အခါ အတောင်ပံကို နောက်ကျောအောက်သို့ အလျားလိုက် ခေါက်ထားလေ့ရှိသည်။

**စက်တော်ရာ။** ။စက်တော်ရာစေတီသည် မင်းဘူးမြို့မှ အနောက်တောင်ဖက် ၂၈ မိုင်ကွာဝေးသော အနောက်ရိုးမ အရှေ့ဖက်ဆုံး တောင်စွယ်ပေါ်တွင် တည်ရှိသည်။ စက်တော်ရာစေတီကို ရွှေစက်တော် ဟူ၍၎င်း၊ မန်းစက်တော်ရာ ဟူ၍၎င်း ခေါ်ကြသည်။ စက်တော်ရာသို့ ဘုရားဖူးသွားလိုလျှင် မင်းဘူးနှင့် စကုမြို့များမှတဆင့် သွားရလေသည်။ စက်တော်ရာသည် စကုမြို့၏ အနောက်တောင်ဖက် ၁၆ မိုင်အကွာတွင်ရှိသည်။ ထိုမြို့များမှ ဆည်တော်အထိ မြေညီခရီးကို မော်တော်ကားဖြင့် လွယ်ကူစွာ သွားနိုင်သည်။ ဆည်တော်မှ စက်တော်ရာတောင်အထိကိုမူ တောင်တက်တောင်ဆင်း ခရီးများဖြစ်၍၊ နွားလှည်းဖြင့် ခဲယဉ်းစွာ သွားရ၏။ စက်တော်ရာသည် အောက်စက်တော်ရာနှင့် အထက်စက်တော်ရာဟူ၍ နှစ်ဌာနရှိသည်။ တောင်ပေါ်တွင်ရှိသော ဘုရားသခင်၏ ခြေတော်ရာတဆူကို အထက်စက်တော်ရာဟု ခေါ်ကြ၍၊ တောင်အောက် မန်းချောင်းဘေး၌ရှိသော ခြေတော်ရာတဆူကို အောက်စက်တော်ရာဟု ခေါ်ကြသည်။

ထိုစက်တော်ရာများ၏ သမိုင်းကား ဤသို့တည်း။ ဂေါတမမြတ်စွာဘုရားသည် ဘုရားဖြစ်တော်မူပြီး၍ ဝါတော်ငါးဝါမြောက်သောအခါ၊ သုနာပရန္တတိုင်း၊ လယ်ကိုင်းမည်သော ဝါဏိဇ္ဇဂါမ၌ မဟာပုဏ် (မဟာပုဏ္ဏ)၊ စူဠပုဏ် (စူဠပုဏ္ဏ) ကုန်သည်ညီနောင် နှစ်ယောက်တို့သည် ဘုရားသခင်အားပန်ကြား၍ စန္ဒကူးနံ့သာကျောင်းကိုဆောက်၏။ ဘုရားသခင်လည်း သာဝတ္ထိပြည်၊ ဇေတဝန်ကျောင်းတော်မှ ပြာသာဒ်ယာဉ်ပျံ ၅၀၀ တွင် ရဟန္တာငါးရာတို့အား လိုက်ပါစေပြီး အခြံအရံပြုလျက်၊ ကောင်းကင်ခရီးဖြင့် ကျောင်းတော်မပြီးမခြင်း အကြိမ်ကြိမ်ကြွတော်မူလာ၏။

ဤကိုရည်၍ ရှင်မဟာသီလဝံသ အရှင်သူမြတ်က တန်တားဦးတည်မော်ကွန်းတွင် 'သုနာပရန်၊ ကျွန်းမွန်အောင်နိုပ်၊ တမ္ဗဒိပ်ဟု၊ တံဆိပ်နှစ်ထပ်၊ စက်ရှင်ကွပ်၍၊ မြန်ရပ်တမူ၊ စည်လိမ့်ဟူသား၊ လိုင်ကြူမေတ္တာ၊ ဈာန်ချမ်းသာဖြင့်၊ စမ္ပာယ် ဓာတ် လှောင်း၊ နံ့ သာ ကျောင်း ဝယ်၊ ကျိန်းအောင်ဘုန်းကြီး၊ ဆုံးမငြီးလျှင်၊ မပြီးမခြင်း၊ လုပ်စဉ်တွင်း၌၊ သနင်းခေါက်ခေါက်၊ ကြိမ်ကြိမ်ရောက်၏။' ဟူ၍ စပ်ဆိုထားခဲ့လေသည်။ ထိုကျောင်းပြီးသောအခါ အလှူခံတော်မူပြီးလျှင်၊ ခုနစ်ရက်ပတ်လုံး ဈာန်၏ ချမ်းသာဖြင့် မွေ့လျော်တော် မူ၍ တရား ဒေသနာ တိုက် ကျွေး တော် မူသည်။ ထိုနောက် ဝါဏိဇ္ဇဂါမသို့ ဆွမ်းခံကြွတော်မူရာ၊ နမ္မဒါမြစ် (ယခု မန်းချောင်း) နားသို့ ရောက်တော်မူသည်။ ထိုအခါ ထိုမြစ်၌နေသော နမ္မဒါနဂါးမင်းသည် မြတ်စွာဘုရား၌ အလွန်ကြည်ညိုသဖြင့် နဂါးပြည်သို့ ပင့်လျက် ကြီးစွာသော ပူဇော်သက္ကာရတို့ဖြင့် တရားတော်ကိုနာ၏။ တရားနာပြီးသော် ဘုရားသခင်အား ကိုးကွယ်ရာအမွေ တစုံတခုကို ပေးတော်မူခဲ့ပါရန် လျှောက်ထားသည့်အတွက် မြတ်စွာဘုရားလည်း နမ္မဒါမြစ်နား၌ ခြေတော်ရာ ပါဒစေတီကို ထားတော်မူခဲ့သည်။ ထို စက် တော် ရာ ကို အောက်စက်တော်ရာဟု ခေါ်ကြ၏။

မြတ် စွာ ဘု ရား သည် ထိုမှ သစ္စ ဗန္ဓ တောင် ထိပ် သို့ ကြွတော်မူ၏။ တောင်ထိပ်သို့ ရောက်တော်မူလျှင်၊ ထိုအရပ်တွင်ရှိသော သစ္စဗန္ဓ ရသေ့ကို တရားဟောတော်မူ၍

အရဟတ္တဖိုလ်၌ တည်စေသည်။ သစ္စဗန္ဓထေရ်လည်း အရှိ အသေ ကိုးကွယ်ရာကို တောင်းပန်ရာ မြတ်စွာဘုရားလည်း တခဲနက်သောအပြင်ရှိ ကျောက်ဖျာထက်၌ စိုသောမြေစိုင်ခဲ ပေါ်တွင် တံဆိပ်ခတ်ဘိသကဲ့သို့ စက်တော်ရာပါဒစေတီကို ချတော်မူ၏။ ထိုနောက် သာဝတ္ထိပြည်၊ ဇေတဝန်ကျောင်း တော်သို့ ပြန်ကြွတော်မူသည်။ ဒုတိယ ချတော်မူသော ဤခြေရာတော်ကို အထက်စက်တော်ရာဟု ခေါ်တွင်ကြ သည်။ ယင်းသို့ ခြေတော်ရာနှစ်ဆူ ချတော်မူသည်ကို ရှင် မဟာသီလဝံသသည် တန်တားဦးတည်မော်ကွန်း၌ 'ကျယ် ပြောနောင်လာ၊ ငါရိုက်ရကား၊ သုနာပရန်၊ ကျွန်းမွန် အောင်နိုပ်၊ တမ္ဗဒိပ်ဟု၊ တံဆိပ်နှစ်ထပ်၊ စက်ရှင်ကွပ်၍၊' ဟူ၍ရင်း၊ ရှင်မဟာရဋ္ဌသာရ တန်တားဦးတည် မင်္ဂလာ စေတီမော်ကွန်း၌ 'ရွှေစက်နင်း နိုပ်၊ ရာတံဆိပ်ဖြင့်၊ မာရ်နိုပ် ထက်ကြပ်၊ စက်ရှင်ကွပ်သား၊' ဟူ၍ရင်း၊ 'နမ္မဒါဟု၊ မြစ်သာ ကမ်းနား၊ တောင်ထွတ်ဖျား ဝယ်၊ နှစ်ပါးတူကွ၊ ရာတော် ပြလျက်၊ လောကသခင်၊ မျှ လောက်စင်သည်၊ စည်ပင် သာသနာ၊ တည်ကြာလမည်၊' ဟူ၍ရင်း၊ စပ်ဆိုခဲ့သည်။ ထို့ပြင် ရှင်မဟာရဋ္ဌသာရသည် ရွှေစက်တော်သွား တောလား တွင်လည်း 'ဘုန်းသန်သကျ၊ မုနိန္ဒလျှင်၊ ရှင်ပျကြည်ဖြူ၊ ဟောတော်မူသည်၊ လေးဆူ ကျွန်းမြတ်၊ ဘုန်းထွဋ်သိရိ၊ တမ္ဗဒိထက်၊ ကျော်သိထင်ရှား၊ ကျေးဇူးများ၏၊ နဂါးမုဆိုး၊ ရိုကျိုးတောင်းပန်၊ ပူဇော်ရန် ဟု၊ နမဿနား၊ ရာဇတပါးနှင့်၊ တောင်ဖျားကျောက်ထိပ်၊ နင်းနိုပ်ရာတော်၊ နှစ်ဘော်ရွှေ စက်၊ ရောင်ပြိုးပြက်သည်၊' ဟူ၍ စပ်ဆိုထားလေသည်။

ထိုစက်တော်ရာနှစ်ဆူကိုမြတ် စွာဘုရားသခင် သက်တော် ထင်ရှား ရှိစဉ်ကပင်စ၍ အစဉ် အဆက် ကိုးကွယ်လာခဲ့ကြ လေသည်။ မြတ်စွာဘုရား ပရိနိဗ္ဗာန် စံတော်မူပြီးသည့် နောက်ကာလတွင်၊ ချုံနွယ်ပိတ်ပေါင်းတို့ဖြင့် ဖုံးအုပ်ကာ၊ လူသူ အရောက်အပေါက် မရှိဖြစ်ခဲ့၏။ ထို့နောင် သီရိ ဓမ္မရာ၊ ဒုတ္တပေါင်မင်းကြီး လက်ထက် မင်းကြီး ကိုယ် တော်တိုင် ကြွရောက်လာ၍ စက်တော်ရာနှစ်ဆူ အထက်၌ စုလစ်မွန်းချွန်၊ တုရင်မှန်ကင်း၊ မုတ်တံခါးတို့ကို ပြုလုပ်လှူ ဒါန်းခဲ့၏။ ထိုနောက် ညောင်ဦးစောရဟန်းမင်း၊ ကြောင် ဖြူမင်းတို့ အပူးအမြော် ကြွရောက်၍ အလှူဒါန ပြုခဲ့ကြ သည်။ ပုဂံ အနော်ရထာစောမင်းမှာမူကား ရွှေချိန် တ ထောင်ကို လှူဒါန်းခဲ့၍၊ ကျန်စစ်သားမင်းကြီးမှာမူ ကိုယ် လေးတော်အမျှဖြင့် ရွှေကိုလှူဒါန်းခဲ့ရုံမျှမက၊ ပန်းထိမ်း၊ မဖဲ စသည့် ခုနစ်မြို့မှ လူပေါင်း ၁၅၀ ကို စေတီအစောင့်အဖြစ် လှူဒါန်းခဲ့ဘူးသည်။ အလောင်းစည်သူမင်းကြီးကမူ မြေ



ညောင်ဦးမြို့ ရွှေစည်းခုံဘုရားတန်ဆောင်းအတွင်းရှိ ခြေတော်ရာ



အမရပူရမြို့ ကျောက်တော်ကြီးဘုရားရှိ ရွှေ
ရေးပန်းချီလက်ရာ စက်တော်ရာတဆူ

များလှူဒါန်း၍ ထိုနယ်မြေမှ မြေဆီမြေခွန်၊ ပွဲတည်၊ ဆိပ်၊ ကင်း၊ ကူးတို့ဆင်သော၊ မြင်းလဲခွန်များ၊ တရားကွမ်းဖိုးများကို ဘုရား၏ဝေယျာဝစ္စအတွက် လှူဒါန်းခဲ့လေသည်။

ဤသို့ မင်းစဉ်မင်းဆက် ကြွရောက် ဖူးမြော်၍ လှူဒါန်းခဲ့ကြသော်လည်း၊ နောင်ကာလတွင် လူသူ အရောက်အပေါက် မရှိဖြစ်ကာ ချုံနွယ်ပိတ်ပေါင်းများ ဖုံးအုပ်ခဲ့ပြန်လေသည်။ အင်းဝ သာလွန်မင်းတရားကြီးလက်ထက် ရောက်သောအခါမှ၊ ပဌမ တောင်ဖီလာဆရာတော် စသော ဆရာတော်ကြီး ၄ ပါးတို့သည် မင်းတရားကြီး လျှောက်ထားတောင်းပန်သဖြင့် ရှာဖွေတွေ့ရှိခဲ့ရာမှ စက်တော်ရာဒေသသို့ လူသူ အရောက်အပေါက် လွယ်ကူစေရန် ရှင်းလင်းစေခဲ့လေသည်။ ထိုနောက် မင်းများသည် အလောင်းမင်းတရားကြီး လက်ထက်တိုင်၊ စက်တော်ရာဒေသသို့ ကြွရောက်၍ လှူဒါန်းပူဇော်ကြလေသည်။

သက္ကရာဇ် ၁၀၅၇ ခုနှစ်တွင်၊ လယ်ကိုင်းမြို့ဒေသမှ ရှင်သုဓမ္မစာရီသည် ဘုရားဖူး လာသူတို့ အခက်အခဲ မတွေ့စေရန် နှင့် ရာသီဥတုဘေးဒဏ်မှ ကင်းဝေးစေရန် အထက်စက်တော်ရာကို ရှိရင်းတောင်ကမ်းပါးမှ ငြမ်းဆင်၍ ပြောင်းရွှေ့စေရာ၊ ခြေတော်ရာမှ ခြေသန်းတော်မှာ ပဲ့သွားလေသည်။ ယင်းသို့ပဲ့သွားသော နေရာတွင် ရွှေဖြင့် အစားထိုးပြင်ဆင်ထားခဲ့၏။ ယခုအခါ မြန်မာနိုင်ငံအရပ်ရပ်မှ လွယ်ကူစွာ သွားလာနိုင်ရန် စီစဉ်ထားလေသည်။

စက်တော်ရာ အနီးအနားရှိ တောင်များ၊ ဒေသများကို ဘုရားသခင်၏ ခြေတော်ရာကို ချထား ပေးသနားရန် တောင်းပန်ခဲ့သော သစ္စဗန္ဓ မထေရ်အား အစွဲပြု၍ ယခုအခါ မှည့်ခေါ်ထားသည်ကို တွေ့ရ၏။ ထိုမထေရ်သည် ရှေးအခါ မုဆိုးအဖြစ်ဖြင့် အသက်မွေးခဲ့စဉ်က နေထိုင်သည်ကို အစွဲပြု၍ အထက်စက်တော်ရာဘေးမှ တောင်ကို 'မုဆိုးတောင်' ဟုလည်းကောင်း၊ ထိုတောင်အောက်ရှိသော တောင်တလုံးကို မုဆိုးကြီး ရရှိသော သားကောင်မှရသည့် သားရေကြက်ရာနေရာ ဖြစ်၍ 'သားရေကြက်တောင်' ဟုလည်းကောင်း ယုံမှတ်ခေါ်ဝေါ်ကြသည်။ မုဆိုးတောင်၏ လကျ်ာအစွန်းတွင် ထူးခြားစွာ တည်ရှိနေသော ကျောက်တုံးကြီးတခု၌ မုဆိုး၏ ဒူးထောက်ရာနှင့် ခြေရာများ ရှိ၍ ထိုခြေရာတို့တွင် တင်ရှိနေသောရေများကို မျက်စဉ်းအဖြစ်ခတ်ပါက မျက်စိရောဂါများပျောက်သည်ဟု ယုံကြည်ကြသည်။

လမ်းခရီးစခန်းများကိုလည်း စက်တော်ရာသမိုင်းနှင့်ဆက်စပ်၍ အမည်မှည့်ခေါ်ထား၏။ စကုမြို့မှ ၇ မိုင်ခန့်အကွာ အနောက်ဖက်တွင်၊ မုဆိုးကြီး ယုန်လိုက်ကြည့်ရာ တောအုပ်တခု ရှိခဲ့သည်ဟု ယုံကြည်သဖြင့် ထိုနေရာကို 'ယုန်ကြည့်တော' ဟု ခေါ်ကြသည်။ မြတ်စွာဘုရားသခင် ကြွရောက်စဉ်က၊ ဆွမ်းစားပြီးနောက် လုပ်တော်ဆေးခဲ့သည်ကို ရည်ညွှန်း၍ 'လုပ်ဆေးချောင်း' ဟု ခေါ်တွင်ကြသည်။ ထိုချောင်းတွင် ဆန်စေ့နှင့်တူသော ကျောက်ခဲကလေးများကို အနှံ့အပြား တွေ့ရှိရ၏။ စက်တော်ရာဘုရားသို့ ရောက်



စက်တော်ရာစေတီနှင့် မန်းချောင်း

ခါနီး တောင်အဆင်း စခန်းတခုကိုလည်း၊ မုဆိုးကြီး လေးတင်၍ဆင်းရာအရပ်ဟု ယုံကြည်ကြကာ၊ 'လေးတင်ဆင်းစခန်း' ဟု အမည်ပေးထားကြသည်။ အထက်စက်တော်ရာတောင်ဘေးရှိ လိုဏ်ဂူတခုကို မြန်မာနိုင်ငံသမိုင်းတွင် မင်းငါးဆက်၏မိဖုရား ဖြစ်ခဲ့သော ရှင်ဘိုမယ်သည် ရောက်လာ၍စခန်းချနားနေလျက် ရက်ကန်းခတ်ခဲ့ဘူးသည်ကို ရည်မှတ်၍ 'ရှင်ဘိုမယ်တွင်း' ဟု ခေါ်ဝေါ်ကြ၏။ မိန်းမများသည် ထိုတွင်း၏ဘေးတွင် အပေါက်ငယ်များပြုလုပ်၍ လက်ညှိုးကိုထားကာ ရက်ကန်းတတ်ပါစေ၊ ဗိုင်းတတ်ပါစေဟု ဆုတောင်းလေ့ရှိကြသည်။



သစ္စဗန္ဓထေရ် လျှောက်ထားတောင်းပန်သဖြင့် မြတ်စွာဘုရားသခင်ထားခဲ့သည့်
အထက်စက်တော်ရာစေတီ

စက်တော်ရာတောင်ကို မန်းချောင်းသည် ကွေ့ပတ်၍စီးဆင်းရာ၊ တောင်ခြေရင်းသို့ သုံးကြိမ်တိုင်တိုင် သုံးနေရာတွင် ချဉ်းကပ်ပြီးမှ တဖြောင့်တည်း စီးဆင်း သွားလေသည်။ ဤသည်ကို အသက်မရှိသောမန်းချောင်းပင်လျှင် မြတ်စွာဘုရား၏ ခြေတော်ရာချရာအရပ်ကို ဦးသုံးကြိမ်တိုက်သည်ဟု ပြောစမှတ်ပြုကြလေသည်။

စက်တော်ရာဘုရားနှင့် စပ်လျဉ်း၍ စက်တော်ရာဘုရားကျောက်စာ၊ ရွှေစက်တော်တန်ဆောင်း ကျောက်စာ ဟူ၍ ကျောက်စာ ၂ ဆူ ရှိလေသည်။ ယင်းတို့မှာ မူလထိုးများ မဟုတ်ချေ။ စပ်ထိုးနှင့် ဆင့်ထိုး အသီးသီးဖြစ်ကြ၏။ စက်တော်ရာဘုရား ကျောက်စာအရ၊ ထီးလှိုင်ရှင် ကျန်စစ်သားမင်း (၄၂၇ ခု)၊ အလောင်းစည်သူမင်း (၄၇၅ ခု၊ ၅၁၂ ခု)၊ နရပတိစည်သူမင်း (၅၄၅ ခု)၊ ပဌမ မင်းခေါင် (၇၆၇ ခု) နှင့် ဒုတိယ မင်းခေါင် (၈၄၇ ခု) တို့ ကျွန်သီးတော်ဝတ္တကံရွာမြေရပ်များကို လှူဒါန်းကြကြောင်း သိရသည်။ ရွှေစက်တော်တန်ဆောင်း ကျောက်စာ (၆၀၀ ပြည့်နှစ်) တွင် ရွှေစက်တော်ဘုရား၌ တန်ဆောင်း ဆောက်၍ ဝတ်မြေလှူကြောင်း ဖော်ပြထားလေသည်။



နမ္မဒါနဂါးမင်း လျှောက်ထားသည့်အတွက် မြတ်စွာဘုရားသခင်ထားတော်မူခဲ့သည့်
အောက်စက်တော်ရာစေတီ



ရှေးဦးစွာတီထွင်ခဲ့သော ခြေယက်စက်ဘီးများ

**စက်ဘီး။** ။စီးစရာထိုင်ခုံနှင့် သံမဏိဘောင်တွင် ဘီးတပ်၍၊ ခြေဖြင့် ခြေနင်းကိုလှည့်ပေးရသော လူစီးယာဉ်တမျိုးသည် စက်ဘီးဖြစ်၏။ စက်ဘီးသည် ခရီးသွားရာ၌ တွင်ကျယ်သည့်အပြင် မော်တော်ယာဉ်များကဲ့သို့ စရိတ်အကုန်အကျ မများချေ။ ယင်းကို ထိန်းသိမ်းရသည့်တာဝန်လည်း မကြီးမားချေ။ တန်ဖိုးချိုသာသောကြောင့်၊ ကျောင်းသူကျောင်းသားများနှင့် အလုပ်သမား ဆင်းရဲသားတို့ပင်လျှင် ယင်းကို ဝယ်ယူသုံးစွဲနိုင်ပေသည်။ စက်ဘီးကို အလုပ်ကိစ္စအတွက်သာလျှင်၊ အသုံးပြုနိုင်သည်မဟုတ်၊ ကိုယ်လက်လှုပ်ရှားကစားမှုတရပ် အနေနှင့်လည်း အသုံးပြုနိုင်လေသည်။

စက်ဘီးစီး ပြိုင်ပွဲများကို အခြားသော ပြေးပွဲပြိုင်ပွဲ၊ ကစားပွဲများ နည်းတူ ရံဖန်ရံခါ ကျင်းပလေ့ရှိကြ၏။ စက်ဘီးစီးပြိုင်ပွဲများတွင် အနှေးစီးခြင်း၊ အမြန်စီးခြင်း၊ အလုစီးခြင်း၊ တာတိုစီးခြင်း၊ တာရှည်စီးခြင်း ဟူ၍ နည်းအမျိုးမျိုး ရှိသည်။ တာတို၊ တာရှည် အမြန်စီးပြိုင်ပွဲတွင်လည်း နည်းနှစ်မျိုး ရှိပြန်သည်။ နည်းတမျိုးမှာ ပြိုင်ပွဲဝင်သူများကို တပြိုင်တည်း မလွှတ်ဘဲ၊ မိနစ်ဝက်၊ တမိနစ်စီခန့် ခြား၍ တယောက်ပြီးတယောက် ပန်းတိုင်သို့အရောက် လွှတ်ခြင်း ဖြစ်ပြီးလျှင်၊ အခြားနည်းတမျိုးမှာ ပြိုင်ပွဲဝင်သူအားလုံးကို တာထွက်စည်းမှ တပြိုင်တည်း လွှတ်ခြင်းဖြစ်သည်။ ပဌမနည်းဖြစ်သော ပြိုင်ပွဲတွင် ပန်းတိုင်သို့ အချိန်အနည်းဆုံးဖြင့် ရောက်သွားသူသည်



ရှေ့ဘီးမြင့်ကြီးတွင် ခြေနင်းတပ်ဆင်ထားသောစက်ဘီး

ပဌမရ၍၊ ဒုတိယနည်းဖြစ်သောပြိုင်ပွဲတွင် ပန်းတိုင်သို့ ရှေးဦးစွာ ရောက်ကိသူသည် ပဌမရလေသည်။

စက်ဘီးဟူ၍ ပေါ်ပေါက်လာပုံမှာ ဤသို့ဖြစ်၏။ ၁၇၇၉ ခုနှစ် ဇူလိုင်လ ၂ ရက်နေ့ထုတ် ပြင်သစ်နိုင်ငံ ပါရစ်ဂျာနယ်တွင် ခြေယက်စက်ဘီးတမျိုးကို ပြင်သစ်လူမျိုး ၂ ဦးက တီထွင်ပြုလုပ်လိုက်ကြပြီဟု ရေးသားဖော်ပြခဲ့၏။ ထိုစက်



ယခုခေတ်စက်ဘီး၏ရှေ့ပြေး သုံးဘီးတပ်စက်ဘီး



ယခုခေတ်စက်ဘီးများ

ီးမှာ သစ်သားဘောင်တခုကို ရှေ့နောက်ထားရှိသော ဘီး ဘီးတွင် အသေ တပ်ဆင်ထားသော ကရိယာ ဖြစ်လေ ာည်။ စီးသူသည် သစ်သားဘောင်ကို ခွ၍ထိုင်ပြီးလျှင် မြေကြီးကို ခြေနှင့် ကန်ကာ ယက်ကာ၊ ဘီးလိမ့်သွားအောင် ုလုပ်ပေးရလေသည်။ ထိုစက်ဘီးသည် ညီညာ ပျံ့ပျူး သော မြေပြင်တွင် အသင့်အတင့်မျှ အရှိန်ဖြင့် သွားနိုင် သော်လည်း ကုန်းတက်များတွင်မူ အလျင်းပင် အသုံးမဝင် တော့ချေ။ ဆင်ခြေလျှောများကို စီးဆင်းရာတွင်ကား၊ ာလွန်ပင် လျင်မြန်လေသည်။

၁၈၁၇ ခုနှစ်တွင် ဂျာမန်လူမျိုးတဦးသည် ပြင်သစ်နိုင်ငံ၌ပေါ်ခဲ့သော ခြေယက်စက်ဘီး ထက် အနည်းငယ်သာသည့်ခြေယက်စက်ဘီး ကို ကြံစည်ပြုလုပ်လိုက်လေသည်။ ထိုစက် ဘီး၏ ထူးခြားချက်တရပ်မှာ ရှေ့ဘီးကို ထိုင် ခုံသစ်သားဘောင်တွင် ငုတ်ဖြင့်လျှိုသွင်း ကာ လှည့်နိုင်အောင် တပ်ဆင်ထားခြင်းပင် ဖြစ်၏။ ထိုအစီအမံကြောင့် ရှေ့ဘီးကို လက် ကိုင်ဖြင့်ထိန်းကာ လိုရာဖက်သို့ ဦးလှည့်ပေး နိုင်လေသည်။

စကော့လူမျိုး တဦး သည်လည်း ၁၈၃၄ ခု နှစ်တွင် ခြေနင်းတပ် ၃ ဘီးစက်ဘီးကိုရင်း၊ ၁၈၄၀ ပြည့်နှစ်တွင် ခြေနင်းတပ် ၂ ဘီးစက် ဘီးကိုရင်း၊ စီမံပြုလုပ်ခဲ့၏။ ထိုစက်ဘီးတို့၏ ထူးခြားချက်ကား၊ နောက်ဘီးဝင်ရိုးကို ခြေနင်းမှ မောင်း တံနှင့်ဆက်ကာ လှည့်ပေးနိုင်ခြင်းပင်ဖြစ်၏။ ခြေနင်းတပ် ၂ ဘီးစက်ဘီး၏ ရှေ့ဘီးမှာ လက်မ ၃၀ ခန့်မြင့်၍ အားပေး ဘီးဖြစ်သော နောက်ဘီးမှာ လက်မ ၄၀ ခန့်မြင့်ပြီးလျှင်၊ ၂ ဘီးစလုံးမှာ သံတိုင်ယာ ကွပ်ထားသော သစ်သားဘီးများ ဖြစ်ကြလေသည်။ ထိုစက်ဘီးသည် ယခုခေတ်သုံး စက်ဘီး များ၏ ရှေ့ပြေးနမူနာပင် ဖြစ်လေတော့သည်။

ထိုနောက်၌ကား ယခုခေတ် ကလေးစီး သုံးဘီးစက်ဘီး မှာကဲ့သို့၊ ခြေနင်းကို ရှေ့ဘီး၏ ဝင်ရိုးတွင် တပ်ဆင်ထား



စက်ဘီးထုတ်လုပ်သော ခေတ်မှီစက်ရုံ



တာရှည်စက်ဘီးပြိုင်ပွဲ ကျင်းပနေစဉ်

သည့် စက်ဘီးမြင့်ကြီးများ ခေတ်စားလာလေသည်။ ရှေ့ဘီးမှာ လွန်စွာပင်ကြီးမား၍ နောက်ဘီးမှာမူ အဆမတန် သေးငယ်လေသည်။ ထိုသို့ပြုလုပ်ထားခြင်း၏ ရည်ရွယ်ချက်မှာ စီးနင်းရာတွင် ပို၍ခရီးတွင်စေရန်ဖြစ်၏။ ရှေ့ဘီးတို့သည် လက်မ ၆၀ မှ ၆၄ လက်မထိ အမြင့်ရှိတတ်ကြသည်။ ထိုစက်ဘီးမျိုးကို စီးတတ်ရန်မှာ အလေ့အကျင့်များစွာလိုသည့်အပြင်၊ အထိန်းရလည်း ခက်သောကြောင့် ဘေးအန္တရာယ်များလေသည်။ ၁၈၆၈ ခုနှစ်တွင် အင်္ဂလန်ပြည်၌ သံတိုင်ယာများအစား ရော်ဗာတိုင်ယာများကို စတင်သုံးစွဲလာကြ၏။

၁၈၇၅ ခုနှစ်တွင် အင်္ဂလိပ်လူမျိုးတဦးသည်၊ အရွယ်တူညီသော နှစ်ဘီးတပ်စက်ဘီးကို ရှေးဦးစွာ လုပ်ကိုင်ခဲ့လေသည်။ ဘောင်မှာလည်း ယခင်စက်ဘီးများ၏ဘောင်ထက် နိမ့်၍ ကျယ်ပြန့်လေသည်။ ခြေနင်းကိုလည်း ရှေ့ဘီးတွင် မဟုတ်ဘဲ၊ ဘီးနှစ်ခုစပ်ကြားတွင် ခွေးသွားစိတ်ဘီးတခု၌ တပ်ဆင်ထား၍ နောက်ဘီးဝင်ရိုးသို့ သံကြိုးတခုဖြင့် ဆက်သွယ်ထားလေသည်။ နင်းလိုက်သည့်အခါ စက်ဘီးသည် နောက်ဘီး၏အားဖြင့် လိမ့်ရ၏။ ထိုစက်ဘီးမှာ ယခုခေတ်သုံး စက်ဘီးများ၏ သဘောအတိုင်းပင် ဖြစ်သည်။ ထိုနောက်တွင်ကား၊ သံလုံးငယ် ဗယ်ရင်ကလေးများကို မပွန်းအောင် ထည့်ခြင်း၊ စပရင်ခံ သားရေထိုင်ခုံများ တပ်ဆင်ခြင်း အစရှိသော ပြုပြင်ချက်များကို တစတစ ပြုလုပ်လာကြပြီးလျှင် နောက်ဆုံး ၁၈၈၈ ခုနှစ်တွင် ရော်ဗာတိုင်ယာများအစား၊ လေလုံးတိုင်ယာ များ ကို ပြောင်း လဲ တပ်ဆင် လိုက်သော အခါ၊ ယခုခေတ်သုံးစက်ဘီး၏ အသွင်အပြင်သို့ ရောက်ရှိလာလေသည်။

စက်ဘီးလုပ်ငန်းသည် ပဌမကမ္ဘာစစ်ကြီး အပြီးတွင်မှ သိသိသာသာ တိုးတက်လာခဲ့လေသည်။ နောက်ဆုံးပေါ် ပြိုင်ဘီးများမှာ သာမန်စက်ဘီး၏ အလေးချိန် ထက်ဝက်သာ ရှိလေသည်။ ဘောင်များနှင့် ရှံကာများကို လွန်စွာပေါ့ပါးသော ကရိုမီယမ်ခေါ် သတ္တုတမျိုးဖြင့် ပြုလုပ်ထားသည်။ လက်ကိုင်မှာ နွားချိုကုပ်ကဲ့သို့ အောက်ဖက်သို့ ကောက်ထားလေသည်။ စီးနင်းရာတွင် သာမန်စက်ဘီးများထက် သုံးလေးဆ ပို၍ လျင်မြန်စေရန် အထူးဂီယာခေါ် ခွေးသွားစိတ်ဘီးတခုကို နောက်ဘီးဝင်ရိုးတွင် တပ်ဆင်ထားလေသည်။

**စက်မှုလက်မှုအရေးပုံ။** ။ကမ္ဘာသူကမ္ဘာသားတို့သည် ၁၈ ရာစုနှစ် အလယ်လောက်ထိ ရှေးသမားရိုးကျ အတိုင်း လုပ်ငန်းဆောင်တာများကို လုပ်ကိုင်ခဲ့ကြ၏။ လယ်ယာစိုက်ပျိုးရာ၌ သစ်သားထွန်ကို အသုံးပြု၍၊ စပါးရိတ်ရာတွင် တံစဉ်ကြီးငယ်တို့ဖြင့်သာ လက်ရိတ် ရိတ်ကြ၏။ ကောက်လှိုင်းများကို ကောက်ရိုက်တုတ်နှင့် ရိုက်နှက်ကာ စပါးနှံများကို ချွေယူသည်။ အဝတ်အထည် ရက်လုပ်ရာတွင်လည်း လက် သို့မဟုတ် ခြေနှင့်လှည့်ရသော ရက်ကန်းများသာရှိလေသည်။ ပန်းဘဲ၊ လက်သမား၊ ပုရန်ဆရာတို့၏ လက်နက်ကရိယာတို့မှာလည်း ရှေးအီဂျစ်ခေတ်ဟောင်းက ကရိယာများနှင့်တူ၍ ပြောင်းလဲတိုးတက်မှု အလျှင်းမရှိခဲ့သေးချေ။



ဟားဂရီးတီထွင်သည့် ' စပင်းနင်းဂျင်နီ ' ခေါ် ခြည်ငင်စက် (၁၇၆၇)

အင်္ဂလန်ပြည်သည် စိုက်ပျိုးရေးတိုင်းပြည်အဖြစ်မှ စက်မှုတိုင်းပြည်အဖြစ်သို့ ၁၇၆၀–၁၈၃၀ ပြည့်နှစ်များ အတွင်း၌ ပြောင်းလဲ တိုးတက်ခဲ့လေသည်။ ယခင်က လုပ်ငန်းဆောင်တာများကို စက်မသုံးဘဲ၊ ရှေးသမားရိုးကျ စံနစ်ဖြင့်သာ ပြုလုပ်ခဲ့ကြသောကြောင့် ကုန်ပစ္စည်းပြုလုပ်ရာတွင် အချိန်ကုန် လူပန်း၍ မြောက်မြားစွာလည်း မထုတ်လုပ်နိုင်သဖြင့် ကုန်ပစ္စည်းများမှာ ဈေးကြီးမြင့်၍ လူသာမန်တို့ ဝယ်ယူသုံးဆောင်ခြင်း မပြုနိုင်ကြချေ။

ယခုသုံးစွဲနေကြသည့် အချို့သော ပစ္စည်းမျိုးသည် ၁၇၅၀ ပြည့်နှစ်မတိုင်မီခေတ်က သာမန် အရပ်သူအရပ်သားတို့ သုံးစွဲခြင်း မပြုနိုင်သော ပစ္စည်းများ ဖြစ်၏။ သို့ရာတွင် ထိုခေတ်က ပြည်သူ့ကျန်းမာရေးကို ထိခိုက်စေတတ်သော စက်ရုံကြီးများ မရှိခဲ့ချေ။ ယင်းစက်ရုံကြီးများ မရှိခဲ့သဖြင့်လည်း လုပ်သားနှင့် အလုပ်ရှင် ပြဿနာ၊ အလုပ်လက်မဲ့ ပြဿနာ စသည်များ မရှိခဲ့ပေ။ ၁၇၅၀ ပြည့်နှစ်ကျော်မှသာ စက်မှုလုပ်ငန်းများ ထွန်းကားလာ၍ ကမ္ဘာ့အခြေအနေမှာ တမျိုးတဖုံ ပြောင်းလဲလာခဲ့လေသည်။ ယင်းသို့ နှစ်ပေါင်းများစွာ တည်ရှိလာခဲ့သော အခြေအနေများကို ပြောင်းလဲပစ်ကာ၊ စက်မှုခေတ်သို့ ပို့ဆောင်ခဲ့သော စီးပွားရေးဆိုင်ရာ တိုးတက်မှုများကိုပင် 'စက်မှုလက်မှုအရေးပုံ' ဟုဆိုလိုပေသည်။

၁၇၅၀ ပြည့် နှစ် လောက် တွင် အင်္ဂလန်ပြည်၌ အထည်အလိပ် လုပ်ငန်းများ အတွက် စက်များကို တီထွင်ပြုလုပ်ခြင်းဖြင့် အရေးပုံသည် စတင်ဖြစ်ပေါ်လာလေသည်။ ကေးဆိုသူသည် ၁၇၃၃ ခုနှစ်တွင် ရက်ကန်းလွန်းပျံကို တီထွင်ခဲ့၏။ ၁၇၆၇ ခုနှစ်တွင် ဟာဂရီးဆိုသူက ခြည်မျှင်အများကို တပြိုင်တည်းငင်နိုင်သည့် 'စပင်းနင်းဂျင်နီ' ခေါ် ခြည်ငင်စက်ကို တီထွင်ခဲ့လေသည်။ အတ်ကရိုက် ဆိုသူကလည်း ၁၇၆၉ ခုနှစ်တွင် ခြည်ငင်စက်တမျိုးကို တီထွင်လိုက်၏။ ကရွမ်တန် ကလည်း ခြည်မျှင်အများကို တပြိုင်တည်းငင်နိုင်သည့် 'မျူး' ခေါ် ခြည်ငင်စက်ဆန်းတခုကို တီထွင်ခဲ့၏။ ကတ္တရိုက် က 'ပါဝါလွန်း' ခေါ် ရက်ကန်းစက်ကို တီထွင်ခဲ့၏။ ပဌမတွင် ထိုစက်များကို ရေအားဖြင့်လှည့်ခဲ့သော်လည်း ၁၇၆၉ ခုနှစ်တွင် ဂျိမ်းဝပ်သည် ရေနွေးငွေ့နှင့် မောင်းနှင်သည့်စက်ကို တီထွင် အောင်မြင်ခဲ့သောကြောင့် ခြည်ငင်စက်၊ ရက်ကန်းစက်များကို ရေနွေးငွေ့စက်များဖြင့် မောင်းနှင်ခဲ့လေသည်။ (ဟာဂရီး၊ ဂျိမ်း။ အတ်ကရိုက်၊ ဆာရစ်ချတ်။ ကတ္တရိုက်၊ အီ။ ကရွမ်တန်၊ အက် (စ)။ ဝပ်၊ ဂျိမ်း — ရှု။)



အတ်ကရိုက်တီထွင်သည့်ခြည်ငင်စက် (၁၇၆၉)

သံလုပ်ငန်းတွင် မီးသွေးဖြင့် သံရည်ကျိုသည့် အစားကျောက်မီးသွေးကို အသုံးပြုခြင်းဖြင့် လုပ်ငန်းမှာ ပိုမိုတိုးတက် တွင်ကျယ်လာ၏။ လမ်းများကိုလည်း ပြုပြင်ခဲ့၍ တူးမြောင်း အများအပြားကို ဖောက်လုပ်ခဲ့ရာ လမ်းပန်းဆက်သွယ်ရေး တိုးတက်ကောင်းမွန်လာသည်။



စက်မှုလက်မှုအရေးပုံအတွင်းက အောင်မြင်စွာတီထွင်ခဲ့သော ရေနွေးငွေ့ဖြင့်မောင်းနှင်သည့်စက်

ဤသို့သော တီထွင်မှုများကြောင့် အိမ်တွင်းမှုလုပ်ငန်းစံနစ် တိမ်ကောပျောက်ကွယ်၍ စက်ရုံလုပ်ငန်းစံနစ် ကြီးပွားလာလေသည်။ ထိုပြင် လုပ်ငန်းရှိရာ စက်ရုံများတွင် လူတို့ ပြောင်းရွှေ့နေထိုင်လာကြလေရာ စက်ရုံရှိရာအရပ်တို့တွင် မြို့ဖြစ်ကြီးများ ဖြစ်ပေါ်လာ၍ တောရွာတို့တွင် လူနေနည်းပါးလာလေသည်။

စက်မှုလုပ်ငန်း ထွန်းကားလာသောအခါ စိုက်ပျိုးရေး လုပ်ငန်း၌ လူမလိုတော့သဖြင့် လယ်သမားတို့သည် စက်မှု အလုပ်သမားများ ဖြစ်လာကြလေသည်။ အလုပ်ရှိပိုင်သောအရင်းရှင် ဟူ၍ ပေါ်ပေါက်လာပြီးလျှင်၊ ထိုလူတန်းစားသည်၊ နိုင်ငံရေးရာတွင် ဝင်ရောက်စိုးမိုးလာလေသည်။ (အရင်းရှင်ဝါဒ — ရှု။) အရင်းရှင်နှင့်အလုပ်သမား ပဋိပက္ခမှုများလည်း မကြာခဏ ဖြစ်ပွားခဲ့လေသည်။ ယခင်က လူအများလုပ်ရသော အလုပ်မျိုးကို လူအနည်းနှင့် ပြီးနိုင်စွမ်းသဖြင့်လည်း အလုပ်လက်မဲ့ပြဿနာများ ပေါ်ပေါက်ခဲ့ရလေသည်။

မည်သို့ပင်ဖြစ်စေ၊ စက်မှုလက်မှုလုပ်ငန်း တိုးတက်ခဲ့သည့်အတွက် လူသာမန်တို့မှာ ကုန်ပစ္စည်းများကို ဈေးပေါပေါနှင့် ကောင်းကောင်း ဝယ်ယူအသုံးပြုနိုင်ခဲ့လေသည်။ အင်္ဂလန်ပြည်သည် ကုန်ပစ္စည်းများကို ပေါပေါများများ လုပ်ကိုင်ရောင်းချနိုင်ခဲ့သဖြင့် ဝင်ငွေ တိုးတက်ပြီးလျှင် စီးပွားရေး ခိုင်လုံတောင့်တင်းလာခဲ့လေသည်။ ထို့ကြောင့် နပိုလီယန်နှင့် စစ်ဖြစ်သောအခါ ခံနိုင်ရည်ရှိခဲ့ပေသည်။ လူတို့၏ နေထိုင်မှုအဆင့်အတန်းလည်း မြင့်လာ၏။ စက်မှုနိုင်ငံတို့သည် ကုန်ကြမ်းရရန်နှင့် ပြည်တွင်းထွက်ကုန်ချော ရောင်းချရန် နယ်ပယ်များလိုလာသဖြင့် နိုင်ငံချဲ့ထွင်လာကြရသည်။ ဤသို့လျှင် နယ်ချဲ့စံနစ်လည်း ပေါ်ပေါက်လာလေသည်။

ထိုခေတ်၌ လူတို့သည် စက်မှုလုပ်ငန်းကိုသာမက၊ စိုက်ပျိုးရေး လုပ်ငန်းများကိုလည်း တိုးတက်ကောင်းမွန်အောင် ပြုပြင်ခဲ့ကြလေသည်။ ဂျုံတမျိုးတည်းကိုသာ နှစ်စဉ် ဆက်စိုက်ခြင်း မပြုဘဲ၊ မုန်လာဥဝိုင်း၊ မုန်လာဥနီ၊ ပဲပင် စသည်တို့နှင့် တလှည့်စီ ပြောင်း၍ စိုက်ကြလေသည်။ ထိုအလှည့်ကျ စိုက်ပျိုးရေး စံနစ်ကြောင့် မြေဩဇာ မယုတ်လျော့ဘဲ ကောင်းမွန်လာသည့်ပြင် အထွက်လည်း များလာလေသည်။ ထို့ပြင် မြေကွက်ငယ်များဖြင့် တကွဲတပြားစိုက်သော ထုံးစံကို ဖျက်၍ ကျယ်ပြန့်သော စိုက်ခင်းကြီးများဖြစ်အောင် စုပေါင်းလုပ်ကိုင်ကြသဖြင့် ပို၍ စံနစ်ကျကာ အလုပ်တွင်ကျယ်လာပြီးလျှင် ကောက်သီးကောက်နှံအထွက် များလာလေသည်။ နွား၊ ဆိတ်၊ သိုး စသည်တို့ကို ပြုပြင်မွေးမြူကြသဖြင့် ကောင်ရေ များပြားလာကာ အမျိုးအစားလည်း ကောင်းမွန်လာလေသည်။

ဤသို့လျှင် အင်္ဂလန်ပြည်၏ အခြေအနေသည် စက်မှုလက်မှုအရေးပုံကြောင့် အနှစ်တရာခန့်အတွင်း မယုံနိုင်လောက်အောင် ပြောင်းလဲလာခဲ့လေသည်။ ဤအရေးပုံသည် အင်္ဂလန်ပြည်၌ စတင်ပေါ်ပေါက်ခဲ့၍ နောင်အခါတွင် ကမ္ဘာတခွင်လုံးသို့ တဖြည်းဖြည်း ပျံ့နှံ့သွားသဖြင့် ကမ္ဘာတခုလုံး၏ အခြေအနေလည်း တမျိုးတဖုံ တိုးတက်ပြောင်းလဲလာကာ ခေတ်သစ်ကြီး ပေါ်ပေါက်ခဲ့ရလေသည်။

**စက်သီး**။ ။အိမ်အပေါ်ထပ်က လူသည် မြေကြီးပေါ်မှ ဝန်တခုကို မတင်လိုသည်။ သူသည် ကြိုးချပေး၍ လူတ




အောက်မှ အထက်သို့ ဝန်ကို ဆွဲတင်ရမည့်အစား အထက်မှ အောက်သို့ ဆွဲချရခြင်းဖြစ်အောင် ပြောင်းလဲပေးသော စက်သီးအသေ




**ပုံ ၂ တွင် စက်သီးအရှင်၏သဘောကို သရုပ်ဖော်ထားသည်။**

**ပုံ ၃။ (၁) စက်သီးအရှင်။ (၂) နှင့် (၃) စက်သီးအသေနှင့် စက်သီးအရှင်များကို တွဲဖက်၍ သုံးသည့်အခါ ဝန်သည်ပေါ့ပါးလာသည်။**

ယောက်အား ထိုဝန်တွင် ကြိုးချည်ခိုင်းသည်။ ထိုနောက် ဝန်ကို အခြားကြိုးစတဖက်မှ ဆွဲယူသည်။ ထိုသို့ ဝန် မ နည်းသည် ဝန်ကို တိုက်ရိုက် မ ခြင်းဖြစ်၍ မသက်သာလှပေ။

ရေတွင်းမှရေကို စက်သီးဖြင့်ဆွဲတင်ယူပုံကို မြင်ဘူးကြပေလိမ့်မည်။ ရေတွင်းအထက်၌ ကန့်လန့်ဖြတ်ရိုက်ထားသော တန်းတွင် စက်သီးချိတ်ထား၍ ထိုစက်သီးရှိ ကြိုး၏တဖက်အစွန်းတွင် ရေပုံးကို ချည်ထားသည်။ ရေပုံးကို ရေတွင်းမှ ဆွဲတင်လိုသောအခါ ကြိုး၏အခြားတဖက်စွန်းကို ဆွဲပေးရသည်။ ဤနည်းသည် အထက်တွင်ဖော်ပြထားသည့် ဝန်ကို တိုက်ရိုက် မ နည်းထက်၊ သာလွန်ကောင်းမွန်သည်။ ဤနည်းအရမှာ၊ အောက်မှအထက်သို့ ဆွဲတင်နေသော အခြင်းအရာကို အထက်မှအောက်သို့ ဆွဲချသော အခြင်းအရာဖြစ်အောင် စက်သီးက ပြောင်းလဲပေးလိုက်သည်။

ဤစက်သီးသည် ပွတ်တိုက်ခုခံမှုကို နည်းစေသည့်အပြင် စိုက်အားကိုလည်း နည်းစေသည်။ (ပွတ်တိုက်ခုခံမှု — ရှု။) စက်သီးနှင့်ဝင်ရိုး ခေါ် စက်ကရိယာသည် စင်စစ်အားဖြင့် မောင်းတံ (လီဗာ) သဘောကို အခြေပြု၍ တည်ဆောက်ထားသောစက် ဖြစ်သည်။ ဝင်ရိုးသည် ခုတုံးသဘော၊ ဘီးနှင့် ဘီးထောက်တို့သည် မောင်းတံသဘော ဆောင်ရွက်ကြ၏။ ဘီးထောက်မရှိသော ဘီးချပ်ပြား၌ပင် မောင်းတံသဘော ဆောင်ရွက်ချက်ရှိသည်။

ပုံ ၁ တွင် ပါဝါလက်တံသည် ဝင်ရိုးအလယ်ချက်မှ အပြင်ဘီးကြီး၏ အနားအထိ (ဗပ) အကွာအဝေးဖြစ်၍ ဝန်လက်တံမှာမူကား ဝင်ရိုးအတွင်းဘီး နှုတ်ခမ်းနားအထိ (ဗဝ) အကွာအဝေးဖြစ်သည်။ ဤသဘောကို ဝင့်ချ ခေါ် စက်ရစ်လုံးများတွင် အသုံးပြုထားသည်။ တခါတရံ ဘီးမပါဘဲ ဝန်ကို မ ယူလိုသောအခါ ဝင်ရိုးတွင် တပ်ဆင်ထားသော လက်တံကောက်ကို လှည့်ပေးရသည်။ သို့သော် လက်ကိုင်နှင့်ကောက် ဆက်ထားသည့် နေရာမှာ ဘီးနှုတ်ခမ်းနားဖြစ်သည်ဟု ယူဆရမည်။

အထက်တွင် ဖော်ပြသည့် စက်သီးမှာ တိုင်တွင် တပ်ဆင်ထားသော စက်သီးအသေဖြစ်သည်။ စက်သီးအသေမဟုတ်ဘဲ၊ စက်သီးအရှင် တပ်ဆင်ထားသော အခါ မည်ကဲ့သို့ ဖြစ်မည်ကို စဉ်းစားကြည့်ကြစို့။

ဤစက်သီးအရှင်ကိစ္စမှာ စိတ်ကူးဖြင့် စဉ်းစားကြည့်ခြင်းမျှသာ ဖြစ်သည်။ ဤနေရာ၌ ဂရုပြုရန် အချက်မှာ ဝန် (ဝ) ကို (က) နှင့် (ခ) တည်းဟူသော ကြိုးအလျား နှစ်ခုဖြင့် ပင့်ထားသည်ဟူသော အချက်ပင်ဖြစ်သည်။ လူသည် (ခ) ကြိုးအလျား၌ သက်ရောက်သော ဝန်၏အလေးကိုဆောင်ထား၍ (က) ကြိုးအလျား၌ သက်ရောက်သောဝန်၏ အလေးကို ထုပ်တန်းက ဆောင်ထားသည်။ ကြိုးကိုဆွဲပေးသောအခါ (ဝ) ၏ အလေးချိန် တဝက်သာ ထိုသူ၏ အပေါ်၌ သက်ရောက်နေသည်။ သို့သော် သူသည် ပုံ ၁ တွင် ဝန်ကို တိုက်ရိုက်ဆွဲတင်ယူသည်ထက် ကြိုးကို နှစ်ဆမျှ ရှည်လျားစွာ ဆွဲယူရသည်။

သိပ္ပံအလိုအားဖြင့် စိုက်အားသည် ဝန်၏အလေးကြောင့်ဖြစ်သော ခုခံမှု၏ ထက်ဝက်မျှသာ ဖြစ်သည်။ ထိုအချက်ကို ယူ၍ စက်သီး အမြောက်အမြားကို အသုံးပြုလျှင် ဝန်၏အလေး အလျှင်းမရှိအောင် ပြုလုပ်နိုင်မည်ဟု အလွယ်တကူ မထင်မှတ်သင့်ပေ။ ပွတ်တိုက်ခုခံမှုကို ထည့်မတွက်လျှင်

စက်သီးကို သုံးသည်ဖြစ်စေ၊ မသုံးသည်ဖြစ်စေ၊ ပြုလုပ်ရသော အလုပ်မှာ သိပ္ပံအလိုအရဆိုသော် အတူတူပင်ဖြစ်သည်။

ပုံ ၃ အမှတ် ၁ ၌ စက်သီးအရှင်ကို ဖော်ပြထားသည်။ အမှတ် ၂ တွင် စက်သီးအရှင် (ရ) ကို စက်သီးအသေ (သ) နှင့် တွဲဖက်၍ အသုံးပြုထားသည်။ ဤနေရာ၌ စက်သီး (သ) သည်ကြိုးကို ဆွဲ၍ကောင်းအောင်သာ ကြိုးဆွဲရာဖက်ကို အောက်သို့ လှည့်ပေးထားခြင်းဖြစ်သည်။ အမှတ် ၃ တွင် စက်သီးသေတလုံးနှင့် စက်သီးအရှင်နှစ်လုံး တွဲထားသည်။ စက်သီးအသေသည် ကြိုးကို လှည့်ပေး၍ စက်သီးအရှင်နှစ်လုံးသည် ဝန်ကို ပေါ့ပါးလာအောင် ပြုလုပ်ပေးသည်။ ဤနေရာ၌ ဝန်ကို ကြိုးလေးကြိုးနှင့် ဆွဲထားသဖြင့် စိုက်အားမှာ ခုခံမှု၏ လေးချိုးတချိုးမျှသာ ဖြစ်သည်။ ကြိုးလေးကြိုးဟု ဆိုရာ၌ စင်စစ်မှာ ကြိုးပိုင်းလေးပိုင်းသာလျှင် ဖြစ်သည်။ လက်တွေ့လုပ်ငန်းတွင် စက်သီးများစွာကို တွဲဖက်ပြီးလျှင် အသုံးပြုကြသည်။ စက်သီးတစုံကို ထုပ်တွင်ဖြစ်စေ သို့မဟုတ် အခြားတနေရာတွင်ဖြစ်စေ ချိတ်ထား၍ အခြားစက်သီးတစုံကို အောက်ဖက်၌ ထားသည်။ အောက်ရှိ စက်သီးအစုံတွင် ဝန်ကို မယူနိုင်ရန် ချိတ်ပါရှိသည်။




ပုံ-၄

ဤစက်သီးတွဲမျိုးကို သုံးလျှင် လူတယောက်သည် ၁½ တန်မျှလေးသောဝန်ကိုပင် ပေါ့ပါးလွယ်ကူစွာ မယူနိုင်ပေသည်။

ပုံ ၄ တွင် စက်သီးတွဲကို ပြထားသည်။ အထက်စက်သီးတစုံ၌ အောက်စက်သီးအစုံ၌ထက် ဘီးတဘီး ပို၍ပါရှိသည်။ ကြိုးစတဖက်ကို (ခ) မှ ကွင်းငယ်တွင် ချည်နှောင်ထား၍ ကြိုးကို ပုံတွင်ပြထားသကဲ့သို့ ဘီးများတွင် ရစ်ပတ်ထားသည်။ ထိုသို့ ရစ်ပတ်လိုက်သောအခါ လွတ်နေသောကြိုးစ (ဂ) သည် အထက်စက်သီးစုံရှိ တတိယစက်သီး (က) မှ ထွက်လာသည်။ ဤစက်သီးတွဲတွင် ဝန်ကို ကြိုးငါးကြိုးဖြင့် ဆွဲမထားသကဲ့သို့ ဖြစ်သည်။ အထက်စက်သီးအစုံနှင့် အောက်စက်သီးအစုံတွင် စက်သီးများ အညီအမျှ ပါရှိသောအခါ၊ ချည်သောကြိုးစဖက်ကို အထက်စက်သီးအစုံတွင် ချည်ပေးလေ့ရှိသည်။

စာတွေ့အားဖြင့် စက်သီးတွဲတွင် ဝန်ကို ကြိုးလေးကြိုးဖြင့် ဆွဲမထားသောအခါ စိုက်အားသည် ခုခံမှု၏ လေးပုံတပုံဖြစ်သည်ဟု သိရ၏။ သို့သော် လက်တွေ့တွင် ကြိုးနှင့် စက်သီးကြား၌ရင်း၊ စက်သီးနှင့် ဝင်ရိုးကြား၌ရင်း၊ ပွတ်တိုက်ခုခံမှုရှိသောကြောင့် ခုခံမှုမှာ အနည်းငယ် ပိုများလာသည်ကို တွေ့ရသည်။ သို့ဖြစ်စေကာမူ စက်သီးတွဲများသည် ဝန်ကို သက်သက်သာသာနှင့် ဘေးအန္တရာယ်ကင်းရှင်းစွာ မတင်ယူရာ၌ အထောက်အပံ့ဖြစ်စေသည်မှာမှန်၏။ ပုံ ၄ တွင် ပြထားသည့် စက်သီးတွဲမျိုးတွင် အထူ ၁ လက်မ၊ အချင်း ၅ လက်မ ရှိသော စက်သီးကို အသုံးပြုလျှင် ၁½ တန် လေးသော ဝန်ကို လူတယောက်တည်းဖြင့် သက်သက်သာသာ မယူနိုင်သည်။ အလွန်လေး၍ အားကောင်းသော စက်သီးတွဲမျိုးတွင် ရိုးရိုးကြိုးအစား သံမဏိကြိုးများကို အသုံးပြုလေ့ရှိသည်။

**စက်သေနတ်။** ။စက်သေနတ်သည် ကျည်ဆန်ပေါင်းများစွာကို ဆက်တိုက် အဝေးသို့ ပစ်နိုင်သော စစ်သုံးသေနတ်ဖြစ်သည်။ အဦးဆုံး စက်သေနတ်ကို ခရစ် ၁၈၆၁ ခုနှစ်က အမေရိကန်လူမျိုး ဒေါက်တာ ရစ်ချတ် ဂတ်တလင် ဆိုသူ တီထွင်သည်။ ထိုစက်သေနတ်တွင် တမိနစ်လျှင် အချက်ပေါင်း ၅၀၀ အထိပစ်နိုင်သော ပြောင်း ၁၀ လုံးမျှ ပါရှိ၏။

ဂတ်တလင်သေနတ် ပေါ်ပေါက်ပြီးနောက် နှစ် ၂၀ ခန့်ကြာသောအခါ၊ အမေရိကန်ပြည်ထောင်စုသား အင်္ဂလိပ်လူမျိုး ဆာ ဟိုင်ရမ် မက္ကဆင်သည် စက်သေနတ်အသစ်တမျိုးကို တီထွင်လေသည်။ မက္ကဆင်သေနတ်၏ ထူးခြားချက်မှာ ပြောင်းတလုံးတည်းမှ ကျည်ချက်ပေါင်း များစွာဆက်တိုက်ပစ်နိုင်ခြင်းဖြစ်သည်။ ထိုသေနတ်တွင် ကျည်ဆန်ခွံကို ကန်ထုတ်ခြင်း၊ ကျည်ဆန်တောင့် အသစ်ထိုးခြင်း၊ မောင်းတင်ခြင်းတို့သည် အလိုအလျောက်ပြီးစီး၏။ ကျည်ထွက်ဖန်များ၍ ပူသော ပြောင်းလုံးကို ရေဖြင့်အေးစေ၏။ မက္ကဆင်သေနတ်ပေါ်ပြီးနောက်တွင် ဗစ်ကာစက်သေနတ်ပေါ်လာသည်။ ထိုစက်သေနတ်ကို နိုင်ငံအများအပြားတွင် သုံးကြသည်။ ပဌမကမ္ဘာစစ်ကြီး အတွင်းကစ၍ ဗြိတိသျှစစ်သားတို့သည် ထိုဗစ်ကာစက်သေနတ်ကို သုံးစွဲလာခဲ့ကြသည်မှာ ယနေ့တိုင်ဖြစ်သည်။

စက်သေနတ်များအနက် လူးဝစ်ဂန်းခေါ် လူးဝစ်၏စက်သေနတ်သည်လည်း အလွန်ထင်ရှားသည်။ ထိုစက်သေနတ်ကို အမေရိကန်စစ်ဗိုလ် ကာနယ် အိုင်ဇက်နျူတန်လူးဝစ် ဆိုသူ တီထွင်ခဲ့သည်။ ထိုစက်သေနတ်ကို အမေရိကန်စစ်တပ်များတွင် မသုံးကြချေ။ အင်္ဂလန်ပြည်၊ ပြင်သစ်နိုင်ငံ၊ ဗဲလဂျီယမ်နိုင်ငံများ၌ အများအပြား သုံးလေသည်။ လူးဝစ်စက်သေနတ်၏ပြောင်းဝမှာ ·၃၀၃ လက်မရှိ၏။ လူးဝစ်


ဗရင်းစက်သေနတ်ကိုပစ်ရန်ချိန်နေသော မြန်မာ့တပ်မတော်သားတဦး

စက်သေနတ်ထက် ပိုမိုကောင်းမွန်သော စက်သေနတ်တမျိုးကို ချက်ကိုဆလိုဗားကီးယားနိုင်ငံမှ ဗရင်းဆိုသူက တီထွင်သည်။ ထိုစက်သေနတ်ကို အင်္ဂလန်ပြည်၌ ကောင်းသည်ထက်ကောင်းအောင် ပြုပြင်၍ အသုံးပြုခဲ့၏။ ထိုသေနတ်ကို ယခုတိုင် အသုံးပြုလျက်ရှိ၍ ဗရင်းဂန်းဟု ကျော်ကြားသည်။ ဗရင်းစက်သေနတ်မျိုးသည် လူးဝစ်စက်သေနတ်မျိုးနှင့် ပြောင်းအရှယ်ချင်းတူသည်။ ဗရင်းသေနတ်ကို ထောက်ဖြင့်လည်း ထောက်၍ ပစ်နိုင်သည်။ ပခုံးဖြင့်ထောက်၍လည်း ပစ်နိုင်သည်။ ပြောင်းပူလာလျှင် လေဖြင့်အေးစေရန် စီမံထားရုံမက ဖြုတ်၍လဲလှယ်နိုင်ရန် ပြောင်းအပိုလည်း တပ်ဆင်ထားသည်။

ထိုစက်သေနတ်များ ပေါ်ပေါက်ပြီးနောက် စက်သေနတ်အမျိုးမျိုး ဆက်ကာဆက်ကာ ပေါ်ပေါက်လာသည်။ ဒုတိယကမ္ဘာစစ်ကြီး အတွင်းက စတင်းဂန်းခေါ် စက်သေနတ်အငယ်စားများ ပေါ်ပေါက်ခဲ့သည်။ စတင်းဂန်းသည် အကိုင်ရပေါ့၍ အပစ်ရလွယ်ကူသည်။ ပြောင်းဝမှာ ၇.၉၂ မီလီမီတာရှိသည်။ ကိုက် ၂၀၀ အတွင်း ပစ်နိုင်၍ တမိနစ်လျှင် ကျည်ဆန် ၅၀၀ ထွက်သည်။





(အထက်ပုံ) ဗရင်းစက်သေနတ်
(အောက်ပုံ) ခေတ်မှီစက်သေနတ်နှင့် ရိုင်ဖယ်သေနတ်

**စိုက်ပရပ်ကျွန်း။** ။စိုက်ပရပ်ကျွန်းသည် မြေထဲပင်လယ်၏ အရှေ့ဖက်အစွန်တွင်တည်ရှိ၍ ထိုပင်လယ်ထဲတွင် အကြီးဆုံးကျွန်းတကျွန်း ဖြစ်သည်။ ဆီးရီးယားနိုင်ငံ ကမ်းရိုးတန်းမှ အနောက်ဖက်သို့လာသော် မိုင် ၆၀၊ တူရကီနိုင်ငံ ကမ်းရိုးတန်း မှ တောင်ဖက်သို့လာသော် မိုင် ၄၀ အကွာအဝေးတွင် တည်ရှိသည်။ ကျွန်း၏အလျားမှာ ၁၄၅ မိုင်ခန့်ရှည်၍၊ အနံ မိုင် ၆၀ ခန့်ရှိ၏။ အကျယ်အဝန်းအားဖြင့် စတုရန်းမိုင် ၃၅၇၂ ရှိသည်။ ၁၉၅၄ ခုနှစ်တွင် လူဦးရေ ၅၁၃,၇၀၀ ရှိသည်ဟု ခန့်မှန်းရသည်။ မြို့တော်မှာ နီကိုဆီယာမြို့ ဖြစ်သည်။ တောင်ဖက်ပိုင်းနှင့် မြောက်ဖက် ကမ်းခြေတွင် တောင်တန်းများရှိသည်။ တနှစ်လုံးပေါက် ရေရသော မြစ်ချောင်းဟူ၍ မရှိချေ။ ဆည်မြောင်းများ ဖောက်ထားသော ဒေသများတွင် ဂျုံ၊ မုယောစပါး၊ ဝါ၊ သံလွင်ပင်များ




စိုက်ပရပ်ကျွန်း တည်နေရာပြမြေပုံ

စိုက်ပျိုးကြ၏။ စပျစ်ခြံများရှိ၍ စပျစ်သီးခြောက်နှင့်အရက်များထွက်သည်။ ယင်းတို့ကို နိုင်ငံခြားသို့ တင်ပို့သည်။ သိုးနွားများ မွေးမြူကြ၏။ ရှေးအခါက ကြေးနီ အမြောက်အမြား ထွက်ခဲ့ဘူးသည်ကို အစွဲပြု၍ ကျွန်း၏အမည်ကို စိုက်ပရပ်ဟု ရှေးက ဂရိတို့ မှည့်ခေါ် ခဲ့ခြင်းဖြစ်သည်။ စိုက်ပရပ်ဟူသော စကား၏ ဇာစ်မြစ်မှာ ကြေးနီဟူ၏။

ကျွန်းအလယ်ရှိ လွင်ပြင်မှာ ရှေးအခါက သစ်တောကြီးများ ဖုံးလွှမ်းလျက် ရှိခဲ့ဘူး၍၊ ပင်လယ်ခရီးသွားခြင်း၌ ထင်ရှားခဲ့သော ဖိနီရှန်တို့သည် ထိုသစ်တောများမှရသော သစ်သားများဖြင့် လှေ၊ သင်္ဘောများ တည်ဆောက်ကာ ပင်လယ်ခရီးသွားကြ၏။ စိုက်ပရပ်ကျွန်းမှ ရရှိသော သတ္တုများမှာ ကြေးနီ၊ သံကျောက်၊ ထုံးကျောက်၊ နှမ်းဖတ်ကျောက်၊ ကျောက်ဖြူနှင့် ကျောက်ဂွမ်းများ ဖြစ်လေသည်။

ရှေးအခါက စိုက်ပရပ်ကျွန်းသည် အီဂျစ်၊ ပါးရှင်းနှင့် ရောမလူမျိုးတို့၏လက်အောက်သို့ ကျရောက်ခဲ့ဘူး၏။ ကရူးဆိတ်ခေါ် အယူဝါဒစစ်ပွဲတွင် အင်္ဂလန်ဘုရင် ပဌမ ရစ်ချတ်သည် ထိုကျွန်းကို ခေတ္တသိမ်းပိုက်ရလိုက်သေး၏။ ထိုနောက် နှစ်ပေါင်း ၁၀၀ ခန့်ကြာသောအခါ တူရကီတို့လက်ထဲသို့ ရောက်သွားပြီးလျှင် ၁၇၇၈ ခုနှစ်တွင် တူရကီက ထိုကျွန်းကို ဗြိတိန်အား ပေးအပ်ခဲ့ပြန်သည်။ ၁၉၁၄ ခုနှစ် ပဌမ ကမ္ဘာစစ်ကြီးတွင် တူရကီသည် ဗြိတိန်၏ရန်သူ ဖြစ်သွားသောအခါ စိုက်ပရပ်ကျွန်းမှာ ဗြိတိသျှကိုလိုနီနိုင်ငံတခု ဖြစ်လာလေသည်။ ၁၉၂၅ ခုနှစ်တွင် စိုက်ပရပ်ကျွန်းမှာ ဗြိတိသျှကရောင်းကိုလိုနီ ဖြစ်လာသည်။ သို့ရာတွင် ၁၉၃၁ ခုနှစ်တွင် စိုက်ပရပ်ကျွန်းသည် ဂရိနိုင်ငံနှင့် ပေါင်းစပ်ရမည်ဟူသော နိုင်ငံရေး ကြိုးပမ်းမှုများ ပေါ်ပေါက်လာခဲ့သဖြင့် ယခင်က ရှိရင်းစွဲဖြစ်သော ဥပဒေပြုအဖွဲ့ကို ဖျက်သိမ်း၍ ဘုရင်ခံကိုယ်တိုင် ဥပဒေပြုကာ အုပ်ချုပ်ခဲ့လေသည်။ ယခုအခါ စိုက်ပရပ်ကျွန်း၏ အုပ်ချုပ်ရေး ပြုပြင် ပြောင်းလဲရန်ကိစ္စတွင် စိုက်ပရပ်သည် မူလဖြစ်သော ဂရိနိုင်ငံနှင့် ပေါင်းရ



စိုက်ပရပ်ကျွန်းတောင်ခြေမှ သာယာကြည်နူးဖွယ်ရှုခင်း



‘ ရမ္မထာရွှေကြိမ်လုံးရယ်နဲ့၊ ထွန်တုံးကိုတဲ့ခြေတော်တင်၊ နွားကြန်စုံနှင့် ’

မည်ဟူသည့် နိုင်ငံရေးလှုပ်ရှားမှုများ ပြန်လည်ပေါ်ပေါက်လျက်ရှိသည်။ စိုက်ပရပ်ကျွန်းမှာ စစ်မက်ရေးရာအတွက် အကွက်အကွင်းကျသော နေရာတခု ဖြစ်သည့်အတိုင်း ဗြိတိသျှအင်ပိုင်ယာနိုင်ငံတွင် အရေးကြီးသောဌာနတခု ဖြစ်လေသည်။ (ဗြိတိသျှအင်ပိုင်ယာ— လည်းရှု။)



မြန်မာအမျိုးသမီးများ တပျော်တပါးကောက်စိုက်ကြစဉ်

**စိုက်ပျိုးရေး။** ။ရှေးခေတ်လူများသည် ဝမ်းစာ ရရာရကြောင်းဖြင့် ခြေဦးတည့်ရာ အရပ်များသို့ လှည့်လည်သွားလာ စီးပွားရှာကြလေသည်။ ထိုနောက် အိုးအိမ် အတည်တကျ ထူထောင်၍ တနေရာရာတွင် အခြေစိုက်ကာ နေလာကြ၏။ ယင်းသို့ အခြေစိုက်ကြခြင်းမှာ မြေဆီလွှာကို ခြစ်ယက် တူးဆွလျက် အသီးအနှံပင်များ စိုက်ပျိုးကြခြင်းအားဖြင့် ဝတ်ရေး၊ စားရေး၊ နေရေး ဖူလုံနိုင်သည်ဟူသော အသိဉာဏ် ပွင့်လင်းလာခြင်းကြောင့်ပင် ဖြစ်သည်။ စိုက်ပျိုးရေးလုပ်ငန်းကို စတင်ဆောင်ရွက်ကြသည့်အခါ၌ လူတို့သည် ယခင်ကကဲ့သို့ ခြေသလုံးအိမ်တိုင်ပြုကာ လှည့်လည်သွားလာ မနေကြတော့ဘဲ၊ ကိုယ်ပိုင်စိုက်ခင်းမြေများ အနီးအပါးရှိ တနေရာရာတွင် အတည်တကျ အခြေစိုက် နေထိုင်လာကြလေသည်။ ကိုယ့်အိုး ကိုယ့်အိမ် ကိုယ့်မြေ ကိုယ့်ယာနှင့် အခြေဖြစ်လာသည့်အခါတွင် လူစုအသင်းအပင်းများ ပေါ်ပေါက်လာသည့်အလျောက်၊ အချင်းချင်း ရင်းနှီးပွန်းတီးစွာ ပေါင်းသင်းဆက်ဆံမှု၊ စိုက်ပျိုးရေးကိုအခြေပြုသော အလုပ်ခွဲဝေမှု အစရှိသည့် လူမှုရေးရာတို့ ထွန်းကားပေါ်ပေါက်လာလေသည်။ ထိုသို့ဖြင့် လူ၏ ယဉ်ကျေးမှုအဆင့်အတန်းသည်လည်း တဖြည်းဖြည်း တိုးတက်လာပေသည်။ မူလသုံးစွဲသော တုတ်ချွန်၊ စူးချွန်များအစား ထွန်သွား၊ ထွန်သန်တို့ဖြင့် မြေကြီးကို ထွန်ယက်လာကြသည်။ စားကောင်းသော အသီးအနှံပင်များကို တမျိုးပြီးတမျိုး ဖြည့်စွက် စိုက်ပျိုးလာကြသည်။ တိရစ္ဆာန်ရိုင်းများကိုလည်း ယဉ်ပါးလာအောင် မွေးမြူလျက် နေထိုင်စားသောက်ရေးတွင် အနည်းနည်းဖြင့် အထောက်အပံ့ဖြစ်စေရန်၊ အသုံးချလာကြသည်။ စိုက်ပျိုးထားသော ဘီသွာလျော် (နှမ်း



မြေကြီးမှရွှေသီးစေရန် ထွန်ရေးငင်သောအခါ




ခေတ်မှီနိုင်ငံများတွင် ကောက်ပင်များကိုစက်ဖြင့်ရိတ်သိမ်းကြသည်

ချပ်လျှော်)၊ ဝါဂွမ်း စသည်တို့နှင့် အိမ်တွင်မွေးထားသော သိုးမှရသည့် သိုးမွေးများကို မိန်းမများက အိမ်သုံး အဝတ်အထည်များအတွက် ခြည်ငင်ခြင်း၊ ရက်လုပ်ခြင်းများ ပြုလုပ်လာလေသည်။ ဤကဲ့သို့ လယ်ယာစိုက်ပျိုးရေးကို အမှီပြုလျက် ခေတ်သစ်ယဉ်ကျေးမှု၏ အခြေတည်ဆောက်ရာဖြစ်သော လုပ်ငန်းများ ထွန်းကား လာသည်နှင့် အမျှ လူတို့၏ နေထိုင်မှု စားသောက်မှုတို့သည်လည်း ပိုမို၍ သက်သာချောင်ချိလာလေသည်။ ကျောက်တုံးကျောက်ခဲများကို လက်နက်ကြမ်းများအဖြစ်ဖြင့် သုံးစွဲကြသော ကျောက်ခေတ်၏ နှောင်းပိုင်းကာလမှအစပြု၍ လယ်ယာစိုက်ပျိုးရေးလုပ်ငန်း ထွန်းကားခဲ့သည်ဖြစ်ရာ ဤလုပ်ငန်းသည် အလွန်ရှေးကျသည့် လုပ်ငန်းတရပ်ဟု ဆိုရပေမည်။ ထိုကြောင့် လူတို့၏ သမိုင်းစဉ်ကို မှတ်တမ်း မတင်မီကပင်၊ လူများသည် စိုက်ပျိုးရေးလုပ်ငန်းကို အထိုက်အလျောက် တတ်မြောက်ပြီးဟု ဆိုရပေသည်။ သို့ရာတွင် ဤလုပ်ငန်းသည် အစဉ်တစိုက် ခေတ်အလိုက် တိုးတက်လာသည်ဟု မဆိုနိုင်ချေ။ ၁၈ ရာစုနှစ်များသို့ ရောက်သည့်အခါကျမှ တိုးတက်ကောင်းမွန်လာသော လယ်ယာစိုက်ပျိုးရေး •ကရိယာများကို တီထွင် သုံးစွဲလာခြင်းကြောင့်ရင်း၊ မြေချန် မြေလပ်များတွင် ဥစားပင်များကို အလှည့်ကျ စိုက်ပျိုးလာကြခြင်းအားဖြင့်ရင်း၊ ဤမျှရှေးကျသော စိုက်ပျိုးရေးလုပ်ငန်းသည် သိသိသာသာတိုးတက်လာခဲ့လေသည်။

ကမ္ဘာ့သမိုင်းတွင် လယ်ယာ ထွန်ယက်စိုက်ပျိုးမှု ထွန်းကားသည့်အရပ်များ၌ နေထိုင်သူတို့၏ ယဉ်ကျေးမှု အဆင့်အတန်းသည် အခြားအရပ်ရှိ လူတို့၏ အဆင့်အတန်းထက် တိုးတက် ကြီးမြင့်နေကြောင်းကို တွေ့ရလေသည်။ ဤအချက်ကို ထောက်ရှုလျက် လူတို့၏ ယဉ်ကျေးမှု အဆင့်အတန်း တိုးတက်ကြီးမြင့်လာခြင်းကို လယ်ယာစိုက်ပျိုးရေး



လျှပ်စစ်အားသုံး လယ်ထွန်စက်

လုပ်ငန်း ထွန်းကားဖွံ့ဖြိုးလာခြင်းဖြင့် စံချိန်ထိုးကြည့်နိုင်ပေသည်။ သို့ဖြစ်၍ လယ်ယာစိုက်ပျိုးရေးလုပ်ငန်းသည် ယနေ့တိုင် လူတို့၏ယဉ်ကျေးမှု အခြေခံအုတ်မြစ်သဖွယ် တည်လျက်ရှိနေပေသည်။

ယခုခေတ်တွင် စိုက်ပျိုးရေးပညာသည် အလွန်ကျယ်ဝန်းသော ပညာတရပ် ဖြစ်လာသည့်အလျောက် နိုင်ငံကြီးများ၌ စိုက်ပျိုးရေးအတတ်သင် သိပ္ပံကျောင်းများ ဖွင့်လှစ်လျက် ထိုပညာရပ်နှင့်ဆိုင်သော ခေတ်မှီ လယ်ယာစိုက်ပျိုးရေး နည်းစံနစ်များ၊ ကျွဲနွားတိရစ္ဆာန် မွေးမြူခြင်းအတတ်အစရှိသည်တို့ကို သင်ကြား ပို့ချပေးနေလေသည်။ ထို့အပြင် လယ်ယာစိုက်ပျိုးရေး သုတေသနလုပ်ငန်းများကိုလည်း တွဲဖက်၍ဆောင်ရွက်လျက်ရှိကြ၏။ နိုင်ငံပိုင် အစိုးရတို့ကလည်း ထိုလုပ်ငန်းကို ယခင်ကထက် အားပေး ကူညီနေပေသည်။

**စင်္ကာပူမြို့**။ ။စင်္ကာပူ ကရောင်းကိုလိုနီတွင် စင်္ကာပူကျွန်း၊ ကိုကိုကီးလင်းကျွန်း၊ ခရစ္စမတ်ကျွန်းတို့ ပါဝင်၍ အကျယ်အဝန်းမှာ စတုရန်းမိုင် ၂၁၇ မိုင်ရှိ၏။ စင်္ကာပူမြို့သည် မလ္လာယုကျွန်းဆွယ် တောင်ဖက်စွန်း အနီး ကျွန်းငယ်တခုပေါ်တွင်တည်ရှိ၏။ ဗြိတိသျှအင်ပိုင်ယာ၏ အရေးပါသော အရှေ့ပိုင်း ရေကြောင်းခံတပ်မြို့ ဖြစ်လေသည်။ ကျွန်းငယ်တခုပေါ်၌ သီးခြားတည်နေသော်လည်း ဂျိုဟိုး ရေလက်ကြားကို ဖြတ်၍ ၁ မိုင်ခန့်ကျယ်သော မီးရထားလမ်း လူသွားလမ်း ရှိသော တာရိုးဖြင့် မလ္လာယုကျွန်းဆွယ်နှင့် ဆက်သွယ်ထားလေသည်။ အလျား ၂၆ မိုင်၊ အနံ ၁၄ မိုင်ရှိသော ကျွန်း၏တောင်ဖက်ခြမ်းတွင် မြို့တည်ရှိ၍ မြောက်ဖက်တွင် ရေကြောင်းခံတပ်ကြီးများ ရှိလေသည်။ အနီးအနား ကျွန်းငယ်များပါဆိုလျှင် စတုရန်းမိုင် ၂၂၀ ကျော်ရှိ၏။ ၁၉၅၄ ခုနှစ်တွင် လူဦးရေ ၁,၁၀၉,၁၁၉ ယောက်ရှိသည့် အနက် တရုတ်လူမျိုး ၉၀၉,၄၁၂ ယောက်၊ ကုလားလူမျိုး ၉၂,၀၀၆ ယောက်၊ မလေးလူမျိုး ၁၄၅,၀၁၅ ယောက်၊ ဥရောပတိုက်သား ၁၇,၀၉၀ ယောက်၊ ယူရေးရှန်း ၁၁,၅၆၄ ယောက်နှင့် အခြားလူမျိုးများ ၁၁,၅၅၂ ယောက် ဖြစ်လေသည်။ တရုတ်အများဆုံးနေထိုင်၍ လုပ်ငန်းမှန်သမျှကို တရုတ်များက ကြီးစိုးလျက်ရှိ၏။

စင်္ကာပူမြို့သည် ၁၃ ရာစုနှစ်၊ ၁၄ ရာစုနှစ်လောက်က မလေးလူမျိုးတို့၏ အရေးပါသော မြို့တော်ဖြစ်ခဲ့၍ ၁၃၆၅ ခုနှစ်ခန့်တွင် ဂျားဗားလူမျိုးတို့ ဝင်ရောက် တိုက်ခိုက်ဖျက်ဆီးခြင်း ခံခဲ့ရလေသည်။ ဆူမတြားကျွန်း ဗင်ကူးလင်းဘုရင်ခံ ဆာ စတမ်းဖို့ ရက်ဖဲ ဆိုသူသည် ၁၈၁၉ ခုနှစ် ဇန္နဝါရီလ ၃၀ ရက်နေ့တွင် ယခုလက်ရှိ စင်္ကာပူမြို့ကို တည်ဆောက်ခဲ့လေသည်။ ၁၉၄၂ ခုနှစ် ဖေဖွာရီလ ၁၅ ရက်နေ့တွင် ဂျပန်တို့သို့ လက်နက်ချအပ်ခဲ့ရ၍၊ ၁၉၄၅ ခုနှစ် စက်တင်ဘာလ ၅ ရက်နေ့တွင် ဗြိတိသျှလက်တွင်းသို့ ပြန်လည်ရောက်ရှိခဲ့၏။ ဗြိတိသျှစစ်အုပ်ချုပ်ရေးကို ရုပ်သိမ်းပြီးနောက် ၁၉၄၆ ခုနှစ် ဧပြီလ ၁ ရက်နေ့မှစ၍ မြို့ပြအုပ်ချုပ်ရေးဖြင့် အုပ်ချုပ်လာခဲ့လေသည်။


စင်္ကာပူမြို့၏ ဆိပ်ကမ်းတနေရာ

ဤမြို့သည် မလ္လာယုကျွန်းဆွယ်၏ ထွက်ကုန် ၇၂ ရာခိုင်နှုန်းကို တင်ပို့သော ကူးသန်းရောင်းဝယ်ရေး အချက်အခြာဖြစ်သည့်ပြင် အာရှတိုက်အရှေ့တောင်ပိုင်းနှင့် အင်ဒိုနီးရှားနိုင်ငံတို့အတွက် နိုင်ငံခြားကုန်စည်ပွဲရုံ သဖွယ်လည်း ဖြစ်နေလေသည်။ ၁၉၅၄ ခုနှစ်တွင် ကူးသန်းရောင်းဝယ်သောကုန်များ၏ စုစုပေါင်း တန်ဖိုးမှာ စင်္ကာပူသုံး ဒေါ်လာဖြင့် ကုဋေ ၄၅၀ ကျော်သည်ကိုထောက်ရှု၍ စင်္ကာပူမြို့၏ ကူးသန်းရောင်းဝယ်မှုအင်အားကို သိနိုင်ပေသည်။ စင်္ကာပူမြို့သည် ကမ္ဘာအရပ်ရပ်မှလာသော သင်္ဘောလမ်း ၄၁ လမ်းနှင့် လေကြောင်းလမ်း ၈ ခုဖြင့် ဆက်သွယ်ထားသောမြို့ကြီးဖြစ်သည်။ လေယာဉ်ဆင်းတက်ရန် ပေ ၈၀၀ ရှည်လျားသော လမ်းကြီးနှင့် အပြည်ပြည်ဆိုင်ရာ လေယာဉ်ပျံကွင်းသစ်ကြီးကို မကြာမီက ဖွင့်လှစ်ပြီးဖြစ်သည်။ တန်ချိန် ၅၀,၀၀၀ ရှိ ရေပေါ်သင်္ဘောကျင်းတခုကို အင်္ဂလန်မှ စင်္ကာပူမြို့သို့ သယ်ယူထားရှိလေသည်။

အဓိကလုပ်ငန်းများမှာ သံဖြူကျိုချက်ခြင်း၊ ကြက်ပေါင်စေးနှင့် သင်္ဘောဆေးများ ထုတ်လုပ်ခြင်း စသည်တို့ဖြစ်၏။ ဒုတိယ အရေးကြီးသော ထွက်ကုန်များမှာ ဗီယာ၊ ဗီစကွတ်မုံ့၊ ဆပ်ပြာ၊ အုန်းဆီ၊ မြေပဲဆီ၊ အိမ်ထောင်ပရိဘောဂ၊ ဒန်သတ္တုထည် စသည်တို့ဖြစ်၏။ သို့သော်လည်း ကိုလိုနီ၏ တိုးတက်ကြွယ်ဝမှုမှာ ပတ်ဝန်းကျင်ဒေသများ၏ ထွက်ကုန်ပေါ်တွင် တည်နေပေသည်။

စင်္ကာပူ ကရောင်းကိုလိုနီကို ဘုရင်ခံနှင့် ဥပဒေပြုကောင်စီက အုပ်ချုပ်လေသည်။ ဘုရင်ခံ၏ အမှုဆောင်ကောင်စီအဖွဲ့တွင် အရာရှိ ၆ ဦးနှင့် အရာရှိမဟုတ်သူ ၆ ဦး ပါဝင်ရာ၊ အရာရှိမဟုတ်သူ အဖွဲ့ဝင်များ အနက် ၂ ဦးကို ဥပဒေပြုကောင်စီက ရွေးကောက်တင်မြှောက်၏။ ဥပဒေပြုကောင်စီတွင် ဘုရင်ခံသည် ဥက္ကဋ္ဌဖြစ်၍ ရွေးကောက် တင်မြှောက်ရသော အရာရှိမဟုတ်သူ ဒုတိယဥက္ကဋ္ဌတဦး၊ ရာထူးအရအဖွဲ့ဝင် ၄ ဦး၊ ဘုရင်ခံခန့်ထားသော အရာရှိ ၅ ဦး၊ စင်္ကာပူမြို့ တရုပ်ကုန်သည်ကြီးအသင်းနှင့် ကုလားကုန်သည်ကြီးအသင်းတို့က ရွေးကောက်တင်မြှောက်သူ ၃ ဦးအပါအဝင် ရွေးကောက်တင်မြှောက်ရသူ ၁၂ ဦးနှင့် ဘုရင်ခံက ခန့်ထားသည့် အရာရှိမဟုတ်သူ ၄ ဦးတို့ ပါဝင်လေသည်။ ရွေးကောက်တင်မြှောက်ရသူများအနက် ၉ ဦးမှာ မဲဆန္ဒနယ် ၉ နယ်မှ အသက် ၂၁ နှစ်ကျော်သည့် ဗြိတိသျှလက်အောက်ခံများက ရွေးကောက်တင်မြှောက်သူများ ဖြစ်လေသည်။ ယင်းသို့လျှင် ဥပဒေပြုကောင်စီတွင် အရာရှိမဟုတ်သူတို့သည် လူများစုဖြစ်နေလေသည်။ ဒုတိယဥပဒေပြုကောင်စီကို ၁၉၅၁ ခုနှစ် ဧပြီလ ၁၇ ရက်နေ့တွင် ဖွဲ့စည်းခဲ့၏။

သို့သော်လည်း စင်္ကာပူအုပ်ချုပ်ရေးကို ရင်ဒယ် အစီရင်ခံစာအရ ပြုပြင်ပြောင်းလဲရန် ၁၉၅၄ ခုနှစ် မေလ ၁၇ ရက်နေ့တွင် ဗြိတိသျှအစိုးရက သဘောတူ လက်ခံခဲ့လေသည်။ ပြုပြင်ပြောင်းလဲထားသည့် အုပ်ချုပ်ရေးသစ်အရ ဆိုသော်၊ ၁၉၅၅ ခုနှစ်မှစ၍ အဖွဲ့ဝင် ၃၂ ဦးပါဝင်သော ဥပဒေပြုအဖွဲ့နှင့် ဝန်ကြီး ၉ ဦးပါဝင်သော အမှုဆောင်ကောင်စီဝန်ကြီးအဖွဲ့တို့ဖြင့် အုပ်ချုပ်ရမည်ဖြစ်၏။ ဥပဒေပြုအဖွဲ့တွင် ရွေးကောက်တင်မြှောက်ရသော အဖွဲ့ဝင် ၂၅ ဦး၊ ကိုလိုနီအတွင်းဝန်၊ ရှေ့နေချုပ်ကြီးနှင့် ဘဏ္ဍာရေး အတွင်းဝန်စသော ရာထူးအရအဖွဲ့ဝင် ၃ ဦးနှင့် ဘုရင်ခံခန့်အဖွဲ့ဝင် ၄ ဦးတို့ ပါဝင်၏။ ဝန်ကြီးအဖွဲ့တွင် ဥပဒေပြုကောင်စီအဖွဲ့ဝင်အများစုက ထောက်ခံသည့် အရာရှိမဟုတ်သူ ၆ ဦးနှင့် ရာထူးအရအဖွဲ့ဝင် ၃ ဦးတို့ ပါဝင်၏။ ယင်းတို့သည် စုပေါင်း၍ တာဝန်ခံရ၏။ လက်ရှိ မြို့မကောင်စီနှင့် ကျေးလက်ဘုတ်အဖွဲ့နေရာတွင် မြို့တော်ဝန်တဦး၊ လူကြီး ၈ ဦးနှင့် ရွေးကောက်တင်မြှောက်ရသော ကောင်စီအဖွဲ့ဝင် ၂၄ ဦး ပါဝင်သည့် မြို့နှင့်ကျွန်းလုံးဆိုင်ရာ ကောင်စီအဖွဲ့ကို ဖွဲ့စည်းရမည်ဖြစ်သည်။

ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေသစ် အရ ပဌမဆုံး အထွေထွေရွေးကောက်ပွဲကြီးကို ၁၉၅၅ ခုနှစ် ဧပြီလ ၂ ရက်နေ့တွင် ကျင်းပခဲ့၏။ ထိုရွေးကောက်ပွဲတွင် လက်ဝဲလေဘာအင်အားစု ပါတီမှ အနိုင်ရ၏။ ထို့ကြောင့် ၁၉၅၅ ခုနှစ် ဧပြီလ ၆ ရက်နေ့တွင် စင်္ကာပူဘုရင်ခံ ဆာ ဂျွန် နစ်ကယ်သည် လက်ဝဲလေဘာအင်အားစု ပါတီ ခေါင်းဆောင် မစ္စတာ ဒေးဗစ် မာရှယ်အား ဝန်ကြီးချုပ်နှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးအဖြစ် ခန့်ထားခဲ့၏။ ဤအုပ်ချုပ်ရေးသစ်တွင် ဘဏ္ဍာရေး၊ ကာကွယ်ရေးနှင့် လုံခြုံရေးဌာနတို့မှအပ ကျန်ဌာနများကို ကိုယ်ပိုင်အုပ်ချုပ်ခွင့် ပေးထားလေသည်။

စင်္ကာပူမြို့ကား လစဉ်လိုပင် မိုးအနည်းနှင့်အများ ရွာလေ့ရှိသဖြင့် ထာဝစဉ် စွတ်စိုသောမြို့ ဖြစ်၏။ ကမ္ဘာ့အနောက်ဖက်တွင် ဂျီဗရော်တား ခံတပ်သည် ထင်ရှားဘိသကဲ့သို့ အရှေ့ဖက်တွင် စင်္ကာပူခံတပ်သည် ဗြိတိသျှတို့ အားထားရာ ထင်ရှားသော ခံတပ်ဖြစ်၏။ ထို့ကြောင့်ပင် စင်္ကာပူကို အရှေ့ဖက် ဂျီဗရော်တားဟု ခေါ်လေ့ ရှိကြလေသည်။ စင်္ကာပူမြို့၏ လူဦးရေမှာ ၁၉၅၃ ခု သန်းကောင်စာရင်းအရ ၁,၁၂၀,၇၇၇ ယောက်ဖြစ်သည်။

**စင်ကိုးနားပင်**။ ။စင်ကိုးနားပင်သည် ရူဗီအာစီး မျိုးရင်းဝင်အပင် ဖြစ်သည်။ ကာဖီပင်နှင့် မျိုးရင်း တူသည်။ ယင်း၏ရုက္ခဗေဒအမည်မှာ 'စင်ကိုးနား အော့ဖီစင်နာလစ်' ဖြစ်သည်။ ထိုအပင်၏အခေါက်ကို ကွီနိုင်ခေါ် ငှက်ဖျားရောဂါဆေး ဖော်ရာ၌ အသုံးပြုကြသည်။ စင်ကိုးနားပင်သည် အမြဲစိမ်းပင်မျိုး ဖြစ်သည်။ အရွက်သည် ချောမွတ်



အခေါက်ကို ကွီနိုင်ဆေးဖော်စပ်ရသော စင်ကိုးနားပင်များ

၏။ အကိုင်းအခက်များ၌ ဆိုင်၍ပေါက်တတ်ကြ၏။ အရွက်ပုံမှာ ဘဲဥများသဏ္ဌာန်ပုံဖြစ်၏။ အပွင့်သည် မွှေးကြိုင်၍ အရောင်မှာ အဖြူ၊ ပန်းရောင်နှင့် ခရမ်းရောင်ရှိ၏။

စင်ကိုးနားပင်သည် တောင်အမေရိကတိုက်တွင် မူလပေါက်သည်။ အများအားဖြင့် အန်းဒီးတောင် အရှေ့ဖက်စောင်း အမြင့်ပေပေါင်း ၃,၀၀၀ မှ ၉,၀၀၀ ကြားတွင် အခြားသစ်ပင်များနှင့်ရော၍ အလေ့ကျပေါက်သည်။ စင်ကိုးနားပင်မျိုးပေါင်း အမြောက်အမြားရှိသည်။ စင်ကိုးနားပင်ကို ပဌမဦးဆုံး ပီးရူးနိုင်ငံ နှင့် အက်ကွာဒေါနိုင်ငံတို့တွင် တွေ့ရသည်။

တောင်အမေရိကတိုက်သို့ စပိန်လူမျိုးများ မရောက်လာမီအခါကပင် ထိုနယ်ရှိ တိုင်းရင်းသားများသည် စင်ကိုးနားပင်ကို ဆေးအဖြစ် အသုံးပြုကြသည်ဟုဆိုသည်။ ခရစ် ၁၆၃၈ ခုနှစ်တွင် ပီးရူး ဘုရင်ခံချုပ်ကတော် ကောင့်တက်စင်ကိုးနားသည် ထိုအပင်၏အခေါက်ကို စားသုံးခြင်းအားဖြင့် ငှက်ဖျားရောဂါ ပျောက်ကင်းကြောင်း သိရလေသည်။ ကောင့်တက် စင်ကိုးနားကို အစွဲပြု၍ ထိုအပင်ကို စင်ကိုးနားပင်ဟူ၍ ခေါ်ဝေါ်ကြလေသည်။ ဘုရင်ခံချုပ်ကတော်သည် ထိုအပင်၏တန်ဖိုးကို သိရှိသဖြင့် ထိုအပင်၏အခေါက်များကို လိုက်လံစုဆောင်းစေ၍ ငှက်ဖျားရောဂါ စွဲကပ်သူများအား ကုသစေသည်။ ဤသို့ဖြင့် စင်ကိုးနားသည် စပိန်နိုင်ငံသို့ ရောက်သွားသည်ဟုဆိုသည်။ ထိုအခေါက်ကို ဂျက်ဇူးအစ်ခေါ် ခရစ်ယန်ဘုန်းကြီးများက လိုက်လံဝေငှသဖြင့် ထို ဘုန်းတော်ကြီးများကို အစွဲပြု၍ ဂျက်ဇူးအစ်အခေါက်ဟူ၍လည်း ခေါ်ဝေါ်ကြသည်။ ထိုပြင် တခါတရံ ပီးရူးနိုင်ငံကိုအစွဲပြု၍ ပီရူးဗီယန်အခေါက် ဟူ၍လည်း ခေါ်ဝေါ်တတ်ကြလေသည်။ ၁၉ ရာစုနှစ်အစသို့ ရောက်သောအခါ၊ ထိုအခေါက်ကို အသုံးများလာ၍ လုံလောက်စွာပင် မရရှိကြတော့ပေ။ သဘာဝအလျောက် ပေါက်သော အပင်များသည်လည်း မျိုးပြုတ်လုမတတ် ဖြစ်ကြသည်။ ထို့ကြောင့် စင်ကိုးနားခေါက်ကို လုံလောက်စွာရရှိရေးအတွက် ထိုအပင်ကို စိုက်ပျိုးရန် အမျိုးမျိုး ကြိုးစားကြ၏။ ၁၉ ရာစုနှစ်အလယ်သို့ ရောက်သောအခါမှ စင်ကိုးနားပင် စိုက်ပျိုးရေး လုပ်ငန်းသည် ထမြောက် အောင်မြင်လေသည်။ ယခုအခါ စင်ကိုးနားပင်များကို အိန္ဒိယနိုင်ငံ၊ သီဟိုဠ်ကျွန်း၊ ဂျားဗားကျွန်း၊ အမေရိကတိုက် အပူပိုင်းဒေသများတွင် စိုက်ပျိုးကြသည်။ (ကွီနိုင်။ ငှက်ဖျားရောဂါ—လည်းရှု။)

စင်စင်နေးတပ်,လူယှိယပ် ကွင်တီယပ် (ဘီစီ ၅၁၉–၄၃၉ ခန့်)။ ။လူယှိယပ် ကွင်တီယပ် စင်စင်နေးတပ်သည် နိုင်ငံရေးအာဏာကို စုံမက် ခင်တွယ်ခြင်း မရှိဘဲ၊ နိုင်ငံနှင့် အမျိုး၏အကျိုးကို သည်ပိုးရွက်ဆောင်သူ ရောမလူမျိုး မျိုးချစ်ပုဂ္ဂိုလ်တဦးဖြစ်သည်။ ဘီစီ ၄၅၈ ခုနှစ်လောက်တွင် အီကွီယန်လူမျိုးတို့သည် ရောမပိုင်နယ်များကို ဝင်ရောက်တိုက်ခိုက်ကြရာ၊ ရောမမြို့တော်ကြီးသည် ရောမစစ်တပ်ကြီးနှင့်တကွ ရန်သူတို့ဝန်းရံခြင်းကို ခံရလေသည်။ (ရောမနိုင်ငံသမိုင်း — ရှု။) ထိုအချိန်တွင် စင်စင်နေးတပ်သည် မှူး

ထွန်တုံးလက်စွဲလျက်ရှိသူ စင်စင်နေးတပ်အား ရောမနိုင်ငံ၏အာဏာရှင်အဖြစ် ဆောင်ရွက်ရန် ပန်ကြားနေခြင်း

မတ်မျိုးနွယ်ပင် ဖြစ်လင့်ကစား၊ ဆင်းရဲနွမ်းပါး၍ လယ်သမားအဖြစ်နှင့် လယ်ထွန်ဆင်းနေခိုက်ဖြစ်သည်။ ထိုအခါ ရောမနိုင်ငံ ဆီနိတ် အဖွဲ့သည်၊ ရန်သူတို့ကို နှိမ်နင်းပေးရန် စင်စင်နေးတပ်အား ဖိတ်ခေါ်၍ ရန်သူတို့ကို နှိမ်နင်းနေသမျှသော ကာလအတွင်းတွင် ရောမနိုင်ငံ၏ အာဏာရှင်အဖြစ်နှင့် ဆောင်ရွက်ရန် ပန်ကြားလေသည်။ ရောမနိုင်ငံ၏ စိုးရိမ်ဖွယ်အခြေအနေကို သိသောအခါ၊ စင်စင်နေးတပ်သည် ထွန်တုံးကိုပစ်၍၊ ရောမမြို့တော်သို့ ချက်ခြင်းလိုက်လာပြီးသော်၊ စစ်တိုက်နိုင်သူ ဟူသမျှကို စည်းရုံးကာ၊ ရန်သူတို့ကို တွန်းလှန် ဖြိုဖျက်လိုက်လေသည်။

စင်စင်နေးတပ် အာဏာရှင်အဖြစ်နှင့် ရန်သူတို့ကို နှိမ်နင်းရာ၊ ၁၆ ရက်နေ့အကြာတွင် ရန်သူကို ရှင်းလင်းသောလုပ်ငန်းသည် ပြီးစီး၍ သွားခဲ့သည်။ ထိုအခါ စင်စင်နေးတပ်သည် အာဏာရှင်အဖြစ်ကို ဆီနိတ်အဖွဲ့အား ပြန်အပ်၍ လယ်ထွန်မြဲထွန်လေသည်။ ဘီစီ ၄၃၉ ခုနှစ်တွင် အသက် ၈၀ အရွယ်သို့ ရောက်သောအခါ၊ စင်စင်နေးတပ်သည် ပြည်တွင်းစစ်ပြဿနာ တခုနှင့် ရင်ဆိုင်ရပြန်သည်။ ဤအကြိမ်၌လည်း ၂၁ ရက်တာမျှ အာဏာရှင်အဖြစ် ခံယူ၍ တိုင်းပြည်၏ရန် ဆူးရန်ငြောင့်တို့ကို ဖယ်ရှားပြီးသော် အာဏာရှင်ဘဝကိုစွန့်၍ လယ်လုပ်မြဲ လုပ်ပြန်သည်။ ထို့ကြောင့် ရောမလူမျိုးတို့က စင်စင်နေးတပ်ကို ရာထူး ဌာနန္တရ မမြော်ကိုးဘဲ၊ နိုင်ငံ၏အကျိုးကို ရွက်ဆောင်သော အာဇာနည်ယောကျ်ားကောင်း တဦးအနေနှင့် အလေးအမြတ်ပြုကြသည်။

**စင်ဒါရဲလား။** စင်ဒါရဲလား ပုံပြင်ကို ပြင်သစ်စာရေးဆရာ ပဲရိုး ဆိုသူက ခရစ် ၁၆၉၇ ခုနှစ်ခန့်က ပဌမဦးစွာ ပြုစုရေးသားခဲ့လေသည်။ သို့သော် ထိုသူ မရေးသားမီကပင် ဤပုံပြင်ကို ရှေးစကားတခုအဖြစ် လူသိများလေသည်။ စင်ဒါရဲလား၏ မြန်မာပြန်အနက်မှာ 'စားဖိုသည်မ' ဖြစ်သည်။

ဇာတ်လမ်းမှာ ဆင်းရဲသော်လည်း ရုပ်လှပသော စင်ဒါရဲလားဆိုသူ မိန်းကလေး၏အကြောင်း ဖြစ်သည်။ မိထွေး



'စဖိုသည်မ' စင်ဒါရဲလား

နှင့်နေရသူ ဖြစ်သည်။ မိထွေးဖက်မှ အစ်မတော်များသည် စင်ဒါရဲလားလောက် ရုပ်အဆင်းမလှကြသဖြင့် မနာလိုဖြစ်ကာ စင်ဒါရဲလားအား မနားမနေ ခိုင်းစေထားလေသည်။

တခါသော် စင်ဒါရဲလားသည် မင်းသားကလေးတပါး၏ ကပွဲသို့ အများနည်းတူ သွားရောက်လိုသောဆန္ဒ ဖြစ်ပေါ်လာ၏။ ထိုကပွဲသို့ သွားရောက်နိုင်ရန်အတွက် သူ့အား မိခင် သဖွယ် ကြင်နာ သနားနေသော နတ်သမီး တပါးက ကူညီလေသည်။ နတ်သမီး၏ တန်ခိုးဖြင့် ရွှေဖရုံသီးတလုံးကို လှပသောမြင်းရထားတစီး ဖြစ်စေပြီးလျှင် ကြွက်ဖြူကလေးများကို ကကြိုးတန်ဆာဖြင့် ဆင်ယင်သော မြင်းဖြူကြီးများ ဖြစ်စေသည်။ စင်ဒါရဲလားအား ဝတ်စားတန်ဆာ တို့ဖြင့် မင်းသမီးကလေးတမျှ လှပတင့်တယ်စေ၍ ထိုမြင်းလှည်းကလေးဖြင့် သွားရောက်စေ၏။ သို့သော် ညသန်ကောင်ယံ မတိုင်မီ ပြန်ခဲ့ရမည်ဟု မှာလိုက်လေသည်။

ကပွဲတွင် မင်းသားကလေးသည် စင်ဒါရဲလား၏ ရုပ်ရည်ကို စွဲလန်းသွား၏။ ည ၁၂ နာရီထိုးလုနီးအချိန်တွင် စင်ဒါရဲလားသည် ကပွဲမှ နေအိမ်သို့ သုတ်သီး သုတ်ပြာ ပြန်ခဲ့ရာ ဖန်ဖိနပ်တဖက် ကျွတ်၍ကျန်ခဲ့လေသည်။

မင်းသားကလေးသည် ဖိနပ်ရှင်ကို တွေ့လျှင် ကြင်ယာ မြှောက်မည်ဟုကြေညာ၍ ဖိနပ်ရှင်ကို ရှာစေ၏။ နောက်ဆုံး၌ ဖိနပ်ရှင် စင်ဒါရဲလားကို တွေ့ရှိသဖြင့် ကတိအတိုင်း ထိမ်းမြားလက်ထပ်လိုက်လေသည်။

အချို့က ဤပုံပြင်သည် သဘာဝကို တင်စားထားသော ပုံပြင်ဖြစ်သည်ဟု ဆိုကြသည်။ စင်ဒါရဲလားသည် နံနက် အရုဏ်တက်ချိန် ဖြစ်၍၊ ညှဉ်းဆဲကလူ ပြုကြသူ များမှာ ညအချိန်တွင် တက်လာသော တိမ်တိုက်များ ဖြစ်သည်။ နောက်ဆုံးတွင် စင်ဒါရဲလားကို ကယ်ဆယ်သူ မင်းသားမှာ နေမင်းဖြစ်သည်ဟု ယူဆကြလေသည်။

**စင်းတော။** ။ဂရိရှေးဟောင်းပုံပြင်များထဲတွင် သက်ဆလီနှင့် အာကေးဒီးယားတောင်များ၌ လူတပိုင်း မြင်းတပိုင်း သတ္တဝါတမျိုး နေထိုင်သည်ဟု ဆိုသည်။ ထို လူတပိုင်းမြင်းတပိုင်းတို့သည် အစ်ဆိုင်အွန် ဘုရင်နှင့် နက်ဖီလီ နတ်သမီးတို့မှ ပေါက်ဖွားလာသူများဟု ပြောလေ့ရှိကြသည်။ စင်းတောခေါ် ထိုသတ္တဝါတို့သည် ခါးပိုင်းအထိ လူကိုယ်ဖြစ်၍၊ အောက်ပိုင်းမှာ မြင်းကိုယ်ဖြစ်လေသည်။

စင်းတောများအကြောင်း ပါဝင်သည့် ပုံပြင်များတွင် လက်ပီသီးဘုရင်နှင့် စင်းတောများ စစ်ပြိုင်သည့်အကြောင်းကိုဖော်ပြသောပုံမှာ ထင်ရှားသည်။ ထိုပုံပြင်တွင် လက်ပီသီးပြည်ဘုရင် ပေရီသို့နှင့် ဒီအစ်ဒါမီယားတို့ လက်ထပ်ပွဲနေ့တွင် စင်းတောတို့သည် သတို့သမီးကို လုယူထွက်ပြေးရန် ကြံစည်သဖြင့် တဖက်နှင့်တဖက် အပြင်းအထန် တိုက်ခိုက်ကြ



လူတပိုင်းမြင်းတပိုင်းစင်းတော နှင့် ကျူးပစ်နတ်သားတို့ပုံ

လေသည်။ လက်ပီသီးဖက်မှ ဘုရင်၏အကြည်တော် သီးဆယုက ဝင်ရောက် ကူညီ တိုက်ခိုက်သဖြင့် စင်းတောတို့ အရေးနိမ့်ကြရလေသည်။

စင်းတောတို့သည် စည်းကမ်းမဲ့သော လူရိုင်းများဖြစ်၍ မိမိတို့၏စိတ်ကို မထိန်းသိမ်းနိုင်သူများ ဖြစ်ကြသည်။ သို့သော် ဖောလပ်နှင့် ကိုင်ရွန်ဆိုသူ နှစ်ဦးမှာ အခြား စင်းတောတို့နှင့် အလွန် ကွာခြားလေသည်။ ကိုင်ရွန်သည် အပေါလို နတ်သားထံတွင် နည်းနာ ခံယူရသဖြင့် အတတ်ပညာနှင့် ပြည့်စုံသူဖြစ်သည်ဟု ဆိုကြသည်။ အပေါလိုသည် သူ၏သားတော် အက်စကျူလေးပီယပ်ကိုပင် ကိုင်ရွန်အား စောင့်ရှောက် ထိန်းသိမ်း သွန်သင်စေ၏။ ကိုင်ရွန်၏ တပည့် ထိုနတ်သားမှာ နောင်သောအခါတွင် သမားတော်များကို စောင့်ရှောက်သောနတ်သား ဖြစ်လာလေသည်။

ထင်ရှားသော သူရဲကောင်းများဖြစ်ကြသည့် ပီးလီယပ်၊ ဂျေဆင်နှင့် အကီးလီးတို့သည် ကိုင်ရွန်၏ တပည့်များ ဖြစ်ကြသည်။

# ဝေါဟာရ နှင့် အသံလှယ်အမည်များ

ဤကျမ်းတွင် ကမ္ဘာပေါ်ရှိ ကျယ်ဝန်းလှသော ပညာရပ်အမျိုးမျိုး၊ အကြောင်းရပ်အမျိုးမျိုးတို့ ပါဝင်သည့်ပြင်၊ မြန်မာနိုင်ငံတွင် ပဌမဆုံး ပေါ်ထွက်လာရခြင်းဖြစ်သည့်အလျောက်၊ ဘာသာခြားမှ မြန်မာလိုပြန်ဆိုထားသော ဝေါဟာရသစ်များနှင့် အသံလှယ်ယူထားသော အမည်များ မြောက်မြားစွာပါရှိသည်။ ဤကျမ်းတွင်ပါဝင်သော ဝေါဟာရနှင့် အသံလှယ်ယူထား၊သောအမည်တို့ကို မူရင်းစကားနှင့်တကွ အောက်တွင် အက္ခရာစဉ်အတိုင်း ဖော်ပြထားသည်။ ထုတ်ဝေပြီးအတွဲများတွင် ဖော်ပြပါရှိပြီးဖြစ်သော ဝေါဟာရများနှင့် အသံလှယ်အမည်များကိုမူ အောက်ပါစာရင်း၌ ထပ်မံဖော်ပြခြင်းမပြုပါ။

## ဝေါဟာရများ

| | |
|---|---|
| 'ကဗျာစာဆိုတို့၏အတ္ထုပ္ပတ္တိ' | 'The Lives of the Poets' |
| ကဗျာစာဆိုအက်ဒါကြီး | Elder Edda or Poetic Edda |
| ကရော့စ်ဗားစနစ် | Crossbar (System) |
| 'ကရိုက်ဆစ်' သတင်းစာ | Crisis' |
| 'ကလေးဘဝ' | 'My Childhood' |
| ကာတာလန်လူမျိုး | Catalan |
| ကာရာရာစကျင်ကျောက် | Carrara |
| ကုဗတုံး | Cube |
| ကော်ရယ်ပင်လယ် | Coral Sea |
| ကိုကိုကီးလင်းကျွန်း | Cocos-Keeling Island |
| ကိုးတိုင်ကစားခြင်း | Nine pins |
| ကက်စတီးလီယန်လူမျိုး | Castilian |
| ကင်းအက်ဒွပ်စာသင်ကျောင်း | King Edward's School |
| ကန့်ဆေးဝါး | Sulfa drugs |
| ကန်တာဗာရီဂိုဏ်းချုပ် | Archbishop of Canterbury |
| ကန်တာဗရီယန်တောင်တန်း | Cantabrian Mountains |
| ကုန်သည်လေ | Trade Wind |
| ကပ်ဗင့်ဥယျာဉ် | Covent Garden |
| ကျောက်စက်ပန်းဆွဲ | Stalactite |
| ကျောက်စက်မိုးမျှော် | Stalagmite |
| ကြာသပတေးဂြိုဟ် | Jupiter |
| ကြောင်ငါး | Catfish |
| ကြောင်လိမ်လျှော | Spiral chute |
| ကြောင်းခြင်းရာအညွှန်း | Fact-Index |
| ကွားဒရင့်ခွေးသွားစိတ် | Tooth quadrant |
| ကွန်ဂရက်စာကြည့်တိုက် | Library of Congress |
| ကွန်ပါ | Compass |
| ကွန်ဖျူးရှပ်အယူဝါဒ | Confucianism |
| 'ကျွန်ုပ်အတွက်တက္ကသိုလ်များ' | 'My Universities' |
| ကြွေးတင်စာရင်း | Account of indebtedness |
| 'ခရီးသည်ကြီး' | 'The Traveller' |
| ခရစ္စမတ်ကျွန်း | Christmas Island |
| 'ခရစ်ယန်သာသနာအရေးပုံသမိုင်း' | 'History of the Reformation' |
| ခလုတ်ခုံ | Switch board |
| ခါဒါလှုပ်ရှားမှု | Khadda Movement |
| ခေါင်းကြီးရေးသူ | Leader Writer or Editorial Writer |
| 'ခေါင်းဆောင်ကြီး' | Qaid-i-Azam |
| ချာတာဟောက်ကျောင်း | Charterhouse School |
| ချင်မင်းဆက် | Ch'ing Dynasty |
| ချုပ်ခွက် | Sewing frame |

| | |
|---|---|
| ခြေတံရှည်ပိုးကောင် | Daddy-long-legs |
| ခြေလျင်တပ်မဟာ အမှတ် ၁၀ | 10th Infantry Brigade |
| ခြေဝါငှ | Yellow-footed green pigeon |
| ဂဏန်းခြေ | Numeral |
| ဂဏန်းတွက်စက် | Calculating machine |
| ဂဏန်းသင်္ချာ | Arithmetic |
| ဂရေးဒိုးတောင်တန်း | Sierra de Gredos |
| ဂရောက်ရှစ် | Grouse |
| ဂရင်းစည်း | Grimm's Law |
| ဂရစ်လျှပ်စစ်စံနှစ် | Grid |
| ဂရိတ်လိတ်ဒေသ | Great Lakes |
| ဂရမ်ပီယန်တောင်တန်း | Grampian Mountains |
| ဂလော့စတာတိုက်လေယာဉ်ပျံ | Gloster fighter |
| ဂလိုက်ဒါလေယာဉ် | Glider |
| ဂလစ်ရှန်းလူမျိုး | Galician |
| ဂလုပ်ရုံ | Globe Theatre |
| ဂဟေ | Solder |
| ‘ ဂါတာ၏စတယန် ’ | ‘ Goethean Style ’ |
| ဂါးတားတောင်တန်း | Sierra de Gata |
| ဂူနေခေတ် | Cave Dwelling Age ; Age of Cave men |
| ဂူနေရှေးလူ | Cave dweller |
| ဂယ်လဗာနိုက်သံ | Galvanised iron |
| ဂယ်လဗာနစ်နည်း | Galvanic method |
| ဂေါ်ဘီထုပ် | Cabbage |
| ဂေါ်ရခါးသေနတ်ကိုင်တပ်ရင်း | Gurkha Rifles |

| | |
|---|---|
| ဂန္ထဗေဒ | Bibliography |
| ဂန္ထဗေဒအသင်းကြီး | The Bibliographical Society |
| ဂန္ဓမာလန်း | Chrysanthemum |
| ဂုံလျှော်ပင် | Jute |
| ဂျာဗိုးအာကောင် | Jerboa |
| ‘ ဂျာမန်ဘာသာစကားသမိုင်း ’ | ‘ History of the German Language ’ |
| ‘ ဂျာမန်သူရဲကောင်းတို့၏ရှေးဟောင်းပုံပြင် ’ | ‘ German Heroic Saga ’ |
| ဂျူရီအဖွဲ့ကြီး | Grand Jury |
| ဂျူရီအဖွဲ့ငယ် | Petty Jury |
| ဂျူးလ နိယာမ | Joules' Law |
| ဂျိုဟိုးရေလက်ကြား | Johore Strait |
| ဂျက္ကဗင်းအဖွဲ့ | The Jacobins |
| ဂျက္ကတ်ရက်ကန်းစင် | Jacquard Loom |
| ဂျက်ဆူးအစ်အခေါက် | Jesuits' bark |
| ဂျိုင်ရိုကရိယာ | Gyro-apparatus |
| ဂျိုင်ရိုအိမ်မြှောင် | Gyro-compass |
| ဂြိုဟ်သိမ်ဂြိုဟ်မွှား | Asteroid or Planetoid |
| ဂွါဒါရမ္မာတောင်တန်း | Sierra de Guadarama |
| ဂျွန်ဆင်အသင်း | Johnson Club |
| ဂျွမ်းထိုးငှက် | Indian lorikeet |
| ငခွေးလျှာ | Flatfish |
| ငထီး | Jellyfish |
| ငဘားရှည် | Silver-Bar fish |
| ငပျံ | Flying-fish |
| ငမြီးတောင် | Anguilla benghalensis |

| | |
|---|---|
| ငမြင်းကကလောင် | Eutropiichthys vacha |
| ငရုတ်ကောင်း | Piper nigrum |
| ငရှဉ့်ကျား | Anguilla bicolor |
| ငရှဉ့် | Amphipnous cuchia |
| ငလိပ်ကျောက် | Ray |
| ငလျင်တိုင်းကရိယာ | Seismograph |
| ငဝက် | Percidae |
| ငသလဲထိုး | Lepidocephalus berdmorei |
| ငသိုင်း | Catla catla |
| ငဟစ် | Heron |
| ငအပ်ပို | Rastroliger kanagurta |
| ငအုံး | Anthias multideus |
| ငုပင် (ငုကြီးပင်) | Cassia fistula |
| ငုရှယ်ပင် (ငုစပ်ပင်) | Cassia renigera |
| ငုသိန်ပင် | Cassia nodosa |
| 'ငိုကြွေးရာတံတိုင်း' | 'Wailing Wall' |
| ငုံး | Quail |
| ငြိမ်ထိန်းကရိယာ | Control (stabilizer) |
| ငွေစာရင်းစာအုပ် | Cash Book |
| ငွေစုဘဏ်ဌာန | Saving Bank |
| ငွေလွှဲပို့စနစ် | Money Order |
| ငွေဝင်ငွေထွက်စာရင်း | Cash Account. |
| 'ငွေသေတ္တာ' | 'Silver Box' |
| ငှက်ကျား | Ibis leucocephalus |
| ငှက်ကျားဖြူ | Ciconia alba |
| ငှက်ကြီးဝံပိုစ် | Adjutant ; Leptoptilus dubius |
| ငှက်ခါး | Coracias benghalensis |
| ငှက်တောင်ရိုး | Quill |
| ငှက်ပန်းထိမ် | Megalaima haemacephala indica |
| ငှက်ပျောဖူးပုံသဏ္ဍာန် | Elliptic oblong |
| ငှက်ပြာချောက် | Sitta castanea neglecta |
| ငှက်ဘီလူး | Lanius collurioides collurioides |
| စကားဇာစ်မြစ်ပညာရပ် | Etymology |
| စကားပြေစာဆို အက်ဒါငယ် | Younger Edda or Prose Edda |
| စကားပြောခွက် | Mouthpiece |
| စကားပြောအတတ် | Rhetoric |
| စကီးစီးခြင်း | Ski-ing |
| 'စကော့တလန်နယ်ခြားသီချင်းများ' | 'Minstrelsy of the Scottish Border' |
| စကော့တလန်ပြည့်ရှင်မေရီဘုရင်မ | Mary, Queen of Scots |
| စကစ်တယ်ကစားခြင်း | Skittles |
| စကန်ဆင်ဥယျာဉ် | Skansen Park |
| စတားဂျင်ငါး | Sturgeon |
| စတီရီယိုစာပုံသွန်းနည်း | Stereotyping |
| စနေဂြိုဟ် | Saturn |
| စပါးလင် | Lemon grass |
| စပန်းရေမြှုပ် | Sponge |
| စပိန်ထီးနန်းဆက်ခံရေးစစ်ပွဲ | War of the Spanish Succession |
| စပိန်ရေတပ်ကြီး | The Spanish Armada |
| စပျစ် | Grapes |
| စာကူးစက် | Duplicator |

| | |
|---|---|
| စာကူးမင် | Copying ink |
| စာထုပ် | Packet |
| စာ၊ နယ်၊ ဇင်း အတတ်ဆိုင်ရာဒီပလိုမာဘွဲ့ | Diploma in Journalism |
| စာပေအသင်း | Literary Club |
| စာပို့မြင်းရထား | Mail coach |
| စာပို့အိတ်ဖလှယ်ရေးကရိယာ | Mail-bag exchange apparatus |
| စာဖလှယ်၍ပို့သောစနစ် | Cross post |
| စာမွန် | Essay |
| စာရင်းကိုင်နည်း၊ တဖက်သွင်း | Single entry Book-keeping |
| စာရင်းကိုင်နည်း၊ နှစ်ဖက်သွင်း | Double entry Book-keeping |
| စာရင်းကိုင်ပညာ | Book-keeping |
| စာရင်းချုပ်စာအုပ် | Ledger |
| စာရင်းစု | Statistics |
| စာရင်းတွက်စက် | Accounting machine |
| စာရင်းပိတ်လက်ကျန် | Closing balance |
| စာရင်းဖွင့်လက်ကျန် | Opening balance |
| စာရင်းမျက်နှာ | Folio |
| စာဝေငှရုံး | Delivery Office |
| စာအုပ်နှင့်နမူနာပို့စနစ် | Book and sample post |
| စားဆေးဖြင့်ပုံဆွဲခြင်း | Etching |
| စားမြုံ့ပြန်ကောင် | Ruminant |
| စိထရွိနယ်လာဆီ | Citronella oil |
| စုဆောင်းခြင်း | Collection |
| စွကာပန်း | Passion flower |
| စက္ကဝက်ငှက် | White pelican |
| စက္ကူဖြူစာတမ်း | White Paper |
| စက်စီယင် | Tsetse fly |
| စက်ရုံလုပ်ငန်းစနစ် | Factory system |
| စက်ဝိုင်းခြမ်း | Semi-circle |
| စက်ဝိုင်းစိတ် | Sector |
| စက်ဝိုင်းလုံး | Sphere |
| စက်ဝန်းပိုင်း | Arc |
| စက်သီး | Pulley |
| စိုက်အား | Effort |
| စိတ်ကူးယဉ်ခေတ် | Romantic period |
| ‘ စိန့်ဂျွန်းအကြိုနေ့ ’ | ‘ St. John's Eve ’ |
| စံနမူနာယူနည်း | Sample survey |
| စုံတွဲအပြန်အလှန်ပြောစကား | Dialogue |
| ဆဗွိုင်းရုံတော် | Savoy Theatre |
| ဆာလဖိတ်နည်း | Sulphate process |
| ဆိုဒါနည်း | Soda process |
| ဆောက်လုပ်ချက်များ | Constructions |
| ‘ ဆုံးခဲ့ပေါ့ပြည်နတ်ရွာ ’ | ‘ Paradise Lost ’ |
| ဆွန်ဒန်လူမျိုး | Sundanese |
| ဇနပ္ပတ္တိ | Biography |
| ဈေးတွက် | Practice |
| တပတ်လည်ထောင့် | Perigon |
| ‘ တရုပ်ဂေါ်ဒင် ’ | ‘ Chinese Gordon ’ |
| ‘ တော်စတွိုင်ယာတော ’ | ‘ Tolstoy Farm ’ |
| တော်ဝင်ပီယန်တျာပညာထံခွန်းအသင်း | Royal Academy of Music |

| | |
|---|---|
| တိုကူဂါးဝါးရှိုဂွန်ခေတ် | Tokugawa Shogunate |
| တိုက်ရိုက်နည်းဖြင့်သက်သေပြနည်း | Direct method |
| ထင်ကျီး | The Indian large cormorant |
| ထစ်ငှက် | Tit |
| တနစ်စဖင့်ငှက် | Tanis sphinx |
| တံဆိပ်ခေါင်း၊ စာပို့ | Postage stamp |
| တံဆိပ်ခေါင်း၊ ယူ၊ ပီ၊ ယူ | U.P.U. stamp |
| တံဆိပ်ခေါင်း၊ အလုပ်လက်မဲ့ | Unemployment stamp |
| တံဆိပ်ခေါင်း၊ အာမခံ | Insurance stamp |
| တံဆိပ်နှိပ်စက် | Stamp cancelling machine |
| တိုးပျံ | Rocket |
| တိုးမော်တော်ကား | Rocket motor-car |
| တိုးလေယာဉ်ပျံ | Rocket plane |
| တိုးအင်ဂျင် | Rocket engine |
| တျူဗာကယ်ပိုးစွဲနာ | Tuberculosis |
| တွင်းထွက်ဓာတ် | Mineral |
| ထာဝရသံလိုက် | Permanent magnet |
| ထုပုံ | Solid |
| ထောင့်ကျယ် | Obtuse angle |
| ထောင့်ကျယ်တြိဂံ | Obtuse-angled triangle |
| ထောင့်ကျဉ်း | Acute angle |
| ထောင့်ကျဉ်းတြိဂံ | Acute-angled triangle |
| ထောင့်ပြန် | Reflex angle |
| ထောင့်ဖြောင့် | Straighy angle |
| ထောင့်မှန် | Right angle |
| ထောင့်မှန်စတုဂံ | Rectangle |
| ထောင့်မှန်တြိဂံ | Right-angl?ed triangle |
| ထပ်ကိန်းနှင့်ကိန်းရင်းများ | Powers and roots |
| ထပ်တရာပန်း | Marigold |
| ထပ်တူထပ်မျှတြိဂံများနှင့်သက်သေပြနည်း | Proof by congruent triangles |
| ဒသမ | Decimal |
| 'ဒိကန်ကာအနီးလယ်ယာတွင်းမှညနေခင်း' | 'Evenings on a farm near Dikanka' |
| ဒီမိုကရက်တစ်သမတဂျာမန်နိုင်ငံ (အရှေ့ဂျာမနီနိုင်ငံ) | German Democratic Republic |
| ဒီးလီယန်အဖွဲ့ | Delian League |
| ဒုံးမြီးကွက် | Leptoptilus javanicus |
| ဓါတ်ငွေ့မီးအိမ် | Gas lamp |
| 'ဓမ္မသတင်းစာ' | 'Religious Herald' |
| ဓမ္မသာလာယံကျောင်း | Ashram |
| ဓမ္မသီချင်း | Hymn |
| နယေဇင်ဂျင်မနေဇီယမ်ကျောင်း | Nezhin Gymnasium |
| နာတဲအိန္ဒိယကွန်ဂရက် | Natal Indian Congress |
| နားထောင်ခွက် | Receiver |
| နေကြာ | Sunflower |
| နယ်စါးကြီး | Elector |
| နက္ခတ္တရူပဗေဒ | Astro-physics |
| 'နက်နဲလှစွာစကြာဝဠာ' | 'The Mysterious Universe' |
| 'နောက်ဆုံးဂီတစါဆိုဓါတေးသံ' | 'The Lay of the Last Minstrel' |
| နိုင်ငံငယ် (ရှေးဂရိနိုင်ငံ) | City state |
| နိုင်ငံတော်စာကြည့်တိုက် | State library |
| နတ်ဆီဝါဒ | Nazism |

| | |
|---|---|
| နန်းတွင်းပန်းချီတော် | Court painter |
| 'နွေဦးရာသီသို့' | 'Ode to the Spring' |
| နှစ်ကိုင်းဖြာအမြဲစိမ်းချုံပင် | Dichotomously branched evergreen |
| '၂၅ နှစ်ကာလ' | 'Twenty Five years' |
| နှစ်နားညီတြိဂံ | Isosceles triangle |
| နှတ် | Heddle |
| နှုတ်သီးထူငှက် | Thick-billed green pigeon |
| နှုတ်သီးပြားငှက်ကျား | Shoe bik |
| ပမာဏသင်္ချာ | Mensuration |
| ပရိစ္ဆေဒနည်း (ဝါ) အနာလစ်စစ်နည်း | Method of analysis |
| ပရင့်စတန်တက္ကသိုလ် | Princeton University |
| ပလိပ်ရောဂါ | Plague |
| ပါဆယ်ပို့စံနစ် | Parcel post |
| ပါရစ်မြို့ငြိမ်းချမ်းရေးညီလာခံ | Paris Peace Conference |
| ပါရစ်မြို့ရှိနိုင်ငံတော်စာကြည့်တိုက် | Bibliothèque Nationale, Paris |
| ပါဝါလက်တံ | Power arm |
| ပါးမားအနုပညာသင်တန်းကျောင်း | Academy of Parma |
| ပါးရော့ကျွန်း | Island of Paros |
| ပိရမစ် | Pyramid |
| ပီရူးဗီယန်အခေါက် | Peruvian bark |
| ပူးပေါင်းရေးအက်ဥပဒေ | Act of Union |
| ပေထင်လွင်ပြင် | Plain of Peten |
| ပေးထားချက် | Hypothesis |
| ပယ်နည်းဖြင့်သက်သေပြနည်း | Proof by elimination |
| ပယ်ရီယန်စကျင်ကျောက် | Parian marble |
| ပယ်လိုပွန်နီးရှန်းစစ်ပွဲများ | Peloponnesian Wars |
| ပဲရော့ငါး | Parrot fish |
| ပေါ်ပီပန်း | Poppy |
| ပိုးဖလံ | Moth |
| ပက်ဒင်တန်ဘူတာ | Paddington Station |
| ပင်ဆီလဗေးနီးယားနှင့်မေရီလန် တန်တားဆောက်လုပ်ရေးကုမ္ပဏီ | Pennsylvania and Maryland Bridge and Construction Company |
| ပင်တဲလစ်ကပ်တောင် | Mount Pentelicus |
| ပင်တဲလစ်စကျင်ကျောက် | Pentelic marble |
| ပင်လယ်တံငါ | Sea angler |
| ပစ်စတန်အင်ဂျင်တပ်သားမန်လေယာဉ်ပျံ | Piston-engined plane |
| 'ပစ္စည်းရှင်' | 'The Man of Property' |
| ပစ်လူမျိုး | Picts |
| ပဒ္မကာနီသီး | Gǒldnut |
| ပိတ်ချင်း | Piper longum |
| ပန်ကရိယရည် | Pancreatic juice |
| ပန်နယ်စံနစ် | Panel |
| 'ပန်းမြို့တော်ကြီး' | 'City of Flowers' |
| ပိန်ညင်းငှက် | Kingfisher |
| ပုပ်ရဟန်းမင်း တတိယအင်နိုဆင် | Pope Innocent III |
| ပုံကူးစက္ကူ | Tracing paper |
| ပုံစံပြ | Blue print |
| ပုံထပ်သက်သေပြနည်း | Proof by superposition |
| ပုံထွင်းဆရာ | Engraver |
| ပုံဖော်ရက်ကန်းအထည် | Figure weaving |
| ပျ | Aphis |

| | |
|---|---|
| ပျော့ဖတ်၊ စက်ကြိတ် | Pulp, mechanical |
| ပျော့ဖတ်၊ ဆေးစိမ် | Pulp, chemical |
| ပျော့ဖတ်၊ သစ် | Pulp, wood |
| ပျော့ဖတ်၊ အဝတ် | Pulp, rag |
| ပြစက် | Projector |
| ပြတန်ဆာ | Indicator |
| 'ပြည်တွင်းခရီးစဉ်' | 'An Inland Voyage' |
| ပြည်တွင်းပြည်ပအဖြစ်အပျက်' | 'Public Occurrences both Foreign and Domestic' |
| ပြည်ထောင်စုသမတဂျာမန်နိုင်ငံ (အနောက်ဂျာမနီနိုင်ငံ) | German Federal Republic |
| ပြည်သူ့စာကြည့်တိုက် | Public library |
| ပွင့်ချပ်အုံ | Corolla |
| ပွင့်ချပ်အုံပြွန် | Corolla-tube |
| ပွင့်ဖတ်အုံ | Calyx |
| ပွတ်တိုက်ခုခံမှု | Friction |
| ပြွန် | Duct |
| ပြွန်မဲ့ဂလင်း | Ductless gland |
| ဖယောင်းစက္ကူ | Stencil paper |
| ဖရောင်ဟိုဖာမျဉ်းများ | Fraunhofer lines |
| 'ဖယ်လိုဒွန်စာထမ်းများ' | 'Fallodon papers' |
| ဖာရိုးဘုရင် | Pharaoh |
| ဖက်ဆစ်ဝါဒ | Fascism |
| ဗရေးလ စံနစ် | Braille |
| ဗရင်ဂျီများချုပ်ချယ်မှုလွတ်မြောက်ရေးအက်ဥပဒေ | Catholic Emancipation Act |
| ဗလောက်စာအုပ် | Block book |
| ဗဟိုခွာအား | Centrifugal force |
| ဗဟိုစာခွဲရုံ | Main Sorting Office |
| 'ဗဟိုလျှပ်စစ်ဓာတ်ဘုတ်အဖွဲ့' | 'Central Electricity Board' |
| ဗာဂျင်းနီးယားစစ်ပညာသင်ကျောင်း | Virginia Military Institute |
| ဗာအေးအားတောင် | Mount Vaea |
| ဗားနတ်ပိဋကတ်တိုက် | Bernard Library |
| ဗိစိဂေါ့သ | Visigoth |
| 'ဗိယာလာနေအိမ်' | 'Birla House' |
| ဗူးလရန်းတိုက်ပွဲ | Battle of Bullrun |
| ဗယ်လီအဲရစ်ကျွန်းစု | Balearic Islands |
| ဗဲလဖောတောင်ကြား | Belfort Gap |
| 'ဗော်စတန်သတင်းဆောင်းပါး' | 'Boston News letter' |
| ဗိုးဝါးငှက်မျိုး | Bower bird |
| ဗက်တီကင်စာကြည့်တိုက် | Vatican Library |
| ဗက်လူမျိုး | Basque |
| ဗိုက်ကင်းလူမျိုး | Viking |
| 'ဗင်္ဂလားအစိုးရအတွင်းရေးနှင့်နိုင်ငံရေးဆိုင်ရာအတိုင်ပင်ခံစာတမ်းစာအုပ်' | 'Bengal Secret and Political Consultations' |
| ဗိုင်ဆာလဖိုက်နည်း | Bisulphite process |
| ဗစ်ကာစက်သေနတ် | Vicker gun |
| ဗတ်တာဖလိုင်းငါး | Butterfly fish |
| ဗုဒ္ဓဟူးဂြိုဟ် | Mercury |
| ဗျိုင်း | Egret |
| ဗြိတိသျှတပ်မတော်စစ်ဦးစီးချုပ် | Chief of the Imperial General Staff |
| ဗွန်ဆင်မီးတိုင် | Bunsen Burner |
| ဘာသာစကားပညာရပ် | Philology |
| ဘီးနှင့်ဝင်ရိုး | Wheel and axle |

